ဘုရားရှင်သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအကျိုးငှာ
ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ
ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနမှ ကျင်းပပြုလုပ်သည့်

ပဉ္စမအကြိမ်

# ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသမိုင်း

အရှင်ကေလာသ ဓမ္မာစရိယ ဂဏဝါစက
B.A. Hons. ဝိဇ္ဇာဂုဏ်ထူး (သီရိလင်္ကာ)
စုဆောင်း ရေးသားသည်။




သာသနာ- ၂၅၂၄။ ကောဇာ- ၁၃၄၂။ ခရစ်- ၁၉၈၀။

ဘုရားရှင်သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအကျိုးငှာ
ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် အစိုးရ
ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနမှ ကျင်းပပြုလုပ်သည့်

ပဌမအကြိမ်

# ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီးသမိုင်း

အရှင်ကေလာသ ဓမ္မာစရိယ ဂဏဝါစက

B.A. Hons. ဝိဇ္ဇာဂုဏ်ထူး (သီရိလင်္ကာ)

စုဆောင်း ရေးသားသည်။




သာသနာ- ၂၅၂၄။ ကောဇာ- ၁၃၄၂။ ခရစ်- ၁၉၈၀။

ပထမအကြိမ်

အုပ်ရေ— ၃၀၀၀


ရန်ကုန်မြို့၊ ကမ္ဘာ့အေး သာသနာရေးဦးစီးဌာနအတွက်

၉၈·လမ်း၊ အမှတ် ၁၃ (အေ) မင်္ဂလာပုံနှိပ်တိုက် (၀၇၉၆)တွင်

ဦးကြီးခင်က ပုံနှိပ်၍

ဒုတိယ ညွှန်ကြားရေးမှူး ဦးမြင့်မောင်

မှတ်ပုံတင်အမှတ် (၀၂၅၂၇)က ထုတ်ဝေသည်။

ပဌမအကြိမ်
သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး
ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီးသမိုင်း

# မာတိကာ

အကြောင်းအရာ | စာမျက်နှာ



## ပဌမပိုင်း



## ဒုတိယပိုင်း

**အကြောင်းအရာ** **စာမျက်နှာ**



## တတိယပိုင်း



## စတုတ္ထပိုင်း



## ပဉ္စမပိုင်း

အကြောင်းအရာ စာမျက်နှာ



ဆဋ္ဌပိုင်း



သတ္တမပိုင်း

ပဌမသန္နိပါတ



အဋ္ဌမပိုင်း

ဒုတိယ သန္နိပါတ

အကြောင်းအရာ စာမျက်နှာ

## နဝမပိုင်း

## တတိယသန္နိပါတ



## ဒသမပိုင်း



## ဧကာဒသမပိုင်း



## ဒွါဒသမပိုင်း

**အကြောင်းအရာ** **စာမျက်နှာ**



**တေရသမပိုင်း**

## ရွှေကျင် ပဌမဆရာတော် အရှင်ဇာဂရ ရေး ကျမ်းများ

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး သမိုင်းကျမ်း

# ကျမ်းဦးမှတ်ဖွယ်

**ပါရမီဖြည့် ဘုရားဖြစ်တော်မူခြင်း။** ။ဤ ဘဒ္ဒကပ်ကမ္ဘာတွင် လေးဆူမြောက် ပွင့်တော်မူမည့် ငါတို့ဘုရားလောင်းလျာသည် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ကာလပတ်လုံး ပါရမီ သုံးဆယ်, သုံးသွယ်စရိယ, စာဂငါးစု မြတ်ကောင်းမှုတို့ကို ဖြည့်ကျင့်တော်မူခဲ့ပြီး မဟာသက္ကရာဇ် ၁၀၃-ခုနှစ် ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့ နံနက် အရုဏ်တက် အချိန် လောကသုံးပါး၏ ဒွိထွတ်အထိပ် သဗ္ဗညု ဘုရားရှင်အဖြစ်သို့ ရောက်တော်မူသည်။

**ဝေနေယျတို့ကို ချေချွတ် ပရိနိဗ္ဗာန်ဝင်စံ။** ။ဘုရားရှင်သည် ဘုရားဖြစ်တော်မူပြီးနောက် နေ့ည မအား ဗုဒ္ဓကိစ္စ ၅-ချက်ကို ပြုတော်မူလျက် အညာသိကောဏ္ဍညအစ, သုဘဒ္ဒ အဆုံးရှိသော ၂၄-အသင်္ချေ ကုဋေ ၆၀၊ ဗိုလ်ခြေ ၁-သိန်း တွက်ကိန်းများလှသော ဝေနေယျတို့ကို ချေချွတ် ကယ်တင်တော်မူခဲ့လေသည်။

**သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ပြုလုပ်တော်မူကြခြင်း**

ဘုရားရှင် ပရိနိဗ္ဗာန် ဝင်စံတော်မူသော်လည်း ဘုရားရှင်သည် ကိုယ်တော့်ကိုယ်စား ပိဋက သုံးသွယ် နိကာယ်ငါးဖြာ အင်္ဂါကိုးတန် ရှိသော ဓမ္မက္ခန္ဓာ ပေါင်း ရှစ်သောင်းလေးထောင်တို့ကို ဆရာ့အရာ တင်တော်မူခဲ့ပြီး သာသနာတော် မြတ်ကြီးကို အနှစ် ငါးထောင် တည်ရစ်အောင် ထားတော်မူခဲ့လေသည်။ ယခုအခါ သာသနာတော်သည် ၂၅၂၀-ကျော်နှစ် ခေတ်သမယသို့ ရောက်ခဲ့လေပြီ၊ ယင်းသာသနာတော် ၂၅၂၀-ကျော် နှစ်အတွင်း အရှင်မဟာကဿပ အစရှိသော ခေတ်အားလျော်စွာ ပေါ်ထွန်းခဲ့သော သာသနာ့ဝန်ဆောင် ဆရာတော်ဘုရားကြီးတို့သည် သက်ဆိုင်ရာ မင်းနှင့် ပြည်သူတို့၏ အကူအညီဖြင့် ဘုရားမြတ်စွာ သာသနာတော်မြတ်ကြီးကို သန့်ရှင်းတည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည်၊

**အရှင် မဟာကဿပ ဦးစီးဆောင်ရွက်။** ။ဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူ၍ ၇-ရက်သာ ရှိသေး စဉ် ဘုရားရှင် ပရိနိဗ္ဗာန် စံလွန်တော်မူသဖြင့် ငိုကြွေးနေသော ရဟန်းတို့ကို ငါ့ရှင်တို့၊ မစိုးရိမ်ကြလင့်၊ မငိုကြွေးကြလင့်၊ ယခုဆိုလျှင် ရဟန်းကြီး ဂေါတမ၏ ချုပ်ချယ် ကြိုးကိုင်မှုမှ လွတ်ပြီ၊ရဟန်းကြီး ဂေါတမ ရှိစဉ်ကဆိုလျှင် သည်ဟာ အပ်သည်၊ သည်ဟာ မအပ်ဘူးနှင့် ချုပ်ချယ်သည်၊ ယခုဆိုလျှင် တပည့်တော်တို့ တတွေ အလိုရှိတာ လုပ်နိုင်ပြီ စသည်ဖြင့် သုဘဒ္ဒ တောထွက်ရဟန်းကြီး ပြောဆိုသည့် စကားကို ထိပ်ထက်၌ မိုးကြိုးကျသလို အဖန်ဖန် အောက်မေ့တော်မူပြီး ဘုရားရှင် ပရိနိဗ္ဗာန်စံသည်မှ ထောက် ၄-လမြောက်ဘွင် အရှင်မဟာ ကဿပသည် အဇာတသတ်မင်း၏ အကူအညီဖြင့် ရဟန္တာငါးရာတို့ဖြင့် မဂဓ နိုင်ငံတော် ရာဇဂြိုဟ်မြို့တော် စရည်းပင်လိုဏ်အနီး မဏ္ဍပ်ကြီး၌ ပဌမ သံဂါယနာ တင်တော်မူ၍ သာသနာတော်ကို သန့်ရှင်းတည်တံ့ ပြန့်ပွားအောင် ပြုတော်မူခဲ့လေသည်။[၁]

**အရှင်မဟာယသ ဦးစီးဆောင်ရွက်။** ။သာသနာတော်နှစ် ၁၀၀- အရောက်တွင် ဝဇ္ဇီတိုင်းသား ရဟန်းတို့ ထုတ်ဖော် ကြွေးကြော်သည့် အဓမ္မ ဝတ္ထု ၁၀-ပါးကို အကြောင်းပြု၍ ကာလာသောကမင်း၏ ပစ္စယာနုဂ္ဂဟဖြင့် အရှင်ယသထေရ် အမှူးရှိသော ရဟန္တာ ခုနစ်ရာတို့သည် ဒုတိယ သံဂါယနာ တင်တော်မူ၍ ဘုရားရှင် သာသနာတော်ကို သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ပြုတော်မူခဲ့ကြသည်။[၂]

**အရှင် မဟာမောဂ္ဂလိပုတ္တတိဿ ဦးစီးဆောင်ရွက်။** ။သာသနာတော်နှစ် ၂၃၆-ခုဘွင် မဂဓတိုင်း ပါဋလိပုတ်မြို့တော် အသောကာရုံ ကျောင်းတိုက်၌ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးရှိသော ရဟန္တာ တထောင်တို့သည် အန္ဓကဂိုဏ်းသား၊ အပရသေလိယဂိုဏ်းသား၊ ဥတ္တရာပထဂိုဏ်းသား၊ ကဿပိကဂိုဏ်းသား ဂေါကုလိကဂိုဏ်းသား၊ ပုဗ္ဗသေလိယဂိုဏ်းသား၊ ဘဒြယာနိကဂိုဏ်းသား၊ မဟာသံဃိကဂိုဏ်းသား၊ မဟိံသာသကဂိုဏ်းသား၊ ရာဇဂိရိကဂိုဏ်းသား၊ ဝဇ္ဇီပုတ္တကဂိုဏ်းသား၊ ဝေတုလ္လဂိုဏ်းသား၊ သဗ္ဗတ္ထိဝါဒီဂိုဏ်းသား၊ သမ္မိတိယဂိုဏ်းသား၊ သိဒ္ဓတ္ထိကဂိုဏ်းသား၊ ဟေတုဝါဒ ဂိုဏ်းသား ရဟန်းတို့

---

. ။ ဝိ၊ ၄၊ ၄၇၀။ ဒီ၊ ၊ ၁၃၄။ ဝိ၊ ၅၊ ၁။ ၄။ကြည့်။
 ။ ဝိ၊ ၅၊ ၁။ ၇-ကြည့်။

၏ သာသနာတော်အား အသရေမဲ့စေသော အယူဝါဒဆိုးတို့ကို ပယ်ရှားတော်မူ၍ သီရိဓမ္မာသောကမင်း၏ အကူအညီဖြင့် တတိယ သံဂါယနာသဘင် ဆင်ယင် ကျင်းပ၍ သာသနာတော်ကို သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည်။[၁]

**အရှင် မဇ္ဈန္တိကထေရ် ဦးစီးဆောင်ရွက်။** ။တတိယသံဂါယနာတင် အပြီး သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်တွင် အရှင်မဇ္ဈန္တိကထေရ် ဦးစီးသည့် ရဟန်းတော် ၅-ပါးတို့သည် အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်၏စေလွှတ်ချက်အရ ကသ္မီရတိုင်းနှင့် ဂန္ဓာရတိုင်းသို့ ကြွတော်မူ၍ ဘုရားရှင် သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ပြုတော်မူခဲ့ကြကုန်၏။

**အရှင် မဟာ ဒေဝ ထေရ် ဦး စီး ဆောင်ရွက်။** ။ယင်း သည့် သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်မှာပင် အရှင်မဟာဒေဝထေရ် ဦးဆောင်သည့် နောက်ပါရဟန်းတော် ၅-ပါးတို့သည် မဟိသအရပ် (မိုက်ဆိုးနယ်)၌ ဘုရားရှင်သာသနာတော်ကို တည်တံ့ ပြန့်ပွားအောင် ပြုတော်မူခဲ့ကြသည်။[၂]

**အရှင်ရက္ခိတထေရ် ဦးစီးဆောင်ရွက်။** ။ယင်းသည့် သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်မှာပင် အရှင် ရက္ခိတထေရ် ဦးစီးသည့် ရဟန်းတော် ၅-ပါးတို့သည် ဝနဝါသီအရပ်၌ ဘုရားမြတ်စွာ သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ပြုတော်မူခဲ့ကြသည်။

**အရှင် ယောနကဓမ္မရက္ခိတထေရ် ဦးစီး ဆောင်ရွက်။** ။ယင်းသည့်သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်မှာပင် အရှင်ယောနကဓမ္မရက္ခိတထေရ် ဦးစီးသည့် ရဟန်းတော်၅-ပါးတို့သည် အပရန္တတိုင်းသို့ ကြွရောက်တော်မူ၍ ဘုရားရှင်သာသနာတော်ကို တည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်တော်မူကြသည်။[၃]

---

၁။ အကျယ် ဝိ၊ ၃၊ ၁။ ၄၆။ ကထာဝတ္ထုပါဠိတော်နှင့် ယင်းအဋ္ဌကထာကြည့်။

၂။ ထေရော ကသ္မီရဂန္ဓာရံ၊ မဇ္ဈန္တိက မပေသယိ။
အပေသယိ မဟာဒေဝ-ထေရံ မဟိသမဏ္ဍလံ။
(မဟာဝံသ။ ၁၂။ ၃။)

၃။ ဝနဝါသိံ အပေသယိ၊ထေရံ ရက္ခိတနာမကံ။
တထာ အပရန္တကံ ယောန-ဓမ္မရက္ခိတနာမကံ။ (မဟာဝံသ၊ ၁၂။ ၄။)

**အရှင် မဟာဓမ္မရက္ခိတ ထေရ် ဦးစီး ဆောင်ရွက်။** ။ယင်းသည့် သာသနာ သက္ကရာဇ် ၂၃၆-ခုနှစ် မှာပင် အရှင်မဟာဓမ္မရက္ခိတထေရ် ဦးစီးသည့် ရဟန်းတော် ၅-ပါးတို့သည် မဟာရဋ္ဌတိုင်း၌ ဘုရားရှင်သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည်။

**အရှင်မဟာရက္ခိတမထေရ် ဦးစီးဆောင်ရွက်။** ။ငင်းပြင် အရှင်မဟာရက္ခိတ ထေရ်ဦးဆောင်သည့် ရဟန်းတော် ၅-ပါးတို့သည် ယောနကတိုင်း၌ ဘုရားရှင်သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြကုန်၏။[၁]

**အရှင်မဇ္ဈိမထေရ်ဦးစီ ဆောင်ရွက်။** ။အရှင်မဇ္ဈိမထေရ်ဦးစီးသည့်ရဟန်းတော် ၅-ပါး တို့သည် ဟိမဝန္တာ အရပ်(ဟိမဝန္တာ၌ တည်ရှိသော စိန့်တိုင်း ၅-ရပ်)၌ ဘုရားဇိနေဒ် သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည်။

**အရှင် မဟိန္ဒထေရ် ဦးစီး ဆောင်ရွက်၊** ။အရှင်မဟိန္ဒထေရ်ဦးစီးသည့် အတူနေ တပည့်များဖြစ်ကြသည့် အရှင်ဣဋ္ဋိယထေရ်၊ အရှင်ဥတ္တိယထေရ်၊ အရှင်သမ္ဗလထေရ်၊ အရှင်ဘဒ္ဒသာလထေရ်၊ သုမန သာမဏေနှင့် ဘဏ္ဍုက ဥပါသကာတို့ အပေါင်းသည် ရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်၏စေလွှတ်ချက်ဖြင့် ယင်းသည့်သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်ဘွင် သီဟိုဠ်ကျွန်း၌ ဘုရားရှင်သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည်။

ပေသေသိ မဇ္ဈိမံ ထေရံ၊ ဟိမဝန္တပဒေသကံ။
မဟာမဟိန္ဒထေရံ တံ၊ ထေရံ ဣဋ္ဋိယ မုတ္တိယံ။
သမ္ဗလံ ဘဒ္ဒသာလဉ္စ၊ သကေ သဒ္ဓိဝိဟာရိကေ။
လင်္ကာဒီပေ မနုညမှိ၊ မနုညံ ဇိနသာသနံ။
ပတိဋ္ဌာပေထ တုမှေတိ၊ ပဉ္စထေရေ အပေသယိ။[၂]

---

၁။ မဟာရဋ္ဌံ မဟာဓမ္မ-ရက္ခိတတ္ထေရနာမကံ။
မဟာရက္ခိတထေရံ တံ၊ ယောနလောကမပေသယိ။
(မဟာဝံသ။ ၁၂။ ၅။)

၂။ မဟာဝံသ။ ၂။ ၆-၇-၈။

**အရှင် သောဘ, အရှင် ဥတ္တရတို့ ဦးစီး ဆောင်ရွက်။** ၊အရှင် သောဘဏ ထေရ်နှင့် အရှင် ဥတ္တရထေရ်ဦးစီးသည့် ရဟန်းတော် ၅-ပါးတို့သည် သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်တွင် သုဝဏ္ဏဘူမိအမည်ရှိသော သထုံမြို့ သထုံနယ်ပယ်၌ ဘုရားရှင် သာသနာတော်ကို တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြကုန်၏။[၁]

## ဒိမ္ဗုလာဂလအရှင်မဟာကဿပဦးစီး သာသနာသန့်ရှင်း တည်တံ့ပြန့်ပွားဆောင်ရွက်ခြင်း

သာသနာသက္ကရာဇ် ၂၃၆-ခုနှစ်၊ နယုန်လဆုတ် ၂-ရက်နေ့တွင် ဒီပဝံသာဒက အရှင်မဟိန္ဒထေရ်သည် ဒေဝါနံပိယတိဿမင်းကြီး လှူဒါန်းသည့် မဟာဝိဟာရကျောင်းတိုက်ကြီးကို အလှူခံတော်မူ၍ သာသနာပြုတော်မူခဲ့သည်။ ထိုအခါမှစ၍ သီဟိုဠ်ကျွန်း(သီရိလင်္ကာ)၌ မဟာဝိဟာရဂိုဏ်းကြီး ပေါ်လာသည်။ သာသနာသက္ကရာဇ် ၄၅၅-ခုနှစ်တွင် အဘယဂိရိဂိုဏ်းကြီး ပေါ်လာသည်။ ထိုအခါမှစ၍ သီဟိုဠ်၌ သံဃာ့ဂိုဏ်းကြီး ၂-ဂိုဏ်း ထစ်ရှားခဲ့လေသည်။ တဖန် သာသနာသက္ကရာဇ် ၈၁၉-ခုနှစ်တွင် နန်းတက်သော မဟာသေနမင်းလက်ထက်တွင် ဇေတဝနဂိုဏ်းကြီး ပေါ်လာသည်။ ယင်းသို့ဖြင့် သီဟိုဠ်ကျွန်း၌ ဂိုဏ်းကြီး ၃-ဂိုဏ်း ဖြစ်ပေါ်လာရာ သာသနာရေးလည်း ရှုပ်ထွေးလာလေသည်။ ဗေဒင်ဟော, ဓာတ်ရိုက်, ဓာတ်ဆင်ရဟန်းများ, တောင်သူယာလုပ် ရဟန်းများ စသည်ဖြင့် သာသနာတော်၌ အညစ်အကြေး ထူပြောလာသည်။ တချို့ရဟန်းတော်များ ထေရဝါဒပိဋကတ်ကို မသင်ကြား မပို့ချပဲ မဟာယာနပိဋက, ဝေတုလ္လပိဋကတို့ကို သင်ကြားပို့ချကြကုန်၏။[၂]

သို့နှင့် သီဟိုဠ်သာသနာ လွန်စွာရှုပ်ထွေးလာသည်။ သို့ဖြစ်၍ သာသနာသက္ကရာဇ် ၁၇၀၇-၁၇၄၀-နှစ်တွင် သီဟိုဠ်ကျွန်း ပုလတ္ထိမြို့၌ နန်းတက်သော ပရက္ကမဗာဟုမင်းကြီးလက်ထက်တွင် ဒိမ္ဗုလာဂလအရှင်မဟာကဿပအမှူးပြုသော သာရတ္ထဒီပနီဋီကာကျမ်းပြု အရှင်သာရိပုတ္တရာအပါအဝင် မဟာထေရ်မြတ်တို့သည် ပရက္ကမဗာဟုမင်းကြီး၏ အာဏာစက်အကူအညီဖြင့် ရဟန်းတော်အများအပြားကို စစ်ဆေး၍ လူထွက်စေခဲ့ကြကုန်၏။ သာမဏေဝတ်နှင့်

---

၁။ သုဝဏ္ဏဘူမိံ ဂန္တွာန၊ သောဏုတ္တရာ မဟိဒ္ဓိကာ။
နိဒ္ဓမေတွာ ပိသာစေပိ၊ မောစေသိံ့ ဗန္ဓနာ ဗဟူ။
(ဒီပဝံသ။ ဂ။ ဝ။(

၂။ အကျယ် သီဟိုဠ်သာသနာဝင်ကြည့်။

နေနိုင်လောက်သော ရဟန်းများကို သာမဏေဝတ်ဖြင့် နေစေတော်မူကြကုန်၏။ သာသနာတော်၌ သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကို ပြုလုပ်တော်မူခဲ့ကြကုန်၏။ ယင်းသို့ သီဟိုဠ်ကျွန်း သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးနှင့် စပ်၍ မဟာဝံသကျမ်းကြီး၌—

မဟာမောဂ္ဂလိတိဿံဝ၊ ဓမ္မာသောကော နရိဿရော။
မဟာထေရံ ဓုရံ ကတွာ၊ မဟာကဿပ သဝှယံ။

ဝိသာရဒံ ကေပိဋ္ဌကံ၊ ဝိနယညုံ ဝိသေသတော။
ထေရဝံသေကပဇ္ဇောတံ၊ သာမဂ္ဂိံ စိရဒိက္ခိတံ။

အနုရာဓပုရေ ဉာဏ-ပါလတ္ထေရံ သသိဿကံ။

ရဋ္ဌေစ သဖရေ ဘိက္ခူ၊ ပုလတ္ထိပုရမာနယိ။
သမောဂ္ဂလ္လာနတ္ထေရံ စ၊ ထေရံ နာဂိန္ဒ ပလ္လိယံ။

ယုဝရာဇဿ ရဋ္ဌသ္မိံ၊ အညေ သဗ္ဗေ စ ဘိက္ခဝေါ။
နန္ဒတ္ထေရဝရံ သေလ-န္တရာယတနဝါသိကံ။

ရောဟဏေ ပမုခံ ကတွာ၊ နိကာယတ္တယ ဝါသိနော။
မဟာဝိဟာရဝါသီနံ၊ ဘိက္ခူနံ ဓရဏီပတိ။

အထ အဇ္ဈေသနံ အည-မညသာမဂ္ဂိယာ အကာ။
အလဇ္ဇုဿန္နတာယပိ၊ စိရကာလ ဝိဘိန္နတော။

ဗဟဝေါ နာဓိဝါသေသုံ တဒါ ဘိက္ခူ သမဂ္ဂတံ၊
ဂန္တုံ ဝိဒေသမာရဒ္ဓါ၊ ကေစိ ဝိဗ္ဘမိတုံ ပရေ။

ဣစ္ဆုမေကေ နိသဇ္ဇမ္ပိ၊ န ဝိနိစ္ဆယမဏ္ဍလေ။
တတော မဟာဓိကရဏံ၊ ပဋ္ဌပေသုံ သုဒုဿမံ။

တတော ပဋ္ဌာယ သာမဂ္ဂီ-သိနေရုက္ခမ္ပနံ ဝိယ။
အဿာသေတွာ ထ တေဘိက္ခူ၊ ကိစ္စေန သမ္ပဋိစ္ဆယိ။

အမမော သော ထိရာရမ္ဘော၊ ဓမ္မိကော ဓရဏီပတိ။
ဇာတေ ဇာတေ ဓိကရဏေ၊ သမထံ နယိကုံ တတော။

မဟာကဿပဇေဋ္ဌေဟိ၊ ဝိနိစ္ဆာပေသိ ဘိက္ခူဟိ။
သယံ သန္နိဟိတော ဟုတွာ၊ ဝိနိစ္ဆယပဋိစ္ဆနေ။

သဟာစရိယသီဟောဟိ၊ ပိဋကတ္တယဓာရိဟိ။
ယထာ မေ့မ္ဘံ သတေ ကိစ္စေ၊ ပတိဋ္ဌာပိယ သုဒ္ဓိယံ။
မဟာဝိဟာရိကေ သဗ္ဗေ၊ သမဂ္ဂေဘာသိ ဘိက္ခဝေါ။
ဥပ္ပဗ္ဗဇ္ဇာပေယိ ဒုဿီလေ၊ လာဘာပေက္ခာယ သာသနံ။
မာနာသေယျထုတိ ဒတွာန၊ မဟာဌာနန္တရာနိ သော။
ဧဝံ မဟာဝိဟာရံ စ၊ မဟုဿာဟေန သောဓိယ။
ပဋ္ဌာယ ဘယရာဇဿ၊ ကာလတော ဝဂ္ဂတံ ဂတေ။
အဘယဂိရိဝါသီ စ၊ ဘိက္ခူ ဇေတဝနာနု တေ။
မဟာသေန နရိန္ဒဿ၊ ဘိန္နေ ပဋ္ဌာယ ကာလတော။
အဗုဒ္ဓဝစနံယေဝ၊ ဝေတုလ္လပိဋကာဒိကံ။
ဒီပေန္တေ ဗုဒ္ဓဝါစာတိ၊ ပဋိပတ္တိ ပရမ္မုခေ။
မဟာဝိဟာရဝါသီဟိ၊ သမဂ္ဂေ ကိတုမာရဘိ။
အသေသဂုဏသာလီဟိ၊ ကာစသေမရတနေဟိ စ။
သီလာဒိသာရသုညာတေ၊ မဟာသံဃဿ တေဇသာ။
ရာဇိနော စ တဒါဗုဒ္ဓ-သာသနေ နဇ္ဈဂုံ ရတိံ။
တထာပိ ဓမ္မိကော ရာဇာ၊ ဝိစာရေန္တော နယညုဟိ။
ဥပသမ္ပန္န မေကမ္ပိ၊ ပကတတ္တမလတ္ထနော။
ကာရေသိ သာမဏေရတ္တံ၊ ဗဟူနံ ယတိနံ တဒါ။
ဒုဿီလေ ဝိဗ္ဘမာပေတွာ၊ မဟာဌာနန္တရေ အဒါ။
ဧဝံ သုဒ္ဓိံ စ သာမဂ္ဂိံ၊ သမ္ပာဒေတွာ စိရေန စ။
မဟုဿာဟေန သော သံဃံ၊ ဗုဒ္ဓကာလေဝ ဝတ္တယိံ။

ဟူ၍ မှတ်တမ်းပြုခဲ့လေသည်။

---

။ မဟာဝံသ။ ဆသတ္တတိ၊ ပရိစ္ဆေဒ-ကြည့်။

### အချင်အရဟံ သာသနာသုတ်သင် သန့်ရှင်းတည်တံ့ပြန့်ပွားစေခြင်း

သက္ကရာဇ် ၄၁၉ ခုနှစ်တွင် ပုဂံပြည်သို့ စတင်ရောက်ရှိတော်မူ၍ ၄၅၅-ခုနှစ်တွင် ပရိနိဗ္ဗာန် စံတော်မူသော အရှင်အရဟံသည် အနော်ရထာမင်းတရား၏ အာဏာစက်အကူအညီဖြင့် ပုဂံပြည်၌ အဓမ္မဝါဒဖြန့် ဟောကြားပြုမူနေကြသော အရည်းကြီးတို့ကို လူဝတ်လဲစေပြီး ထေရဝါဒသာသနာကို တည်စေတော်မူခဲ့လေသည်၊ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားအောင် ပြုတော်မူခဲ့လေသည်။[၁]

### သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးသမိုင်း ကျမ်းပြုစီရင်ခြင်း

ဤစာပြုသူသည် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ပဥ္စမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၏ အကြိုအစည်းအဝေးဖြစ်သော ပခုက္ကူအခြေခံဒေသ သံဃာ့ဝန်ဆောင် ဆွေးနွေးချယ်ရန် စည်းဝေးသည့် သံဃာ့ဦးဆောင်အစည်းအဝေး၌ ပင့်လျှောက်သဖြင့် ပါဝင်သက်ရောက်ခဲ့ရသည်။ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၁-ရက် ၁၂-ရက် ၁၃-ရက် ၁၄-ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၌လည်း သံဃာ့သမ္မုတိရ ကိုယ်စားလှယ်အဖြစ်ဖြင့် ပါဝင်တက်ရောက် ဆွေးနွေးခဲ့သည်။ ယင်းသို့ တက်ရောက်ပါဝင်ခဲ့ရသဖြင့် ရရှိသော အတွေ့အကြုံများ, မှတ်တမ်းများ, သတင်းစာများမှ ရရှိသော မှတ်တမ်းများနှင့် ဆိုင်ရာ သာသနာ့သမိုင်းကျမ်းတို့ကို မှီငြမ်းပြု၍ ဤမည်သော သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ပဥ္စမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး မှတ်တမ်းကျမ်းကြီးကို သာသနာ့သမိုင်းသုတေသီ ရဟန်းရှင်လူတို့ အကျိုးငှာ စုဆောင်းရေးသားအပ်ပါသည်၊ သဒ္ဓါ ပညာ ဝီရိယ ပြဋ္ဌာန်းလျက် ကြည့်ရှုလေ့လာကြကုန်ရာ၏။

အရှင်ကေလာသ
ဓမ္မာစရိယ,ဂဏဝါစက,ဘီ-အေ(ဂုဏ်ထူး)
သာသနဇောတိပါလကျောင်း
မဟာဝိသုတာရာမတိုက်
ပခုက္ကူမြို့။
၁၃၄၂-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၂-ရက်။

---

၁။ မဟာဝိသုတာရာမ နိကာယသာသနာဝင်၊ ၁၄၃-၁၄၀ ကြည့်။ ပုဂံသာသနာဝင်လည်း ကြည့်။



နိုင်ငံတော် သံဃမဟာနာယက ဥက္ကဋ္ဌဆရာတော်ဘုရားကြီး
အဂ္ဂမဟာပဏ္ဍိတ အရှင်ဇာနကာဘိဝံသ မဟာထေရ် မြို့မစာသင်တိုက် ပဲခူးမြို့



### သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး

# ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသမိုင်း

---

နမော တဿ ဘဂဝတော အရဟတော
သမ္မာသမ္ဗုဒ္ဓဿ

## ရတနတ္တယ ပဏာမ

သာသနသောဓကံ ဗုဒ္ဓံ၊ ဓမ္မဉ္စ တေန သောဓိတံ။
သံဃဉ္စာပိ ဘိဝန္ဒာမိ၊ သုနိဝါတေန စေတသာ။

အဟံ၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သမိုင်းကျမ်းကြီးပမ်း ထုတ်ဖော် တပည့်တော်သည်။ သာသနသောဓကံ၊ ကိုယ်တော်မြတ်စွာ သာသနာကို ကာလကြာရှည် တည်ရန် ရည်ရော် သုတ်သင်တော်မူတတ်သော။ ဗုဒ္ဓဉ္စ၊ သစ္စာလေးပါး တရားသိမြင် ဘုရားရှင်ကိုလည်းကောင်း။ တေန၊ ထိုသစ္စာလေးပါး တရားသိမြင် ဘုရားရှင်သည်။ သောဓိတံ၊ ထာဝစဉ် မပြတ် မှီဝဲတော်မူအပ်သော။ ဓမ္မဉ္စ၊ မဂ် ဖိုလ် နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန်ကင်ပေါ် တရားတော်ကိုလည်းကောင်း။ သံဃဉ္စ၊ ရှစ်ပါးအရိယာ မြတ်သံဃာကိုလည်းကောင်း။ သုနိဝါတေန၊ လွန်စွာနှိမ့်ချ ရိုတုပ်ကွသော။ စေတသာ၊ သဒ္ဒါယိုဖိတ် ကုသိုလ်စိတ်ဖြင့်။ အဘိဝန္ဒာမိ၊ ဘယ, လာဘ စသည်အပြစ် မညစ်မလူး အထူးအားဖြင့် ရှိခိုးပါ၏။

[ မိမိသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး **"ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး သမိုင်းကျမ်းကြီး"** တကျမ်းကြီးပမ်း ရေးသားရာ၌ အန္တရာယ်ကင်းပျောက် ကျမ်းပြီးမြောက်ခြင်းကို အလိုရှိပါသည်။ သို့ဖြစ်၍ ရတနာမြတ် သုံးပါးနတ်ကို လေးမြတ်

ရိုကျိုး ရှိခိုးပါသည်၊ ကျမ်းစာ ရေးစဉ် အချိန်အကြားတွင်လည်း ရတနာ ၃ - ပါး၏ ဂုဏ်ကျေးဇူးများကို အောက်မေ့ဆင်ခြင်ရပါမည်။]

အန္တရာယ ဝိဃာတတ္ထံ၊ မင်္ဂလာယ ဟိတာယ စ။
ဂန္ထဿ အာဒိမှိယေဝ၊ ပဏာမ ဝစနံ ကတံ။

## အဘိယာစက ပဋိညာဉ်

ကရိဿာမိ သမာသေန၊ ဂန္ထံ သဗ္ဗင်္ဂသောဘနံ။
သုတတ္ထိကာနမတ္ထာယ၊ သာဓူနံ သာဓုယာစနာ။

အဟံ၊ အရှင်ကေလာသ ခေါ်ဝေါ်ကြသား နှစ်ပါး နာမ်ရှပ် အကျွန်ုပ်သည်။ သာဓူနံ၊ သူကျိုး ကိုယ်ကျိုး သည်ပိုးမပြတ် ပြီးစေတတ်သော သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွှန့် အစရှိသော သူတော်ကောင်းတို့၏။ သာဓုယာစနာ၊ နှောင်လာများစွာ လေ့လာမှတ်သား ပွားများ သုတ ရရန်ရည်သန် ကောင်းစွာ တောင်းပန်ကြခြင်းကြောင့်။ သုတတ္ထိကာနံ၊ တခေတ် တခါ ဖြစ်ပေါ်လာသည့် လွန်စွာဆန်းစုံ အတွေ့အကြုံ ဗဟုသုတကို အလိုရှိကြကုန်သော ပုဂ္ဂိုလ်တို့၏။ အတ္ထာယ၊ အကျိုးစီးပွား များစိမ့်သောငှာ။ သဗ္ဗင်္ဂသောဘနံ၊ အလုံးစုံအစိတ်အပိုင်းတိုင်း၌ တင့်တယ်သော။ ဂန္ထံ၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သမိုင်းကျမ်းကို။ သမာသေန၊ အကျယ်မပွား အကျဉ်းအားဖြင့်။ ကရိဿာမိ၊ ဂန္ထဓူရ ကိစ္စလုပ်လျား ချိန်အကြား၌ ရေးသား စီရင်ပါအံ့သတည်း။

[ သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် **ဦးကြည်ညွှန့်** သည် စာပေဝါသနာပါသည့် ပုဂ္ဂိုလ် ဖြစ်သည်၊ ဘုရားမြတ်စွာ သာသနာကိုလည်း သက်ဝင် ယုံကြည်သူ ဖြစ်ရာ သာသနာရေး ဦးစီးဌာနနှင့် အလွန် သင့်လျော်သည်၊ မိမိနှင့် တွေ့တိုင်းလိုလိုပင် 'ဦးပဉ္စင်း - သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သမိုင်းကိုလဲ စိတ်ဝင်စားထားပါ' ဟု လျှောက်သည်၊ သို့ဖြစ်၍ မိမိသည် သာသနာ သမိုင်းကျမ်းများ, သတင်းစာများ, သာသနာဘော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ပဌမ အကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး မှတ်တမ်း, သမ္မုတိရ သံဃာ့ကိုယ်စားလှယ် တပါး အနေဖြင့် ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီးမှ ရရှိခဲ့သော အတွေ့အကြုံ မှတ်တမ်း အမျိုးမျိုးတို့ကို မှီငြမ်းပြု၍ ဤမည်သော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး "ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး သမိုင်းကျမ်း" ကို ကြိုးပမ်း အားသစ်မည် ဖြစ်ပါသည်။ ]

# ပဌမပိုင်း

**အတိတ် သမိုင်းလွှာ။** ။ သာသနာ့ဝန်ထမ်း ရဟန်း သံဃာတော်များ ဝိနည်းဒေသနာတော်နှင့် အညီ ကျင့်ကြံ ကြိုးကုတ် သီတင်းသုံးနိုင်ရေး အတွက် အချင်းချင်း ကြပ်မ ကွပ်ကဲခြင်း, ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများကို ဝိနည်း ဒေသနာတော်နှင့် အညီ ပြေငြိမ်းစေခြင်း, ရဟန်းစစ် ရဟန်းတု ခွဲခြားသိနိုင် ခြင်းတို့သည် ဒေသနာတော်နှင့် ကိုက်ညီသဖြင့် ဘုရားမြတ်စွာ သာသနာ တော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် အဓိက ပြုလုပ်ရမည့် အချက် ဖြစ်ကြောင်း ဗုဒ္ဓဘာသာဝင် သူတော်စင်များ အနေဖြင့် လေးလေး နက်နက် သက်ဝင် ယုံကြည်ကြသည့် အလျောက် ခေတ်အဆက်ဆက်ဘွင် သာသနာပြု သာသနာ့ ဒါယကာ မင်းကောင်း မင်းမြတ်များ ဆောင်ရွက်ခဲ့ ကြသည်။

မြန်မာနိုင်ငံ၌ လွတ်လပ်ရေး ရပြီးသည့် နောက်ပိုင်းတွင် ရဟန်း သံဃာ တော်များနှင့် စပ်လျဉ်းသည့် ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများလို မပြု တော့ပဲ ဝိနည်း ဒေသနာတော်များဖြင့်သာ စစ်ဆေး စီရင် ဆုံးဖြတ်နိုင်စေရန် ရည်သန်၍ ၁၃၁၁ - ခုနှစ်တွင် ဝိနိစ္ဆယဌာန အက်ဥပဒေကို ပြဋ္ဌာန်းခဲ့ကြ သည်။

**ဝိနိစ္ဆယဌာန နှင့် ဝိနိစ္ဆယခုံ အက်ဥပဒေ အဖြစ် ပြောင်းလဲ။** ။ ဖော်ပြ ပါ အက်ဥပဒေ အရ လက်တွေ့ပြုလုပ် ဆောင်ရွက်ရာတွင် အကြောင်း အမျိုး မျိုးကြောင့် ရဟန်း သံဃာတော်များ မကျေမနပ် ဖြစ်လာကြသဖြင့် ၁၃၁၆- ခုနှစ်တွင် ဝိနိစ္ဆယဌာန (ပြင်ဆင်ချက်) အက်ဥပဒေကို တဖန်ပြဋ္ဌာန်းခဲ့လေ သည်။ ယင်းသို့ ပြင်ဆင်ချက် အက်ဥပဒေအရ ဝိနိစ္ဆယဌာန အက်ဥပဒေသည် ၁၃၁၁ - ခုနှစ် ဝိနိစ္ဆယဌာန နှင့် ဝိနိစ္ဆယခုံ အက်ဥပဒေ အဖြစ် ပြောင်းလဲခဲ့ လေသည်။

**တော်လှန်ရေး အစိုးရ လက်ထက် ဆောင်ရွက်ချက်။** ။ ၁၉၆၂ - ခုနှစ် မတ်လ ၂ - ရက်၊ (၁၃၂၃ - ခု တပို့တွဲလဆုတ် ၂ - ရက်) နေ့တွင် တော်လှန်ရေး အစိုးရ တက်လာသော အခါတွင်လည်း "၁၃၁၁ - ခုနှစ် ဝိနိစ္ဆယဌာနနှင့် ဝိနိစ္ဆယခုံအက်ဥပဒေ" အရပင် ဝိနည်းဓမ္မကံ အဓိကရုဏ်းများ နှင့် စပ်လျဉ်းပြီး ဆက်လက် ကျင့်သုံးခဲ့ကြသည်။ ယင်းသို့ ကျင့်သုံးခဲ့ရာတွင် သံဃာတော်များ အချင်းချင်း အငြင်းပွားမှုကို ဖြန့်ဖြေ စီရင် ဆုံးဖြတ်ရာ-

ရဟန်းသံဃာတော်များ အချင်းချင်း ဝိနည်းသိက္ခာပုဒ်တော်များနှင့် အညီ ကျင့်ကြံ သီတင်းသုံးခြင်း ရှိ, မရှိ ကြပ်မရာတို့၌ ၁၃၁၁ ခုနှစ် ဝိနိစ္ဆယ ဌာနနှင့် ဝိနိစ္ဆယခုံအက်ဥပဒေသည် ထိရောက်စွာအောင်မြင်ခြင်း မရှိကြောင်း သိရသဖြင့် ယင်းအက်ဥပဒေကို ၁၉၆၅ - ခုနှစ် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးကောင်စီ ဥပဒေအမှတ် ၁ - ဖြင့် ရုပ်သိမ်းခဲ့လေသည်။ ၎

ထို့နောက် ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများကို ဌာနဆိုင်ရာ ညွှန်ကြားချက်များဖြင့် ဆောင်ရွက်ပေးယင်း—

( ၁ ) ရဟန်း သံဃာတော်များ ဝိနည်း သိက္ခာပုဒ်တော်နှင့် အညီ သီတင်းသုံးနိုင်ရေး အတွက် အချင်းချင်း ကြပ်မကွပ်ကဲ ထိန်းသိမ်းရေး၊

( ၂ ) ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်းများကို ဝိနည်းဒေသနာတော်နှင့် အညီ ပြေငြိမ်း ပြီးပြတ်အောင် ဆောင်ရွက်ရေး၊

( ၃ ) ရဟန်းတု ရဟန်းစစ် အလွယ်တကူ ခွဲခြား သိနိုင်ရေး၊

တို့အတွက် ထိရောက်စွာ ဆောင်ရွက်နိုင်ရန် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ကျင်းပပြီး တညီတညွတ်တည်း ဆုံးဖြတ်၍ ဓမ္မစက်ဖြင့် ပြဋ္ဌာန်းပေးတော်မူကြပါရန် မြန်မာနိုင်ငံတော် တဝှမ်းလုံးရှိ ဆရာတော် သံဃာတော် အရှင်မြတ်တို့အား နိုင်ငံတော် အစိုးရက လျှောက်ထားခဲ့လေသည်။

၁၃၂၆ - ခုနှစ် တပေါင်းလပြည့်နေ့မှ တပေါင်းလပြည့်ကျော် ၂ - ရက်နေ့အထိ ၃ - ရက်တိုင်တိုင် မှော်ဘီမြို့ စိုက်ပျိုးရေး ဥယျာဉ် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးကို ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် 'အဂ္ဂမဟာပဏ္ဍိတ' 'အဘိဓဇမဟာရဋ္ဌဂုရု' ဘွဲ့တံဆိပ်တော်ရ အရှင်သုန္ဒရဆရာတော်ဘုရားကြီးက သဘာပတိ ( ဥက္ကဋ္ဌ ) ဖြစ်၍ ကျင်းပခဲ့လေသည်။ ထိုသံဃာ့အစည်းအဝေးကြီးက ဘုရားမြတ်စွာ သာသနာတော်လုံးဆိုင်ရာ သံဃာ့ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေ ( မူကြမ်း ) ကို ရေးဆွဲခဲ့သည်။

ထိုအခြေခံ ဥပဒေ မူကြမ်းတွင်—

( ၁ ) သံဃာတော်များ အဆင့်ဆင့် ဖွဲ့စည်းခြင်း၊

( ၂ ) ဝိနိစ္ဆယ၊

( ၃ ) သာသနာဝင် လက်မှတ်

တို့ပါဝင်သည်။

---

၎။ ၁၉၆၅ - ခုနှစ် မတ်လ ၁၇ - ရက်နေ့မှ မတ်လ ၁၉ - ရက်နေ့ အထိ။

သို့ရာတွင် ထိုအခြေခံ ဥပဒေမူကြမ်းကို မြန်မာနိုင်ငံတဝှမ်းလုံးရှိ ဆရာတော် သံဃာတော်များ အားလုံးက တညီတညွတ်တည်း ဆုံးဖြတ်၍ ဓမ္မစက်ဖြင့် ပြဋ္ဌာန်းပေးနိုင်ခြင်း မရှိခဲ့ပါချေ။

**ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် အစိုးရ ဆောင်ရွက်ချက်များ။** ။ သာသနာရေးရာကိစ္စများကို သာသနာ့ဝန်ကမ်း ရဟန်းသံဃာတော်များက တညီတညွတ်တည်း ဆုံးဖြတ်တော်မူကြ၍ ဓမ္မစက်ဖြင့် ပြဋ္ဌာန်းပေးတော်မူကြမှသာလျှင် နိုင်ငံတော် အစိုးရက လိုအပ်သလို အာဏာစက်ဖြင့် ကူညီဆောင်ရွက်နိုင်မည်ဖြစ်ရကား မြန်မာနိုင်ငံတော်တဝှမ်းလုံးရှိ ဂိုဏ်းပေါင်းစုံ ရဟန်းသံဃာတော်များ အားလုံး ပါဝင်သည့် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးကို အောင်မြင်စွာ ကျင်းပနိုင်ရေးအတွက် စောင့်ဆိုင်းနေစဉ်အတွင်း ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများနှင့် စပ်လျဉ်း၍ ပြေငြိမ်းမှုရရှိစေရန် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနသည် ၁၉၇၅ - ခုနှစ် ဧပြီလ ၂၈ - ရက်နေ့မှစ၍ မြည်နယ်/တိုင်း ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့များသို့ နည်းလမ်း ၄ - သွယ်ကို ယာယီ အစီအစဉ်အနေဖြင့် ချမှတ် ပေးပို့ခဲ့သည်။

၁၉၇၉ - ခုနှစ် ဩဂုတ်လ ၄ - ရက်နေ့တွင် ကျင်းပသော နိုင်ငံတော်ကောင်စီ အစည်းအဝေးတွင် နိုင်ငံတော် ကောင်စီ ဥက္ကဋ္ဌကြီး ဦးနေဝင်းက သံဃာအချင်းချင်း အငြင်းပွားမှုများကို ဖြန်ဖြေ ဆုံးဖြတ်ရန်အတွက် ခုံရုံးများ ဖွဲ့စည်းပေးသင့်ကြောင်းနှင့် ပတ်သက်၍ အကျယ်တဝင့် ဆွေးနွေး လမ်းညွှန်ခဲ့ရာမှ ကောက်နုတ်၍ အချက် ၂ - ချက်ကို ဝန်ကြီးအဖွဲ့သို့ ပေးပို့ခဲ့လေသည်။

အချက် ၂ - ချက်ကို ဆောင်ရွက်ရာတွင်လည်း သံဃာတော်များ၏ ဆန္ဒမပါပဲ နိုင်ငံတော်က ဆောင်ရွက်သည့် အခြေအနေမျိုး မဖြစ်သင့်ပဲ သာသနာတော်အတွက် သံဃာတော်များက ဆောင်ရွက်ပေးစေလိုသည့် သဘောသာ ဖြစ်သင့်ကြောင်း လမ်းညွှန်ခဲ့လေသည်။ အချက် ၂ - ချက်မှာ—

(၁) သံဃာတော်များ ဝိနည်းတရားတော်နှင့် အညီ ကျင့်ကြံသီတင်းသုံးနိုင်ရေး၊

(၂) သံဃာအချင်းချင်း အငြင်းပွားမှုများကို ဖြန်ဖြေဆုံးဖြတ်ရန် အတွက် သံဃာတော်များက ရွေးချယ်တင်မြှောက်သော သံဃာများ ပါဝင်သည့် ခုံအဖွဲ့များ ဖွဲ့စည်းပြီး ဖြန်ဖြေစီရင်ဆုံးဖြတ်ရေး—

တို့ ဖြစ်သည်။

ထိုအချက် ၂-ချက်ကို အကောင်အထည် ဖော်ပေးရန် ဝန်ကြီးအဖွဲ့က ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနအား တာဝန်ပေးသဖြင့် သာသနာရေး ဝန်ကြီးဌာနသည် စီမံချက်များ ရေးဆွဲ ချမှတ်၍ ဆောင်ရွက်ခဲ့လေသည်။

၁၉၇၉ - ခုနှစ် ဩဂုတ်လ အတွင်းတွင် မူလက ရည်ရွယ်ချက်ရှိသည့်အတိုင်း မြန်မာနိုင်ငံတဝှမ်းလုံးရှိ ဂိုဏ်းပေါင်းစုံ ရဟန်းသံဃာတော်များ အားလုံး ပါဝင်သည့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးကို ရန်ကုန်မြို့ သီရိမင်္ဂလာ ကမ္ဘာအေးကုန်းမြေ၌ ကျင်းပရန် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနက ကြိုးပမ်း အားထုတ်ခဲ့သည်။ ယင်းသို့ ကြိုးပမ်းအားထုတ်ရာတွင် ရှေးဦးစွာ ဝန်ကြီးအဖွဲ့သို့ အောက်ပါအတိုင်း တင်ပြခဲ့သည်—

"သုဓမ္မာ, ရွှေကျင်, ဒွါရ - စသည့် သံဃာ့ဂိုဏ်းကြီး များကို စနစ်ကျသော သံဃာ့ အဖွဲ့ အစည်းကြီးများအဖြစ် ဖွဲ့စည်းနိုင်ရေး အတွက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနက တာဝန်ယူ လျှောက်ထား ဆောင်ရွက်ခြင်းကို သဘောတူ မတူ။"

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးနှင့် စပ်လျဉ်း၍ ဆရာတော် သံဃာတော်များအား ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာနက တာဝန်ယူ လျှောက်ထား ဆောင်ရွက်ခြင်းကို သဘောတူညီပါရန် ဝန်ကြီးအဖွဲ့သို့ တင်ပြနေစဉ် ကာလ အတွင်း သာသနာရေး ဦးစီးဌာနကလည်း လိုအပ်သော ပြင်ဆင်မှုများကို ပြုလုပ်ခဲ့လေသည်။ ထိုကဲ့သို့ ပြင်ဆင်မှုများပြုလုပ်ရာတွင် သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့် ဦးဆောင်သော လုပ်ငန်း ဆောင်ရွက်ရေး ကော်မတီကို ဖွဲ့စည်းပြီး ထိုကော်မတီ၏ လက်အောက်၌—

(၁) စီမံခန့်ခွဲရေး ဘဏ္ဍာရေးအဖွဲ့ငယ်၊
(၂) စီမံချက်များ ရေးဆွဲရေးအဖွဲ့ငယ်၊
(၃) မှတ်တမ်းပြုစုရေး အဖွဲ့ငယ်၊
(၄) လျှောက်ထားချက်များ ရေးသား ပြုစုရေး အဖွဲ့ငယ်—

တို့ကို ၁၉၇၉-ခုနှစ် စက်တင်ဘာလ (၂၂) ရက်နေ့တွင် စတင်ဖွဲ့စည်း ဆောင်ရွက်ခဲ့ကြလေသည်။

ထိုအဖွဲ့ငယ် ၄-ဖွဲ့အနက် စီမံချက် ရေးဆွဲရေး အဖွဲ့ငယ်က မြန်မာနိုင်ငံ တဝှမ်းလုံးရှိ ဂိုဏ်းပေါင်းစုံ ရဟန်း သံဃာတော်များ၏ စာရင်းကို တိကျနိုင်သမျှ တိကျအောင် အချိန်မီ ကောက်ယူနိုင်ရန် ပြည်နယ်/တိုင်းများရှိ သာသနာရေးမှူးရုံးများနှင့် ဆက်သွယ်ဆောင်ရွက်ခဲ့လေသည်။ ကောက်ယူရရှိသော

စာရင်းများ အရ သံဃာ့ဂိုဏ်းပေါင်း ၉-ဂိုဏ်း၊ ကျောင်းပေါင်း ၄၃၆၇၇-ကျောင်း (ရှင်သာမဏေ မပါ) ရဟန်းတော်ပေါင်း ၁၀၉၀၃၂-ပါးဖြစ်ကုန်၏။ သုဓမ္မာ, ရွှေကျင်, ဒွါရ-စသော ဂိုဏ်းကြီးများ၏ စံနစ်ကျသော သံဃာ့အဖွဲ့အစည်းကြီးများ အဖြစ် ဖွဲ့စည်းနိုင်ရေးအတွက် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနက တာဝန်ယူလျှောက်ထား ဆောင်ရွက်ခြင်းကို သဘောတူ, မတူ ဝန်ကြီးအဖွဲ့သို့ တင်ပြခဲ့ရာ ထိုတင်ပြချက်ကို အဆင့်ဆင့် ဆောင်ရွက်ခဲ့ရာတွင် ဂိုဏ်းပေါင်းစုံ သံဃာ့အဖွဲ့ အစည်းကြီး ကျင်းပဆောင်ရွက်ရန် အခြေအနေ ဖြစ်ပေါ်လာသဖြင့်—

(က) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးကြီးကို ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၂-(၁၉၈၀၊ ပြည့်နှစ် မေလ ၂၂) ရက် တနင်္ဂနွေနေ့မှ စတင်၍ (၃) ရက် တိုင်တိုင် ရန်ကုန်မြို့ သီရိပဗ္ဗတာ ကမ္ဘာအေးကုန်းမြေရှိ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ ကျင်းပရန်၊

(ခ) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပရေးနှင့် ပတ်သက်၍ ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်၊

(ဂ) ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာနက လုပ်ငန်းအဖွဲ့အစည်းများ ဆောင်ရွက်သွားမည့် အစီအစဉ်၊

(ဃ) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီးတွင် ကုန်ကျမည့် အသုံးစရိတ် ခန့်မှန်းခြေငွေစာရင်း၊

တို့နှင့် ပတ်သက်၍ သဘောတူ ခွင့်ပြုပါရန် ဝန်ကြီးအဖွဲ့သို့ ထပ်မံ တင်ပြခဲ့လေသည်၊ ထို့ပြင် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၌—

(၁) သံဃာတော်များ ဝိနည်းတရားတော်နှင့် အညီ ကျင့်ကြံ သီတင်းသုံးတော်မူကြစေရန် သံဃာတော်များ အချင်းချင်း ကြပ်မကွပ်ကဲနိုင်မည့် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ပေါ်ပေါက် လာရေးအတွက် ဖွဲ့စည်းဆောင်ရွက်ရန်၊

(၂) ဝိနည်း ဓမ္မကံ မှုခင်းများ ဖြေရှင်း ဆုံးဖြတ်နိုင်ရေး အတွက် နည်းလမ်းများ သတ်မှတ်ရန်၊

(၃) ရဟန်းသံဃာတိုင်း သာသနာဝင်လက်မှတ် ကိုင်ဆောင်ရန်၊

( ၄ ) အစည်းအဝေးကြီးမှ ပေါ်ပေါက်လာသော သာသနာရေးဆိုင်ရာ အခြား လိုအပ်ချက်များ ဆောင်ရွက်ရန်၊

ဟူသော အချက်ကြီး ( ၄ ) ချက်ကို ဆွေးနွေး ဆောင်ရွက်ရန် ရည်မြော်မှန်းခဲ့ကြောင်းနှင့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ကျင်းပပြုလုပ်သော အခါ သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော်ပေါင်း ( ၁၀၀၀ ) ခန့် တက်ရောက်ရန်နှင့် ထိုအစည်းအဝေးပွဲကြီး ကျင်းပနိုင်ရေးအတွက် ကြိုတင်ပြင်ဆင်မှုများပြုလုပ်ရန် သံဃာ့ဝန်ဆောင် ၆၆-ပါးတို့ကို ဂိုဏ်းအသီးသီးနှင့် ပြည်နယ်/တိုင်း အသီးသီးမှ သံဃာ့သမ္မုတိပေး၍ ရွေးချယ်စေရန် ရည်သန်မြော်မှန်းခဲ့ကြောင်းကို ဝန်ကြီးအဖွဲ့သို့ တင်ပြခဲ့သည်။

၁၉၇၉-ခုနှစ် နိုဝင်ဘာလ ( ၁၄ ) ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် ဝန်ကြီးအဖွဲ့၏ အစည်းအဝေး အမှတ် (၂/၆၆) ဖြင့် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနက တင်ပြထားသည့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးကို ရန်ကုန်မြို့ သီရိမင်္ဂလာ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ ကျင်းပရေးကိစ္စနှင့် စပ်လျဉ်း၍ တင်ပြချက်များ အားလုံးကို သဘောတူ ခွင့်ပြုခဲ့လေသည်။

**သံဃာ့ဝန်ဆောင် ၆၆-ပါး ရွေးချယ်ရေး စည်းဝေး။** ။ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပရေးကိစ္စနှင့် စပ်လျဉ်း၍ ဝန်ကြီးအဖွဲ့၏ သဘောတူ ခွင့်ပြုချက် ရရှိသော အခါ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနသည် ပြည်နယ်/တိုင်း အသီးသီးမှ ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင်များ၊ ပြည်နယ်/တိုင်း သာသနာရေးမှူးများကို သာသနာရေးဦးစီးဌာန အစည်းအဝေး ခန်းမဆောင်သို့ ဖိတ်ကြား၍ သံဃာ့ဝန်ဆောင် ဆရာတော် ၆၆-ပါး ရွေးချယ်ရေးကိစ္စ အတွက် လုပ်ငန်းညှိနှိုင်းပွဲ အစည်းအဝေးကို ၁၉၇၉-ခုနှစ် နိုဝင်ဘာလ ( ၂၀ ) ရက်နေ့တွင် ကျင်းပခဲ့လေသည်။

**တက်ရောက်သည့် ပုဂ္ဂိုလ်များ။** ။လုပ်ငန်း ညှိနှိုင်းပွဲ အစည်း အဝေးသို့ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်နှင့် ဒုတိယဝန်ကြီး ဦးအုန်းကျော်၊ ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ ( ၁၄ ) ဖွဲ့မှ ကိုယ်စားလှယ် ၁၄-ဦး၊ ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့် အမှူးပြုသည့် ပြည်နယ်/တိုင်း သာသနာရေးမှူး ( ၁၄ )ဦးနှင့် ရန်ကုန်ရုံးချုပ်မှ တာဝန်ရှိ ဝန်ထမ်း ( ၁၂ )ဦး—စုစုပေါင်း ( ၄၃ ) ဦးတို့ တက်ရောက်ကြသည်။

**ဝန်ကြီး မိန့်ကြားခြင်း။** ။ထိုအစည်း အဝေး ကြီးတွင် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က—

"ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးကို နယုန်လပြည့်နေ့ ဘွဲ့တံဆိပ်တော် ဆက်ကပ်ပွဲ အခမ်းအနား မတိုင်မီ (၃) ရက်တိုင်တိုင် ကျင်းပရန် သတ်မှတ်ကြောင်း။

ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပရေး အတွက် ကြိုတင်ပြင်ဆင်မှု လုပ်ငန်းများကို ဆောင်ရွက်ရန် သံဃာ့ဝန်ဆောင် ဆရာတော် ၆၆-ပါးကို အခြေခံ ဒေသအလိုက်, ဂိုဏ်းအလိုက် သံဃာ့ သမ္မုတိပေး၍ သံဃဆန္ဒဖြင့် ရွေးချယ်ရမည် ဖြစ်ကြောင်း။

သံဃာ့ဝန်ဆောင် ဆရာတော် ၆၆-ပါးတို့က—

(၁) သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းပုံ၊

(၂) ဝိနည်းဓမ္မကံ အဓိကရုဏ်းပွားခင်းများ ပြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်း၊

(၃) သာသနာဝင်လက်မှတ်၊

(၄) ဓမ္မဝိနယ ပြန်တမ်းကဲ့သို့သော ဆုံးဖြတ်ချက်မျိုး စုစုပေါင်း ဖော်ပြပါ အချက် (၄) ချက်နှင့် ပတ်သက်၍ စာတမ်းများကို ကြိုတင်ရေးသား ပြုစုထားရမည် ဖြစ်ကြောင်း။

ထို့ပြင် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တက်ရောက်နိုင်မည့် သံဃာ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များ၏ အရေအတွက်နှင့် အရည်အချင်းကိုလည်း သံဃာ့ဝန်ဆောင် ဆရာတော် (၆၆) ပါးတို့ကပင် သတ်မှတ်ပေးရမည် ဖြစ်ကြောင်း။

ငွေကြေးအသုံးစရိတ်နှင့် ပတ်သက်၍ သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များကို သံဃာ့ဦးရေအလိုက်နှင့် မြို့နယ်အလိုက် ရွေးချယ်ရမည်ဖြစ်၍ စုစုပေါင်း ကုန်ကျစရိတ် သိန်းပေါင်း ၁၂၀-ခန့် ရှိမည် ဖြစ်ကြောင်း။

ဤမျှများပြားသော ကုန်ကျစရိတ်များကို နိုင်ငံတော်က ကျခံနိုင်ခြင်း မရှိသဖြင့် ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီများက စေတနာရှင် တကာများနှင့် ညှိနှိုင်းဆောင်ရွက်ကြစေလိုကြောင်း"

စသည်ဖြင့် မိန့်ကြားခဲ့လေသည်။

**အချက်သုံးချက် ခန့်မှန်းခြင်း။** ။ထို့နောက် သံဃာ့ဝန်ဆောင် ( ၆၆ ) ပါး ရွေးချယ်ရေးနှင့် ပတ်သက်၍ သံဃာ့ဆန္ဒနှင့်အညီ သံဃာ့သမ္မုတိရ ဖြစ်အောင် ဆောင်ရွက်နိုင်ရေးအတွက် အခြေခံ ဒေသ အသီးသီးရှိ သံဃာတော်များကို သင့်လျော်ရာ နေရာဌာနသို့ ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့က တာဝန်ယူ ပင့်ဆောင်ရေးကိစ္စ၊ သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပေးရေးအတွက် ဝန်ကြီး, ဒုတိယဝန်ကြီးနှင့် အခြားတာဝန်လွှဲအပ်ခြင်း ခံရသူများက သာသနာ့ ဥသျှောင် ဆရာတော်များအား လျှောက်ထားရေးကိစ္စ စသည်တို့ကို ဆွေးနွေးညှိနှိုင်းကြပြီးနောက် ဖော်ပြပါဆုံးဖြတ်ချက် ( ၃ ) ချက်တို့ကို ချမှတ်ခဲ့ကြကုန်၏။

( ၁ ) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် ပြည်သူ့ကောင်စီများနှင့် ဘာသာရေး အသင်းအဖွဲ့များ ညှိနှိုင်းဆောင်ရွက်ရန်။

( ၂ ) သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ရေး အတွက် အခြေခံဒေသအလိုက် စုဝေးလျှောက်ထားနိုင်စိမ့်သောငှာ ထင်ရှားသော ဆရာတော်ကြီးများ စာရင်းကို ပြည်နယ်/တိုင်း သာသနာရေးမှူး များက ပြုစု တင်ပြရမည်။

( ၃ ) မြို့နယ် သံဃာ့ စာရင်းကို အချိန်မီ ရရှိအောင် ပြည်နယ်/တိုင်း သာသနာရေးမှူးများက ဆောင်ရွက်ရန်။

**သံဃာ့ဝန်ဆောင် ၆၆-ပါး ရွေးချယ်ခြင်း။** ။၁၉၇၉-ခုနှစ် နိုဝင်ဘာလ ( ၂၆ )ရက်နေ့တွင် ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဒုတိယဝန်ကြီး၏ လက်မှတ်ဖြင့် ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီ အလုပ် အမှုဆောင် အဖွဲ့ ဥက္ကဋ္ဌများထံသို့ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပနိုင်ရေး အတွက် ကြိုတင် ပြင်ဆင်မှု လုပ်ငန်းများကို ဆောင်ရွက်ရန်- သံဃာ့ ဝန်ဆောင် ဆရာတော် (၆၆)ပါး ရွေးချယ်ရေးနှင့် ပတ်သက်၍ ရွေးချယ်ရန် အခြေခံ ဒေသ သတ်မှတ်ပုံ စာရင်း ရွေးချယ်ပေးရန်- သာသနာ့ ဥသျှောင် ဆရာတော်ကြီးများအား လျှောက်ထားမည့် ပုံစံများ စာရင်းတို့ကို ပေးပို့ပြီး သံဃာ့ဝန်ဆောင် ရွေးချယ်ရေး အတွက် လိုအပ်သလို ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီများက ပါဝင် ဆောင်ရွက်ကြရန် ညွှန်ကြားခဲ့သည်။ ညွှန်ကြားခဲ့သည့်အတိုင်း ပြည်နယ်/တိုင်း ပြည်သူ့ကောင်စီ များ၏ စိတ်အား ထက်သန်စွာ ပါဝင် ဆောင်ရွက်မှုကြောင့် သံဃာ့ဝန်ဆောင် ဆရာတော် ၆၆-ပါးကို ရွေးချယ်ခဲ့ကြသည်။ သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပွဲ အစည်း

အဝေးများ အကြောင်းကို ဒုတိယပိုင်းတွင် ဆက်လက် ရှုရာ၏၊ ဤတွင် ထူးခြားသော ဤသာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး "ဂိုဏ်း **ပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး** သမိုင်းကျမ်း" ကြီးတွင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်ပေါ်လာပုံကို ပြဆိုရာ ပဌမပိုင်း လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ ဟိတတ္ထာယ သုတာယ စ။
ဝိသိဋ္ဌေ ဌာန ဂန္ထမှိ၊ ပဌမော သမတ္တော ဟိ ခေါ်။

—

# ဒုတိယပိုင်း

**ရန်ကုန်တိုင်း သံဃာ့ဝန်ဆောင် ရှိရေး စည်းဝေး။** ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက်ရေး အတွက် လုပ်ငန်းကို ၁၃၄၁-ခုနှစ် နတ်တော်လပြည့်ကျော် ၁၂-ရက် (၁၅-၁၂-၇၉)နေ့မှ စ၍ တိုင်းသိ ပြည်သိ ကမ္ဘာသိ စတင်၍ အလုပ်လုပ်သည်။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် အတွက် ရန်ကုန်တိုင်း အတွင်းရှိ သုဓမ္မာဂိုဏ်းပေါင်း သံဃနာယက သာသနာ့ ဥသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခုနှစ် နတ်တော် လပြည့်ကျော် ၁၂-ရက် (၁၅-၁၂-၇၉)နေ့ မွန်းလွဲ ၁-နာရီ အချိန်တွင် ရန်ကုန်မြို့ ကမ္ဘာအေးစေတီလမ်းရှိ သာသနာရေး ဦးစီးဌာနတွင် ကျင်းပ ပြုလုပ်သည်။

**တက်ရောက်သည့် ဆရာတော်များ။** ။ဖော်ပြပါ အစည်း အဝေးသို့ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်များ ဖြစ်တော်မူကြသည့် ရန်ကင်း မြို့နယ် ဘောက်ထော် သေဋ္ဌိလဗိမာန်မှ ဆရာတော် ဦးသေဋ္ဌိလ၊ စမ်းချောင်း မြို့နယ် ဗားကရာ တောရ ကျောင်းတိုက်မှ ဆရာတော် ဦးနာဂဝံသ၊ ဗားကရာတိုက် တိလောကာရုံ ကျောင်းမှ ဆရာတော် ဦးတိလောက၊ ဥယျာဉ် တိုက် စံဝတီကျောင်းမှ ဆရာတော် ဦးသုဇာတာလင်္ကာရ၊ ဗဟန်းမြို့နယ် ကုက္ကိုင်းသာသနာ့ရိပ်သာမှ ဆရာတော် ဦးသောဘန၊ မိုးညှင်း ဝိပဿနာ ကျောင်းတိုက်မှ ဆရာတော် ဦးဇာနိယ၊ အလယ်တောရတိုက် စာချကျောင်းမှ ဆရာတော် ဦးသူရိယ၊ ကမာရွတ်မြို့နယ် ပြည်လမ်း ပဌာန်းကျောင်းတိုက်မှ ဆရာတော် ဦးနာရဒ နှင့် ခရမ်းမြို့နယ် ကိုင်းကုန်း ပါဠိတက္ကသိုလ်ကျောင်း တိုက်မှ ဆရာတော် ဦးသုဒဿန၊ ကံဘဲ့ ပဉ္စနိကာယ သာသနာ့ ဗိမာန်မှ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးကောသလ္လ- စသည့် ဆရာတော်ကြီးများ အပါအဝင် ရန်ကုန်တိုင်း အတွင်းရှိ ၂၆-မြို့နယ်မှ ထင်ရှား ကျော်ကြားသော ဆရာတော်ကြီး အပါး ၆၀-နှင့် ပြည်ထဲရေးနှင့် **သာသနာရေး ဝန်ကြီးဌာန** ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ ဒုတိယ ဝန်ကြီး



ခရမ်းမြို့ ကိုင်းကုန်းကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု
ဆရာတော်ကြီး သမ္မောဒနီယကထာ မြွက်ကြားစဉ်

ဦးအုံးကျော်၊ ရန်ကုန်တိုင်း ပြည်သူ့ ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ကျော်မြင့်နှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ- မြို့နယ် အသီးသီးမှ ပြည်သူ့ ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင်များ- တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**ဦးကြည်ညွန့် ဖတ်ကြား လျှောက်ထား။** ။ ရှေးဦးစွာ သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်က အခမ်းအနား အစီအစဉ်များနှင့် ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများ၏ စာရင်းကို ဖတ်ကြား လျှောက်ထားသည်။

**ပရိတ်ရွတ် ချီးမြှင့်။** ။ ထို့နောက် ပရိတ်သတ်က ဆရာတော်ကြီးများအား ရှိခိုး ကန်တော့ပြီး ဆရာတော်ကြီးများ ကိုယ်စား ကြည့်မြင်တိုင် ကျောင်းကြီးတိုက် ဘုံပျံဆရာတော် ဦးပညာသာမိက ငါးပါးသီလ ချီးမြှင့်တော်မူသည်၊ ဆက်လက်၍ ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကို ချီးမြှင့်တော်မူသည်။

**ဝန်ကြီးလျှောက်ထား။** ။ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်တော် မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ကို အဖွဲ့ဝင် ဆရာတော် ၆၆ - ပါးဖြင့် ဖွဲ့စည်းရန် သတ်မှတ်ထားသည့် အလျောက် ရန်ကုန် တိုင်း အတွင်း သီတင်းသုံးတော်မူကြသည့် ရဟန်းသံဃာတော် အရေအတွက် သုဓမ္မာဂိုဏ်းဝင် ဆရာတော် ရှစ်ပါးကို ရန်ကုန် အခြေခံဒေသမှ ငါးပါး, မော်တီ အခြေခံဒေသမှ တပါးနှင့် ဟံသာဝတီ ( သန်လျင် ) အခြေခံဒေသမှ နှစ်ပါး ရွေးချယ်ပေးတော် မူကြပါမည့် အကြောင်း အောက်ပါ အတိုင်း လျှောက်ထားသည်။

## ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်လွှာ

ရှိသေလေးမြတ်စွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား —

မြန်မာနိုင်ငံအတွင်း၌ သုဓမ္မာဂိုဏ်း, ရွှေကျင်ဂိုဏ်း, မဟာဒွါရ ဂိုဏ်း, မူလဒွါရဂိုဏ်း စသည်ဖြင့် သံဃာ့ဂိုဏ်းကြီးများ ထင်ရှား တည် ရှိနေပါသည် ဘုရား၊ ယင်း သံဃာ့ဂိုဏ်းကြီးများ အတွင်း၌ မိမိတပည့် ရဟန်းသာမဏေများကို ဆုံးမကမြစ်ခြင်း ကြီးကြပ်အုပ်ချုပ်ခြင်း ဝိနည်း

ဓမ္မကံ အဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ခြင်း စသည့် သာသနာရေး ဆိုင်ရာ အမှုကိစ္စများကို ဆောင်ရွက်ရာတွင် အခက်အခဲများ တွေ့ကြုံနေ ရကြောင်းကို ဆရာတော်ကြီးများထံမှ ပေးပို့တော်မူကြသည့် မေတ္တာ ရပ်ခံစာများ အပြင် ဤရုံးမှ လက်ခံ ရရှိနေသော စာများအရ သိရှိ ရပါသည် ဘုရား။ ထို့ပြင် သိက္ခာဒတင် သိမ်မဝင်ပဲ မိမိဘာသာ သင်္ကန်း ပတ်နေသော ရဟန်းတု ရဟန်းယောင်များ ပေါ်ပေါက်လျက် ရှိကြောင်းကိုလည်း တိုင်ကြားစာများအရ သိရှိရပါသည်ဘုရား။

**အဓိက တာဝန်ကြီး တရပ်။** ။ယင်း ကိစ္စများသည် သဗ္ဗညု ဘုရားရှင်၏ သာသနာတော်ကို ညှိုးနွမ်းစေမည့်ကိစ္စ ဖြစ်ပါသည်ဘုရား၊ အဆိုပါ သာသနာတော် ညှိုးနွမ်းခြင်း၏ အကြောင်းတရားများကို ဖယ်ရှား၍ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ဆောင် ရွက်ရန်မှာ ဆရာတော် သံဃာတော် အရှင်မြတ်တို့၏ အဓိကတာဝန် ကြီး တရပ် ဖြစ်ပါသည် ဘုရား၊ သာသနာတော် သန့်ရှင်း တည် တံ့ ပြန့်ပွားရေး လုပ်ငန်းသည် သံဃာ့ကိစ္စဖြစ်၍ သံဃာတော်များက သာ ဆောင်ရွက်သင့်ပါသည် ဘုရား။ ထိုသို့ သံဃာတော်များက ဆောင်ရွက်ရာ၌ တပည့်တော်တို့ ဒါယကာများဖက်ကလည်း သင့် လျော်သော ကူညီထောက်ပံ့မှုများ ပြုလုပ်မည် ဖြစ်ပါသည် ဘုရား။

**သံဃာ့ဝန်ဆောင် အဖွဲ့။** ။ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်တွင် ရဟန်း သံဃာတော် ပေါင်း ၁၀၀၀၀၀ (ဟသိန်း) ခန့် ရှိရာ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွား ရေး လုပ်ငန်းကြီးကို အကောင် အထည်ဖော်ရာ၌ တပြည်လုံးရှိ သံဃာ တော်များ၏ ဆန္ဒနှင့် အညီ ဖြစ်ရန် လိုအပ်ပါသည် ဘုရား၊ သို့ဖြစ်ပါ၍ သင့်လျော်သော အရေအတွက်ရှိသည့် သံဃာ့သမ္မုတိရ သံဃာ့ ကိုယ် စားလှယ်များဖြင့် ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ လာမည့် ၁၉၄၂-ခုနှစ် နယုန်လဆန်း (၁၂) ရက် (၁၃) ရက် (၁၄) ရက်နေ့များ၌ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ကျင်းပရန် စီစဉ်ထားပါသည် ဘုရား၊ ယင်း အစည်းအဝေးပွဲကြီး အထမြောက် အောင်မြင်နိုင်ရေး အတွက် ကြိုတင် ပြင်ဆင်မှုများ ပြုလုပ်ရန် ရွေးချယ်ထား သံဃာ့ဝန်ဆောင်အဖွဲ့ကို ဖွဲ့စည်း ဆောင်ရွက်ရန် လိုအပ်ပါသည် ဘုရား။

**အဖွဲ့ဝင် ဆရာတော် ၆၆-ပါး။** ။ သံဃာ့ဝန်ဆောင် အဖွဲ့ကို အဖွဲ့ဝင် ဆရာတော် ၆၆-ပါးဖြင့် ဖွဲ့စည်းရန် သတ်မှတ်ထားရာ

သုဓမ္မာဂိုဏ်းမှ ၅၈ - ပါး၊ ရွှေကျင်ဂိုဏ်းမှ ၅ - ပါး၊ မဟာဒွါရဂိုဏ်းမှ ၂ - ပါး၊ မူလဒွါရဂိုဏ်းမှ တပါး ဖြစ်ပါသည် ဘုရား။ သုဓမ္မာဂိုဏ်းမှ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ၅၈ - ပါးကို ပြည်နယ်/တိုင်း အတွင်းရှိ ရဟန်းသံဃာ အရေအတွက် အရ အခြေခံ ဒေသများအလိုက် ခွဲခြားသတ်မှတ်ထားရာ ယင်းသို့ ခွဲခြားသတ်မှတ်ထားသည့် သံဃာ့ဝန်ဆောင်စာရင်းကို ပူးတွဲ ဆက်ကပ်ပါသည်ဘုရား။

( ၁ ) ရန်ကုန် အခြေခံဒေသမှ ၅ - ပါး၊

( ၂ ) မှော်ဘီ အခြေခံဒေသမှ ၁ - ပါး၊

( ၃ ) ဟံသာဝတီ ( သန်လျင် ) အခြေခံဒေသမှ ၁ - ပါး။

**ဓမ္မဝိနယနှင့် အညီ။** ။သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သည့် နည်းဖြင့် ဓမ္မဝိနယနှင့် အညီ ရွေးချယ်ဆောင်ရွက်ပေးတော်မူကြပါဘုရား။ ထိုသို့ ရွေးချယ်တော်မူကြရာ၌ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ဆောင်ရွက်ရမည့် လုပ်ငန်းတာဝန်များနှင့် အညီ ဆောင်ရွက်နိုင်မည့် သံဃာတော်များအား ဦးစားပေး ရွေးချယ်နိုင်ရန် အတွက် ရည်မှန်းထားသော လုပ်ငန်းတာဝန်များကို လျှောက်ထားပါမည်ဘုရား—

၁။ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးကြီး အောင်မြင်စွာ ကျင်းပနိုင်ရေး အတွက် စီမံချက်များ ရေးသား ပြုစုရန်။

၂။ သံဃာ့အစည်းအဝေးပွဲကြီး၌ ဆွေးနွေးရမည့် အကြောင်းအရာများ စာတမ်းများနှင့် ဆုံးဖြတ်ရန် အချက်များကို ရေးသား ပြုစုရန်။

၃။ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးသို့ ပင့်ဖိတ်ရမည့် သံဃာ့သမ္မုတိရ ( သံဃာ့ကိုယ်စားလှယ် ) အရေအတွက် နှင့် အရည်အချင်းကို သတ်မှတ်ပေးရန်။

၄။ သံဃာ့သမ္မုတိရ ( သံဃာ့ကိုယ်စားလှယ် ) များကို ဓမ္မဝိနယနှင့် အညီ ရွေးချယ်ရန် နည်းလမ်းများ နှင့် အစီအစဉ်များ ချမှတ်ပေးရန်။

၅။ မိမိတို့နှင့် ဆိုင်ရာဒေသများသို့ ကြွရောက်၍ ဖြန့်ဝေသင့်သည့် စာတမ်းများကို ဖြန့်ဝေ၍ စာတမ်းပါ အကြောင်းအရာ

အချက်အလက်တို့ကို ယိုဒယား၌ သံဃာတော်များအား ရှင်းလင်း လျှောက်ထားရန်နှင့် ဆန္ဒများ ယူရန်။

၆။ မိမိတို့နှင့် ဆိုင်ရာဒေသများသို့ ကြွရောက်၍ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တက်ရောက်ရမည့် သံဃာ့သမ္မုတိ ရ (သံဃာ့ကိုယ်စားလှယ်) များ ရွေးချယ်ရာ၌ ချမှတ်ထားသော နည်းလမ်းများနှင့်အညီ သံဃာ့သမ္မုတိ ရရှိရေးအတွက် ကြီးကြပ် ဆောင်ရွက်ပေးရန်။

၇။ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး၌ ဆွေးနွေးမည့် သံဃာ့ကိုယ်စားလှယ်များ စာရင်း ရရှိရေး အစည်းအဝေး အစီအစဉ်များနှင့် အခြား လိုအပ်သည့် ညွှန်ကြားမှုများ ရေးဆွဲ သတ်မှတ်ရန်။

၈။ အခြား လိုအပ်သော လုပ်ငန်းတာဝန်များ ဆောင်ရွက်ရန်။

**ရည်မှန်းထားသော အရည်အချင်း။** ။ သံဃာ့ ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များအတွက် ရည်မှန်းထားသော အရည်အချင်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် ဘုရား—

(၁) စာပေ ပရိယတ္တိကျွမ်းကျင်မှု (ပရိယတ္တိဝိသာရဒ) ဂုဏ်နှင့် ပြည့်စုံခြင်း၊

(၂) လဇ္ဇီပေသလ သိက္ခာကာမ ဝိနယဂရုကဂုဏ်နှင့် ပြည့်စုံခြင်း၊

(၃) သည်းခံခြင်းတရားနှင့် ပြည့်စုံ၍ သံဃာကြီးငယ်တို့နှင့် ဆက်ဆံရာ၌ ပြေပြစ်မှု ရှိခြင်း၊

(၄) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် မိမိကျရာတာဝန်ကို ဆောင်ရွက်နိုင်စွမ်း ရှိခြင်း၊

**ဆရာတော်ကြီးများ ဦးဆောင်၍။** ။သို့ဖြစ်၍ အရည်အချင်းနှင့် ပြည့်စုံသည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို သတ်မှတ်သည့် အခြေခံဒေသအလိုက် ဆရာတော်ကြီးများက ဦးဆောင်၍ သင့်လျော်သည့် နည်းဖြင့် ဓမ္မဝိနယနှင့် အညီ ရွေးချယ်ပေးတော်မူကြပါရန် လပ်ကလောင်း လျှောက်ထားအပ်ပါသည် ဘုရား။

**ရန်ကုန်အာရောက် ပင့်ဆောင်ရက်။** ။ ရွေးချယ်ခံရသော သံဃာ့ ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ၁၃၄၁ – ခုနှစ် တပို့တွဲ လပြည့်ကျော် ၁ – (၁ . ၂ . ၈၀) နေ့တွင် ရန်ကုန်မြို့သို့ အရောက်



ဆွမ်းဆန်စိမ်းလောင်းလှူပွဲကြီးတွင် ဆရာတော် သံဃာတော်အရှင်မြတ်တို့
အား ဒါယကာ ဒါယိကာမတို့ ဝမ်းမြောက်ပျော်ရွှင်စွာ လောင်းလှူကြည်။

ပင့်ဆောင်မည် ဖြစ်ပါ၍ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ရွေးချယ်မှုကို တပို့တွဲလဆန်း ၈ -ရက် ( ၂၄ - ၁ - ၈၀ ) နေ့ မတိုင်မီ ပြီးစီးဆောင်ရွက်တော်မူကြပါရန် ရိုသေ လေးမြတ်စွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ [၁]

**သမ္မောဒနီယကထာမြွက်ကြား။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများ အားလုံး ကိုယ်စား ခရမ်းမြို့ ကိုင်းကုန်းပါဠိတက္ကသိုလ်ကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်သုဒဿနက သမ္မောဒနီယ ကထာကို အောက်ပါအတိုင်း မြွက်ကြားတော်မူသည်။

" ဗုဒ္ဓေါ လောကေ သမုပ္ပန္နော၊ ဟိတာယ သဗ္ဗပါဏိနံ " ဟူသော ဒေသနာတော်နှင့်အညီ သဗ္ဗညု မြတ်စွာဘုရားသည် လေးသင်္ချေနှင့် ကမ္ဘာတသိန်းကာလပတ်လုံး ပါရမီဆယ်ပါး, အပြားသုံးဆယ်, စွန့်ခြင်းကြီး ငါးပါး,စရိယသုံးပါးတို့ကို အင်္ဂါလေးပါးနှင့် ပြည့်စုံသော ဝီရိယတော်မြတ်ဖြင့် မနေမနားကြိုးစားဖြည့်ဆည်းပူးတော်မူခဲ့သည့်အတွက် လောကသုံးပါး၌ သတ္တဝါအားလုံးတို့၏ ကောင်းကျိုး စီးပွား ချမ်းသာ အလို့ငှာ ပွင့်ထွန်းတော် မူခဲ့ရပါသည်။

**ကျွတ်ထိုက်သူ ဝေနေယျများ ကျန်ရစ်။** ။ထိုသဗ္ဗညု မြတ်စွာဘုရားသည် သက်ကမ်းတိုသော တရားတမ်းကာလ၌သာ ပွင့်ထွန်းတော်မူခဲ့ရပြီး ( ၄၅ ) နှစ်အချိန်မျှသာ သာသနာတော်ပြုခွင့် ရသွားပါသည်။ ယင်းသို့ဘုရားရှင်ကိုယ်တော်ဘို့ သာသနာပြုချိန် များစွာ မရခဲ့သည့် အတွက် ကျွတ်ထိုက်သူ ဝေနေယျများစွာ ကျန်ရစ်ခဲ့ရပါသည်။

**သာသနာတော်သုံးရပ် ထားတော်မူခဲ့။** ။ထိုကဲ့သို့ သူတော် ကောင်းခတ် တည်ကိန်းနေသော အရိယာလောင်းလျာများ အတွက် မိမိ၏ သာသနာတော်ကို အရှည်တည်တံ့အောင် စီမံ၍ အကျယ်အားဖြင့် ဟောကြားထားရစ်တော်မူခဲ့ပါသည်။ ထိုသို့ဘုရားရှင် အမွေအနှစ်အဖြစ် ထားတော်မူရစ်သော သာသနာတော်သည် သုတ်, ဝိနည်း, အဘိဓမ္မာ ဟူသော ပရိယတ္တိစာပေ

---

၁။ လျှောက်လွှာကို ဆရာတော် သံဃာတော်များအားလည်း ရိုက်နှိပ် ဆက်ကပ်ရာ အောက်တွင် ဗိုလ်မှူးချုပ် စိန်လွင်၊ ဝန်ကြီး၊ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာန။ သာသနာနှစ် ၂၅၂၃၊ ကောဇာနှစ် ၁၃၄၀ - ခုနှစ်၊ ၁၉၇၉ - ခုနှစ် ဒီဇင်ဘာလ ၁၅ - ရက် ဟု ပါရှိသည်။

ကျမ်းဂန်အပေါ် အခြေတည်၍ ပရိယတ်ကို ကန်ဘောင် ကန်သင်းကြီးပမာ အခိုင် အခန့် တည်ဆောက်လျက် ပဋိပတ်နှင့် ပဋိဝေဓ သာသနာကို ဝေနေယျအပေါင်းတို့ နှစ်ထောင်းအားရစွာ ကျင့်သုံးနိုင်ကြစေရန် စီစဉ်တော်မူခဲ့ပါသည်။

**ဓုရနှစ်ပါး ထမ်းဆောင်ရစ်ရန် စီမံ။** ။ဘုရားဟော ပရိယတ္တိ ဓမ္မက္ခန် တို့မှာ နက်နဲခြင်း များပြားခြင်းတို့ကြောင့် လူသာမန်တို့အနေဖြင့် ခေတ်နှစ် များစွာ သာသနာ အရှည်တည်တံ့ အောင် မဆောင်ရွက်နိုင်ရကား ပဋိပတ် လည်း ကျင့်စေ, ပရိယတ်လည်း တင့်စေ ဟူသော ရည်ရွယ်ချက်ဖြင့် ဘိက္ခု သံဃာများကို ခွင့်ပြုတော်မူကာ ထိုဘုရားသားတော် ဘိက္ခုသံဃာတော်တို့ အား ဂန္ထဓုရ, ဝိပဿနာဓုရ ဟူသော ဓုရနှစ်ပါးကို ထမ်းဆောင်ရစ်ကြရန် စီမံတော်မူခဲ့ပါသည်။

**လမ်းဖွင့်ပေးတော်မူခဲ့။** ။ယင်းသို့ ဘိက္ခုသံဃာများက ဓုရနှစ်ပါးကို ကြိုးစားလုံးပမ်းနေချိန်တွင် လူဝတ်ကြောင်များကဲ့သို့ စားဝတ်နေရေး ရှာ ဖွေချိန်မရကြသဖြင့် ရတနာသုံးပါးကို ဆည်းကပ် ကြသော ဒါယကာ, ဒါယိ ကာမများက ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး ပစ္စည်းလေးပါးတို့ဖြင့် သာသနာ တော်အား ချီးမြှင့် ထောက်ပံ့နိုင်အောင် လမ်းဖွင့် ပေးတော်မူခဲ့ပေသည်။ ဤအကြောင်းကို အောက်ပါအတိုင်း ဟောကြားတော်မူခဲ့၏။

သာဂါရာ အနာဂါရာ စ၊ ဥဘော အညောညနိဿိတာ။
အာရာဓယန္တိ သဒ္ဓမ္မံ၊ ယောဂက္ခေမ မနုတ္တရံ။

**အဓိပ္ပာယ်ကား။** ။ရတနာသုံးပါးကို ကိုးကွယ် ဆည်းကပ်ကြသည့် အိမ် ရာတည်ထောင် လူဝတ်ကြောင်တို့သည်လည်းကောင်း ဃရာဝါသ သမ္ဗာဓကို ဖဲကြဉ်၍ သာသနာ့ဘောင် ဝင်ကာ ဓုရနှစ်ပါးကို အားထုတ်လျက် ရှိကြ သော ရဟန်း သာမဏေတို့သည်လည်းကောင်း ထိုဒကာ, ဆရာ နှစ်ဦးသားတို့ သည် အချင်းချင်း အမှီပြုကြကုန်ပြီး၍ ဩဃလေးဖြာ သံသရာကို လွန်မြောက် နိုင်သော အတုမရှိသော သဒ္ဓမ္မသုံးဖြာ သာသနာတော်မြတ်ကို နှစ်သက် ရွှင် လန်းစွာ ထောက်ပံ့ ချီးမြှင့်ကြကုန်ဟု ဆိုလိုပေသည်။

**ဆရာတော်များ လွန်စွာ နှစ်သက် ဝမ်းမြောက်ကြ။** ။ဘဒ္ဒကပ်ကမ္ဘာ မျိုးတွင်မှ ငါးဆူမျှသာ ပွင့်တော်မူသော သဗ္ဗညု ဘုရားကြီး၏ သာသနာ တော်စစ် သာသနာတော်မှန်နှင့် တွေ့ချကြုံရဖို့ရန် ဒုလ္လဘတရပ် ဖြစ်ကြောင်း အားလုံးသိရှိကြပြီးဖြစ်ပါသည်။ ထိုထက်သာသနာတော်ကို မိမိ ကိုယ်ထိ လက် ရောက်ကျင့်သုံးခြင်း အားပေး ချီးမြှောက်ခြင်း ပြုနိုင်ရန်မှာပို၍ခဲယဉ်းပါသည်။

ယခုအခါတွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားများနှင့်တကွ ပြည်သူ့ကိုယ်စားလှယ်အစိုးရ အဖွဲ့ဝင် ပုဂ္ဂိုလ်ကြီးများသည် ထိုကဲ့သို့ လူ့ဘဝဒ္ဒ ကြုံရခဲလှသော ဒုလ္လဘ အခွင့်အရေးကြီးကို တန်ဖိုးသိရှိကြပြီး ယခုလို သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားအောင် ဆရာတော် သံဃာတော်တို့က ဆောင်ရွက်ကြရာတွင် ဒကာတို့က လိုအပ်သည့်ဘက်မှ အကူအညီများပေးပါမည့်အကြောင်း လျှောက်ထား တာဝန်ယူကြသည့် အတွက် ဆရာတော် သံဃာတော်တို့အနေဖြင့် ဖရဏာပီတိ ဂွမ်းဆီသိပမာ လွန်စွာ နှစ်သက်ဝမ်းမြောက်တော်မူကြပေသည်။

**သံဃာတော်များက သာသနာ တိုးတက်အောင် ဆောင်ရွက် ကြရမည်။** ။ယခုအခါတွင် သာသနာအသက် ၂၅၀၀-ကျော်လာပြီး သာသနာ နောက်ပိုင်းကာလ ရောက်လာပြီဖြစ်၍ အာသဝေါတရားများ တိုးပွားရန် အကြောင်းများစွာ ပေါ်ပေါက်နေပေသည်။ ထို့ကြောင့် ဘုရားရှင် ချမှတ်ပညတ်တော်မူထသော ၂၂၇-သွယ် သိက္ခာပုဒ်တော်များကို လိုက်နာကျင့်သုံးမှု လျော့ရဲသည့် အပိုင်းများ ရှိလာသည်ကို အားလုံး အသိပင် ဖြစ်ကြပေသည်။ ဤကဲ့သို့ သာသနာတော်ဘက်မှာ အားပျော့နေသည်ကို ဤအတိုင်းကြောင့်ကြမဲ့နေကြ၍ မသင့်တော်ပေ။ "အနာဂတေ သာသနံ လဇ္ဇီ ရက္ခိဿတိ"[၁] ဆိုသည့် အတိုင်း သာသနာတော်၏ အရေးအခင်း ပေါ်လာလျှင် လဇ္ဇီပေသလ သိက္ခာကာမ ဖြစ်တော်မူကြသော ဘုရားသားတော် သံဃာတော်များက သာသနာတော် တိုးတက် ကောင်းမွန်အောင် လုပ်ဆောင်ကြရမည် ဖြစ်ပါသည်။

**ပိဋကတ်နှံ့စပ်ရန်နှင့် ပါဠိမြန်မာ ကျွမ်းကျင်ရန်။** ။ဤသို့ လုပ်ဆောင်ကြရာတွင် လက်ရှိရောက်နေသော ခေတ်ကာလနှင့် ညီညွတ်အောင် လုပ်ဆောင်ကြရပေမည်။ ယခုအခါ သီလသိက္ခာ ရှိသော ထေရ်ကြီး ဝါကြီးများ၏ စကားကို မနာယူကြသည့် ဒုဗ္ဗစပုဂ္ဂိုလ်များသည်ပင် သုဗ္ဗစပုဂ္ဂိုလ်များဖြစ်လာပြီး ဝိနည်းတရားတော်နှင့်အညီ ကျင့်ကြံနေထိုင်ကြစေရန်- သံဃာ့အဓိကရုဏ်းများ နည်းပါးပြီး ဖြစ်ပေါ်လာခဲ့လျှင်လည်း ဝိနည်းဥပဒေနှင့်အညီ အပြီးအပြတ် ဆုံးဖြတ်စေနိုင်ရန်- ရဟန်းကောင်းများ၏ ဂုဏ်သိက္ခာကို ညှိုးနွမ်းစေသည့် ရဟန်းတုရဟန်းယောင်များ ကင်းရှင်းစေရန်နှင့် ပိဋကတ်စာပေသင်ယူရာတွင် ကိုယ်ကျင့်တရား တိုးတက်စေခြင်း ပိဋကတ်နှံ့စပ်စေခြင်း ပါဠိ မြန်မာနှစ်ဘာသာကျွမ်းကျင်စေခြင်းများ ဖြစ်ပေါ်လာစေရန်တို့ကို ဆောင်ရွက်ကြရမည် ဖြစ်ပါသည်။

**ဆရာတော်များက သံဃာ့ဝန်ဆောင် ရွေးချယ်ပေးမည်။** ။ဤကဲ့သို့ သာသနာတော်တရပ်လုံး၏ ကောင်းကျိုး စီးပွားအတွက် ဆရာတော် သံဃာတော်ဘို

---

၁။ ဝိသုဒ္ဓိ၊ ၁။ ၉၅။ ဝိ၊ ဋ၊ ၁။ ၁၉၉။

က စုပေါင်း ဆောင်ရွက်ကြရာတွင် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင် လျှောက်ထား ပန်ကြားသည့် အတိုင်းပင် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးတရပ် ကျင်းပနိုင်ရေး အတွက် လိုအပ်သော အရည်အချင်းနှင့် ပြည့်စုံသည့် ဝန်ဆောင်သံဃာတော်များ ရရှိရေးကို ဓမ္မဝိနယ အညီ ဆရာတော်တို့က ရွေးချယ်ပေးကြမည် ဖြစ်ကြောင်းပန်ကြားအပ်ပေသည်။

**အနုမောဒနာပြု။** ။ယင်းသို့ မြွက်ကြားတော်မူရာ ဆရာတော်ကြီးများနှင့်တကွ ပရိသတ်အားလုံးက သာဓု အနုမောဒန ပြုကြသည်။

**ပြန်လည် ဖြေကြားပြီး အခမ်းအနားရုပ်သိမ်း။** ။ထို့နောက် ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများက ဆောင်ရွက်ပေးရမည့် လုပ်ငန်းများနှင့် ပတ်သက်၍ မေးမြန်းသည်ကို ပြည်ထဲရေးနှင့် သာသနာရေးဌာနဝန်ကြီးက ပြန်လည် ဖြေကြား လျှောက်ထားပြီး အခမ်းအနားကို မွန်းလွဲ ၂–နာရီတွင် ရုပ်သိမ်းလိုက်သည်။

ဂဟဋ္ဌပဗ္ဗဇိတာဟိ၊ ဝေံ ဟိ သာကစ္ဆံ ကရုံ။
ဝိသုဒ္ဓါယ ဒိုတိယာ စ၊ ပုလာယ စက္ကာသ ဟိ။

## မဟာဒွါရဂိုဏ်း ဗဟို ဝန်ဆောင်များအား လျှောက်ထားခြင်း

ပြည်ထဲရေး နှင့် သာသနာရေးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် ၁၃၄၁ - ခုနှစ် နတ်တော်လဆုတ် ၁၂ - ရက်နေ့မှာပင် ညနေ ၃ – နာရီ အချိန်တွင်သည်း ရန်ကုန်မြို့ စမ်းချောင်းမြို့နယ် လင်းလွန်းပင်ကျောင်းတိုက်၌ မဟာဒွါရဂိုဏ်း သာသနာပိုင် အမှူးရှိသော ဗဟိုဝန်ဆောင် ဆရာတော်ကြီးများအား လျှောက်ထားသည့် အခမ်းအနား ကျင်းပခဲ့သည်။

**မဟာဒွါရဂိုဏ်းမှ သံဃာတော်များ နှင့် ဒကာ, ဒကာမများ တက်ရောက်။** ။ ယင်း အခမ်းအနားသို့ မဟာဒွါရဂိုဏ်းမှ လင်းလွန်းပင် ကျောင်းတိုက်မှ သာသနာပိုင်ဆရာတော်ဘုရားကြီး, ဒုတိယ သာသနာပိုင် ဆရာတော်များ ဖြစ်သည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဓနုဖြူမြို့ သဒ္ဓမ္မဇောတိကာရာမကျောင်းတိုက် ဆရာတော် ဦးစန္ဒရံသီ၊ ပေါင်မြို့နယ် ကျွဲခြံမေဃဝန် ဆရာတော်၊ ဗဟိုဝန်ဆောင် ဆရာတော်များ ဖြစ်ကြသော ဟသာတမြို့ မဟိတာရုံ ဆရာတော်၊ လယ်တီကျောင်းတိုက် ဆရာတော်၊ ရန်ကုန်မြို့ ဗဟန်း မင်္ဂလာမဏ္ဍိုင်ကျောင်း ဆရာတော်၊ ရန်ကုန်မြို့ ဗားကရာတိုက် မင်္ဂလာဇေယျုံကျောင်း ဆရာတော်၊ ပဲခူးမြို့ သီရိအောင်မင်္ဂလာ ကမ္မဋ္ဌာန်းကျောင်းတိုက် ဆရာတော်၊

အနုနာယက ဆရာတော်များ ဖြစ်ကြသည့် ကော့မှူးမြို့နယ် ကသစ်ကုန်းဆရာတော်၊ ရန်ကုန်မြို့ ကျောက်ကုန်း ဓမ္မိကာရုံကျောင်း ဆရာတော်နှင့် ဗိုလ်ကလေးမြို့ မဟာဓမ္မိကာရာမ ကျောင်းတိုက် ဆရာတော်များ၊ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ ဒုတိယ ဝန်ကြီး ဦးအုံးကျော်, သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်၊ ရန်ကုန်တိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ကျော်မြင့်နှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ, တိုင်းသာသနာရေးမှူးများ, စမ်းချောင်းမြို့နယ် ပါတီ ပြည်သူ့ကောင်စီများမှ ပုဂ္ဂိုလ်များ ဌာနဆိုင်ရာ ပုဂ္ဂိုလ်များ ဘာသာရေး အသင်းအဖွဲ့မှ ပုဂ္ဂိုလ်များ, ဒါယကာ ဒါယိကာမများ တက်ရောက်ကြသည်။

**မေတ္တာသုတ်ချီးမြှင့်။** ။အဆိုပါ အခမ်းအနားတွင် အခမ်းအနားမှူး အဖြစ် သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်က ဆောင်ရွက်ပြီး အခမ်း အနား အစီအစဉ်အရ ရှေးဦးစွာ ဓနုဖြူမြို့ သဒ္ဓမ္မဇောတိကာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ ဒုတိယ သာသနာပိုင် ဆရာတော် ဦးစန္ဒိမာဘိဝံသက ငါးပါးသီလ ချီးမြှင့်ပြီးနောက် ဆက်လက်၍ ဆရာတော်များက မေတ္တာသုတ် ပရိတ်တရား တော်များ ချီးမြှင့်တော်မူကြသည်။

**သံဃာ့ဝန်ဆောင် ရွေးချယ်ပေးပါရန် လျှောက်ထား။** ။ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သာသနာ တော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ကျင်းပရေးအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ၆၆ - ပါးဖြင့် ဖွဲ့စည်း ရန် သတ်မှတ်ထားသည့် မဟာဒွါရဂိုဏ်းမှ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် နှစ်ပါးကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်မည့် နည်းဖြင့် ဓမ္မ ဝိနယနှင့် အညီ ရွေးချယ်ပေးတော်မူကြပါမည့်အကြောင်း လျှောက်ထားသည်။

**နှစ်သက် ဝမ်းမြောက်ကြမည်။** ။၎င်းနောက် မဟာဒွါရ ဂိုဏ်းကြီး၏ ကိုယ်စား ဒုတိယ သာသနာပိုင် အဂ္ဂမဟာပဏ္ဍိတ သဒ္ဓမ္မဇောတိကာရာမ ဆရာ တော် ဦးစန္ဒိမာဘိဝံသက "သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး" ဟူသော လျှောက်ထားသည့် စကားသံကို ကြားရသဖြင့် ထူးဘိပင်လှ ရှိသော စကားဟု သာသနာတော်အတွက် အားတက် နှစ်သက် ဝမ်းမြောက်ကြောင်း၊ သာသနာတော်ကို သက်ဝင်ယုံကြည် မြတ်နိုးသူတိုင်းလည်း အားတက်နှစ်သက် ဝမ်းမြောက်ကြမည်မှာ အမှန်ပင် ဖြစ်ကြောင်း။

**ဟန်ဆောင်ပုဂ္ဂိုလ်တစု။** ။သူတော်ကောင်းများ မနှစ်သက်အပ် မမြတ် နိုးအပ်သော သာသနာတု သာသနာယောင် ဟန်ဆောင်သည့် ပုဂ္ဂိုလ်တစုတို့က

ဓမ္မ ဝိနယနှင့် မလျော်ညီ သွေဖယ်တိမ်းစောင်း မကောင်းသော အကျင့်များကို ကျင့်ကြံပြုလုပ်ခြင်း တည်းဟူသော အကြောင်းဖြင့် သာသနာတော်စစ်ကို ညစ်ထေး မှေးမှိန် သိမ်ဖျင်းအောင် ပြုလုပ်နေကြခြင်းကို ရဟန်း ရှင် လူ ပြည်သူတို့ အသိပင် ဖြစ်ကြောင်း။

**အနုမောဒနာ။** ။နိုင်ငံတော် အစိုးရက သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ကြောင့်ကြစိုက်၍ လောက ဓမ္မ နှစ်ဌာနနှင့် အညီ မဆုတ်မနစ် အားသစ်သော လုံ့လ ဝီရိယဖြင့် ဆောင်ရွက်ကြမည် ဖြစ်ကြောင်း သိရှိရ၍ ဝမ်းမြောက်ကြောင်းဖြင့် သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားရာ ဆရာတော်ကြီးများနှင့် တကွ ပရိသတ်အားလုံးက သာဓု အနုမောဒနာ ပြုကြပြီး အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

ဝေံဟိ ဒွါရဝံသိက — ဘိက္ခူဟိ ပိ သံသန္ဒတိ။
မဟာသံဃသန္ဒိပါတ — ကရဏာယာ န ယုဥ္စတိ။

## မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သစ်၌ ကျောက်ထားပွဲ

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် အတွက် မန္တလေးတိုင်းနှင့် စစ်ကိုင်းတိုင်း အတွင်းရှိ ရွှေကျင်နိကာယ ဂိုဏ်းဝင် သံဃာ့နာယက သံဃာ့ဦးဆောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က ၁၃၄၁-ခုနှစ် နတ်တော်လဆုတ် ၁၄ ရက် (၁၇-၁၂-၇၉) နေ့ ၉ နာရီအချိန်တွင် မန္တလေးမြို့ အနောက်တောင်မြို့နယ် မဟာဝိသုဒ္ဓါရုံတိုက်သစ်ဘွင် ကျောက်ထားပွဲ အခမ်းအနား ကျင်းပသည်။

**စုံညီစွာ တက်ရောက်။** ။အဆိုပါ အခမ်းအနားသို့ ရွှေကျင် သာသနာပိုင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးဇောတယ ကျေးမြင်ကျောင်း အရှေ့ဝိသုဒ္ဓါရုံကျောင်းတိုက် မန္တလေး၊ ဥပဥက္ကဋ္ဌ အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးပဏ္ဍိတ ရွှေဟင်္သာတိုက်သစ် စစ်ကိုင်းမြို့၊ ဥပဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးဇာနေယျဗုဒ္ဓိ ပိုက်ကျုံးကျောင်း အနောက် ဝိသုဒ္ဓါရုံတိုက် မန္တလေး စသည့် ထင်ရှားကျော်စောသော ဆရာတော်ကြီးများ အပါအဝင် ဆရာတော်ကြီး ၆၆-ပါးနှင့် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊



၁၃၄၁-ခုနှစ် နတ်တော်လကွယ်နေ့တွင် မန္တလေးမြို့ အနောက်ပြင်
ဝိသုဒ္ဓါရုံတိုက်၌ ရွှေကျင်နိကာယ ဆရာတော်ကြီးများအား
ဝန်ကြီး ဦးစိန်လွင် လျှောက်ထားစဉ်

မန္တလေး ဒေသပါတီကော်မတီဥက္ကဋ္ဌ ဦးညိမ်းမောင်၊ အနောက်မြောက်တိုင်း စစ်ဌာနချုပ် တိုင်းမှူး ဗိုလ်မှူးကြီးသန်းညွန့်၊ မန္တလေးတိုင်း ပြည်သူ့ကောင်စီ အတွင်းရေးမှူး ဗိုလ်မှူး လှတင်နှင့် အလုပ်အမှုဆောင် ကော်မတီဝင်များ၊ မန္တလေးတိုင်း ပြည်သူ့ရဲတပ်ဖွဲ့မှူး ရဲမှူးကြီး ဦးထင်ကျော်နှင့် မန္တလေးတိုင်း သာသနာရေး ဦးစီးဌာနမှ အကြီးအကဲများ၊ မြို့နယ်ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင်များ နှင့် တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**အစီအစဉ်ဖတ်ကြား။** ။ရှေးဦးစွာ သာသနာရေး ဦးစီးဌာန ညွှန်ကြား ရေးမှူးချုပ် ဦးကြည်ညွန့်က အခမ်းအနား အစီအစဉ်ကို ဖတ်ကြားလျှောက် ထားပြီး တိုင်းသာသနာရေး ဦးစီးဌာနမှူး ဦးလှက ကြွရောက်သာသနာ ဆရာတော်ကြီးများ၏ စာရင်းကို ဖတ်ကြား လျှောက်ထားသည်။

**ပရိတ်တော် ချီးမြှင့်။** ။ထို့နောက် ပရိတ်သတ်များက ဆရာတော်ကြီး များအား ရှိခိုး ကန်တော့ကြပြီး ဆရာတော်ကြီးများ ကိုယ်စား ရွှေကျင် သာသနာပိုင်ဆရာတော် ဘုရားကြီး အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာ တော် ဦးဇောတယက ငါးပါးသီလ ချီးမြှင့်တော်မူသည်။

**ဝန်ကြီး လျှောက်ထား။** ။၎င်းနောက် ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဆောင်ရွက်မည်ဖြစ်၍ သာသ နာတော်တွင် ဓမ္မစကြာသာမက အာဏာစက်ပါ ပူးပေါင်း ဆောင်ရွက်မည် ဖြစ်သဖြင့် ကမ္ဘာတွင် သာသနာတော်သည် ပိုမိုမြင့်မား ထွန်းကားလာမည် ဖြစ် ကြောင်း။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်း အဝေးကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်တော် မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ကို သံဃာတော် ၆၆-ပါးဖြင့် ဖွဲ့စည်းရန် သဘောမှတ်ထား သည့်အလျောက် ရွှေကျင်ဂိုဏ်းမှ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် သံဃာငါးပါး ကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သည့်နည်းဖြင့် ဓမ္မဝိနယနှင့် အညီ ရွေးချယ်ပေးတော်မူပါမည့်အကြောင်း လျှောက်ထားသည်။

**နှစ်သက် ဝမ်းမြောက်။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာန ဝန်ကြီး၏ လျှောက်ထားချက်နှင့်ပတ်သက်၍ ကြွရောက်တော် မူကြသော ဆရာတော်ကြီးများ၏ကိုယ်စား ရွှေကျင်သာသနာပိုင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံ ဆိပ်တော်ရ ဆရာတော်ဘုရားကြီး ဦးဇောတယ, ဥပဥက္ကဋ္ဌ အဘိဓဇမဟာ ရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး ဦးပဏ္ဍိတသီရိ နှင့် ဥပဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးဇာနေယျဗုဒ္ဓိ တို့က ဝမ်း

မြောက်စွာ သမ္မောဒနီယကထာများ မြွက်ကြားတော်မူသည်။ ရွှေကျင်သာ သနာပိုင်ဆရာတော်ဘုရားကြီး ဦးဇောတယ၏ သမ္မောဒနီယ ဩဝါဒကထာ မှာ အောက်ပါအတိုင်း ဖြစ်သည်။

**ရွှေကျင် သာသနာပိုင် သမ္မောဒနီယ ဩဝါဒကထာ။** ။ရွှေကျင် ဂိုဏ်း ၁၂၂၂-ခုနှစ်က စပြီး ပဥ္စမသံဂါယနာတင် မင်းတုန်း မင်းတရားကြီးက ရွှေကျင် ဆရာတော်ဘုရားကြီး ရှိမူကား အောက် တောကျောင်းကလေးတွင် သီတင်းသုံးသောအခါက စပြီးသည့်ကာလ သာသနာ့ကိစ္စများ ဆောင်ရွက်ရန် တကြိမ်, နှစ်ကြိမ်, သုံးကြိမ်ပင့်မှ ကြွလာတယ်၊ သီးလုံးဆရာတော်ဘုရားကြီး ၏ တပည့်၊ ထို့နောက် အရှေ့မဟာဝိသုဒ္ဓါရာမ အလှူခံတော်မူသော မဟာ ဗိုလ်ဆရာတော်ဘုရားကြီး၏တပည့် မြောက်ပြင် အုတ်ကျောင်း၌ သီတင်းသုံး တော်မူသော မဟာဝိသုဒ္ဓါရာမဆရာတော်ဘုရားကြီး ခေါ်ပြီး အရှေ့တိုက်ကို အပ်တယ်၊ ၁၂၃၄-ခုနှစ် အဲဒီကစပြီးသည့်ကာလနောက် ဒီအနောက်ဝိသုဒ္ဓါ ရုံမှာ ၁၂၆၅-ခုနှစ် ဝါဆိုလက စပြီး သီတင်းသုံးတယ်၊ ၁၂၇၀-ခုနှစ် ဝါဆို လဆန်း ၁၁ ရက် နေ့ ပျံလွန်တော်မူတယ်။ အဲဒီကစပြီး ဒီပဲယင်း ဆရာတော် အစရှိသော စာထဲလဲ ပါပါတယ်။[၁]

ဒါ့ကြောင့် အကုန်လုံးတော့ မပြောတော့ပါဘူး၊ ဆရာတော်တွေ အဆက် ဆက် အခုဘုန်းကြီးတို့ လက်ထက် တိုင်အောင် ရွှေကျင်ဆရာတော်ကြီးရဲ့ ဆုံးမဩဝါဒအတိုင်း လိုက်နာပြီးသည့်ကာလ အားလုံးကျင့်ကြံနေထိုင်ကြတယ်၊ ခုလဲ မိမိတို့၏ တပည့်သားမြေး သံဃာတော်တွေကို အဆုံးအမ ဩဝါဒပေး ပြီးနေထိုင်ကြတယ်၊ အဲဒီအစဉ်အဆက် မပျက် အဲဒီရွှေကျင်ဆရာတော် ဘုရား ကြီးကစပြီး စံကင်းဆရာတော် ဘုရားကြီးတိုင်အောင် စံကင်းဆရာတော် ဘုရား ကြီးက ၁၂၀၂-ခုနှစ်လောက်ကစပြီး အနှစ် ၂၀-လောက်ပေါ့၊ အဲဒီကစပြီး ယခုတိုင်အောင် အားလုံးသော ယခုဘုန်းကြီးက စ၍ စစ်ကိုင်း ရွှေဟသ်ာ ဆရာတော်၊ ပိုက်ကျုံးဆရာတော် စသည်တို့တိုင်အောင် အစဉ်အလာမပျက် အုပ်ချုပ်ပြီး သကာလ နေထိုင်ကြတယ်၊ အခုအစဉ်အဆက် မပျက် အုပ်ချုပ် ပြီးနေထိုင်ကြတယ်၊ ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်နိုင်ကြပါစေသတည်း၊

ပိုက်ကျုံးဆရာတော်၏ သမ္မောဒနီယ ဩဝါဒကထာကိုလည်း အောက် ပါအတိုင်း ဖော်ပြအပ်ပါသည်။

**ပိုက်ကျုံးဆရာတော်ဩဝါဒ။** ။ဘုရားရှင်၏ကြုံခဲကြုံခိုက် တွေ့ခဲတွေ့ခိုက် အမြိုက်ရတနာ ဘုရားရှင်သာသနာတော်ကြီး၊ အဲဒီဘုရားရှင် သာသနာတော်

---

၁။ မှုရင်းအတိုင်း သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး မှတ်တမ်း-၁၅။

ကြီးကို ဘုန်းကြီးတွေချည်းလဲပဲ ထိန်းသိမ်းလို့မရဘူး လူတွေချည်းလဲပဲ ထိန်းသိမ်းလို့မရဘူး၊ တို့ဘုရားရှင်လက်ထက်က ဘုရားရှင်နှင့်တကွ ရှင်သာရိပုတ္တရာ ရှင်မောဂ္ဂလ္လာန်တို့က မဏ္ဍနုဂ္ဂဟဆောင်ရွက်ကြတယ်၊ ဗိမ္ဗိသာရ, ကောသလ အစရှိတဲ့ ပုဂ္ဂိုလ်တွေက အာဏာစက် အကူအညီ ဆွမ်းကျောင်းအစရှိတဲ့ ပစ္စည်းလေးပါး အကူအညီနှင့် သာသနာတော်ကြီး တည်တံ့အောင် ခိုင်မြဲအောင် ကောင်းမွန်အောင် အားထုတ်ခဲ့ကြတယ်၊ ဘုရားမရှိတဲ့နောက် ပထမ သံဂါယနာ တင်ကြတော့လဲ အဇာတသတ်မင်းက အာဏာစက် - ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး လေးပါးသော ပစ္စည်းတို့ဖြင့် အကူအညီပြု၍ အရှင်မဟာ ကဿပ ဦးစီးတဲ့ ပုဂ္ဂိုလ်တွေက ဓမ္မစက်ဖြင့် သာသနာတော်ကြီးကို စောင့်ထိန်းရစ်ကြတယ်။

ထို့အတူပဲ ဒုတိယ သံဂါယနာကျတော့လဲ ကာဠာသောကမင်းက အာဏာစက်နှင့် ဆွမ်း, သင်္ကန်း, ကျောင်း ဆေး ပစ္စည်းလေးပါးတို့ဖြင့် ကူညီပြီးတော့ အရှင်မဟာယသ အမှူးပြုတဲ့ သံဃာတော်တွေက ဓမ္မစက်ဖြင့် သာသနာတော်ကြီးကို စောင့်ထိန်းကြတယ်။

ထို့အတူ တတိယ သံဂါယနာ ကျတော့လဲပဲ သီရိဓမ္မာသောကမင်းက အာဏာစက်နှင့် ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး ပစ္စည်းလေးပါးတို့ဖြင့် ကူညီပေးပြီးတော့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ အမှူးရှိတဲ့ သံဃာတော်တွေက ဓမ္မစက်ဖြင့် သာသနာတော်ကြီး တည်တံ့အောင် ခိုင်မြဲအောင် တိုးတက်အောင် ဆိုပြီး ဆောင်ရွက်ခဲ့ကြတယ်။

အဲဒီကနေပြီးလာခဲ့တာ ပုဂံတို့ ဘုန်းကြီးတို့ မြန်မာပြည်မှာ အင်းဝ တို့ အမရပူရ မန္တလေးရွှေမြို့တော် မင်းတုန်းမင်းကြီးတိုင်အောင်ပေါ့၊ မင်းတုန်းမင်းကြီးက သာသနာမှာ သိပ်ပြီးကြည်ညိုသည့် အတိုင်းပဲ သာသနာမှာ လိုလေသေး မရှိရအောင် ကောင်းသည်ထက်ကောင်းအောင် အာဏာစက်ကလဲ အမြဲတမ်း ဘုန်းကြီးတွေ အတွက် အကူအညီပေးနေတယ်၊ ပစ္စည်းလေးပါး ဆိုတာကလဲ လိုလေသေးမရှိဘူး၊ တခါတည်းကို အမြဲတမ်း ထောက်ပံ့နေတယ်၊ အဲဒီလို လာခဲ့ကြတယ်။

အခုခေတ်မှာပြောမယ်ဆိုယင် မြန်မာပြည်မှာ သာသနာဟာ အကောင်းဆုံးပဲ၊ အခြားတိုင်းပြည်တွေမှာ သာသနာရှိတယ်ဆိုပေမယ့်လို့ မြန်မာပြည်နှင့်စာယင် ဒကာ, ဒကာမတွေရော - အစိုးရဘက်ကရော ပြောမယ်ဆိုယင် သာသနာအားပေးတဲ့ နေရာမှာ မြန်မာပြည်က အသာဆုံး အကောင်းဆုံး ဖြစ်တယ်၊ သာသနာ့ဘက်က ပြောမယ်ဆိုယင်လဲ မြန်မာပြည်မှာရှိနေတဲ့ ဘုန်းကြီး

တို့ သံဃာတော်တွေက ဝိနည်းဘက်ကလဲ တတ်တာပဲ၊ သုတ္တန်ဘက်ကလဲ တတ်တာပဲ၊ အဘိဓမ္မာဘက်ကလဲ တတ်တာပဲ၊ ဘယ်ဘက်ကမှ လိုလေသေးမရှိဘူး၊ သည့်ပြင်နေရာမှာ သာသနာရှိတယ် ဆိုပေမဲ့လဲ ဝိနည်း မတတ်ဘူး၊ အဘိဓမ္မာ မတတ်ဘူး။

သီဟိုဠ်မှာ နာမည်ကြီးပေမယ်လို့ ဝိနည်းတတ်တာ သိပ်မရှိဘူး၊ အခုခေတ်မှာ အဲဒါဘာကြောင့်လဲ ဆိုတော့ အခုနကပြောသလို အားပေးတဲ့ မင်းနှင့်တကွ ဒကာ, ဒကာမတွေရဲ့ အားပေးမှုဟာ ကွာတယ်၊ တို့မြန်မာပြည်မှာ အစိုးရနှင့်တကွ ဒကာ, ဒကာမတွေဆိုရင် သာသနာကို နင်လားငါလား မစားရက်, မသောက်ရက် အားပေးကြတယ်၊ အဲဒီလို အားပေးတဲ့အတွက် တို့သာသနာတော်ကြီးမှာ ယခုထက်တိုင် အထက်တန်းကျပြီးတော့ ကမ္ဘာမှာ အထက်တန်းအကျဆုံး ဖြစ်နေတယ်။

ယခုလည်းပဲ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရက သာသနာတော်ကြီးအား ကောင်းသည်ထက် ကောင်းအောင် အထက်တန်းကျသည်ထက် ကျအောင် ပြီးတော့ တည်တံ့ ခိုင်မြဲအောင်ဆိုပြီး အခုအားထုတ်နေတယ်၊ တည်တံ့ခိုင်မြဲရေး အားထုတ်နေသည့် အတွက် ရှေ့လဲဆက်လက် အားထုတ်ပြီး အားထုတ်တဲ့အတိုင်း အောင်မြင်ပြီးတော့ အခုအထက်တန်းကျနေသလို ရှေ့လဲ အထက်တန်းကျပြီးသည့် ကာလ တို့ဘုရားရှင် သာသနာတော်ကြီး ခိုင်မြဲအောင် တိုးတက်အောင် ဆိုပြီး အားပေးမယ်ဆိုတဲ့ ရည်ရွယ်ချက်အတိုင်း ရည်ရွယ်ချက်ကောင်းသလို ဓမ္မစက်ချည်းလဲပဲ မရဘူး၊ အာဏာစက်လဲပါမှ အာဏာစက်ကောင်းမှ၊ အခုနက ပြောတဲ့ ဘုရင်တွေ မင်းတွေက အာဏာစက်နဲ့ ကူညီခဲ့တယ်၊ အခုလဲပဲ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် အစိုးရက သာသနာတော်မှာ မိမိတို့ဘက်မှ အခုပြောတဲ့ ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်း လေးပါးလဲ ထောက်ပံ့ နေကြတာပါပဲ၊ ပြီးတော့ အလိုရှိလို့ရှိလျှင် သံဃာတော်များက တောင်းခံလို့ရှိလျှင် ဓမ္မစက် ထက်မြက်အောင် အာဏာစက်နှင့် ကူညီမယ်ဆိုတဲ့ ရည်ရွယ်ချက်မျိုးနှင့် လျှောက်ထားတဲ့ သဘော ရှိတယ်၊ အဲဒါကြောင့် သာသနာတော်ကြီးကို ဆရာ ဒကာ တွဲပြီးသည့် ကာလ တို့ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ ခေါင်းဆောင် ပြီးတော့ တနိုင်ငံလုံး ဒကာ ဒကာမတွေနှင့်တကွ ဆရာတော် သံဃာတော်တွေက သာသနာတော်ကြီး တည်တံ့ရေး သန့်ရှင်းရေး တိုးတက်ရေး ကောင်းသည်ထက် ကောင်းအောင် ဆောင်ရွက်နိုင်ကြပါစေ သတည်း။



မန္တလေးမြို့တော်ခန်းမ၌ သုဓမ္မာဆရာတော်ကြီးများအား
ဝန်ကြီး ဦးစိန်လွင် လျှောက်ထားစဉ်

**ဝမ်းမြောက်ကြ။** ။ယင်းသို့ မြွက်ကြားရာ ဆရာတော်ကြီးများနှင့် ပရိသတ် အားလုံးက ဝမ်းမြောက်ကြသည်၊ သာဓု အနုမောဒနာ ပြုကြသည်။

**ဖြေကြား လျှောက်ထား။** ။ထို့နောက် ကြွရောက်တော် မူလာကြသော ဆရာတော်ကြီးများက ဆောင်ရွက် ပေးရမည့် လုပ်ငန်းနှင့် ပတ်သက်၍ မေးမြန်း သည်တို့ကို ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနဝန်ကြီးက ပြန်လည်ဖြေ ကြားလျှောက်ထားပြီး အခမ်းအနားကို နံနက် ၁၀ နာရီတွင် ရုပ်သိမ်းလိုက် သည်။

ဝေံ ဝိသုဒ္ဓါရာမေပိ၊ သန္နိပါတ မကံသုတေ။
ဝိသုဒ္ဓိယာပိ စက္ကာယ၊ ဌိတိယာ ဝေပုလ္လာယ ဝါ။

## သုဓမ္မာဂိုဏ်း သံဃာတော်များအား လျှောက်ထားခြင်း

ဆက်လက်၍ ယင်းသည့် ၁၃၄၁–ခုနှစ် နတ်တော်လဆုတ် ၁၄-ရက် နေ့ မွန်းလွဲ ၁-နာရီတွင် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် မန္တလေးမြို့ မြို့တော်ခန်းမ ( ၁ )၌ မန္တလေးတိုင်း အတွင်းရှိ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သံဃာ့ဦးသျှောင် ဆရာတော်ကြီး များအား လျှောက်ထားသည့် အခမ်းအနားကို ကျင်းပသည်။

**ဆရာတော်ကြီးများ တက်ရောက်ကြ။** ။ယင်း အခမ်းအနားသို့ အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီးများ ဖြစ်ကြသော မန္တလေးမြို့ အနောက်ပြင် မစိုးရိမ်တိုက် ဆရာတော် ဦးဝိသုဒ္ဓါဘိဝံသ[၁]- မစိုးရိမ် တိုက်မှပင် ဆရာတော် ဦးစန္ဒာဘာသ၊ တောင်ပြင် မဟာနန္ဒီသေနာရာမတိုက် ဆရာတော် ဦးနန္ဒိသေန နှင့် မန္တလေးမြို့ အနောက်ပြင် တောင်သမန်တိုက် ဦးရေဝတ၊ မြင်းခြံမြို့နယ်မှ မြင်းခြံမြို့ ကိုးဆောင်တိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးသောဘိတ စသည့် မန္တလေးတိုင်း ၂၉–မြို့နယ်မှ ထင်ရှား ကျော်စောသော ဆရာတော်ကြီး ၂၄၆-ပါးနှင့် ပြည်ထဲရေး နှင့် သာသနာ ရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ မန္တလေးတိုင်း ဒေသပါတီ ကော်မတီ ဥက္ကဋ္ဌ ဦးညိမ်းမောင်၊ အနောက် မြောက်တိုင်း စစ်ဌာနချုပ် ဒုတိယ တိုင်းမှူး ဗိုလ်မှူးကြီး ဦးစိုးညွန့်၊ တိုင်းပြည်သူ့ ကောင်စီ အတွင်းရေးမှူး ဗိုလ်မှူး လှတင်၊ မန္တလေးတိုင်း ပြည်သူ့ရဲတပ်ဖွဲ့မှူး ရဲမှူးကြီး ဦးထင်ကျော်၊ စစ်ကိုင်း တိုင်း ပြည်သူ့ ကောင်စီ အတွင်းရေးမှူး ဦးတင်ဦး၊ စစ်ကိုင်းတိုင်း ပြည်သူ့

---

၁။ ၎င်းဆရာတော်သည် မကြာမီ ဇန္နဝါရီလ ၄-ရက်နေ့တွင် အဘိဓဇမဟာ ရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

ရဲဘပ်ဖွဲ့မှူး ရဲမှူးကြီး ဦးကျော်ကျော် နှင့် မြို့နယ် အသီးသီးမှ ပြည်သူ့ ကောင်စီဝင်များ တက်ရောက်ကြသည်၊

**စာရင်း ဖတ်ကြား။** ။ရွေးဦးစွာ သာသနာရေး ဦးစီးဌာန ညွှန်ကြား ရေးမှူးချုပ် ဦးကြည်ညွန့်က အခမ်းအနား အစီအစဉ်ကို ဆရာတော်ကြီးများ အား လျှောက်ထားပြီး မန္တလေးတိုင်း သာသနာရေး ဦးစီးဌာနမှူး ဦးလှက မြို့နယ် အသီးသီးမှ ကြွရောက်တော်မူလာကြသော သံဃာ့ ဦးဆောင် ဆရာတော်များ၏ စာရင်းကို ဖတ်ကြား လျှောက်ထားသည်။

**ငါးပါးသီလ ယူကြ။** ။ဧည့်ပရိတ်သတ်များက ရွှေပြည်ဆရာတော် ဦးသုမန ထံမှ ငါးပါးသီလ ခံယူကြသည်၊ ထို့နောက် သံဃာ့ဦးဆောင် ဆရာတော် များက မေတ္တာသုတ် ရွတ်ဖတ် ချီးမြှင့်တော်မူကြသည်။

**ဝန်ကြီးက လျှောက်ထားခြင်း။** ။၎င်းနောက် ပြည်ထဲရေးနှင့် သာသနာ ရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်က သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် သံဃာ့ဝန်ဆောင်အဖွဲ့ကို အဖွဲ့ဝင်ဆရာတော် ၆၆ - ပါးဖြင့် ဖွဲ့စည်းရန် သတ်မှတ်ထားသည့်အလျှောက် သုဓမ္မာဂိုဏ်းမှ ( ၅၈ ) ပါးအနက် မန္တလေးတိုင်း အတွင်း သီတင်းသုံးတော်မူကြသည့် ရဟန်းသံဃာ တော်အရေအတွက်အရ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ၈ - ပါးကို မန္တလေးအခြေ ခံဒေသမှ ၄ - ပါး၊ မိတ္ထီလာ အခြေခံဒေသမှ ၁ - ပါး၊ မြင်းခြံ အခြေခံဒေသမှ ၁ - ပါး ကျောက်ဆည် အခြေခံဒေသမှ ၁ - ပါး၊ ရမည်းသင်း အခြေခံဒေသမှ ၁ - ပါး ရွေးချယ်ပေးတော်မူပါမည့် အကြောင်း လျှောက်ထားသည်။

**ဆရာတော် သံဃာတော်များ ဝမ်းမြောက်ကြ။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားချက်ကို ဆရာတော်ကြီး များ ကိုယ်စား မစိုးရိမ်ကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးဝိသုဒ္ဓါဘိဝံသ၊ မဟာနန္ဒီသေနာရာမကျောင်းတိုက်မှ အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးနန္ဒီသေန၊ မြင်းခြံမြို့ ကိုးဆောင်ကျောင်း တိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးသောဘိတနှင့် တောင် သမန်တိုက် ပုသိမ်ကျောင်း ဆရာတော် ဦးရေဝတတို့က ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရက သာသနာတော် အကျိုးကို ဆောင်ရွက်၍ မုချကေန် အောင်မြင်ရမည် ဖြစ်၍ ဝမ်းမြောက်ကြောင်း၊ အနု မောဒနာပြုကြောင်း၊ မြန်မာနိုင်ငံသည် မြန်မာလူမျိုး ဗုဒ္ဓဘာသာဝင်များ နေထိုင်သည်ဖြစ်၍ သာသနာတော်ကို ယခုကဲ့သို့ သန့်ရှင်း တည်တံ့ ပြန့်ပွား အောင် ဆောင်ရွက်သည်ကို မိမိတို့ အမနေဖြင့် ဓမ္မစက်ကို စွမ်းအားရှိသမျှ



သထုံမြို့ သဒ္ဓမ္မဇောတိကာရာမကျောင်းတိုက်တွင် သုဓမ္မာဂိုဏ်း
သံဃာ့ဦးသျှောင် ဆရာတော်များအား ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်
လျှောက်ထားစဉ်

ဆောင်ရွက်မည်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရကလည်း အာဏာစက်ကို ပံ့ပိုး ကူညီပေးစေလိုကြောင်းဖြင့် သမ္မောဒနီယကထာ ဝမ်းမြောက်စကား ပြောကြားရာ ဆရာတော်များနှင့် တကွ ပရိသတ်များသာ သာဓုအနုမောဒနာပြုကြသည်။ [၁]

**ပြန်လည် ဖြေကြားခြင်း။** ။ထို့နောက် ကြွရောက်တော် မူလာကြသည့် ဆရာတော်ကြီးများက ဆောင်ရွက်ပေးရမည့် လုပ်ငန်းများနှင့် ပတ်သက်၍ မေးမြန်းသည်များကို ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က ပြန်လည် ဖြေကြား လျှောက်ထားပြီး အခမ်းအနားကို မွန်းလွဲ ၂-နာရီ ၄၅-မိနစ်တွင် ရုပ်သိမ်းခဲ့လေသည်။

ဝေံ နဂရသာလာ'ယ၊ သန္နိပါတော သမုဋ္ဌိတိ။
သုဓမ္မာဘိက္ခုသံဃေန၊ သုရာဇဥပရိသာယ ခေါ၊

## သထုံမြို့၌ လျှောက်ထားခြင်း

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူ ကြမည့် သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပေးရန် အတွက် မွန်ပြည် နယ် သထုံအခြေခံဒေသအတွင်းရှိ သထုံ, ဘီးလင်း, ကျိုက်ထိုနှင့် ပေါင်မြို့နယ် များမှ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ ဦးဆောင် ဆရာတော်ကြီး များအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က လျှောက်ထားသည့် အခမ်းအနားကို သထုံမြို့ သဒ္ဓမ္မဇောတိကာ ရာမကျောင်းတိုက်တွင် ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၅-ရက် (၂၂-၁၂-၇၉) နေ့ မွန်းတိ ၁၂-နာရီ အချိန်တွင် ကျင်းပသည်။

**စုံစုံညီညီ တက်ရောက်။** ။အခမ်းအနားသို့ သထုံမြို့နယ်မှ ဆရာတော်ကြီး ၁၁-ပါး၊ ဘီးလင်းမြို့နယ်မှ ၅-ပါး၊ ပေါင်မြို့နယ်မှ ၅-ပါး၊ စုစုပေါင်း ဆရာတော် ၂၆-ပါး၊ ပြည်ထဲရေးနှင့် သာသနာရေးဌာန ဝန်ကြီး ဗိုလ်မှူး ချုပ် စိန်လွင်၊ ဒုတိယဝန်ကြီး ဦးအုန်းကျော်၊ သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်၊ ပြည်သူ့ရဲတပ်ဖွဲ့ဌာနချုပ် ဒုတိယရဲချုပ် ဦးလှတင်၊ မွန်ပြည်နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးအောင်ထွတ်၊ တင်မ(၄၄)

၁။ မန္တလေးမြို့ မစိုးရိမ်တိုက်ဆရာတော် ဦးဝိသုဒ္ဓါဘိဝံသ၏ သမ္မောဒနီယကထာ အပြည့်အစုံ ပထမ အကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး မှတ်တမ်း၊ ၁၇ - ကြည့်။ မဟာနန္ဒီသေနာရာမတိုက် ဆရာတော် ဦးနန္ဒီသေန၏ သမ္မောဒနီယဩဝါဒကထာ အပြည့်အစုံကိုလည်း ၁၈ - ကြည့်။

တပ်မမှူး ဗိုလ်မှူးကြီးမြသင်း၊ အမှတ် (၂) စစ်ဗျူဟာမှူး ဒုတိယဗိုလ်မှူးကြီး ကျော်ရင်၊ မြို့နယ်အသီးသီးမှ ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ ပြည်နယ် ပြည်သူ့ရဲတပ်ဖွဲ့မှူး ရဲမှူးကြီး ဦးဝင်းလွင်၊ ပြည်နယ် သာသနာရေး ဦးစီးဌာနမှူးနှင့် သက်ဆိုင်ရာ မြို့နယ် မြို့ပေါ် ရပ်ကွက်များမှ တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

ရှေးဦးစွာ သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်က အခမ်းအနားအစီအစဉ်ကို ဖတ်ကြား လျှောက်ထားပြီး ပြည်နယ် သာသနာရေးဦးစီးဌာနမှူး ဦးရွှေသိန်းက ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများ၏ စာရင်းကို ဖတ်ကြားလျှောက်ထားသည်။

**ဆရာတော်များက မေတ္တသုတ် ချီးမြှင့်။** ။ထို့နောက် ပရိသတ်များက ဆရာတော်ကြီးများအား ရှိခိုးကန်တော့ကြပြီး ဆရာတော်ကြီးများ ကိုယ်စား ရွှေမြင်တင်ဦးကောသလ္လဆရာတော်က ၅-ပါးသီလ ချီးမြှင့်တော်မူသည်။ ဆက်လက်၍ ဆရာတော်ကြီးများက မေတ္တသုတ်ပရိတ်တော်ကို ချီးမြှင့်တော်မူသည်။

**ဝန်ကြီး လျှောက်ထား။** ။၎င်းနောက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ကို အဖွဲ့ဝင် ဆရာတော် ၆၆-ပါးဖြင့် ဖွဲ့စည်းရန် သတ်မှတ်ထားသည့် အလျောက် မွန်ပြည်နယ် သထုံအခြေခံဒေသမှ သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် တပါးကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သည့်နည်းဖြင့် ဓမ္မဝိနယနှင့်အညီ ရွေးချယ်ပေးတော်မူပါမည့်အကြောင်း လျှောက်ထားသည်။

**ဝမ်းမြောက်ကြ။** ။ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများ၏ ကိုယ်စား ရွှေမြင်တင်ဦးကောသလ္လ ဆရာတော်က သဒ္ဓမ္မာဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားတော်မူသည်။ ယင်းနောက် မွန်ပြည်နယ် သထုံအခြေခံဒေသ အတွက် သံဃာ့ဝန်ဆောင် ဆရာတော် အဖြစ် သက်တော် (၆၂) နှစ်၊ ဝါတော် ၄၂-ဝါရှိ သထုံမြို့ ဟိတကာရီကျောင်းတိုက်ဆရာတော် ဦးဥတ္တရကို ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများက သဘောတူ အဆုံးအဖြတ်ဖြင့် ရွေးချယ်ပေးတော်မူကြသည်။



မော်လမြိုင် ရာမညခန်းမ၌ ဝန်ကြီး ဦးစိန်လွင် လျှောက်ထားစဉ်

**သာဝခု ၃-ကြိမ်ခေါ် အခမ်း အနား ရုပ်သိမ်း။** ။အခမ်း အနားသို့ ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများအား သဒ္ဓါရှင်မ်းစုံ ကြည်ညို ကြသော ပရိသတ်အပေါင်းက သာဝခု အနုမောဒနာ ၃-ကြိမ် ခေါ်ကြပြီး အခမ်းအနားကို မွန်းလွဲ ၁-နာရီခွဲ အချိန်တွင် ရုပ်သိမ်းလေသည်။

ဧဝံ ဟိ သထုံပုရေပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ပာဒိတော ဟိ ခေါ၊

## မော်လမြိုင်မြို့၌ စည်းဝေးခြင်း

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် မွန်ပြည်နယ်အတွင်း သီတင်းသုံး တော်မူကြသော သံဃာ့ဦးသျှောင် ဆရာတော်ကြီးများ ထဲမှ သံဃာ့ဝန် ဆောင်အဖွဲ့ဝင် ရွေးချယ်ပေးရန် အတွက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယ က သာသနာ့ဦးသျှောင် ဆရာတော်ကြီးများ လျှောက်ထားသည့် အခမ်း အနား အစည်းအဝေးကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၆-ရက်၊ (၂၃-၁၂-၇၉) နေ့ နံနက် ၉-နာရီအချိန်တွင် မော်လမြိုင်မြို့ မွန်ပြည်နယ် ပြည်သူ့ ကောင်စီ ရာမညခန်းမ၌ ကျင်းပသည်။

**စုံညီစွာတက်ရောက်။** ။ယင်း အခမ်းအနားသို့ မွန်ပြည်နယ် မော်လမြိုင် မြို့နယ်မှ ဆရာတော်ကြီး ၁၁-ပါး၊ ချောင်းဆုံမြို့နယ်မှ ဆရာတော်ကြီး ၇-ပါး၊ ကျိုက်မရော မြို့နယ်မှ ဆရာတော်ကြီး ၅-ပါး၊ သံဖြူဇရပ်မြို့နယ်မှ ဆရာတော်ကြီး ၄-ပါး၊ မုဒုံမြို့နယ်မှ ဆရာတော်ကြီး ၅-ပါးနှင့် ရေးမြို့နယ်မှ ဆရာတော်ကြီး ၅-ပါး စသည့် ထင်ရှားကျော်ကြားသော ဆရာတော်ကြီး ၃၇-ပါးနှင့် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ ဒုတိယဝန်ကြီး ဦးအုန်းကျော်၊ သာသနာရေး ဦးစီးဌာန ညွှန်ကြား ရေးမှူးချုပ် ဦးကြည်ညွှန့်၊ အရှေ့တောင်တိုင်း စစ်ဌာနချုပ် တိုင်းမှူး မွန်ပြည်နယ် ဒေသပါတီကော်မတီ ဥက္ကဋ္ဌ ဗိုလ်မှူးချုပ် ခင်မောင်ကျော်၊ အတွင်းရေးမှူး ဦးကျော်စိန်နှင့် ဒေသပါတီကော်မတီဝင်များ၊ ပြည်နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးအောင်ထွတ်နှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ၊ ပြည်သူ့ရဲတပ်ဖွဲ့ဌာနချုပ် ဒုတိယရဲချုပ် ဦးလှတင်၊ မွန်ပြည်နယ် ပြည်သူ့ရဲတပ် ဖွဲ့မှူးကြီး ဦးဝင်းလွင်၊ မြို့နယ်အသီးသီးမှ မြို့နယ်ပြည်သူ့ကောင်စီ ဥက္ကဋ္ဌများ နှင့် အဖွဲ့ဝင်များ၊ မွန်ပြည်နယ် ဘာသာရေးဆိုင်ရာ အဖွဲ့အစည်းများနှင့် ပရိတ်သတ်များ စည်ကားစွာ တက်ရောက်ကြသည်။

**မေတ္တသုတ် ချီးမြှင့်။** ။ရှေးဦးစွာ အခမ်းအနား အစီအစဉ် များကို သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်က လျှောက်ထားပြီး ကြွရောက်တော် မူလာကြသော မွန်ပြည်နယ် မော်လမြိုင် မြို့နယ် အခြေခံဒေသများမှ ဆရာတော်ကြီးများ၏ စာရင်းကို ပြည်နယ် သာသနာရေး ဦးစီးဌာနမှူး ဦးရွှေသိန်း ဖတ်ကြား လျှောက်ထားသည်၊ ထို့နောက် ပရိတ်သဘ်အပေါင်းက ဆရာတော်ဘုရားကြီးများအား ရိုသေစွာ ရှိခိုးကန်တော့ကြပြီး ချောင်းဆုံ မြို့နယ် ပိဋကတ် တိုက်ကျောင်းမှ "အဘိဇ မဟာရဋ္ဌဂုရု" ဘွဲ့တံဆိပ်တော်ရ မုဒ္ဒန်းဆရာတော်ကြီး ဦးကောသလ္လက ၄ါး ပါးသီလ ချီးမြှင့်၍ ကြွရောက်တော် မူလာကြသော ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကို ချီးမြှင့်တော်မူကြသည်။

**ဝန်ကြီး လျှောက်ထား။** ။ဆက်လက်၍ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာ ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သာသနာတော် သန့်ရှင်းတည် တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်အရေး အတွက် တာဝန်ယူဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ကို အဖွဲ့ဝင်ဆရာ တော် ၆၆-ပါးဖြင့် ဖွဲ့စည်းရန် သဘ်မှတ်ထားသည့် အလျှောက် သုဓမ္မာဂိုဏ်း ဝင် ၅၀ ပါးအနက် မွန်ပြည်နယ်အတွင်း သံဘင်းသုံးတော်မူကြသည့် ရဟန်း သံဃာတော်အရေအတွက်အရ သံဃာ့ဝန်ဆောင် ၂-ပါး အနက် မော်လမြိုင် အခြေခံဒေသမှ ၁-ပါးကို သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော် ကြီးများက ဓမ္မဝိနယနှင့် အညီ ရွေးချယ် ပေးတော်မူပါမည့် အကြောင်း လျှောက်ထားသည်။

**အလှူန် သင့်လျော်။** ။ယင်းသို့ ဝန်ကြီးဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက် ထားချက်နှင့် ပတ်သက်၍ မော်လမြိုင်မြို့ တောင်လေးလုံး ဆရာတော် ဦးနာ ဂသေနက သမ္မောဒနီယ ဩဝါဒကထာ မြွက်ကြားတော်မူသည်မှာ ဗုဒ္ဓမြတ် စွာ သာသနာတော်ကြီး၏ သန့်ရှင်းတည်တံ့ ကြီးပွားခြင်း အကျိုးငှာ ပြည် ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရက ဂိုဏ်းပေါင်းစုံ သံဃာတော်များကို ပင့်ဖိတ်၍ လျှောက်ထားခြင်းသည် အလွန်သင့်လျော်လှ ကြောင်း။

**ဝါတော် ၂၀-အတွင်း။** ။သိဒ္ဓတ္ထမင်းသားသည် သဗ္ဗညုဘုရား ဖြစ် တော်မူ၍ ဝါတော် ၂၀-အတွင်း၌ သာလျှင် ရဟန်းဆိုး ရဟန်းယုတ်များ မရှိသေးမူ၍ ရဟန်းကောင်း ရဟန်းမြတ်များသာ ရှိကြသော အခါ ထိုရဟန်း ကောင်း ရဟန်းမြတ်ကိုကို မြတ်စွာဘုရားက အလွန် နှစ်သက်တော်မူကြောင်း၊

**ဝါတော် ၂၀-ကျော်။** ။မြတ်စွာဘုရား ဝါတော် ၂၀-ကျော်ပြီးသည်မှ စ၍ သာသနာတော်အတွင်း၌ ရဟန်းကောင်းများလည်းရှိ - ရဟန်းဆိုးများလည်းရှိလာ၍ မြတ်စွာဘုရား ကိုယ်တော်တိုင် ချီးမြှောက်ထိုက်သော ရဟန်းကောင်းတို့အား ချီးမြှောက်တော်မူပြီး နှိပ်ကွပ်ထိုက်သော ရဟန်းများကို နှိပ်ကွပ်တော်မူကြောင်း။

**သာသနာ သန့်ရှင်း။** ။မြတ်စွာဘုရားနည်းကို အတုလိုက်၍ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရက ချီးမြှောက် ထိုက်သော ရဟန်းကောင်းများကို ချီးမြှောက်၍ နှိပ်ကွပ်ထိုက်သော ရဟန်းဆိုးများကို နှိပ်ကွပ်ပေးနိုင်ပါလျှင် သာသနာတော် မြတ်ကြီးသည် သန့်ရှင်း တည်တံ့ပြန့်ပွားနိုင်မည်မှာ မုချပင် ဖြစ်ကြောင်း။

**စီးပွား ချမ်းသာဖြစ်။** ။သာသနာတော်မြတ်အတွင်း၌ ရဟန်းကောင်းပေါများနေလျှင် သာသနာတော်မြတ်ကြီးကို မြတ်နိုးကြည်ညို ကိုးကွယ် ဆည်းကပ်ကြသော လူနတ်ဗြဟ္မာ သတ္တဝါများ၏ အကျိုးစီးပွားချမ်းသာကို ဖြစ်စေနိုင်ကြောင်း၊ သာသနာတော်မြတ်အတွင်း၌ ရဟန်းဆိုးတို့ ပေါများနေလျှင် သာသနာတော်မြတ်ကို ကြည်ညိုမြတ်နိုး ကိုးကွယ် ဆည်းကပ်ကြသော လူနတ်ဗြဟ္မာ သတ္တဝါများ၏ အကျိုးမဲ့ စီးပွားမဲ့ ဆင်းရဲဒုက္ခ ဖြစ်စေနိုင်ကြောင်း။

**ဓမ္မစက် အာဏာစက်။** ။သို့ဖြစ်၍ သာသနာတော်အတွင်း၌ ပရိယတ်၊ ပဋိပတ်တာဝန်ကို ထမ်းဆောင်တော်မူကြသော ရဟန်းကောင်းများက ဓမ္မစက်ဖြင့်လည်းကောင်း ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရက အာဏာစက်ဖြင့်လည်းကောင်း ဗုဒ္ဓမြတ်စွာ သာသနာတော်မြတ်ကြီးကို သန့်ရှင်း တည်တံ့ ပြန့်ပွား စည်ကားအောင် ဆောင်ရွက်နိုင်ပါစေ ဟူ၍ ဝမ်းမြောက် ဝမ်းသာစွာ မိန့်ကြားတော်မူသည်။

**အခမ်းအနား ရုပ်သိမ်း။** ။၎င်းနောက် ဆရာတော်ကြီးများ နှင့် ပရိသတ်အပေါင်းက သာဓုအနုမောဒနာ ၃-ကြိမ် ခေါ်ဆို၍ နံနက် ၁၀-နာရီ ၁၀-မိနစ်တွင် အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

**ဆွမ်းကပ်။** ။ကြွရောက်လာကြသော ဆရာတော်ကြီးများအား ဝန်ကြီးဗိုလ်မှူးချုပ် စိန်လွင်၊ ဒုတိယဝန်ကြီး ဦးအုန်းကျော်၊ ဒေသပါတီ ကော်မတီဥက္ကဋ္ဌ၊ ပြည်နယ်ပြည်သူ့ကောင်စီ ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များက နေ့ဆွမ်း ဆက်ကပ် လှူဒါန်းကြသည်။

**ဆက်လက် ညှိနှိုင်း။** ။ယင်းသို့ကျောက်ထားသော အခမ်းအနား အပြီးတွင် ကြွရောက်လာတော်မူကြသော ဆရာတော်ကြီးများက သံဃာ့ဝန်ဆောင်

ဆရာတော်ရွေးချယ်ရေး အတွက် ဆက်လက် ညှိနှိုင်း ဆွေးနွေးကြသည်။ ယင်း ဆရာတော်ကြီးများ၏ ဆွေးနွေးပွဲ၌ မွန်ပြည်နယ် မော်လမြိုင် အခြေခံဒေသ အတွက် သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်တပါးကို ရွေးချယ်ရာ မော်လမြိုင် ရွှေကျောင်းပရိယတ္တိစာသင်တိုက် ဆရာတော် ဦးကုမာရက မော်လမြိုင် တောင်လေးလုံး ဆရာတော် ဦးနာဂသေနအား ရွေးချယ်ပေးပါရန် အဆိုတင် လျှောက်ထားရာ ကြွရောက်လာတော်မူကြသော သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော်ကြီးအားလုံးက တညီတညွတ်တည်း သာဓု ၃-ကြိမ် ခေါ်၍ အတည်ပြုကြောင်း ဆန္ဒပြုကြသည်။

မော်လမြိုင် နဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။

## စစ်ကိုင်းမြို့ ဆရာတော်ကြီးများအား ဝန်ကြီး လျှောက်ထား

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူဆောင်ရွက်တော်မူကြ မည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် အတွက် စစ်ကိုင်းတိုင်း အတွင်းရှိ သုဓမ္မာဂိုဏ်းဝင် သံဃာ့မဟာနာယက သာသနာ့ ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး ဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၁-ရက် (၁၈-၁၂-၇၉) နေ့ ၁၂-နာရီ အချိန်တွင် စစ်ကိုင်းတိုင်း ပြည်သူ့ကောင်စီ မြရောခန်းမတွင် ကျင်းပသည်။

**ဆရာ ဒကာ စုံစုံညီညီ**။ ။အဆိုပါ အခမ်းအနားသို့ စစ်ကိုင်းမြို့နယ် စစ်ကိုင်း တောင်ရိုးနှင့် မင်းကွန်းတောင်ရိုးတို့မှ မဟာနာယက ဆရာတော် ၃၂-ပါး၊ မြင်းမူမြို့နယ်မှ ဆရာတော် ၁၉-ပါး၊ မြောင်မြို့နယ်မှ ဆရာတော် ၁၀-ပါး၊ ငါးဇွန်မြို့နယ်မှ ဆရာတော် ၁၁-ပါး၊ နာဂတောင်တန်း ခန္တီးမြို့နယ် မှ ဆရာတော် ၂-ပါး၊ ဟုန်းမလင်းမြို့နယ်မှ ဆရာတော် ၁-ပါး၊ စုစုပေါင်း သုဓမ္မာဂိုဏ်းဝင် သံဃာတော်ကြီးများကိုယ်စား ထင်ရှား ကျော်ကြားသော သံဃာတော်ကြီး ၇၅ ပါးနှင့် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ စစ်ကိုင်းတိုင်း ဒေသပါတီကော်မတီ ဥက္ကဋ္ဌ အနောက်မြောက်တိုင်း စစ်ဌာနချုပ် တိုင်းမှူး ဗိုလ်မှူးကြီး သန်းညွန့်နှင့် ဒေသပါတီကော်မတီဝင်များ၊ တိုင်းပြည်သူ့ကောင်စီအတွင်းရေးမှူး ဦးတင်ဦး နှင့် အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ မြို့နယ်ပါတီယူနစ် ကော်မတီဝင်များ နှင့် မြို့နယ်အသီးသီးမှ မြို့နယ်ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင်



စစ်ကိုင်းမြို့တွင် သုဓမ္မာဂိုဏ်းမှ သံဃာ့ဦးသျှောင် ဆရာတော်ကြီးများ
အား ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင် လျှောက်ထားစဉ်

များ၊ သာသနာရေးဦးစီးဌာနမှ ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွှန့်နှင့် တာဝန်ရှိ ပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**ဖတ်ကြား လျှောက်တား။** ။ရှေးဦးစွာ အခမ်းအနား အစီအစဉ်များကို အခမ်းအနားမှူး ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွှန့်က ဖတ်ကြား လျှောက်ထားပြီး ကြွရောက်တော်မူလာကြသည့် မြို့နယ်အသီးသီးမှ ဆရာတော်ကြီးများ၏ စာရင်းကို စစ်ကိုင်းတိုင်း သာသနာရေး ဦးစီးဌာနမှူး ဦးစံဘင်က ဖတ်ကြား လျှောက်ထားသည်။

**မေတ္တာသုတ် ချီးမြှင့်။** ။ထို့နောက် ပရိတ်သတ်များက ဆရာတော်ကြီးများအား ရှိခိုးကန်တော့ကြပြီး စစ်ကိုင်းတောင်ရိုး ရွှေစေတီ သာသနာ့ရိပ်သာ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးသုန္ဒရာ ငါးပါးသီလ ချီးမြှင့်၍ ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများက မေတ္တာသုတ် ပရိတ်တော်များကို ချီးမြှင့်တော်မူသည်။

**လျှောက်ထား။** ။ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီးဗိုလ်မှူးချုပ် စိန်လွင်က သာသနာတော်သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ကိုအဖွဲ့ဝင်ဆရာတော် ၆၆-ပါးဖြင့် ဖွဲ့စည်းရန် သတ်မှတ်ထားသည့် အလျောက် စစ်ကိုင်းတိုင်း အတွင်း သီတင်းသုံးနေတော်မူကြသည့် ရဟန်းတော် သံဃာတော် အရေအတွက် အရ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ၈-ပါးကို စစ်ကိုင်း အခြေခံဒေသမှ ၂-ပါး၊ ရွှေဘိုအခြေခံဒေသမှ ၂-ပါး၊ ကသာအခြေခံဒေသမှ ၁-ပါး၊ မုံရွာ အခြေခံဒေသမှ ၂-ပါး၊ မော်လိုက်အခြေခံဒေသမှ ၁-ပါး တို့ကို ရွေးချယ်ပေးတော်မူပါမည့်အကြောင်းကို သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော်ကြီးများအား လျှောက်ထားသည်။

**ဝမ်းမြောက်ကြ။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများအားလုံး ကိုယ်စား စစ်ကိုင်းတောင်ရိုး တောင်ဘီလူးချောင် နာယက ဆရာတော် ဦးပုညာဘိနန္ဒ နှင့် မင်းကွန်း ဓမ္မနာဒတိုက် အဂ္ဂမဟာပဏ္ဍိတ, တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက နာယက ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသတို့က သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြား၍ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများနှင့် ပရိတ်သတ်များက သာဓုအနုမောဒနာ ပြုကြသည်။

**ရုပ်သိမ်း။** ။ထို့နောက် ဆရာတော်ကြီးများ၏ မေးမြန်း ချက်များကို ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က ဖြေကြား လျှောက်ထားပြီး မွန်းလွဲ ၂-နာရီတွင် အခမ်းအနားကို ရုပ်သိမ်းသည်။

ဇေယျာပုရသုပုရေပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## ဝေဠုဝန်နိကာယ နာယက ဆရာတော်ကြီးများအား ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင် လျှောက်ထား

ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် ဝေဠုဝန် နိကာယ နာယက ဆရာတော်ကြီးများက သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး ဆောင်ရွက်ချက်များနှင့် စပ်လျဉ်း၍ မရှင်းလင်းသည့် အချို့အချက်အလက်များကို သိလိုသဖြင့် ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၁၁-ရက် (၁၉-၁၂-၇၉) နေ့ ညနေပိုင်းတွင် ရန်ကုန်မြို့ ကြည့်မြင်တိုင် ဝေဠုဝန်ကျောင်းတိုက်သို့ သွားရောက်၍ ဆရာတော်ကြီးများအား ရှင်းလင်းလျှောက်ထားသည်။

**ဝမ်းမြောက် နှစ်သက်။** ။ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ဝေဠုဝန် နိကာယ နာယကဆရာတော် ဦးနာရဒ အမှူးပြုသည့် ထိန်တော ဝေဠုဝန် နိကာယ နာယက ဆရာတော် ဦးကုမာရ၊ ဓမ္မာစရိယ ဆရာတော် ဦးသုန္ဒရနှင့် ဓမ္မာစရိယ ဆရာတော် ဦးဉာဏိဿရတို့က ယခုကဲ့သို့ လာရောက် ရှင်းလင်း လျှောက်ထားချက်ကို ကြားသိရ၍ ဝမ်းမြောက် နှစ်သက်ကြောင်း မိန့်ကြားပြီးနောက် သာသနာရေးနှင့် ပတ်သက်သည့် ကိစ္စရပ်များကို ဆက်လက်ဆွေးနွေးကြသည်၊ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူး ချုပ် စိန်လွင်နှင့် အတူ သာသနာရေး ဦးစီးဌာနမှ တာဝန်ရှိ ပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

ဝေဠုဝန်နိကာယိကေဟိ၊ ယတိဟိ သံကထာ ပိ စ။
မဟာမစ္စော ပဝတ္တေတိ၊ သာသနဋ္ဌိတိ မာနသော။

၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၁၀-ရက်နေ့တွင် ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်
ဝေဠုဝန်နိကာယဆရာတော်များအား လျှောက်ထားစဉ်

## ငှက်တွင်းဂိုဏ်း ဆရာတော်ကြီးများအား ဝန်ကြီး လျှောက်ထား

သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို အလိုရှိသည်၊ သို့ဖြစ်၍ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပရေးနှင့် စပ်လျဉ်း၍ ၁၃၄၁-ခု ပြာသိုလဆန်း ၁၂-ရက်နေ့ (၂၉-၁၂-၇၉)နေ့ မွန်းလွဲ ၁-နာရီတွင် စတုဘုမ္မိက မဟာသတိပဋ္ဌာန် ငှက်တွင်း ဂိုဏ်းမှ ရန်ကုန်မြို့ ၅၃-လမ်း စတုဘုမ္မိက မဂ္ဂင်ရိပ်သာ မဟာနာယက ဆရာတော် ဦးဉာဏာဝံသနှင့် တကွ သန်လျင် ဗိုလ်ချုပ်ရွာ စတုဘုမ္မိကကျောင်း ဆရာတော် ဦးကုလ္လနှ (ဓမ္မာစရိယ)၊ မင်းဘူးမြို့မှ ဆရာတော် ဦးပါမောက္ခ၊ အမရပူရမြို့မှ ဆရာတော် ဦးကဝိဓဇတို့ကို ဝန်ကြီးရုံးခန်းသို့ ပင့်ဆောင် လျှောက်ထားသည်။

**လျှောက်ထား။** ။ရှေးဦးစွာ ဝန်ကြီးက ဆရာတော် သီတင်းသုံးရာ ကျောင်းတိုက်များသို့ လာရောက် မလျှောက်ထားနိုင်ခြင်းကို ခွင့်ပြုပါရန် လျှောက်ထားပြီး ဆက်လက်၍ ဆရာတော်များ မိန့်ကြားသည့် မရှင်းလင်းသည့် အချက်များကို ရှင်းလင်း လျှောက်ထားသည်။

**သာဓုခေါ်။** ။ဆရာတော်ကြီးများက ဝန်ကြီး၏ လျှောက်ထားချက် အရ လုပ်ငန်းစဉ်များနှင့် သဘောထားများကို သိရသည် အတွက် မိမိတို့ဂိုဏ်း အနေဖြင့် အလွန် ဝမ်းမြောက် ဝမ်းသာ ဖြစ်ကြောင်း၊ ရှေ့ ဆက်လက်၍ ဆောင်ရွက်ရန် ရှိသည်များကို ဆောင်ရွက်မည်ဖြစ်ကြောင်း ပြန်လည်မိန့်ကြား၍ သာဓုအနုမောဒနာ ၃-ကြိမ် ခေါ်ဆိုကြသည်။

**ဒုဝန်ကြီး နှင့် ညွှန်မှူးချုပ် တက်ရောက်။** ။ဆရာတော်များအား ဝန်ကြီး လျှောက်ထားရာတွင် ဒုတိယဝန်ကြီး ဦးအုန်းကျော်နှင့် သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွှန့်တို့ တက်ရောက်ကြသည်။

ငှက်တွင်းဝှနိကာယိကေဟိ၊ ယတီဟိ သံကထာပိ စ။
မဟာမစ္စော ပဝတ္တေတိ၊ သာသနဋ္ဌိတိ မာနသော။

## ဒုတိယပိုင်း အပြီးသတ်ခြင်း

ဤသည်လျှင် ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီး ဗိုလ်မှူးချုပ်စိန်လှုင် လျှောက်ထား ဆွေးနွေးသည့် အချက် စသည် ပါဝင်သည့် ဒုတိယပိုင်း အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိတေ ဣမ ဂန္ထမှိ၊ သမတ္တော ဒုတိယော ဟိ ခေါ။

# တတိယပိုင်း

**သာသနာတော်** သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ရေးအတွက် ပဲခူးတိုင်းအတွင်းရှိ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သံဃာ့ဦးဆောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားသည့် အခမ်းအနားကို နတ်တော်လဆုတ် ၁၃ - ရက် (၁၆-၁၂-၇၉) နေ့ နံနက် ၈-နာရီ မိနစ် ၃၀-အချိန်တွင် ပဲခူးမြို့ မြို့မစာသင်တိုက် နိကာယဓမ္မဗိမာန်၌ ကျင်းပသည်။

**သံဃာတော် ၇၄-ပါး တက်ရောက်။** ။ယင်း အခမ်းအနားသို့ ပဲခူးတိုင်းအတွင်းရှိပဲခူးမြို့မသုဓမ္မာနိကာယ သံဃမဟာနာယကဆရာတော် ဦးဣန္ဒာစာရ, ကဝမြို့နယ် ရွှေပေါက္ကန်ရွာ ရွှေပေါက္ကန်ကျောင်းတိုက်မှ ပဝါရဏာ နာယက ဆရာတော် ဦးတိက္ခ, ညောင်လေးပင်မြို့နယ် ရေတွင်းကုန်းရွာ ကျောင်းတိုက် ကန္နားဂိုဏ်း နာယက ဆရာတော် ဦးကေတုဝရ, ဒိုက်ဦးမြို့နယ် ဆင်စခန်း အနောက်ကျောင်း ဆင်စခန်းဂိုဏ်း နာယက ဆရာတော် ဦးကေလာသ နှင့် ခေမာသိဝံ စာသင်တိုက် နာယက ဆရာတော် ဦးသာသန, ရွှေကျင်မြို့နယ် ဝါဆိုကျောင်း ရွှေကူဂိုဏ်း နာယက ဆရာတော် ဦးဉာဏဝံသ, ဝေါမြို့နယ် ကန်ဦးကျောင်း သူရဲသမိန်ဂိုဏ်း နာယက ဆရာတော် ဦးနန္ဒဝံသ အမှူးရှိသော ပဲခူး၊ ကဝ၊ ဝေါ၊ ဒိုက်ဦး၊ ညောင်လေးပင်၊ ရွှေကျင်၊ ကျောက်တံခါး နှင့် သနပ္ပင်မြို့နယ်များမှ သုဓမ္မာဂိုဏ်းဝင် သံဃာတော်များကိုယ်စား ဆရာတော်ကြီး ၇၄-ပါးတို့ ကြွရောက်ကြသည့်ပြင် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးအုန်းကျော်နှင့် သာသနာရေး ဦးစီးဌာနမှ ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်နှင့် တာဝန်ရှိပုဂ္ဂိုလ်များ, ပဲခူးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယဗိုလ်မှူးကြီး ထွန်းကျော်နှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ, ပဲခူးမြို့နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးလှရွှေနှင့် အလုပ် အမှုဆောင် အဖွဲ့ဝင်များ တက်ရောက်ကြသည်။

**ဖတ်ကြား လျှောက်ထား။** ။အခမ်းအနား အစီအစဉ်များကို အခမ်းအနားမှူး သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်က ဖတ်ကြား လျှောက်ထားပြီး ကြွရောက်တော်မူလာကြသည့် မြို့နယ်အသီးသီးမှ

ဆရာတော်ကြီးများ၏ စာရင်းကို တိုင်းသာသနာရေးဦးစီးမှူး ဦးသိန်းရွှေက ဖတ်ကြား လျှောက်ထားသည်။

**ငါးပါးသီလ မေတ္တသုတ်ချီးမြှင့်။** ။ထို့နောက် ပရိသတ်များက ဆရာတော်ကြီးများ ရှိခိုးကန်တော့ကြပြီး ကဝမ္ဗိုနယ် ပေါက္ကန်ကျောင်း ဆရာတော် ဦးတိက္ခက ငါးပါးသီလ ချီးမြှင့်တော် မူသည်၊ ဆက် လက်၍ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကို ချီးမြှင့်တော်မူသည်။

**ဒုတိယဝန်ကြီး ဖတ်ကြား လျှောက်ထား။** ။၎င်းနောက် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးတော် မူကြပါရန် သံဃာ့နာယက, သာသနာ့ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးအုန်းကျော်က အပြည့်အစုံ ဖတ်ကြားလျှောက်ထားပြီး လျှောက်ထားလွှာနှင့် အတူ သံဃာ့ဝန်ဆောင် အဖွဲ့ဝင်အဖြစ် ပဲခူးကိုင်း အခြေခံဒေသမှ ဆရာတော် ၁-ပါး၊ တောင်ငူ အခြေခံဒေသမှ ဆရာတော် ၁-ပါးနှင့် သာယာဝတီ အခြေခံဒေသမှ ဆရာတော် ၁-ပါးတို့ကို ရွေးချယ်ပေးပါရန် ထည့်သွင်းလျှောက်ထားသည်။

**အားတက် ဂုဏ်ယူ။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော် မူလာကြသည့် ဆရာတော်ကြီးများ အားလုံး၏ ကိုယ်စား ပဲခူးမြို့မှ သုဓမ္မာနိကာယ သံဃာ့မဟာနာယက ဆရာတော် ဦးဇွလန္တာစာရက ဗုဒ္ဓ သာသနာတော်အတွက် အားတက်ဂုဏ်ယူဖွယ် ကောင်းသော သာသနာပြု အစည်းအဝေးပွဲကြီး ကျင်းပရန် ဆရာတော်ကြီးများအား လျှောက်ထားသည်ကို ကြားသိရကြောင်း၊ သာသနာတော် သန့်ရှင်းစင်ကြယ်ရေး မယိမ်း မယိုင် ကြံ့ခိုင် တည်တံ့ရေး ဘုရားအဆုံးအမတော်ဖြစ်သော သဒ္ဓါ, သီလ, သုတ, စာဂ, ပညာ, ဟိရီ, ဩတ္တပ္ပ ဟူသော သူတော်ကောင်းတရားများ, နိုင်ငံတော် အတွင်းရှိ သံဃာတော်များ, လူဒါယကာ, ဒါယိကာမများတို့၏ သန္တာန်၌ ဖြစ်ပေါ်တိုးပွားလျက် သာသနာတော်အား အကျိုးပြုနိုင်သော ရဟန်းတော်များ ရှင်သာမဏေများ ပေါ်ပေါက် တိုးတက် ပွားများရေး သာသနာတော်နှင့် နိုင်ငံတော်၏ ကြီးပွားရေးများကို သာသနာတော်မှ ရရှိသော အသိဉာဏ်ဖြင့် နိုင်ငံတော်၏ သားကောင်း သမီးကောင်းများ



မကွေးမြို့ မဟာဝိသုတာရာမတိုက်၌ ဝန်ကြီး ဦးစိန်လွင်၏
လျှောက်ထားလွှာကို ဒုတိယဝန်ကြီး ဦးအုန်းကျော် လျှောက်ထားစဉ်

ပေါများလာမှသာလျှင် သာသနာတော်နှင့် နိုင်ငံတော်သည် မျှော်မှန်းသည့် အတိုင်း သန့်ရှင်း ပြန့်ပွား တိုးတက်နိုင်မည်ဟု ယုံကြည်ကြောင်း။

**သန့်ရှင်း ပြန့်ပွား။** ။ယင်းသို့ သာသနာတော်နှင့် နိုင်ငံတော် စွယ်စုံ တိုးတက်လိုလျှင် ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ သဒ္ဓမ္မသုံးဖြာ တိုးတက်မှသာ ဖြစ်နိုင်ပေမည် ဖြစ်ကြောင်း၊ သာသနာတော်ကို သန့်ရှင်း ပြန့်ပွား တိုးတက် စေရန်အတွက် ရဟန်းသံဃာတော်များနှင့် အစိုးရ ပြည်သူလူထု နှစ်ဦးနှစ်ဘက် ညှိနှိုင်း တိုင်ပင် ဆောင်ရွက် စီမံကြမှသာလျှင် သန့်ရှင်း ပြန့်ပွား တိုးတက် စည်ပင်လိမ့်မည် ဟူသော သာသနာပြုနည်း မှန်ကန်သည်ကို သိရှိရကြောင်း။

**ယုံကြည် မျှော်လင့်။** ။ဗုဒ္ဓရှင်တော်မြတ် ကိုယ်တိုင် သာသနာတော် သန့်ရှင်း ပြန့်ပွား တိုးတက်စေရန် ပြုလုပ်နည်း အတူ နိုင်ငံတော်၏ ကိုယ်စား ပြု၍ ပဲခူးဇုံနယ်အတွင်းရှိ သံဃာ့နာယကဆရာတော် သံဃာတော်များအား ဒုတိယဝန်ကြီး ဦးအုန်းကျော်ကိုယ်တိုင် လျှောက်ထားခြင်းသည် မြတ်စွာ ဘုရား ကိုယ်တော်တိုင် ဟောပြ ဆုံးမ နည်းပေးတော်မူခဲ့သည့် အတိုင်း စီမံ ပြုလုပ်သော သာသနာတော်နှင့် နိုင်ငံတော်အတွင်းရှိ ပြည်သူလူထုပါ သန့်ရှင်း စင်ကြယ် ပြန့်ပွား တိုးတက်ရေးကို ယုံကြည်မျှော်မှန်းလျက် အားတက် ဝမ်းမြောက်ဖွယ် အစီအစဉ် ဆောင်ရွက်ချက် ဖြစ်သည်ဟု ယုံကြည် ဝမ်း မြောက်ကြောင်းဖြင့် သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားရာ ကြွရောက်တော်မူလာကြသည့် သံဃာတော်များနှင့် ပရိသတ်များက သာဓု အနုမောဒနာ ပြုကြသည်။

ဧဝံ ဟိ ပဲခူးပုရေပိ၊ သန္နိပါတော သမုဋ္ဌဝိ။
မဟာတော သန္နိပါတာဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။

## မကွေးမြို့ မဟာဝိသုတာရာမတိုက်၌ စည်းဝေးခြင်း

သာသနာတော် သန့်ရှင်း ဘုန်းတိုး ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၂-ရက် (၁၉-၁၂-၇၉)နေ့ နံနက် ၈-နာရီ အချိန်တွင် မကွေးမြို့ မဟာဝိသုတာရာမကျောင်းတိုက်ရှိ သိမ်တော်ကြီးတွင် မကွေးတိုင်း အတွင်းရှိ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော် ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးအုန်းကျော်က လျှောက်ထားသည်။

**ဆရာတော်ကြီးများ စုံညီ။** ။အဆိုပါ လျှောက်ထားသည့်အခမ်းအနားသို့ မကွေးတိုင်း အတွင်းရှိ မကွေးမြို့နယ် မဟာဝိသုတာရာမတိုက် မဟာနာယက ဆရာတော် ဦးပဒုမ၊ ရေနံချောင်း ဝဲပြန်ကျောင်းတိုက် မဟာနာယက ဆရာတော် ဦးဝဏ္ဏ၊ ချောက်မြို့ မဟာလယ်တီတိုက် မဟာနာယက ဆရာတော် ဦးဣန္ဒာစာရ၊ နတ်မောက်မြို့ ဒီပင်္ကရာကျောင်းတိုက် မဟာနာယက ဆရာတော် ဦးနန္ဒမာလာ၊ မြို့သစ်မြို့ ဘုရားကြီးကျောင်း မဟာနာယကဆရာတော် ဦးဓမ္မိက၊ တောင်တွင်းကြီးမြို့ အသောကာရုံကျောင်းတိုက် မဟာနာယက ဆရာတော် ဦးခေမိန္ဒ၊ စွယ်တော်စင်တိုက် မဟာနာယက ဆရာတော် ဦးဇာဂရနှင့် မကွေးတိုင်း အတွင်းရှိ ရေနံချောင်း, ချောက်, နတ်မောက်, မြို့သစ်, တောင်တွင်းမြို့နယ်များမှ ထင်ရှားကျော်ကြားသည့် ဆရာတော်ကြီးများ စုစုပေါင်း ၄၁ -ပါး ကြွရောက်သည့်ပြင် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးအုန်းကျော်၊ သာသနာရေး ဦးစီးဌာနမှ တာဝန်ရှိပုဂ္ဂိုလ်များ၊ မကွေးတိုင်း ပြည်သူ့ကောင်စီ အတွင်းရေးမှူး ဦးလှတင်နှင့် အလုပ်အမှုဆောင် ဦးတင်အေး, ဦးအေး၊ တိုင်းလုပ်ငန်းစစ်ဆေးရေး အဖွဲ့ဥက္ကဋ္ဌ ဦးဘစိ၊ မြို့နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးညွန့်တင် နှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ၊ အာဏာပိုင် အဖွဲ့အစည်းသုံးရပ်မှ ပုဂ္ဂိုလ်များ၊ မြို့နယ်ပြည်သူ့ကောင်စီဥက္ကဋ္ဌများ၊ အတွင်းရေးမှူးများ၊ တိုင်းပြည်သူ့ရဲတပ်ဖွဲ့မှူး ဦးလှညွန့်နှင့် တိုင်းအဆင့် ဦးစီးဌာနမှူးများ တက်ရောက်ကြသည်။

**စာရင်း ဖတ်ကြား။** ။ရှေးဦးစွာ အခမ်းအနားမှူး သာသနာရေး ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအုံ့မောင်က အခမ်းအနား အစီအစဉ်များကို ဖတ်ကြားလျှောက်ထားပြီး တိုင်းသာသနာရေး ဦးစီးဌာနမှူး ဦးစိန်လှိုင်က ကြွရောက်လာကြသည့် ဆရာတော်ကြီးများ၏ စာရင်းကို ဖတ်ကြားလျှောက်ထားသည်။

**ပရိတ်တော် ချီးမြှင့်။** ။ထို့နောက် မကွေးမြို့ မဟာဝိသုတာ ရာမကျောင်းတိုက် မဟာနာယက ဆရာတော် ဦးပဒုမက ငါးပါးသီလ ချီးမြှင့်ပြီး ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကို ချီးမြှင့်တော် မူကြသည်။

**ဒုတိယဝန်ကြီး လျှောက်ထား။** ။၎င်းနောက် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးတော်မူကြရန် သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော်ကြီးများ

အား လျှောက်ထားလွှာကို ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဒုတိယ ဝန်ကြီး ဦးအုန်းကျော်က ဖတ်ကြား လျှောက်ထားသည်။

**ထည့်သွင်း လျှောက်ထား။** ။ဆက်လက်၍ ဒုတိယဝန်ကြီး ဦးအုန်းကျော်က သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များတွင် မကွေးတိုင်း အတွင်းရှိ မကွေးအခြေခံ ဒေသမှ ဆရာတော် ၁-ပါး၊ ပခုက္ကူအခြေခံဒေသမှ ဆရာတော် ၃-ပါး၊ မင်းဘူးအခြေခံဒေသမှ ဆရာတော် ၁-ပါး နှင့် သရက်အခြေခံဒေသမှ ဆရာတော် ၁-ပါးတို့ကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သည့်နည်းဖြင့် ဓမ္မဝိနယနှင့် အညီ ရွေးချယ် ဆောင်ရွက် ပေးတော်မူကြပါရန် ထည့်သွင်း လျှောက်ထားသည်။

**ဆရာတော် ဦးပဒုမ ဝမ်းမြောက်မဆုံး ဖြစ်ကြောင်း မိန့်ကြား။** ။ထို့နောက် ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများအားလုံးတို့၏ ကိုယ်စား မကွေးမြို့ မဟာဝိသုတာရာမတိုက် မဟာနာယက ဆရာတော် ဦးပဒုမက ဆရာတော်များ အနေဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားလာစေရန် ဆောင်ရွက်တော်မူလိုကြသည့် အဇ္ဈာသယသည် ရှေးကပင် ကိန်းအောင်းနေခဲ့သည်မှာ ကြာမြင့်ခဲ့ပြီ ဖြစ်ကြောင်း။

**အကောင်အထည် မပေါ်။** ။ထိုသို့ ဆောင်ရွက် လိုကြ သော်လည်း ဆောင်ရွက်နိုင်လောက်သည့် အထောက်အကူ မရသေး၍ လက်တွေ့အကောင်အထည်မဖော်နိုင်ခဲ့ကြောင်း၊ ယခုအခါ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် အစိုးရက ကောင်းမြတ်သော ဆန္ဒဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို အားပေးကူညီမည်ဖြစ်ကြောင်း လျှောက်ထားလာသည့်အတွက် ရှေးယခင်ကပင် ဆရာတော်တို့၏ သန္တာန်၌ ကိန်းအောင်းနေခဲ့သည့် အဇ္ဈာသယအတိုင်း သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကို လက်တွေ့ အကောင်အထည် ဖော်နိုင်တော့မည်ဖြစ်ခြင်းကြောင့် ဆရာတော် သံဃာတော်များက ဝမ်းမြောက်မဆုံး ဖြစ်ရကြောင်း စသည်ဖြင့် မိန့်ကြားတော်မူသည်။

**ဝမ်းမြောက်။** ။ထို့နောက် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့်သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ကိုယ်စား ဒုတိယဝန်ကြီး ဦးအုန်းကျော်၏ လျှောက်ထားချက်အတိုင်း ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပနိုင်ရေး အတွက် လိုအပ်သော သတ္တိဗလ, ဗျတ္တိဗလနှင့်ပြည့်စုံသည့် ဝန်ဆောင်ဆရာတော်များ ရရှိရေးကို ဓမ္မဝိနယနှင့်အညီ ဆရာတော်တို့က ရွေးချယ်ပေးမည်ဖြစ်ကြောင်း ဝမ်းမြောက်ဝမ်းသာ သမ္မော

နီဒကထာမိန့်ကြားလိုက်ကြောင်းဖြင့် မိန့်ကြားတော်မူရာ ကြွရောက်လာကြသည့် ဆရာတော်ကြီးများနှင့် ပရိသတ်များက သာဓုအနုမောဒနာ ပြုကြသည်။

**မေးမြန်းချက်ဖြေ။** ။ထို့နောက် ဆရာတော်ကြီးများ၏ မေးမြန်းချက်များကို ဒုတိယဝန်ကြီး ဦးအုန်းကျော်နှင့် သာသနာရေးဦးစီးဌာန ဒုတိယ ညွှန်ကြားရေးမှူး ဦးအုံ့မောင်တို့က ပြန်လည်ဖြေကြား လျှောက်ထားသွားပြီး အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

ဧဝံ မကွေးပဋ္ဌနေပိ[၁]၊ သန္နိပါတော သမုဋ္ဌိတော။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ပာဒိတော ဟိ ခေါ။

## ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် လျှောက်ထား အခမ်းအနား

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးကြီးဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပေးတော်မူကြပါရန် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ဒုတိယဝန်ကြီး ဦးအုန်းကျော်က လျှောက်ထားသည့် အခမ်းအနားကို ပခုက္ကူမြို့ မဟာဝိသု တာရာမတိုက်၌ ၁၃၄၁-ခု ပြာသိုလဆန်း ၃-ရက် ( ၂၀ - ၁၂ - ၇၉ ) နေ့ ၈-နာရီ အချိန်တွင် ကျင်းပပြုလုပ်သည်။

**စုံညီစွာ တက်ရောက်။** ။အခမ်းအနားသို့ ပခုက္ကူ အခြေခံ ဒေသများမှ ပခုက္ကူမြို့နယ် မဟာဝိသုတာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ ပခုက္ကူနိကာယဓိပတိ မဟာဂဏဝိနာယကဆရာတော် ဦးဂန္ဓမာ[၂]၊ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မဟာဝိဇယာရာမတိုက်ဆရာတော် ဦးဉာဏိန္ဒ၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ သာသနဝိပုလာရာမတိုက်ဆရာတော် ဦးသာသန၊ မဟာဝိသုတာရာမတိုက်မှ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဦးနေမိန္ဒ၊ ရေစကြိုမြို့ ဂူကြီးကျောင်း ဆရာတော် ဦးမာဃိန္ဒ၊ မြိုင်မြို့ မင်္ဂလာတိုက် နာယကဆရာတော် ဦးဥဇ္ဇန၊

---

၁။ ပဋ္ဌန သဒ္ဒါလည်း မြို့ပရိယာယ် ဖြစ်သည်။

ပဋ္ဌနဥ္စ အမိဌာနံ၊ နဂရံ ပုဋဘေဒနံ။
ထိယော ပူ နဂရံ ပုရိယော၊ ဌာနိယံ ကဗ္ဗဋံ ပုရံ၊
ပခုက္ကူအဘိဓာန်နိဿယသစ်။ နှာ—၁၄၀။

၂။ ဆရာတော်ဘုရားကြီး ဦးဂန္ဓမာမှာ ၁၃၄၂-ခု နယုန်လဆန်း ၃-ရက်နေ့တွင် ပျံလွန်တော်မူသည်။



၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၃-ရက်နေ့တွင် ပခုက္ကူမြို့
မဟာဝိသုတာရာမတိုက်၌ ဒုတိယဝန်ကြီး ဦးအုန်းကျော်
လျှောက်ထားသည့် အခမ်းအနားတွင် သံဃာတော်များကို
ပူဇော်ရစဉ်

ထီးလင်းမြို့နယ် ကျင်းရွာကျောင်း နာယကဆရာတော် ဦးကလျာဏ၊ ပေါက်မြို့ ခစတီယံကျောင်း နာယကဆရာတော် ဦးဝိဇယ၊ ဆောမြို့နယ် အဆုပ်ရွာကျောင်း ာယကဆရာတော် ဦးကုဏ္ဍလနှင့် ဂန့်ဂေါမြို့နယ် ကြက်ရိုးရွာကျောင်းနာယက ရာတော် ဦးပညိန္ဒအမှူးရှိသော ပခုက္ကူ, ရေစကြို, မြိုင်, ထီးလင်း, ပေါက်, ာ, ဂန့်ဂေါနှင့် ဆိတ်ဖြူမြို့နယ်များမှ ထင်ရှားကျော်ကြားသည့် ဆရာတော် းများ တက်ရောက်တော်မူကြပြီး ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဲယဝန်ကြီးဦးအုန်းကျော်နှင့် သာသနာရေးဦးစီးဌာနမှတာဝန်ရှိပုဂ္ဂိုလ်များ၊ ကွေးတိုင်းပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင်ဦးအေး၊ တိုင်းပြည်သူ့ ာပ်ဖွဲ့မှူး ဦးလှညွန့်၊ပခုက္ကူမြို့နယ် ပါတီယူနစ်ဥက္ကဋ္ဌ ဦးနိုင်ဝင်း၊အတွင်းရေးမှူး ုးသန်းဦးနှင့် ကော်မတီဝင်များ၊ ပြည်သူ့ကောင်စီဥက္ကဋ္ဌ ဦးသိမ်းမောင်နှင့် ာလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ မြို့နယ်များမှ ပြည်သူ့ကောင်စီ ဥက္ကဋ္ဌများနှင့် အတွင်းရေးမှူးများ တက်ရောက်ကြသည်။

ငါးပါးသီလ ချီးမြှင့်။ ။အခမ်းအနားမှူးအဖြစ် သာသနာရေးဦးစီးဌာန ုတိယညွှန်ကြားရေးမှူး ဦးအုံမောင်က ဆောင်ရွက်ပြီး တိုင်းသာသနာရေး ဦးစီးမှူး ဦးစိန်လှိုင်က ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများ ာရင်းကို ဖတ်ကြားလျှောက်ထားပြီး တိပိဋကဓရဆရာတော် ဦးနေမိန္ဒက ငါးပါးသီလ ချီးမြှင့်တော်မူသည်။

လျှောက်ထား။ ။ဆက်လက်၍ ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကိုချီးမြှင့်တော်မူသည်။ ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာန ဒုတိယဝန်ကြီး ဦးအုန်းကျော်က သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော် များ ရွေးချယ်ပေးရန် သံဃနာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီး များကို ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်လွှာကို ဖတ်ကြားလျှောက်ထားသည်။ ဆက်လက်၍ မကွေးတိုင်းအတွင်းရှိ သံဃာ့ဝန် ဆောင် ဆရာတော် ၆ - ပါးအနက် ၃ - ပါးကို ပခုက္ကူ အခြေခံဒေသမှ ရွေး ချယ်ပေးတော်မူပါရန် လျှောက်ထားသည်။

ဆရာတော် ဦးဂန္ဓမာ မိန့်ခွန်းမြွက်ကြား။ ။ယင်း လျှောက်ထားချက်နှင့် ပတ်သက်၍ မဟာဝိသုတာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ ပခုက္ကူနိကာယာဓိပတိ မဟာဂဏဝိနာယက ဆရာတော် ဦးဂန္ဓမာက နိုင်ငံတော်အစိုးရက သာသနာ တော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးကို အားထားဆောင်ရွက်ပါက ယနေ့

ကြားသိနေရသော **သာသနာ့**အန္တရာယ် ရန်စွယ်ရန်ညစ်များသည် ရေစင်နှင့် ဆေးကြောလိုက်သည့်ပမာ အလိုလို စင်ကြယ်သွားမှာ ဖြစ်ကြောင်း။

**သိက္ခာမတင်**။ ။ယခု အနယ်နယ်အရပ်ရပ်တွင် ကြားသိတွေ့မြင်နေကြရသော သိက္ခာမတင် သိမ်မဝင်ပဲ မိမိဘာသာ သင်္ကန်းဝတ်၍ ထင်ရာစိုင်းနေကြသော ရဟန်းတု ရဟန်းယောင်များ ပေါ်ပေါက်ထွန်းကားလာမည့် ဘေးဆိုး ရန်ဆိုး အန္တရာယ်ဆိုးကြီးကို ကြိုတင်ကာကွယ်နိုင်မည်ဖြစ်ကြောင်း၊ လိုအပ်သည့် အချည်အချင်းပြည့် သံဃာ့ဝန်ဆောင်ဆရာတော်များ ရရှိရေးကို ကြန့်ကြာမှု မရှိစေပဲ ဓမ္မဝိနယနှင့်အညီ ရွေးချယ်ပေးမည်ဖြစ်ကြောင်း။

**အချိန်ကျရောက်**။ ။ယခုကဲ့သို့ ဆောင်ရွက်ကြသည်မှာ အချိန်လွန်ပြီဟု မဆိုနိုင်သော်လည်း အချိန်ကျရောက်နေပြီမှာ ကြာလှပြီဟု ဆရာတော်များက ယူဆတော်မူကြောင်းဖြင့် သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားရာ ဆရာတော်ကြီးများနှင့် ပရိသတ်များက သာဓုအနုမောဒနာ ပြုတော်မူကြသည်။

**ပြန်လည်ဖြေကြား**။ ။ဆရာတော်ကြီးများ၏ မေးမြန်းချက်များကို ပြည်ထဲရေးနှင့်သာသနာရေးဝန်ကြီးဌာနဒုတိယဝန်ကြီး ဦးအုန်းကျော်နှင့် သာသနာရေးဦးစီးဌာန ဒုတိယ ညွှန်ကြားရေးမှူး ဦးအုံ့မောင်တို့က ပြန်လည်ဖြေကြားပြီး အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

ပဓုက္ကုပုရသေဋ္ဌေပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါတဿ၊ ပဌမ္ဗ သမ္မာဒီတော ဟိ ခေါ။

**တတိယပိုင်း အပြီးသတ်ခြင်း**

ဤသည်လျှင် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီးကိုယ်စား ဒုတိယဝန်ကြီး ဦးအုန်းကျော် ၃-ဌာန ဆရာတော်ကြီးများအား လျှောက်ထားဆွေးနွေးချက်များ ပါဝင်သည့် တတိယပိုင်း အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စေ။
ရစိတေ ဣမ ဂန္ထမှိ၊ သမတ္တော တတိယော ဟိ ခေါ။

# စတုတ္ထပိုင်း

## စစ်တွေမြို့၌ လျှောက်ထား စည်းဝေးခြင်း

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးပါရန် ရခိုင်ပြည်နယ်အတွင်းရှိ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာ လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၃-ရက် (၂၀-၁၁-၇၉) နေ့ မွန်းတည့် ၁၂-နာရီ အချိန်တွင် စစ်တွေမြို့ အတုလမာရဇိန် ပြည်လုံးချမ်းသာ ဘုရားကြီး ရင်ပြင်တော်၌ ကျင်းပသည်။

**ဆရာတော်ကြီး ၅၃-ပါး။** ။အဆိုပါ အခမ်းအနားသို့ စစ်တွေမြို့ ဂြစ်ဘက်ကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးသောဘိတ၊ ယတြာကျောင်းတိုက် ဆရာတော် ဦးစန္ဒ၊ ဘုရားကြီးတိုက် ဆရာတော် ဦးနရသီဟ၊ သဒ္ဓမ္မဂုရုဝံသ ကျောင်းတိုက်မှ ပုသိမ်ဆရာတော် ဦးဂရုဝံသ အမှူးပြုသော ဆရာတော်ကြီးများနှင့် အခြားရှစ်မြို့နယ်မှ ဆရာတော်ကြီးများ စုစုပေါင်း ၅၃-ပါး နှင့် သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတေဇဝန်၊ ရခိုင်ပြည်နယ် ဒေသပါတီ ကော်မတီ ဥက္ကဋ္ဌ အနောက်ပိုင်းတိုင်း စစ်ဌာနချုပ် တိုင်းမှူး ဗိုလ်မှူးချုပ်ဝမ်းတင်နှင့် ဒေသပါတီ ကော်မတီဝင်များ၊ ရခိုင်ပြည်နယ် ပြည်သူ့ကောင်စီ အတွင်းရေးမှူး ဦးရွှေဇံနှင့် ပြည်နယ်အာဏာပိုင် အဖွဲ့အစည်းသုံးရပ်မှ ပုဂ္ဂိုလ်များ၊ စစ်တွေမြို့နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင်များ၊ ဌာနဆိုင်ရာ ပုဂ္ဂိုလ်များနှင့် ဘာသာရေးအသင်းအဖွဲ့များမှ ပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**ငါးပါးသီလခံယူကြ- သံဃာတော်များက မေတ္တာသုတ် ချီးမြှင့်။** ။အခမ်းအနား အစီအစဉ်ကို ရခိုင်ပြည်နယ် ပြည်သူ့ကောင်စီ အလုပ် အမှုဆောင် အဖွဲ့ဝင် ဦးထွန်းရင်က ဖတ်ကြားပြီး ကြွရောက်တော် မူလာကြသည့် မြို့နယ်အသီးသီးမှ ဆရာတော် သံဃာတော် များ၏ စာရင်းကို ရခိုင်ပြည်နယ် သာသနာရေး ဦးစီးဌာနမှူး ဦးမောင်မောင်က ဖတ်ကြားသည်၊ ထို့နောက် ပရိသတ်များက ယတြာကျောင်းတိုက် ဆရာတော်ကြီးထံမှ ငါးပါးသီလ ခံယူ၍ ဆရာတော်ကြီးများက မေတ္တာသုတ် ပရိတ်တရားတော်ကို ရွတ်ဖတ်ကြသည်။

**လျှောက်ထား။** ။ဒုတိယနောက် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ် ပေးတော်မူပါရန် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတေဇဝန်က ရှစ်မြို့နယ်မှ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများအား ဖတ်ကြား လျှောက်ထားပြီး စစ်တွေအခြေခံဒေသမှ ဝန်ဆောင်သံဃာ တပါး ရွေးချယ်ပေးပါရန် လျှောက်ထားသည်။

**ဝမ်းမြောက်။** ။ဆက်လက်၍ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာန ဝန်ကြီး၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ဆရာတော်ကြီးများ ကိုယ်စား ယတြာကျောင်းတိုက် ဆရာတော် ဦးစန္ဒက ဗုဒ္ဓသာသနာတော်ကြီး သန့်ရှင်းရေးအတွက် နိုင်ငံတော် အစိုးရသည် ယခုကဲ့သို့ လျှောက်ထားခြင်း မျိုးကို ပြည်နယ်နှင့် တိုင်းကြီးများ၌လည်း လျှောက်ထား ဆောင်ရွက် နေပြီဖြစ်၍ ဆရာတော်များ အနေဖြင့် အထူးပင် ဝမ်းမြောက်စွာ ကြိုဆို ပါကြောင်း၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး လုပ်ငန်းကြီးကို အကောင်အထည် ပေါ်အောင် ဆောင်ရွက်ရမည် ဖြစ်ကြောင်း စသည်ဖြင့် သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားရာ ကြွရောက်လာကြ သော သံဃာတော်များနှင့် ပရိသတ်များက သာဓုအနုမောဒနာပြုကြသည်။

**ရှင်းလင်း လျှောက်ထား။** ။ထို့နောက် ကြွရောက်လာကြသော ဆရာ တော်ကြီးများက သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ကိစ္စ လုပ်ဆောင်မှုနှင့် ပတ်သက်၍ မေးမြန်းချက်များကို ညွှန်ကြားရေးမှူး ဦးတေဇဝန်က ရှင်းလင်း လျှောက်ထားပြီး မွန်းလွဲပိုင်း အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

ဧဝံ စစ်တွေနဂရေပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတေ သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## တောင်ကြီးမြို့၌ လျှောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူ ကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးရေး အတွက် ရှမ်းပြည်နယ် အတွင်းရှိ ဂိုဏ်းပေါင်းစုံမှ ဆရာတော်ကြီး များအား၊ ပြည်ထဲ ရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာ လျှောက်



တောင်ကြီးမြို့၌ ရှမ်းပြည်နယ် ပြည်သူ့ကောင်စီအလုပ်အမှုဆောင်အဖွဲ့
လူမှုရေးရာတာဝန်ခံ ဦးစံလွန်းနှင့် သာသနာရေးဦးစီးဌာန
ညွှန်ကြားရေးမှူး ဦးစဝ်ထွန်းမှတ်ဝင်းတို့ ရှင်းလင်းစသျှာက်ထားစဉ်

ထားသည့် အခမ်းအနားကို ၁၃၄၁ – ခုနှစ် နတ်တော်လဆုတ် ၁၄ ‌· ရက် (၁၆-၁၂-၇၉) နေ့ မွန်းတည့် ၁၂-နာရီ အချိန်တွင် တောင်ကြီးမြို့ မြို့လယ်ဓမ္မာရုံကြီးတွင် ကျင်းပရာ ရှမ်းပြည်နယ် အတွင်းရှိ အခြေခံဒေသများမှ ဆရာတော် သံဃာတော်များ၊ ရှမ်းပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင် လူမှုရေးတာဝန်ခံ ဦးစံလွန်း၊ သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်း၊ ပြည်နယ်သာသနာရေး ဦးစီးဌာနမှူး ဦးအောင်ရှိန်၊ ပြည်နယ် မြို့နယ်နှင့် ရပ်ကွက်ပြည်သူ့ ကောင်စီဝင်များ တက်ရောက်သည်။

**ဝန်ကြီးကိုယ်စား။** ။အခမ်းအနားမှူးအဖြစ် ရှမ်းပြည်နယ် သာသနာရေးဦးစီးဌာနမှူး ဦးအောင်ရှိန်က ဆောင်ရွက်ပြီး ရှေးဦးစွာ ရှမ်းပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင် လူမှုရေး တာဝန်ခံ ဦးစံလွန်းက အစည်းအဝေး ပင့်ဖိတ်ရခြင်း၏ အကြောင်းကို ရှင်းလင်း လျှောက်ထားပြီး ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားချက်ကို ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်ကိုယ်စား သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်းက ဆရာတော်ကြီးများအား လျှောက်ထားသည်။

**ချီးမြှင့် မြွက်ကြား။** ။ဆက်လက်၍ ရောက်ရှိတော်မူလာကြသည့် ဆရာတော်ကြီးများ ကိုယ်စား တောင်ကြီးမြို့ တောင်ကျောင်းကြီး ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နရိန္ဒက သမ္မောဒနီယကထာ စကား ချီးမြှင့် မြွက်ကြားတော်မူသည်။

**အနုမောဒနာ။** ။ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး၏ လျှောက်ထားချက် အရ သိလိုသော အချက်အလက်များကို ဆရာတော်ဘုရားများက မေးမြန်း၍ တာဝန်ရှိ ပုဂ္ဂိုလ်များက ပြန်လည် ရှင်းလင်း လျှောက်ထားပြီး ဝေယျာဝစ္စကုသိုလ် အနုမောဒနာ ရေစက်ချ အမျှဝေ၍ အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

**ဆက်လက် ကျင်းပ။** ။တဖန် ၁၃၄၁–ခု ပြာသိုလဆန်း ၁ ‌· ရက် (၁၈-၁၂-၇၉) နေ့ မွန်းတည့် ၁၂ ‌· နာရီတွင် ဆက်လက်၍ ကျင်းပသည်။

**လျှောက်ထား။** ။အခမ်းအနားတွင် ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ ကိုယ်စား သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်းက သံဃာ့နာယကအဖွဲ့က

ဆောင်ရွက်ရမည့် လုပ်ငန်းကိစ္စရပ်များနှင့် တောင်ကြီးအခြေခံဒေသမှ သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ၂-ပါး ရွေးချယ်ပေးရန် ရှင်းလင်း လျှောက်ထားသည်။

**ရွေးချယ်ပေး။** ။ဆက်လက်၍ သာသနာ့ ဦးသျှောင် ဆရာတော်ကြီးများက တောင်ကြီးအခြေခံ ဒေသများမှ သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်ကြီးများအဖြစ် တောင်ကြီးမြို့ သိမ်တောင်ကျောင်း ဆရာတော် ဦးဆန္ဒာဓိက နှင့် ညောင်ရွှေမြို့ သာသနဝိပုလ ရွှေဂူ စာသင်တိုက်မှ ဆရာတော် ဦးဝိလာသာဘိဝံသတို့ကို ရွေးချယ်ပေးသည်။

**ရုပ်သိမ်း။** ။ထိုနောက် ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများကိုယ်စား တောင်ကြီးမြို့ အောင်မြေသာစည်ကျောင်း ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒိယက သမ္မောဒနီယကထာ ချီးမြှင့်မြွက်ကြားပြီး နိုင်ငံတော်အစိုးရကိုယ်စား သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်းက ကျေးဇူးတင်စကား လျှောက်ထားပြီး အခမ်းအနားကို မွန်းလွဲ ၁ - နာရီတွင် ရုပ်သိမ်းသည်။

တောင်ကြီးဝှနဂရေစာပိ၊ သန္နိပါတော သမုဋ္ဌာပိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။

## လှိုင်ကော်မြို့၌ လျှောက်ထားခြင်း

အလားတူပင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်တပါး ရွေးချယ်ပေးတော်မူကြပါရန် ကယားပြည်နယ် သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော် ၂၀-အား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး၏ လျှောက်ထားလွှာကို သာသနာရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်း လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁—ခုနှစ် ပြာသိုလဆန်း ၆—ရက် ( ၂၃-၁၂-၇၉ ) နေ့ မွန်းတည့် ၁၂-နာရီ အချိန်တွင် ကယားပြည်နယ် လှိုင်ကော်မြို့ မင်းကျောင်းတိုက်၌ ကျင်းပသည်။

**ဆရာတော် အပါး ၂၀။** ။အခမ်းအနားသို့ ကယားပြည်နယ်မှ သံဃာ့နာယက ဆရာတော်ကြီးများ ဖြစ်ကြသော ပြည်နယ်လုံး ဆိုင်ရာ သံဃာ့အဖွဲ့ချုပ်မှ ဂိုဏ်းချုပ် မင်းကျောင်း ဆရာတော်ကြီး ဦးနာဂသေန၊ ဂိုဏ်းအုပ် ရွှေကျောင်းဆရာတော် ဦးဉာဏိက၊ မြို့မဂိုဏ်းထောက် ဝါဆိုကျောင်း

ဆရာတော် ဦးပညိန္ဒသီရိနှင့် ဝိနည်းမိုရ်ဆရာတော်များဖြစ်ကြသော ရွှေဘောင် ပရိယတ္တိစာသင်တိုက် ဆရာတော် ဦးပညာသာမိ၊ ပုဗ္ဗာရုံပရိယတ္တိစာသင်တိုက် ဆရာတော် ဦးဂုဏသီလ အစရှိသော ၆-မြို့နယ်မှ ဆရာတော် အပါး ၂၀-နှင့် ကယားပြည်နယ် ဒေသပါတီကော်မတီမှ ပုဂ္ဂိုလ်များ၊ ကယားပြည်နယ် ပြည်သူ့ကောင်စီဥက္ကဋ္ဌ ဦးကျော်ဒင်နှင့် အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ ကယားပြည်နယ် တရားသူကြီးအဖွဲ့၊ ကယားပြည်နယ် လုပ်ငန်းစစ်ဆေးရေးအဖွဲ့၊ မြို့နယ် ပါတီယူနစ်ဥက္ကဋ္ဌ ဦးချစ်ခင်နှင့် မြို့နယ်ပြည်သူ့ကောင်စီမှ အမှုဆောင်အဖွဲ့ဝင်များ၊ ဘာသာရေးအသင်းအဖွဲ့မှ ကိုယ်စားလှယ်များ၊ ဌာနဆိုင်ရာအကြီးအကဲများ စုံညီစွာတက်ရောက်ကြသည်။

**ပရိတ်တရား နာယူ။** ။အခမ်းအနားတွင် ဆရာတော်ကြီးထံမှ ငါးပါးသီလ ခံယူကြပြီးလျှင် ပရိတ်ပဌာန်းတရားတော်များကို နာကြားကြပြီးနောက် အခမ်းအနားမှူး ကယားပြည်နယ် သာသနာရေးဦးစီးဌာနမှူး ဦးခင်မောင်ညွန့်က ကြွရောက်တော်မူလာကြသော သံဃာတော်များစာရင်းကို ဖတ်ကြားလျှောက်ထားသည်။ ထို့နောက် ကယားပြည်နယ် ပြည်သူ့ကောင်စီဥက္ကဋ္ဌ ဦးကျော်ဒင်က သံဃာ့အစည်းအဝေး ပင့်ဖိတ်ရခြင်း၏အကြောင်းကို လျှောက်ထားသည်။

**ရွေးချယ်ပေးရေး။** ။သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် ကယားပြည်နယ် လုံးဆိုင်ရာ သံဃာ့ဝန်ဆောင်အဖွဲ့ဝင်ဆရာတော် ၁-ပါး ရွေးချယ်ပေးတော်မူကြပါရန် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီးကိုယ်စား သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်းက ဖတ်ကြားလျှောက်ထားသည်။ ဆက်လက်၍ ကယားပြည်နယ် သံဃာတော်များ၏ကိုယ်စား ဂိုဏ်းချုပ် မင်းကျောင်းဆရာတော်ဘုရားကြီးက သမ္မောဒနီယကထာကို မိန့်ကြားတော်မူသည်။

**ရွေးချယ်ခြင်း။** ။ထို့နောက် ဆရာတော်ဘုရားကြီးများ၏ ပေးပြန်းချက်များကို ညွှန်ကြားရေးမှူး ဦးစပ်ထွန်းမှတ်ဝင်းက ရှင်းလင်းလျှောက်ထားပြီးနောက် သံဃာတော်များက ဝန်ဆောင်ဆရာတော်အဖြစ် ကယားပြည်နယ်လုံးဆိုင်ရာ သံဃာ့အဖွဲ့ချုပ်မှ ဂိုဏ်းချုပ်ဆရာတော် ဦးနာဂသေနကို မပွဒိယနှင့်အညီ ရွေးချယ်တင်မြှောက်ကြသည်။

ဧဝံ လဒ္ဓိုဝ်ကော်နဂရေပိ၊ သန္နိပါတော သမုဋ္ဌဝိ။
မဟာတောသန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။

## ပုသိမ်မြို့၌ အစည်းအဝေးပွဲ

သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးရေးအတွက် ဧရာဝတီတိုင်း ပုသိမ်အခြေခံဒေသအတွင်းရှိ ပုသိမ်အနောက်၊ ပုသိမ်အရှေ့၊ သာပေါင်း၊ ငပုတော၊ ကျုံပျော်၊ ရေကြည်နှင့် ကျောင်းကုန်းမြို့နယ်များမှ ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဌာနဝန်ကြီး၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁ - ခုနှစ် ပြာသိုလဆန်း ၃ - ရက် ( ၂၀ - ၁၂ - ၇၉ )နေ့ မွန်းလွဲ ၁-နာရီအချိန်တွင် ပုသိမ်မြို့ ဧရာဝတီတိုင်း ပြည်သူ့ကောင်စီရုံး ရောင်ရွှေဝါခန်းမ၌ ကျင်းပသည်။

**ဆရာဒကာ စုံညီစွာ။** ။ပုသိမ်အနောက်မြို့နယ်မှ ဆရာတော် ၂၃-ပါး၊ ပုသိမ်အရှေ့မြို့နယ်မှ ဆရာတော် ၂-ပါး၊ သာပေါင်းမြို့နယ်မှ ဆရာတော် ၇-ပါး၊ ငပုတောမြို့နယ်မှ ဆရာတော် ၆-ပါး၊ ကျုံပျော်မြို့နယ်မှ ဆရာတော် ၁၇-ပါး၊ ရေကြည်မြို့နယ်မှ ဆရာတော် ၁၀-ပါးနှင့် ကျောင်းကုန်းမြို့နယ်မှ ဆရာတော် ၂-ပါး၊ စုစုပေါင်း ဆရာတော် ၆၇-ပါး၊ ဧရာဝတီတိုင်း ဒေသပါတီကော်မတီဝင် ဦးစံငင်း၊ တိုင်းပြည်သူ့ကောင်စီအတွင်းရေးမှူး ဦးသာဒင်နှင့် အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ သာသနာရေးဦးစီးဌာနမှ ဒုတိယ ညွှန်ကြားရေးမှူး ဦးအုန်းလွင်၊ တိုင်းသာသနာရေးဦးစီးမှူး ဦးကျော်ဇောနှင့် သက်ဆိုင်ရာ မြို့နယ် မြို့ပေါ် ရပ်ကွက်များမှ တက်ရောက်ကြသည်။

**သမ္ဗောဒနီယကထာချီးမြှင့်။** ။ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ ကိုယ်စား သာသနာရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအုန်းလွင်က ဆရာတော်ကြီးများအား လျှောက်ထားသည်။ ကြွရောက်လာကြသည့်ဆရာတော်ကြီးများ ကိုယ်စား ပုသိမ်မြို့ ရေကြည်မင်္ဂလာကျောင်းတိုက်မှ ဆရာတော် ဦးစန္ဒောဘာသက သမ္ဗောဒနီယကထာ ဝမ်းမြောက်စကား ချီးမြှင့်မြွက်ကြားတော်မူသည်။

**သံဃာ့ဝန်ဆောင် ရွေးချယ်။** ။ပုသိမ်အခြေခံဒေသအတွက် သံဃာ့ဝန်ဆောင်ဆရာတော်အဖြစ် ပုသိမ်မြို့ ရေကြည်မင်္ဂလာကျောင်းတိုက်မှ ဆရာတော် ဦးစန္ဒောဘာသကို သံဃာတော်များ၏ သဘောတူဆုံးဖြတ်ချက်အရ ပုသိမ်အနောက်မြို့နယ် ဇေယျဝတီကျောင်းတိုက်ဆရာတော် ဦးတိလောကက ရွေး

ချယ်ကြောင်း မြွက်ကြားသည်။ အခမ်းအနားကို မွန်းလွဲ ၁-နာရီခွဲတွင် ရုပ်သိမ်းလိုက်သည်။

ဝေံ ပုသိမ်နဂရေပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## မြစ်ကြီးနားမြို့ အစည်းအဝေး

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် အတွက် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာလျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁ ခုနှစ် ပြာသိုလဆန်း ၃-ရက် (၂၀-၁၂-၇၉) နေ့ မွန်းလွဲ ၁-နာရီ အချိန်တွင် မြစ်ကြီးနားမြို့ တောင်တန်းသာသနာပြုကျောင်း အံတော်ရှင်ဘုရား ဓမ္မာရုံ၌ ကျင်းပသည်။

**ဆရာ ဒကာ စုံညီစွာ တက်ရောက်။** ။ယင်း အခန်းအနားသို့ မိုးညှင်းမြို့နယ် မမုန့်တိုင်ဆရာတော် ဦးဉာဏ အမှူးပြုသော မြစ်ကြီးနားမြို့ အခြေခံ ဒေသမှ သံဃာတော် ၂၆-ပါး ဟူသော ဆရာနှင့် ပြည်နယ် မြို့နယ် ပြည်သူ့ကောင်စီ အဘွင်းရေးမှူးများနှင့် အလုပ်အမှုဆောင် အဖွဲ့ဝင်များ ဟူသော ဒကာတို့ စုံညီစွာ တက်ရောက်ကြသည်။

**ပရိတ်တော် ချီးမြှင့်။** ။ရှေးဦးစွာ ပြည်နယ် သာသနာရေး ဦးစီးဌာနမှူးက အခမ်းအနား အစီအစဉ်များကို ဖတ်ကြားလျှောက်ထားသည်။ ထို့နောက် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများက ငါးပါးသီလနှင့် မေတ္တာသုတ် ပရိတ်တော်တို့ကို ချီးမြှင့်တော်မူကြသည်။

**တညီတည်း ရွေးချယ်။** ။ထို့နောက် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်ထားလွှာကို သာသနာရေး ဦးစီးဌာန လက်ထောက် ညွှန်ကြားရေးမှူး ဦးရွှေအောင်က ဖတ်ကြားလျှောက်ထားသည်။ ယင်းသို့ ဖတ်ကြား လျှောက်ထားအပြီးတွင် သာသနာ့ဦးသျှောင် ဆရာတော်ကြီးများက လိုအပ်ချက်များကို ညှိနှိုင်းဆွေးနွေးကြ၍ မြစ်ကြီးနားမြို့ ဝန်းသိုကျောင်း ဆရာတော် ဦးသီလဝံသကို မြစ်ကြီးနားဒေသ သံဃာ့ဝန်ဆောင် ဆရာတော်အဖြစ် တညီတညွတ်တည်း ရွေးချယ်အတည်ပြု လက်မှတ်ရေးထိုးကြသည်။ ၎င်းနောက် သံဃာ့နာယက သံဃာ့ဦးသျှောင်

ဆရာတော်ကြီးများအား ပရိသတ်က ကန်တော့ကြ၍ အခမ်းအနားကို မွန်းလွဲ ၂-နာရီတွင် ရုပ်သိမ်းလိုက်ကြသည်။

ဇဝံ မြစ်ကြီးနားပုရေပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## ဘားအံမြို့၌ လျှောက်ထား စည်းဝေးခြင်း

သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးတော်မူကြပါရန် ကရင်ပြည်နယ် အခြေခံဒေသအတွင်း၌ သုဓမ္မာဂိုဏ်းဝင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၃-ရက် (၂၀-၁၂-၇၉) နေ့ နံနက် ၈-နာရီ အချိန်တွင် ဘားအံမြို့ လေသာကျောင်းတိုက်၌ ကျင်းပသည်။

**စုံညီစွာ တက်ရောက်။** ။ယင်းအခမ်းအနားသို့ ကရင်ပြည်နယ် ဘားအံ အခြေခံဒေသအတွင်းရှိ သုဓမ္မာဂိုဏ်းမှ ဆရာတော် ၃၀-ပါးနှင့် ပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့ဝင် ဦးမန်းသင့်နောင်၊ သာသနာရေး ဦးစီးဌာန လက်ထောက် ညွှန်ကြားရေးမှူး ဦးကျော်လွင်၊ ပြည်နယ် သာသနာရေးဦးစီးဌာနမှူး ဦးလေးမောင်၊ မြို့နယ်ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးစောထွန်းလှစိန်နှင့် အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ မြို့နယ်တရားသူကြီးအဖွဲ့ ဥက္ကဋ္ဌ ဦးစောစံသိန်းနှင့် မြို့မ ဇ-ရပ်ကွက် ပါတီပြည်သူ့ကောင်စီမှ ပုဂ္ဂိုလ်များ၊ ဌာနဆိုင်ရာပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**မေတ္တာသုတ် ချီးမြှင့်။** ။အခမ်းအနားအစီအစဉ်အရ ရှေးဦးစွာ ဘားအံမြို့နယ် ကွမ်းသင်ကျောင်းဆရာတော် ဦးဣန္ဒဝံသ ထံတွင် ငါးပါးသီလ ခံယူကြပြီး ဆရာတော်များက မေတ္တာသုတ်ပရိတ်တော်ကို ချီးမြှင့်တော်မူကြသည်။

**လျှောက်ထား။** ။၎င်းနောက် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပရေးအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ရွေးချယ်ပေးတော်မူပါမည့်အကြောင်း ပြည်ထဲရေးနှင့်သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်ထားလွှာကို သာသနာရေးဦးစီးဌာနလက်ထောက်ညွှန်ကြားရေးမှူး ဦးကျော်လွင်က ဖတ်ကြား လျှောက်ထားသည်။



ဘားအံ  လေသာကျောင်းတိုက်၌ ဝန်ကြီး ဦးစိန်လွင် ကိုယ်စား
လက်ထောက်ညွှန်ကြားရေးမှူး ဦးကျော်လွင် လျှောက်ထားစဉ်

**အခမ်းအနား ရုပ်သိမ်း။** ။ထို့နောက် ဘားအံမြို့နယ် ကွမ်သင်ကျောင်းဆရာတော် ဦးဣန္ဒဝံသက ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများ၏ ကိုယ်စား သမ္မောဒနီယကထာ ဝမ်းမြောက်စကား ပြန်လည် မြွက်ကြားရာ ပရိသတ်များက သာဓုအနုမောဒနာပြုကြပြီး အခမ်းအနားကို နံနက် ၁၀·နာရီတွင် ရုပ်သိမ်းလိုက်သည်။

ဘားအံဝှနဂရေစာပိ၊ သန္နိပါတော သမုဗ္ဘဝိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ်။

**စတုတ္ထပိုင်း အပြီးသတ်ခြင်း**

ညွှန်ကြားရေးမှူး ဦးဟေဇာဝန်, ဦးစင်ထွန်းမှတ်ဝင်း၊ ဒုတိယညွှန်ကြားရေးမှူး ဦးအုန်းလွင်၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးရွှေအောင်, ဦးကျော်လွင်တို့ ဝန်ကြီး၏ကိုယ်စား သံဃာတော်များနှင့် လျှောက်ထားစည်းဝေးသည့် အကြောင်းအရာကို ဖော်ပြရာဖြစ်သော စတုတ္ထပိုင်း ဤတွင် လက်စသတ်လိုက်ပါပြီ။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိတေ ဣမ ဂန္ထမှိ၊ သမတ္တော စတုတ္ထော ဟိ ခေါ်။

---

# ပဥ္စမပိုင်း

## ပြည်မြို့၌ လျှောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးတော်မူကြပါရန် ပြည်အခြေခံဒေသရှိ ၆-မြို့နယ်မှ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၃-ရက် (၂၀-၁၂-၇၉) နေ့ နံနက် ၉ နာရီအချိန်တွင် ပြည်မြို့ ဇောတိကာရုံ ပါဠိတက္ကသိုလ်ကျောင်းတိုက်၌ ပြုလုပ်သည်။

**ဆရာတော်ကြီး ၃၄-ပါး။** ။အဆိုပါ အခမ်းအနားသို့ ရွှေတောင်မြို့ မန္တလေးကျောင်းတိုက် ခရိုင်ဝိနည်းဓိုရ်ဆရာတော် ဦးပညာ၊ ပန်းတောင်းမြို့ သဒ္ဓမ္မဝံသပေါင်းတည်ကျောင်း ဓမ္မကထိကဆရာတော် ဦးဉာဏုတ္တရ၊ ပေါင်းတည်မြို့ မျောက်လွှတ်ကုန်းကျောင်း ဆရာတော် ဦးသုန္ဒရနှင့် ပြည်မြို့ မဟာမေဃဝန် ဆရာတော် ဦးပညာဓိပတိ အမှူးပြုသော ပြည်, ရွှေတောင်, ပန်းတောင်း, ပေါက်ခေါင်း, သဲကုန်း, ပေါင်းတည်မြို့နယ်များမှ ထင်ရှားကျော်စောသည့် ဆရာတော်ကြီးများအပါအဝင် ဆရာတော် ၃၄-ပါးနှင့် ပဲခူးတိုင်း ပြည်သူ့ကောင်စီဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီးထွန်းကျော်နှင့် ပါတီကောင်စီမှ တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**မေတ္တသုတ် ချီးမြှင့်။** ။ရှေးဦးစွာ ပဲခူးတိုင်း သာသနာရေးဦးစီးဌာနမှူး ဦးသိမ်းဆွေက အခမ်းအနားအစီအစဉ်များနှင့် ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများ၏ စာရင်းကို ဖတ်ကြားလျှောက်ထားသည်၊ ထို့နောက် ပရိသတ်များက ဆရာတော်ကြီးများကို ကန်တော့ကြပြီး ဆရာတော်ကြီးများကိုယ်စား ပြည်မြို့ စန္ဒာရုံကျောင်းတိုက် ပဓာန နာယကဆရာတော် ဦးသုဇာတက ငါးပါးသီလချီးမြှင့်တော်မူပြီး ဆက်လက်၍ဆရာတော်များက မေတ္တသုတ်ပရိတ်တော်များကို ချီးမြှင့်တော်မူကြသည်။

၎င်းနောက် ပြည်ထဲရေးနှင့်သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ ကိုယ်စား ပဲခူးတိုင်း ပြည်သူ့ကောင်စီဥက္ကဋ္ဌ ဒုတိယဗိုလ်မှူးကြီးထွန်းကျော်က သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး



ဥုဗ်ၜးထေယုၚ်ကြလ ၚုကြဟအးနှ်ထိုးၝြုဲးဂိဝ်လ္ဂဲ-၆
ဓွှ်ယေဒးဒှ်ပွ်ုဲးဇ်ၚ ဂြှ်ယုံ်ုဲးဒှ်ကြယဒှ်ယေဗွှ်ဒေဒ ဂြိုလ္ဂြ် ၊ဒှ်ပွ်ုဲးဇ်ၚ



၁၃၄၁-ခုနှစ် နတ်တော်လဆုတ် ၁၃-ရက်နေ့တွင် ပဲခူးတိုင်း
သံဃာ့ဦးသျှောင် ဆရာတော်များ သံဃာ့ကိုယ်စားလှယ်ရွေးချယ်ပေးရန်
ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဒုတိယဝန်ကြီးလျှောက်ထားစဉ်

ဖြစ်မြောက်ရေးအတွက် တာဝန်ယူဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် ဆရာတော်တပါးကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သော နည်းဖြင့် ဓမ္မဝိနယနှင့်အညီ ရွေးချယ်ပေးတော်မူပါမည့်အကြောင်း လျှောက်ထားသည်။

**ဝမ်းမြောက်။** ။ယင်းသို့ ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ကိုယ်စား ပဲခူးတိုင်း ပြည်သူ့ကောင်စီဥက္ကဋ္ဌ၏လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော်မူလာကြသော ဆရာတော်ကြီးများ၏ ကိုယ်စား ပန်းတောင်းမြို့ သဒ္ဓမ္မဝံသပေါင်းတည်ကျောင်း ဆရာတော်ကလည်းကောင်း ပေါင်းတည်မြို့ သဒ္ဓမ္မဇောတိကာရုံကျောင်း ဝိသိဋ္ဌ ဒီဃဘာဏက, ဒီဃနိကာယ ကောဝိဒ မြို့မသုဓမ္မာနိကာယ ဂိုဏ်းထောက်ဆရာတော် အရှင်တေဇောဘာသာ ဘိဝံသက လည်းကောင်း ပေါက်ခေါင်းမြို့ ပညာဇောတာရုံကျောင်း ဆရာတော် ဦးနန္ဒိယကလည်းကောင်း ဝမ်းမြောက်စကား မြွက်ကြားတော်မူကြရာတွင်—

ရေဒီယိုမှ သတင်းကောင်း ကြားရခါစကပင် ဝမ်းမြောက်ဝမ်းသာဖြစ်ရကြောင်း။

**စိတ်အလို မပြည့်ခဲ့။** ။ယခုလာရောက် လျှောက်ထား၍ ပြည့်ပြည့် စုံစုံ သိရပြန်သဖြင့် နှစ်ပေါင်းများစွာက မျှော်လင့်ခဲ့သော တောင့်တမှုကြီး ပြည့်စုံပြီဖြစ်၍ လွန်စွာ ဝမ်းမြောက်ခြင်းဖြစ်ရကြောင်း၊ ဆရာတော်များအနေဖြင့် ကိုယ့်နည်းကိုယ့်ဟန်ဖြင့် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးတို့ကို ကိုယ်စွမ်းရှိသမျှ အတိုင်းအတာအထိ ဆောင်ရွက်လျက်ရှိကြကြောင်း၊ သို့သော် စိတ်အလိုကျ အပြည့်အဝအောင်မြင်မှုမရှိခဲ့ကြောင်း။

**အာဏာစက်ဖြင့် ကူညီ။** ။ယခုလို သာသနာတော်အတွက် ဆောင်ရွက်နိုင်ပြီး နိုင်ငံတော်အစိုးရ၏ လျှောက်ထားချက်ကိုကြားသိရသဖြင့် ဖရဏာပီတိ ဂွမ်းဆီထိမျှ ဝမ်းမြောက်ရကြောင်း၊ ဓမ္မစက်ကြီးသက်သက်ဖြင့် ခရီးဆက်ရမည့် အနာဂတ် သာသနာမှာ ရင်လေးဖွယ်ရာသာဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရ မင်းများက ယခုကဲ့သို့ ဓမ္မစက်ကို အာဏာစက်ဖြင့် ကူညီ သာသနာပြုကြမည် ဆိုလျှင် နှစ်ပေါင်း ၂၅၀၀-မှက အနာဂတ်သာသနာသည် နှစ်ပေါင်း ၅၀၀၀-မျှ တိုင်အောင် အစွန့်ရှည် တည်တံ့ပြန့်ပွားလာမည်ဟု ယုံကြည်ကြကြောင်း။

**ဆက်လက် သာသနာပြု။** ။မည်ကဲ့သို့ အခက်အခဲရှိရှိ မည်သည့် ဆူးငြောင့် အနှောင့်အကောက်များကို တွေ့တွေ့ ဇွဲလုံ့လ ဝီရိယ သတ္တိ တို့ဖြင့် ကြိုးစား ဆောင်ရွက် ဆက်လက်သာသနာ ပြုကြစေလိုကြောင်း သမ္မောဒနီယ

ကထာ ဝမ်းမြောက်စကား မြွက်ကြားကြရာ ဆရာတော်ကြီးများနှင့်ပရိသတ်များက သာဓုအနုမောဒနာ ပြုကြသည်။

ဇေ့ံ ဟိ ပြည်သူ့ပုရေပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## ကြို့ပင်ကောက်မြို့၌ ရွေးကောက်ထား စည်းဝေး

သာယာဝတီ အခြေခံဒေသ ရှစ်မြို့နယ်မှ ဆရာတော်ကြီး ၈၇-ပါးတို့အား ၁၃၄၁-ခုနှစ် ပြာသိုလဆန်း ၁-ရက် (၁၈-၁၂-၇၉) နေ့တွင် ကြို့ပင်ကောက်မြို့ ပါဠိတက္ကသိုလ်ကျောင်းတိုက် ဓမ္မာရုံတွင် တိုင်းပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ထွန်းကျော်က ရွေးကောက်ထားရာ ကြို့ပင်ကောက်မြို့ ပါဠိတက္ကသိုလ် ကျောင်းတိုက်မှ တိုက်အုပ်ဆရာတော် အရှင်ဥတ္တရာဘိဇကို သာယာဝတီ အခြေခံဒေသ သံဃာ့ဝန်ဆောင် ဆရာတော်အဖြစ် ရွေးချယ် ပေးတော်မူကြသည်။

ကြို့ပင်ကောက် နဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## တောင်ငူမြို့၌ ရွေးကောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ် ပေးပါရန် တောင်ငူမြို့ အခြေခံဒေသရှိ ၆-မြို့နယ်မှ သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ဦးဆောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ ရွေးကောက်ထားလွှာကို ပဲခူးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယဗိုလ်မှူးကြီး ထွန်းကျော်က ၁၃၄၁-ခု ပြာသိုလဆန်း ၆-ရက် (၂၃-၁၂-၇၉) နေ့ နံနက် ၉-နာရီ အချိန်တွင် တောင်ငူမြို့ မြစည်းခုံကျောင်းတိုက်၌ ရွေးကောက်ထားသည့် အခမ်းအနားကို ကျင်းပသည်။

**ဆရာတော်ကြီးများ။** ။အဆိုပါ အခမ်းအနားသို့ တောင်ငူမြို့ ဇေတဝန်ကျောင်းတိုက် မြစည်းခုံ ပဝါရဏာ ဩဝါဒါစရိယ မြို့နယ် ဝိနိစ္ဆယ ဝိနည်းဓိုရ် ဇေတဝန်ဆရာတော် ဦးဇဝန၊ အုတ်တွင်းမြို့နယ် သံဘိုကျောင်း

တိုက် တောင်ငူဒေသလုံးဆိုင်ရာ သုဓမ္မာ ဧရိယဂ္ဂစာပြန်ရှင် သြဝါဒါစရိယ ဆရာတော် ဦးဇောတိက၊ ဖြူးမြို့ ပင်းကျောင်းတိုက် မြို့မဂိုဏ်း မဟာနာယက ဆရာတော် ဦးကုသလ၊ ထန်းတပင်မြို့နယ် ဒါးဒေါ်ကျောင်းတိုက် သုဓမ္မာ နိကာယ ဂိုဏ်းထောက်ဆရာတော် ဦးသုဇာတ၊ ကျောက်ကြီးမြို့ အဘယသုခ ကျောင်းတိုက် သရက်ဟော်ဂိုဏ်း နာယကဆရာတော် ဦးအရိန္ဒမ၊ ရေတာရှည်မြို့ ဇာတ်တော်ကျောင်းတိုက် မြို့မပဝါရဏာ နာယကဆရာတော် ဦးစက္ကိန္ဒ အမှူး ပြုသော တောင်ငူ, အုတ်တွင်း, ဖြူး, ထန်းတပင်, ကျောက်ကြီး, ရေတာရှည် မြို့နယ်များမှ ထင်ရှား ကျော်စောသော ဆရာတော်ကြီးများ အပါအဝင် ဆရာတော်ကြီး ၅၀-ပါးနှင့် ပဲခူးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ထွန်းကျော်, အလုပ်အမှုဆောင် အဖွဲ့ဝင် ဦးကျော်ညွှန့်, ပဲခူး တိုင်း သာသနာရေးဦးစီးဌာနမှူး ဦးသိန်းဆွေ၊ အလယ်ပိုင်းတိုင်း စစ်ဌာနချုပ် ဒုတိယဗိုလ်မှူးကြီး အောင်ကြည်နှင့် တာဝန်ရှိပုဂ္ဂိုလ်များတက်ရောက်ကြသည်။

**မေတ္တာသုတ် ချီးမြှင့်။** ။ဆရာတော် ကြီးများ၏ ကိုယ်စား တောင်ငူမြို့ ရခိုင်စုကွင်းကျောင်း ဆရာတော် ဦးဥတ္တရာ ငါးပါးသီလ ချီးမြှင့်တော် မူပြီး ဆက်လက်၍ ဆရာတော်ကြီးများက မေတ္တာသုတ် ပရိတ်တော်ကို ချီးမြှင့် တော် မူကြသည်။

**ဝန်ကြီး၏ လျှောက်ထားလွှာ။** ။ဝင်းနောက် ပြည်ထဲရေးနှင့် သာသနာ ရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ပဲခူးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ထွန်းကျော်က လျှောက်ထားသည်။

**ဝမ်းမြောက်စကား။** ။ယင်းသို့ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး ဌာန ဝန်ကြီး၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ကြွရောက်တော် မူကြ သော ဆရာတော်ကြီးများ ကိုယ်စား တောင်ငူမြို့ ရခိုင်စုကွင်းကျောင်း ဆရာ တော် ဦးဥတ္တရက ဝမ်းမြောက်စကား မြွက်ကြားရာတွင် သာသနာဆိုသည်မှာ မမှတ်သက်သက်ဖြင့် ဆောင်ရွက်နေပါက သန့်ရှင်း တည်တံ့ ပြန့်ပွားမှု ရှိသင့်သလောက် မရှိနိုင်ကြောင်း၊ ဝမ္မစက်ကို အာဏာစက်ဖြင့် ဖြည့်စွက်ကူညီ ပါမှ သန့်ရှင်း တည်တံ့ ပြန့်ပွားနိုင်မည်ဖြစ်ကြောင်း။

**အဇာတသတ်မင်း။** ။ပဋ္ဌမသင်္ဂါယနာတင်စဉ်က အဇာတသတ် မင်းက လျှောက်ထားသကဲ့သို့ ဆရာတော်သံဃာတော်များက ကျပ်ကျပ်တပ်တပ် ရဲရဲတင်းတင်းဖြင့် သာသနာပြုတော်မူကြပြီး တပည့်တော်တို့က အာဏာစက်ဖြင့် ကူညီ၍ သာသနာပြုမည်ဖြစ်ကြောင်း လျှောက်ထားသည့် နည်းတူ ယခုလည်း ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားချက်မှာ ကူညီသဖြင့် သာသနာပြုမှု နည်းမှန် လမ်းမှန် ဖြစ်ကြောင်း။

**ပုဂံ အနော်ရထာမင်း**။ ။ပုဂံ အနော်ရထာမင်းသည် အရှင်အရဟံ မထေရ်နှင့် အာဏာစက်၊ ဓမ္မစက် ပူးပေါင်း၍ သာသနာတော်ကို သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့သဖြင့် ယနေ့တိုင်အောင် သာသနာ တည်တံ့ ပြန့်ပွားမှု ရှိနေကြောင်း။

**အသုဒ္ဓ ရဟန်းများ ရှိနေ**။ ။သို့သော် သိက္ခာမတင် သိမ်မဝင်သော ရဟန်းတု၊ ရဟန်းယောင်များ ရှိနေသလို သိက္ခာတင် သိမ်ဝင်ခဲ့သည့် အသုဒ္ဓ ရဟန်းများလည်း ရှိနေကြောင်း၊ ထို့ကြောင့် ရဟန်းတု ရဟန်းယောင် အသုဒ္ဓ ရဟန်းများအားလုံး ကင်းဝေးအောင် ပြုလုပ်ပေးနိုင်မှသာလျှင် ဗုဒ္ဓ သာသနာတော်ကြီးသည် သန့်ရှင်း စင်ကြယ်ပြီး တည်တံ့ပြန့်ပွားတိုးတက်လာ မည်ဖြစ်ကြောင်း။

**ရှင်လမ်း ဝမ်းမြောက်**။ ။နိုင်ငံတော်အစိုးရအနေဖြင့် ယခုလိုသာရောက် လျှောက်ထားသဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ဆောင်ရွက်ပေးမည်ဟု မိမိတို့ယုံကြည်၍ ရှင်လန်း ဝမ်းမြောက်ကြပါကြောင်း စသည်ဖြင့် သမ္မောဒနီယ ကထာ ဝမ်းမြောက်စကား မိန့်ကြားရာ ကြွရောက် တော်မူလာကြသော ဆရာတော်ကြီးများနှင့် တကွ ပရိသတ်အပေါင်းတို့က သာဓု အနုမောဒနာ ခေါ်ကြသည်။

**သံဃာ့ အစည်းအဝေး**။ ။ပဲခူးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ၏ လျှောက် ထား အပြီးတွင် သံဃာ့ဝန်ဆောင် ရွေးချယ်ရန် သံဃာ့အစည်းအဝေးကြီးကို ဆက်လက် ကျင်းပတော်မူကြသည်။

**ဦးတိက္ခသာရ**။ ။ထိုသံဃာ့ အစည်း အဝေးမှ တောင်ငူ အခြေခံသော သံဃာ့ဝန်ဆောင် ဆရာတော်အဖြစ် ကောင်ငူမြို့ မြစည်းခုံ စာသင်တိုက် ဆရာတော် ( အစိုးရ ဓမ္မာစရိယ ) တောင်ငူခရိုင်လုံးဆိုင်ရာ သုခမ္မာနိကာယ ပရိယတ္တိစာပြန်ပွဲ ဒုတိယ ဥက္ကဋ္ဌ မြစည်းခုံ ပဂါရဏာအကျိုးဆောင် ဆရာ တော် ဦးတိက္ခသာရအား ကြွရောက်တော်မူလာကြသော ဆရာတော်များ အားလုံးက တညီတညွတ်တည်း ရွေးချယ်တင်မြှောက်ကြသည်။

တောင်ငူဝှနဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိတိ။
မဟာတော သန္နိပါတသ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ်။

## ကော့ကရိတ် နှင့် မအူပင် ဒေသ လျှောက်ထားစည်းဝေး

သာသနာ သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ်ပေးတော်မူကြပါရန် ကရင်ပြည်နယ် ကော့ကရိတ်အခြေခံဒေသအတွင်းရှိ သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ကော့ကရိတ်မြို့ တောင်ပေါ်ကျောင်းမှာရုံ၌ ၁၃၄၁-ခု ပြာသိုလဆန်း ၈-ရက် (၂၆-၁၂-၇၉) နေ့ မွန်းလွဲပိုင်းတွင် ကျင်းပသည်။

**သံဃာတော်များ စုံညီ။** ။ယင်းအခမ်းအနားသို့ ကြာအင်းဆိပ်ကြီးမြို့နယ် မဏိရတနာကျောင်းတိုက်ဆရာတော် ဦးမဏိသာရ၊ ခလယ်တံခွန်တိုင်ဆရာတော် ဦးစန္ဒိမာ အမှူးပြုသော သံဃာတော် ၅-ပါး၊ ကော့ကရိတ်မြို့နယ်မှ မဟာဗိုလ်စာသင်တိုက်ကျောင်းဆရာတော် ဦးတိက္ခိန္ဒ၊ တောင်ပေါ်ကျောင်းဆရာတော် ဦးမာနိတ၊ မြို့မကျောင်းကြီးဆရာတော် ဦးစန္ဒောဘာသ၊ ကော့ဘိမ်းကျောင်းကြီးဆရာတော် ဦးပညာသီဟ အမှူးပြုသော သံဃာတော် ၄၅-ပါးနှင့် ပါတီယူနစ်ဥက္ကဋ္ဌ ဦးတင်လှနှင့် ကော်ပတီဝင်များ၊ မြို့နယ်ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးမြသွင်နှင့် အလုပ်အမှုဆောင်အဖွဲ့ဝင်များ၊ အမှတ် (၈၇) ခြေလျင်တပ်ရင်းမှ တပ်ရင်းမှူး ဗိုလ်မှူးလှပေါင်၊ မြို့နယ် တရားသူကြီးအဖွဲ့ ဥက္ကဋ္ဌ ဦးစောဟန်ငယ်နှင့် အဖွဲ့ဝင်များ၊ မြို့နယ် လုပ်ငန်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ဦးငွေသောင်းနှင့် အဖွဲ့ဝင်များ၊ မြို့မိမြို့ဖများ တက်ရောက်ကြသည်။

**လျှောက်ထား။** ။အခမ်းအနား အစီအစဉ်နှင့် ကြွရောက်လာကြသော သံဃာတော်များ၏ စာရင်းကို ကရင်ပြည်နယ် သာသနာရေး ဦးစီးမှူး ဦးလေးမောင်က ဖတ်ကြား လျှောက်ထားပြီးနောက် မဟာဗောဓိကျောင်းဆရာတော်ထံမှ ငါးပါးသီလ ခံယူကြသည်။

**ဖတ်ကြား။** ။ထို့နောက် ဆရာတော်များက မေတ္တသုတ် ပရိတ်တော်ကို ချီးမြှင့်သည်၊ ထို့နောက် ကရင်ပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင် ဦးမန်းသင့်နောင်က ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို ဖတ်ကြားလျှောက်ထားသည်။

**ရွေးချယ်ပေး။** ။ဆရာတော်များ ကိုယ်စား တောင်ပေါ်ကျောင်းဆရာတော် ဦးမာနိတက သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး

အတွက် နိုင်ငံတော်က စီစဉ် ဆောင်ရွက်မှုကို ကျေးဇူး တင်ရှိကြောင်း သမ္မောဒနီယကထာ ဩဝါဒစကား မြွက်ကြားပြီး ကော့ကရိတ် အခြေခံ ဒေသအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ကိုယ်စားလှယ်ကို တညီတညွတ်တည်း ရွေးချယ်လိုက်ကြသည်။

ကော့ကရိတ် နဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိ၀ါ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗ သမ္မာဒိတော ဟိ ခေါ။

## မအူပင်မြို့၌ ကျောက်ထား စည်းဝေး

အလားတူပင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော် မူကြရန် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ ရွေးချယ် ပေးတော်မူကြပါရန် မအူပင် အခြေခံ ဒေသ အတွင်းရှိ မအူပင်, ပန်းတနော်, ညောင်တုန်း, ဓနုဖြူ မြို့များမှ သံဃာ့နာယက သာသနာ့ ဦးသျှောင် ဆရာတော် ၄၅-ပါးတို့အား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာန ဝန်ကြီး၏ ကျောက်ထားလွှာကို ရောဝတီတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ခိုင်က ကျောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခု ပြာသိုလ်လဆန်း ၉-ရက် (၂၆-၁၂-၇၉) နေ့၌ပင် မွန်းလွဲပိုင်း ၁-နာရီတွင် မအူပင်မြို့လယ် ဘုရားတန်ဆောင်း အတွင်းတွင် ကျင်းပသည်။

**ဝမ်းမြောက်။** ။ယင်းအခမ်းအနားတွင် သုဓမ္မာဂိုဏ်းဝင် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများ၏ ကိုယ်စား ညောင်တုန်းမြို့ နိဂြောဓာရုံကျောင်းတိုက် ဦးကဝိဗီယက သမ္မောဒနီယကထာ ဝမ်းမြောက် စကား ပြန်လည် မြွက်ကြားတော်မူသည်။

**တညီတညွတ်တည်းရွေး။** ။ထို့နောက် မအူပင် အခြေခံဒေသ သုဓမ္မာဂိုဏ်း သံဃာ့နာယက, သာသနာ့ဦးသျှောင် ဆရာတော်ကြီးများ၏ ကိုယ်စား သံဃာ့ ဝန်ဆောင် ဆရာတော်ကို တညီတညွတ်တည်း ရွေးချယ်၍ မွန်းလွဲ ၂-နာရီ အချိန်တွင် အခမ်းအနားကို ရုပ်သိမ်းသည်။

မအူပင်နဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိ၀ါ။
**မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။**

## ထားဝယ်မြို့၌ လျှောက်ထား စည်းဝေး

တနင်္သာရီတိုင်း အတွင်းရှိ ထားဝယ်, သရက်ချောင်း, ရေဖြူနှင့် လောင်းလုံးမြို့နယ်တို့မှ ထင်ရှားကျော်ကြားသော ဆရာတော်ကြီးများအား သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး အောင်မြင်စွာ ကျင်းပနိုင်ရန် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် ရွေးချယ်ပေးပါရန် လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခု၊ ပြာသိုလဆန်း ၁၁-ရက်၊ (၂၈-၁၂-၇၉) နေ့ မွန်းတည့် ၁၂-နာရီ အချိန်တွင် ထားဝယ်မြို့ ဃောသိတာရာမ ပါဠိတက္ကသိုလ်ကျောင်း တိုက်၌ ပြုလုပ်သည်။

**စုံစုံ ညီညီ။** ။ဖော်ပြပါ အခမ်းအနားသို့ ဒေသပါတီ ကော်မတီဝင်များ ဖြစ်ကြသော ဦးအေး နှင့် ဦးကံ၊ တိုင်းပြည်သူ့ကောင်စီ အတွင်းရေးမှူး ဦးအုန်းညွန့်နှင့် အာဏာပိုင် အဖွဲ့အစည်းများမှပုဂ္ဂိုလ်များ၊ မြို့နယ်လေးမြို့နယ်မှ ပါတီ ပြည်သူ့ကောင်စီများ၊ ဥက္ကဋ္ဌများနှင့် အဖွဲ့ဝင်များ၊ သာသနာရေး ဦးစီးဌာန ကျမ်းပြုမှူး ဦးအေးနိုင်နှင့် အဖွဲ့ဝင်များ တက်ရောက်ကြသည်။

**မေတ္တသုတ် ချီးမြှင့်။** ။အခမ်းအနားတွင် အခမ်းနားမှူးအဖြစ် တိုင်း သာသနာရေး ဦးစီးမှူး ဦးထွန်းဝင်းက ဆောင်ရွက်ပြီး ကြွရောက်တော်မူကြ သည့် ဆရာတော်ကြီးများ စာရင်းကို သာသနာရေးဦးစီးဌာန ဒုတိယ ကျမ်းပြုမှူး ဦးညွန့်ဇော်က ဖတ်ကြား လျှောက်ထားသည်။ ထို့နောက် ဇေယျဝတီတိုက် ဆရာတော်က ငါးပါးသီလ ချီးမြှင့်ပြီး ဆက်လက်၍ ဆရာ တော်ကြီးများက မေတ္တသုတ် ပရိတ်တရားတော်ကို ချီးမြှင့်တော်မူကြသည်။

**လျှောက်ထား။** ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်း ပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး အောင်မြင်စွာ ကျင်းပနိုင်ရေးအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်တပါး ရွေးချယ်ပေးတော်မူကြပါရန် သံဃာ့နာယက, သာသနာ့ဦးသျှောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထား လွှာကို သာသနာရေး ဦးစီးဌာန ကျမ်းပြုမှူး ဦးအေးနိုင်က လျှောက်ထား သည်။

**ဝမ်းမြောက်။** ။ယင်းလျှောက်ထားချက်နှင့် ပတ်သက်၍ ဃောသိတာ ရာမပါဠိတက္ကသိုလ်ကျောင်းတိုက် ဆရာတော်က ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများ၏ကိုယ်စား သမ္မောဒနီယကထာ ဝမ်းမြောက်စကား မိန့် ကြားတော်မူသည်။

**ရွေးချယ်ပေး။** ။ထို့နောက် ဝန်ကြီး၏ လျှောက်ထားချက်နှင့် ပတ်သက်၍ ဆရာတော်ကြီးများ၏ မေးမြန်းချက်များကို သက်ဆိုင်ရာ တာဝန်ရှိ ပုဂ္ဂိုလ်များက ပြန်လည်ဖြေကြား လျှောက်ထား ပြီးနောက် တိုင်းပြည်သူ့ ကောင်စီ အတွင်းရေးမှူး ဦးအုန်းညွန့်က လေးမြို့နယ်အတွက် သံဃာ့ဝန်ဆောင် ဆရာတော် ၁-ပါး ရွေးချယ်ပေးပါရန် ထပ်မံလျှောက်ထားရာ ဆရာတော်များက အစည်းအဝေးဆက်လက်ကျင်းပပြီးနောက် သံဃာ့ဝန်ဆောင် ဆရာတော် ၁-ပါးကို တညီတညွတ်တည်း ရွေးချယ်လိုက်ပြီး အခမ်းအနားကို မွန်းလွဲ ၁-နာရီခွဲတွင် ရုပ်သိမ်းလိုက်သည်။

ဧဝံ ထားဝယ်နဂရေပိ၊ သန္နိပါတော သမုဋ္ဌိတိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## မင်းဘူးမြို့၌ လျှောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ရွေးချယ်ပေးတော်မူပါရန် မင်းဘူးအခြေခံဒေသရှိ ငါးမြို့နယ်မှ သုဓမ္မာဂိုဏ်းဝင် သံဃာ့ နာယက သံဃာ့ဦးဆောင် ဆရာတော်ကြီးများအား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို မကွေးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးတင်မြင့်က လျှောက်ထားသည့် အခမ်းအနားကို ပြာသိုလဆန်း ၁၁-ရက် ( ၂၀-၁၂-၇၉ ) နေ့ နံနက် ၉-နာရီအချိန်တွင် မင်းဘူးမြို့ မဟာ ဝိသုတာရာမကျောင်းတိုက်တွင် ကျင်းပသည်။

**သံဃာတော်များ စုံညီ။** ။အဆိုပါ အခမ်းအနားသို့ မင်းဘူး၊ ပွင့်ဖြူ၊ စလင်း၊ စေတုတ္တရာ နှင့် ငဖဲမြို့နယ်များမှ ပင့်လျှောက်ထားသည့် သံဃာတော်များ နှင့် မြို့နယ်ပါတီယူနစ်မှ ပုဂ္ဂိုလ်များ မြို့နယ်ပြည်သူ့ကောင်စီ အာဏာပိုင် အဖွဲ့အစည်း ၃-ရပ်မှ ပုဂ္ဂိုလ်များ၊ ဌာနဆိုင်ရာမှ ပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**မေတ္တာသုတ် ချီးမြှင့်။** ။ရှေးဦးစွာ အခမ်းအနား အစီအစဉ် နှင့် ကြွရောက်လာကြသည့် သံဃာတော်များ၏ အမည်စာရင်းကို တိုင်းသာသနာရေး ဦးစီး ဌာနမှူး ဦးစိန်လှိုင်က ဖတ်ကြားလျှောက်ထားသည်။ ထို့နောက် တက်ရောက်လာကြသည့် ပရိသတ်များက မဟာဝိဇယာရာမတိုက်သစ် (ဆင်ဖြူကျွန်းမြို့)

ဆရာတော် ဦးနန္ဒာဘိဝံသထံမှ ငါးပါးသီလ ခံယူကြပြီးနောက် ဆရာတော်ကြီးများက မေတ္တသုတ် ပရိတ်တော်ကို ရွတ်ဆိုချီးမြှင့်တော် မူကြသည်။

**လျှောက်ထား။** ။၎င်းနောက် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်ကြမည့် သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပေးပါရန် ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို မကွေးတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးတင်မြင့်က ငါးမြို့နယ်မှ ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများအား လျှောက်ထားပြီး မင်းဘူး အခြေခံဒေသမှ ဝန်ဆောင် သံဃာတော်တပါး ရွေးချယ်ပေးတော်မူပါရန် လျှောက်ထားသည်။

**သင့်မြတ်လျော်ကန်။** ။ထို့နောက် လျှောက်ထားချက်နှင့် ပတ်သက်၍ ဆရာတော်ကြီးများ ကိုယ်စား ပွင့်ဖြူမြို့နယ် ညောင်ပင်စောက် ဆရာတော် ဦးဇဝန၏ သမ္မောဒနီယကထာ ဝမ်းမြောက်စကားကို ဆင်ဖြူကျွန်းမြို့ မဟာဝိသုတာရာမတိုက်မှ ဦးပညာဇောတက မြွက်ကြားတော်မူရာ သီရိဓမ္မာသောကမင်းကြီး လက်ထက်က သာသနာတော်၏ အနှောင့်အရှက်များကို အာဏာစက်ဖြင့် ဖယ်ရှားခဲ့သည့် သာဓကရှိခဲ့ကြောင်း အလားတူပင် ယခု ဆောင်ရွက်ချက်များသည် သင့်မြတ်လျော်ကန်မှု ရှိကြောင်း။

**ပွင့်သစ်စ ခရုသင်း ပမာ။** ။ယင်းသို့ ဆောင်ရွက်မှသာလျှင် ဗုဒ္ဓမြတ်စွာ သာသနာသည် ပွင့်သစ်စ ခရုသင်းပမာ သန့်ရှင်း စင်ကြယ်မည့်ပြင် မြန်မာ ပြည်သူ ပြည်သားများသာမက ကမ္ဘာ့သူ ကမ္ဘာ့သားများပါ ချမ်းသာကြမည့် အစီအစဉ် ဖြစ်ကြောင်း ပါရှိသည်။

**ရွေးချယ်။** ။မင်းဘူး အခြေခံဒေသမှ သံဃာ့ဝန်ဆောင် အဖြစ် စလင်းမြို့ မဟာဝိသုတာရာမတိုက်မှ ဆရာတော် ဦးကိတ္တိကို ဆရာတော်ကြီးများက တညီတညွတ်တည်း ရွေးချယ်ပေးကြသည်။

မင်းဘူးဌာနဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဘာဒိတော ဟိ ခေါ။

## ဖျာပုံမြို့ လျှောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာ

တော်များ ရွေးချယ်ပေးရေးအတွက် သံဃာ့နာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများ၊ ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ပြာသိုလဆန်း ၁၁-ရက် (၂၀၊၁၂၊၇၉) နေ့ မွန်းလွဲ ၁၂-နာရီ ၁၅-မိနစ် အချိန်တွင် ဖျာပုံမြို့နယ် ကိုက်သစ်ကျောင်းတိုက်၌ ပြုလုပ်ရာ ဖျာပုံ၊ ဘိုကလေး၊ ဒေးဒရဲ၊ ကျိုက်လတ် မြို့နယ်များမှ ထင်ရှားကျော်ကြားသည့် ဆရာတော် ၄၁ -ပါး၊ ဧရာဝတီတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ခေိုင် နှင့် တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြသည်။

**ဝမ်းမြောက်။** ။ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ဧရာဝတီတိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ခေိုင်က လျှောက်ထားရာ ယင်းလျှောက်ထားချက်နှင့် ပတ်သက်၍ ဖျာပုံမြို့ ဝေဇယန္တာကျောင်းတိုက် ဆရာတော် ဦးဝိစက္ခက သမ္မောဒနီယကထာ ဝမ်းမြောက်စကား မိန့်ကြားတော်မူသည်။

**ရွေးချယ်။** ။ထို့နောက် သံဃာ့ဝန်ဆောင် ဆရာတော် ၁ - ပါးကို ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများက တညီတညွတ်တည်း ရွေးချယ်လိုက်ပြီးနောက် အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

ဖျာပုံဝှအဓိဋ္ဌာနေပိ၊ သန္နိပါတော သမုဋ္ဌိတိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ပာဒိတော ဟိ ခေါ။

## ဗန်းမော်မြို့၌ လျှောက်ထား စည်းဝေး

သံဃာ့ဝန်ဆောင် ရွေးချယ်ရေးအစည်းအဝေးကို ဗန်းမော်မြို့ အားကစားရုံကြီး၌ ၁၃၄၁-ခု၊ ပြာသိုလဆန်း ၁၄ ရက် (၃၁-၁၂-၇၉) မွန်းလွဲ ၁-နာရီ အချိန်တွင် ကျင်းပရာ ဗန်းမော်ဒေသတွင် ပါဝင်သည့် ဗန်းမော်၊ မိုးမောက်၊ မန်းစီ နှင့် ရွှေကူမြို့နယ်များမှ သံဃာတော် ၃၇-ပါး တက်ရောက်ကြပြီး အစည်းအဝေးတွင် သိမ်တော်ကြီးကျောင်း ဆရာတော် ဦးဣန္ဒောဘာသက နာယကအဖြစ် ဆောင်ရွက်၍ ပြည်နယ်သာသနာရေး အရာရှိ ဦးညဏ်ရည်က အခမ်းအနားမှူးအဖြစ် ဆောင်ရွက်သည်။

**ဖတ်ကြား။** ။အစည်းအဝေးတွင် သံဃာ့ဝန်ဆောင် ရွေးချယ်ပေးရေး နှင့် ပတ်သက်၍ ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားချက်ကို ကချင်ပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင် ဦးစပ်နွယ်ဆားတော်က ဖတ်ကြားလျှောက်ထားသည်။

**သာစုခေါ်။** ။ထို့နောက် ဗန်းမော်မြို့ သိမ်တော်ကြီးကျောင်း ဆရာတော် ဦးဣန္ဒောဘာသ၊ သိမ်းဖားတောင် ဆရာတော် ဦးနာဂိန္ဒ၊ လယ်ပေါ် ဆရာတော် ဦးနန္ဒိယ တို့က သမ္မောဒနီယကထာ မိန့်ကြားတော်မူရာ ကြွရောက်လာသည့် ပရိသတ်က သာစုအနုမောဒနာ ၃-ကြိမ်ခေါ်ကြပြီး အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

**ရွေးချယ်။** ။ထို့နောက် သံဃာ့ဝန်ဆောင် ကိုယ်စားလှယ် အဖြစ် ရွှေကူမြို့မကျောင်း ဆရာတော် ဦးဇဝနကို ဓမ္မဝိနယနှင့် အညီ ရွေးချယ်တော်မူကြသည်။

ဗန်းမော်ဒွယသုပုရေပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဗာဒိတော ဟိ ခေါ။

## လားရှိုးမြို့၌ လျှောက်ထား စည်းဝေး

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ပွဲကြီး ဖြစ်မြောက်ရေး အတွက် တာဝန်ယူ ဆောင်ရွက်တော် မူကြသည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ပေးရန် လျှောက်ထားသည့် အခမ်းအနားကို ၁၃၄၁-ခု ပြာသိုလဆုတ် ၇-ရက် (၈-၁-၈၀) နေ့ မွန်းတည့် ၁၂-နာရီ အချိန်တွင် လားရှိုးမြို့ မြို့လယ်ဓမ္မာရုံကြီးတွင် ကျင်းပရာ ရှမ်းပြည်နယ် လားရှိုး၊ ကျောက်မဲ၊ ကျိုင်းတုံ၊ လွိုင်လင်မြို့များမှ သံဃာ့နာယက သာသနာ့ဦးဆောင် ဆရာတော်ကြီးများ ကြွရောက်တော် မူလာကြသည့်ပြင် ရှမ်းပြည်နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဦးထွန်းရင်လေး နှင့် အာဏာပိုင် အဖွဲ့အစည်း ၃-ရပ်မှ ပုဂ္ဂိုလ်များ၊ မြို့နယ်ပါတီ, ပြည်သူ့ကောင်စီ တို့မှ ပုဂ္ဂိုလ်များ၊ ဖိတ်ကြားထားသည့် ပုဂ္ဂိုလ်များပါ တက်ရောက်ကြသည်။

**လျှောက်ထား။** ။ရှမ်းပြည်နယ် ပြည်သူ့ကောင်စီ ဥက္ကဋ္ဌက ဆရာတော်ကြီးများ ပင့်ဖိတ်ရခြင်းနှင့် ပတ်သက်၍ ရှင်းလင်းလျှောက်ထားပြီး ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာကို ရှမ်းပြည်နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့ဝင် လူမှုရေး တာဝန်ခံ ဦးစံသွင်းက ဖတ်ကြား လျှောက်ထားသည်။

**၄-ပါး ရွေးချယ်။** ။ဆက်လက်၍ ပြည်နယ် သာသနာရေး ဦးစီးဌာနမှူး ဦးအောင်ရှိန်က ရှမ်းပြည်နယ် လားရှိုး၊ ကျောက်မဲ၊ ကျိုင်းတုံ၊ လွိုင်လင် အခြေခံ ဒေသများမှ သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ၄ ပါး ရွေးချယ်ပေးပါရန် လျှောက်ထားရာ ဆရာတော်ကြီးများက လားရှိုးမြို့ မြို့လယ်

ပရိယတ္တိ စာသင်တိုက်မှ ဦးကဝိန္ဒ၊ မိုးမိတ်မြို့ ရွှေကျောင်းဆရာတော် ဦးဓမ္မာနန္ဒ၊ ကျိုင်းတုံမြို့ ကျိုင်းရင်း စာသင်တိုက် ဆရာတော် ဦးခေမာစာရ၊ မိုင်းနောင်မြို့ ကမ္မဋ္ဌာန်းတိုက် ဆရာတော် ဦးပဏ္ဍိတတို့ကို သံဃာ့ဆန္ဒဖြင့် ရွေးချယ်တော်မူကြပြီးနောက် လားရှိုးမြို့ မဟာဗောဓာရုံ စာသင်တိုက် ဆရာတော် ဦးကေသရက သမ္မောဒနီယကထာ ဝမ်းမြောက်စကား မြွက်ကြားကာ အခမ်းအနားကို မွန်းလွဲ ၁-နာရီတွင် ရုပ်သိမ်းလိုက်သည်။

လားရှိုးဝှအခ်ဋ္ဌာနေပိ၊ သန္နိပါတော သမုဋ္ဌိတိ။
မဟာတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္မာဒိတော ဟိ ခေါ။

## ရန်ကုန်မြို့၌ လျှောက်ထား စည်းဝေး

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် ရန်ကုန် အခြေခံ ဒေသမှ သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ် ပေးတော် မူရန် အတွက် ၁၃၄၁-ခု တပို့တွဲလဆန်း ၄-ရက် (၂၀-၁-၈၀) နေ့ မွန်းလွဲ ၁-နာရီ အချိန်တွင် ရွှေတိဂုံဘုရားလမ်းရှိ စေတိယင်္ဂဏ သာသနာ့ဗိမာန်၌ ရန်ကုန် စည်ပင်သာယာ နယ်နိမိတ် အတွင်းရှိ ၂၇-မြို့နယ်မှ သံဃာ့နာယက ဆရာတော်ကြီး ၆၄-ပါးတို့အား တိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ ဒုတိယ ဗိုလ်မှူးကြီး ကျော်မြင့်က လျှောက်ထားသည်။

**ဆရာတော် ၅-ပါး။** ။အဆိုပါ သံဃာ့နာယက ဆရာတော်ကြီးများအား ရန်ကုန်တိုင်း ပြည်သူ့ကောင်စီ ဥက္ကဋ္ဌက လျှောက်ထားရာ၌ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်အဖြစ် ရန်ကုန် အခြေခံ ဒေသမှ ဆရာတော် ၅ ပါးကို ဆရာတော်ကြီးများ၏ ဆန္ဒအတိုင်း သင့်လျော်သည့် နည်းဖြင့် ဓမ္မဝိနယနှင့်အညီ ရွေးချယ် ဆောင်ရွက်ပေးတော် မူကြပါရန် ထည့်သွင်း လျှောက်ထားသည်။

**တာဝန်ပေးအပ်။** ။ထို့နောက် ကြွရောက်တော် မူလာကြသည့် ဆရာတော်ကြီးများက ရန်ကုန် အခြေခံ ဒေသအတွက် သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ရေးအတွက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးသေဋ္ဌိလ၊ ဗားကရာ တောရကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးနာဂဝံသ၊ ဥယျာဉ်တိုက် စံဝတီတိုက်ကျောင်း အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးသုဇာတာ-လင်္ကာရ၊ ဗားကရာတိုက် တိလောကာရုံကျောင်း အဂ္ဂမဟာပဏ္ဍိတ ဆရာတော်

ဦးတိလောကာဘိဝံသ၊ ပြည်လမ်း ပဋ္ဌာန်းကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးနာရဒ၊ ကြည့်မြင်တိုင် ကျောင်းကြီးတိုက် ဘုံပျံကျောင်း ဆရာတော် ဦးပညာသာမိ-ဆရာတော်တို့က ရွေးချယ်ပေးတော်မူရန် ကြည်ဖြူ တည်ကြည်စွာ တာဝန်ပေးအပ်ကြသည်။

**ရွေးချယ်။** ။ဆရာတော်ကြီး ၆-ပါး တို့သည် အချင်းချင်း အစည်း အဝေး ပြုလုပ်တော်မူကြပြီးနောက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် များအဖြစ် ကြည့်မြင်တိုင် စမ်းချောင်း ဗားကရာတိုက် တိလောကာရုံကျောင်းမှ အဂ္ဂမဟာပဏ္ဍိတ ဦးတိလောကာဘိဝံသ၊ ကြည့်မြင်တိုင် ကျောင်းကြီးတိုက် ဘုံပျံကျောင်း ဆရာတော် ဦးပညာသာမိ၊ သရက်တောတိုက် ဖျာပုံကျောင်း ဆရာတော် ဦးသြဘာသ၊ ခြောက်ထပ်ကြီး ကျောင်းတိုက်မှ ဆရာတော် ဦးအာဒိစ္စ နှင့် ဝေဠုဝန်နိကာယဂိုဏ်း ပဥ္စနိကာယ သာသနာ့ဗိမာန် ကျောင်းတိုက်မှ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဦးကောသလ္လ တို့ကို တည်ကြည်စွာ ရွေးချယ်တော်မူကြရာ ကြွရောက်တော်မူလာ ကြသည့် ဆရာတော်ကြီးများက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်တော် မူကြပြီး မွန်းလွဲ ၂-နာရီ ၁၅-မိနစ် အချိန်တွင် အခမ်းအနားကို ရုပ်သိမ်း လိုက်သည်။

ဝေရိက္ခယ နဂရေပိ၊ သန္နိပါတော သမုဋ္ဌိတိ။
မဟတော သန္နိပါတဿ၊ ပုဗ္ဗေ သမ္ဗာဒိတော ဟိ ခေါ၊

## ပလက်ဝမြို့၌ လျှောက်ထား စည်းဝေး

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော် မူကြမည့် သံဃာ့ဝန်ဆောင် ဆရာတော်များ ရွေးချယ်ပေးပါရန် ချင်းပြည်နယ် ပလက်ဝမြို့နယ် အတွင်းရှိ သံဃာ့နာယက ဆရာတော်ကြီးများအား ပြည်ထဲ ရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်ထားလွှာကို လျှောက်ထားသည့် အခမ်းအနားကို ပလက်ဝမြို့နယ် ပါတီစည်းရုံးရေး ကော်မတီ အစည်းအဝေး ခန်းမ၌ ၁၃၄၁ - ခုနှစ် ပြာသိုလဆုတ် ၉-ရက် (၁၀-၁-၈၀) နေ့ နံနက် ၈-နာရီခွဲ အချိန်တွင် ကျင်းပသည်။

**တက်ရောက်။** ။အခမ်းအနားသို့ မြို့ပေါ်ရှိ ကျောင်းတိုက် ၃-တိုက်မှ သံဃာတော်များ နှင့် မြို့နယ်သံဃာတော်များ အပါအဝင် သံဃာတော်

၁၉-ပါး၊ မြို့နယ် ပါတီ ပြည်သူ့ကောင်စီ အာဏာပိုင် ၃-ဖွဲ့မှ ပုဂ္ဂိုလ်များနှင့် ဗုဒ္ဓဘာသာဝင်များ တက်ရောက်ကြသည်။

**မေတ္တသုတ် ချီးမြှင့်။** ။အခမ်းအနား အစီအစဉ်အရ ကြွရောက်လာကြသည့် သံဃာတော်များ၏ စာရင်းကို ချင်းပြည်နယ် သာသနာရေးဦးစီးဌာနမှူး ဦးစောထွန်းက ဖတ်ကြားလျှောက်ထားပြီး ဝိသုဒ္ဓါရုံကျောင်း ဆရာတော် ထံတွင် ငါးပါးသီလ ခံယူကြသည်။ ထို့နောက် သံဃာတော် များက မေတ္တသုတ် ပရိတ်တော် ချီးမြှင့်ကြသည်။

**ဝမ်းမြောက်။** ။၎င်းနောက် ချင်းပြည်နယ် ပြည်သူ့ရဲတပ်ဖွဲ့မှူး ဦးလုစိန်က ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ လျှောက်ထားလွှာကို ဖတ်ကြား လျှောက်ထားရာ ကြွရောက်လာကြသည့် သံဃာတော်များ ကိုယ်စား ဝိသုဒ္ဓါရုံကျောင်း ဆရာတော်က သာသနာသန့်ရှင်း တည်တံ့ပြန့်ပွားရေး အတွက် နိုင်ငံတော်က စီစဉ် ဆောင်ရွက်မှုကို ဝမ်းမြောက်ကြောင်း သမ္မောဒနီယ သြဝါဒကထာ မြွက်ကြားပြီး အစည်းအဝေးကို နံနက် ၁၀-နာရီ မိနစ် ၂၀-တွင် ရုပ်သိမ်းသည်။

ပလက်ဝနဂရေစာပိ၊ သန္နိပါတော သမုဗ္ဘဝိ။
မဟာတော သန္နိပါဘဿ၊ ပုဗ္ဗေ သမ္ဗာဒိတော ဟိ ခေါ။

## မဟာဒွါရဂိုဏ်း စည်းဝေး သံဃာ့ဝန်ဆောင်ရွေး

မဟာဒွါရနိကာယ ဂိုဏ်းလုံးဆိုင်ရာ သံဃာ့အစည်းအဝေးကြီးကို ၁၃၄၁-ခုနှစ် တပို့တွဲလဆန်း ၂-ရက်၊ ၃-ရက်၊ ( ၁၈-၁-၈၀၊ ၁၉-၁-၈၀ ) နေ့တွင် ဟင်္သာတမြို့ လယ်တီကျောင်းတိုက်ကြီးတွင် ကျင်းပရာ ဒုတိယသာသနာပိုင် အဂ္ဂမဟာပဏ္ဍိတ ဓနုဖြူမြို့ ဇေတဝင်ပေါ်ကျောင်းတိုက် ဆရာတော်ဘုရားကြီးက သြဝါဒကထာ မြွက်ကြားပြီး နှစ်စဉ်ဆောင်ရွက်မြဲ ဂိုဏ်းတွင်း သာသနာရေးကိစ္စများကို ဆွေးနွေး ဆုံးဖြတ်တော်မူကြသည်။

ယင်းအစည်းအဝေး၌ မဟာဒွါရဂိုဏ်းကြီး၏ ဦးသျှောင်ဆရာတော်ဘုရားကြီးက သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များအဖြစ် ရွေးချယ်ထားသည့် ဟင်္သာတမြို့ လယ်တီကျောင်းတိုက် တိုက်အုပ်ဆရာတော် ဦးခေမာဝုဓ (ဂဏ ရက္ခိတ) နှင့် ရန်ကုန်တိုင်း စမ်းချောင်းမြို့နယ် ဗားကရာတိုက် မင်္ဂလာဗေဓျုံ ကျောင်း ဆရာတော် ဦးဝိဇ္ဇောဒယာဘိဝံသ ( ပဋ္ဌာနကျော်, ဓမ္မာစရိယ ) တို့အား သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များအဖြစ် အစည်းအဝေးကြီးက

ထပ်ဆင့်ထောက်ခံဆန္ဒပြုကြသည်။ ယင်းအစည်းအဝေးကြီးသို့ ကျောင်းထိုင်ဆရာတော် ၅၀၀-ကျော်တို့ ကြွရောက်တော်မူကြသည်။

ဒွါရနေကာယိကာနံပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါဘဿ၊ ပုဗ္ဗေ သမ္ဗာဒိတော ဟိ ခေါ။

## မင်းတပ်မြို့၌ လျှောက်ထား စည်းဝေး

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် ရွေးချယ်ရေးနှင့် ပတ်သက်၍ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ လျှောက်ထားလွှာ လျှောက်ထားသည့်အခမ်းအနားကို ၁၃၄၁-ခု၊ တပို့တွဲလဆန်း ၆-ရက် ( ၂၂-၁၂-၈၀ ) နေ့တွင် မင်းတပ်မြို့ ဗဟိုတောင်တန်း သာသနာပြု ကျောင်းတွင် ကျင်းပသည်။

**လျှောက်ထား။** ။အဆိုပါ အခမ်းအနားသို့ မင်းတပ်မြို့နယ်မှ ဆရာတော်ကြီးများ၊ မြို့နယ်ပါတီကောင်စီမှ တာဝန်ရှိပုဂ္ဂိုလ်များ တက်ရောက်ကြပြီး ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး၏ ကိုယ်စား ချင်းပြည်နယ် လက်ထောက်ပြည်နယ်ပြည်သူ့ရဲဘပ်ဘပ်ဖွဲ့မှူးက ဖတ်ကြား လျှောက်ထားသည်။

**ရွေးချယ်။** ။ဆက်လက်၍ ကြွရောက်လာကြသည့် ဆရာတော်ကြီးများ ကိုယ်စား ဆရာတော် ဦးဇိနိန္ဒတက သမ္ဗောဓနီယကထာ မြွက်ကြားပြီး တဆက်ကည်းပင် ကြွရောက်တော်မူလာကြသည့် ဆရာတော်ကြီးများက ပလက်ဝမြို့မ ဆရာတော် ဦးပညာသာမိအား သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်အဖြစ် ရွေးချယ်တော်မူကြသည်။

မင်းတပ်ဝှနဂရေစာပိ၊ သန္နိပါတော သမုဋ္ဌိဝိ။
မဟာတော သန္နိပါသဿ၊ ပုဗ္ဗေ သမ္ဗာဒိတော ဟိ ခေါ။

## ပဉ္စမပိုင်း အပြီးသတ်ခြင်း

ဤပဉ္စမပိုင်း၌ ပြည်မြို့၊ ကြို့ပင်ကောက်မြို့ စသည့်ဒေသ၌ ပြည်သူ့ကောင်စီ ဥက္ကဋ္ဌ စသော ပုဂ္ဂိုလ်များ၏ လျှောက်ထား, သံဃာ့အစည်းအဝေး ပြုလုပ်ပုံများကို အကျဉ်းဖော်ပြထားသည်။ ယင်းသို့ဖော်ပြ၍ စုံလင် ပြီးမြောက်သဖြင့် ဤတွင် ပဉ္စမပိုင်းကို လက်စသတ်လိုက်ပါပြီ။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိတေ ဣမဂန္ထမှိ၊ သမတ္တော ပဉ္စမော ဟိ ခေါ။

# ဆဌမပိုင်း

ဖော်ပြခဲ့သည့်အတိုင်း ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အတွင်းရှိ အခြေခံဒေသများ၌ လျှောက်ထား စည်းဝေးခြင်း ရွေးချယ်ခဲ့သည့် သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်အောင် ဆောင်ရွက်တော်မူခဲ့ကြသည့် သံဃာ့ဝန်ဆောင် ဆရာတော်ကြီး ၆၆-ပါးမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ ဆရာတော် ဦးသီလဝံသ၊ အစိုးရ ဓမ္မာစရိယ၊ ဝန်းသိုကျောင်း၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။

၂။ ဆရာတော် ဦးဇဝန၊ နာယက ဆရာတော်၊ မြို့မကျောင်း၊ ရွှေဂူမြို့၊ ဗန်းမော်၊ ကချင်ပြည်နယ်။

၃။ ဆရာတော် ဦးနာဂသေန၊ ပထမကျော်၊ မူလဓမ္မာစရိယ၊ မင်းကျောင်းတိုက်၊ လွိုင်ကော်မြို့၊ ကယားပြည်နယ်။

၄။ ဆရာတော် ဦးဣန္ဒြိယ၊ နာယကဆရာတော်၊ မဲဘောင်ကျောင်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

၅။ ဆရာတော် ဦးစန္ဒောဘာသ၊ အစိုးရဓမ္မာစရိယ၊ ဖားကူးကျောင်း၊ ကော့ကရိတ်မြို့နယ်၊ ကရင်ပြည်နယ်။

၆။ ဆရာတော် ဦးပညာသာမိ၊ မူလဓမ္မာစရိယ၊ တောင်တန်းသာသနာပြုကျောင်း၊ ပလက်ဝမြို့၊ မင်းတပ်နှင့် ဖလမ်း၊ ချင်းပြည်နယ်။

၇။ ဆရာတော် ဦးပုညာဘိနန္ဒ၊ နာယက ဆရာတော်၊ တောတောင်ဘီလူးချောင်၊ စစ်ကိုင်းမြို့၊ စစ်ကိုင်းတိုင်း။

၈။ ဆရာတော် ဦးပဏ္ဍိတ၊ နာယကဆရာတော်၊ အနန္တသူရိယချောင်၊ စစ်ကိုင်းမြို့၊ စစ်ကိုင်းတိုင်း။

၉။ ဆရာတော် ဦးဉာဏိန္ဒ၊ မူလဓမ္မာစရိယ၊ ဝေဠုဝန်ကျောင်းတိုက်၊ ရွှေဘိုမြို့၊ စစ်ကိုင်းတိုင်း။

၁၀။ ဆရာတော် ဦးဝိမလာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ, သာသနဓဇ ဓမ္မာစရိယ, ဒီဃနိကာယ ပါဠိပါရဂူ၊ ပုခန်းကျောင်းတိုက်၊ ရွှေဘိုမြို့၊ စစ်ကိုင်းတိုင်း။

၁၁။ ဆရာတော် ဦးနန္ဒဝံသ၊ မူလဓမ္မာစရိယ၊ မြို့မကျောင်း၊ အင်းတော်မြို့၊ ကသာ၊ စစ်ကိုင်းတိုင်း။

၁၂။ ဆရာတော် ဦးမာနိတ၊ နာယက ဆရာတော်၊ မဟာဓမ္မာရုံကျောင်းတိုက်၊ ချောင်းဦးမြို့၊ စစ်ကိုင်းတိုင်း။

၁၃။ ဆရာတော် ဦးပညာဝံသ၊ အစိုးရဓမ္မာစရိယ၊ သထုံဝံသကျောင်းတိုက်၊ မုံရွာမြို့၊ စစ်ကိုင်းတိုင်း။

၁၄။ ဆရာတော် ဦးပညိန္ဒ၊ အစိုးရဓမ္မာစရိယ၊ ဂဏဝါမောက္ခကျောင်းတိုက်၊ တမူးမြို့၊ မော်လိုက် နှင့် နာဂတောင်တန်း၊ စစ်ကိုင်းတိုင်း။

၁၅။ ဆရာတော် ဦးအာစိဏ္ဏာဘိဝံသ၊ သကျသီဟ နှင့် အစိုးရဓမ္မာစရိယ၊ ရွှေဂူကျောင်း၊ ထားဝယ်မြို့၊ တနင်္သာရီတိုင်း။

၁၆။ ဆရာတော် ဦးကုသလ၊ နာယကဆရာတော်၊ ရွှေကျောင်းတိုက်၊ မြိတ်မြို့၊ တနင်္သာရီတိုင်း။

၁၇။ ဆရာတော် ဦးဣန္ဒာစာရ၊ အဂ္ဂမဟာပဏ္ဍိတ၊ မြို့မစာသင်တိုက်၊ ပဲခူးမြို့၊ ပဲခူးတိုင်း။

၁၈။ ဆရာတော် ဦးဥတ္တရ၊ အစိုးရ ဓမ္မာစရိယ၊ တိုက်ကျောင်း၊ ပါဠိတက္ကသိုလ်၊ ကြို့ပင်ကောက်မြို့၊ သာယာဝတီ၊ ပဲခူးတိုင်း။

၁၉။ ဆရာတော် ဦးတေဇောဘာသာဘိဝံသ၊ အစိုးရ နှင့် စေတီယင်္ဂဏဓမ္မာစရိယ၊ ဝိသိဋ္ဌဒီဃဘာဏက, ဒီဃနိကာယကောဝိဒ၊ ရွှေကျောင်းကြီး၊ သဒ္ဓမ္မဇောတိကာရုံတိုက်၊ ဒေါင်းတည်မြို့၊ ပဲခူးတိုင်း။

၂၀။ ဆရာတော် ဦးတိက္ခသာရ၊ အစိုးရဓမ္မာစရိယ၊ မြစည်းခုံကျောင်းတိုက်၊ တောင်ငူမြို့၊ ပဲခူးတိုင်း။

၂၁။ ဆရာတော် ဦးစိန္တာသာရ၊ နာယကဆရာတော်၊ ရတနာရာမတိုက်၊ မကွေးမြို့၊ မကွေးတိုင်း။

၂၂။ ဆရာတော် ဦးဝေပုလ္လသာမိ၊ နာယကဆရာတော်၊ ရွှေပေါက်ပင်တိုက်၊ ပခုက္ကူမြို့၊ မကွေးတိုင်း။

၂၃။ ဆရာတော် ဦးကုသလ၊ ဂဏဝါစက၊ မဟာဝိသုတာရာမတိုက်၊ ပခုက္ကူမြို့၊ မကွေးတိုင်း။

၂၄။ ဆရာတော် ဦးနေမိန္ဒ၊ စာချဆရာတော်၊ မဟာဝိဇယာရာမတိုက်၊ ပခုက္ကူမြို့၊ မကွေးတိုင်း။

၂၅။ ဆရာတော် ဦးကိတ္တိ၊ မူလဓမ္မာစရိယ၊ မဟာဝိသုဒ္ဓာရာမတိုက်၊ စလင်းမြို့၊ မကွေးတိုင်း။

၂၆။ ဆရာတော် ဦးကုဏ္ဍလ၊ နာယကဆရာတော်၊ တာဝတိံသာကျောင်းတိုက်၊ အောင်လံမြို့၊ မကွေးတိုင်း။

၂၇။ ဆရာတော် ဦးရေဝတ၊ နာယကဆရာတော်၊ ပုသိမ်ကျောင်း၊ ကော်သနှံတိုက်၊ မန္တလေးမြို့၊ မန္တလေးတိုင်း။

၂၈။ ဆရာတော် ဦးဉာဏာဘိဝံသ၊ သကျသီဟ, စေတိယင်္ဂဏ, အစိုးရဓမ္မာစရိယ၊ ဝိသိဋ္ဌဓမ္မာဘာဏက, ဒီဃနိကာယ ကောဝိဒ၊ [illegible] ကျောင်း၊ [illegible]တိုက်၊ အနောက်ပြင်၊ မန္တလေးမြို့၊ မန္တလေးတိုင်း။

၂၉။ ဆရာတော် ဦးကုမာရာဘိဝံသ၊ သကျသီဟဓမ္မာစရိယဝဋံသက, အစိုးရဓမ္မာစရိယ သိရောမဏိ, ဘီ-အေ၊ ဗန်းမော်တိုက်၊ အနောက်ပြင်၊ မန္တလေးမြို့၊ မန္တလေးတိုင်း။

၃၀။ ဆရာတော် ဦးသိရိန္ဒာဘိဝံသ၊ သကျသီဟ, စေတိယင်္ဂဏ, အစိုးရဓမ္မာစရိယ၊ ပိနယရံသီကျောင်း၊ မဟိုးရိမ်တိုက်သစ်၊ အနောက်ပြင်၊ မန္တလေးမြို့၊ မန္တလေးတိုင်း။

၃၁။ ဆရာတော် ဦးဂရုသမ္ဗောဓိ၊ နာယကဆရာတော်၊ ရေပတီတိုက်ကျောင်း၊ ကျောက်ဆည်မြို့၊ မန္တလေးတိုင်း။

၃၂။ ဆရာတော် ဦးကေလာသာဘိဝံသ၊ အစိုးရဓမ္မာစရိယ၊ သာသနဝေပုလ္လကျောင်းတိုက်၊ မိတ္ထီလာမြို့၊ မန္တလေးတိုင်း။

၃၃။ ဆရာတော် ဦးသောဘိတ၊ အဂ္ဂမဟာပဏ္ဍိတ၊ ပခုက္ကူကျောင်းသစ်၊ ကုံးဆောက်တိုက်၊ မြင်းခြံမြို့၊ မန္တလေးတိုင်း။

၃၄။ ဆရာတော် ဦးကောသလ္လ၊ တိုက်အုပ်ဆရာတော်၊ ဆင်ကျုံးတောရတိုက်၊ ရမည်းသင်းမြို့၊ မန္တလေးတိုင်း။

၃၅။ ဆရာတော် ဦးနာဂသေနာဘိဝံသ၊ ပဋ္ဌမကျော်, အစိုးရဓမ္မာစရိယ၊ တောင်ခလေးယုံးကျောင်းတိုက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်။

၃၆။ ဆရာတော် ဦးဥတ္တရ၊ မူလဓမ္မာစရိယ၊ ဟိဘာကာရီကျောင်းတိုက်၊ သထုံမြို့၊ မွန်ပြည်နယ်။

၃၇။ ဆရာတော် ဦးနရသီဟ၊ နာယကဆရာတော်၊ ဘုရားကြီးကျောင်းတိုက်၊ စစ်တွေမြို့၊ ရခိုင်ပြည်နယ်။

၃၈။ ဆရာတော် ဦးဝဏ္ဏ၊ နာယကဆရာတော်၊ နဂါးကျောင်း၊ ကျောက်ဖြူမြို့၊ ရခိုင်ပြည်နယ်။

၃၉။ ဆရာတော် ဦးဣန္ဒာစာရ၊ နာယကဆရာတော်၊ ဝေဠုဝန်ကျောင်း၊ သံတွဲမြို့၊ ရခိုင်ပြည်နယ်။

၄၀။ ဆရာတော် ဦးပညာသာမိ၊ တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ ဩဝါဒါစရိယ၊ ဘုံပျံကျောင်းကြီးကျောင်းတိုက်၊ ကြည့်မြင်တိုင်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်း။

၄၁။ ဆရာတော် ဦးတိလောက၊ အဂ္ဂမဟာပဏ္ဍိတ၊ တိလောကာရုံကျောင်း၊ ဗားကရာကျောင်းတိုက်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်း။

၄၂။ ဆရာတော် ဦးဩဘာသ၊ (အဘိဓာန် ကျမ်းပြုဆရာတော်) ဖျာပုံတိုက်သစ်၊ သာက်ဟောကျောင်းတိုက်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်း။

၄၃။ ဆရာတော် ဦးအာဒိစ္စ၊ [illegible]၊ ခြောက်ထပ်ကြီးကျောင်းတိုက်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်း။

၄၄။ ဆရာတော် ဦးကောသလ္လ၊ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက၊ ပဉ္စနိကာယသာသနာ့ဗိမာန်ကျောင်းတိုက်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်း။

၄၅။ ဆရာတော် ဦးဉာဏဝံသ၊ အစိုးရဓမ္မာစရိယ၊ ဇောတိကာရုံကျောင်းတိုက်၊ တိုက်ကြီးမြို့၊ ရန်ကုန်တိုင်း။

၄၆။ ဆရာတော် ဦးဝဏ္ဏသိရိ၊ အစိုးရဓမ္မာစရိယ, အဂ္ဂမဟာအကျော်၊ မင်းကျောင်းစာသင်တိုက်၊ သံလျင်မြို့၊ ရန်ကုန်တိုင်း။

၄၇။ ဆရာတော် ဦးနန္ဒဝံသ၊ အစိုးရဓမ္မာစရိယ, ဘီ-အေ၊ ညောင်ဝိုင်းကျောင်းတိုက်၊ တွံတေးမြို့၊ ရန်ကုန်တိုင်း။

၄၈။ ဆရာတော် ဦးစန္ဒာဘိက၊ အစိုးရဓမ္မာစရိယ, သိမ်တောင်ကျောင်းတိုက်၊ တောင်ကြီးမြို့၊ ရှမ်းပြည်နယ်။

၄၉။ ဆရာတော် ဦးဝိလာသာဘိဝံသ၊ သကျသီဟ, အစိုးရဓမ္မာစရိယ၊ သာသနဝေပုလ္လ ရွှေစာသင်တိုက်၊ ညောင်ရွှေမြို့၊ ရှမ်းပြည်နယ်။

၅၀။ ဆရာတော်ဦးပဏ္ဍိတ၊ ဂိုဏ်းချုပ်ဆရာတော်၊ ကမ္ဘောဇကျောင်းတိုက်၊ မိုင်းနောင်မြို့၊ ရှမ်းပြည်နယ်။

၅၁။ ဆရာတော် ဦးခေမာစာရ၊ ဂိုဏ်းအုပ်ဆရာတော်၊ ကျိုင်းယင်းကျောင်းတိုက်၊ ကျိုင်းတုံမြို့၊ ရှမ်းပြည်နယ်။

၅၂။ ဆရာတော် ဦးကဝိန္ဒာစာရ၊ အဘိုးရဓမ္မာစရိယ၊ မြို့လယ်ကျောင်းတိုက်၊ လားရှိုးမြို့။

၅၃။ ဆရာတော် ဦးဂမ္ဘာနန္ဒ၊ ဂိုဏ်းချုပ်ဆရာတော်၊ မူလဓမ္မာစရိယ၊ ရွှေကျောင်း မိုးမိတ်မြို့၊ ရှမ်းပြည်နယ်။

၅၄။ ဆရာတော် ဦးဣန္ဒောဘာသ၊ နာယကဆရာတော်၊ ရေကြည်၊ မင်္ဂလာကျောင်းတိုက်၊ ပုသိမ်မြို့၊ ဧရာဝတီတိုင်း။

၅၅။ ဆရာတော် ဦးတိက္ခ၊ အစိုးရဓမ္မာစရိယ၊ ပိုးစားတောကျောင်းတိုက်၊ ဟင်္သာတမြို့၊ ဧရာဝတီတိုင်း။

၅၆။ ဆရာတော် ဦးဝိသုဒ္ဓ၊ နာယကဆရာတော်၊ ခါတော်မှီကျောင်းတိုက်၊ မြောင်းမြမြို့၊ ဧရာဝတီတိုင်း။

၅၇။ ဆရာတော် ဦးတေဇနိယ၊ နာယကဆရာတော်၊ မြို့လယ်ကျောင်းတိုက်၊ မအူပင်မြို့။

၅၈။ ဆရာတော် ဦးဓမ္မစက္က၊ အဂ္ဂမဟာပဏ္ဍိတ၊ တိုက်သစ်ကျောင်းတိုက်၊ ဖျာပုံမြို့၊ ဧရာဝတီတိုင်း။

၅၉။ ဆရာတော် ဦးခေမာဝုဓ၊ မူလဓမ္မာစရိယ၊ လယ်တီကျောင်းတိုက်၊ ဟင်္သာတမြို့၊ မဟာဒွါရဂိုဏ်း။

၆၀။ ဆရာတော် ဦးဝိဇ္ဇောဒယာဘိဝံသ၊ ပဌမကျော်၊ ဓမ္မာစရိယ၊ မင်္ဂလာဇေယျုံကျောင်း၊ ဗားကရာကျောင်းတိုက်၊ ရန်ကုန်မြို့၊ မဟာဒွါရဂိုဏ်း။

၆၁။ ဆရာတော် ဦးဓမ္မာဘိဝရ၊ အစိုးရဓမ္မာစရိယ၊ ကန်တွင်း၊ ဆုတောင်းပြည့်ကျောင်းတိုက်၊ ပြည်မြို့၊ မူလဒွါရ။

၆၂။ ဆရာတော် ဦးဇာဂနေယျဗုဒ္ဓိ၊ အဂ္ဂမဟာပဏ္ဍိတ၊ ဥပဥက္ကဋ္ဌဆရာတော်၊မဟာဝိသုဒ္ဓါရုံတိုက်သစ်၊ အနောက်ပြင်၊ မန္တလေးမြို့၊ ရွှေကျင်နိကာယ။

၆၃။ ဆရာတော် ဦးဝိမလ၊ အဂ္ဂမဟာပဏ္ဍိတ၊ ရွှေဟင်္သာတောရကျောင်းတိုက်၊ ညောင်တုန်းမြို့၊ ရွှေကျင်နိကာယ။

၆၄။ ဆရာတော် ဦးအာနန္ဒာပဏ္ဍိတ၊ သကျသီဟ ဓမ္မာစရိယ၊ ဝိသုဒ္ဓါရုံတိုက်သစ်၊ ပြည်မြို့၊ ရွှေကျင်နိကာယ။

၆၅။ ဆရာတော် ဦးဝိမလာဘိဝံသ၊ သက်္ကျသီဟ, အစိုးရဓမ္မာစရိယ၊ ကံကြီး ပရိယတ္တိကျောင်းတိုက်၊ ညောင်ရွှေမြို့၊ ရွှေကျင်နိကာယ။

၆၆။ ဆရာတော် ဦးသုပညိန္ဒာဘိဝံသ၊ သက်္ကျသီဟ, အစိုးရဓမ္မာစရိယ၊ ပဌမဂန္ဓာရုံချောင်၊ စစ်ကိုင်းတောင်ရိုး၊ စစ်ကိုင်းမြို့၊ ရွှေကျင်နိကာယ။

ဤသည်လျှင် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် ဆောင်ရွက်တော်မူကြရန် ဓမ္မဝိနယနှင့် အညီ ရွေးကောက်အပ်သော သံဃာ့ဝန်ဆောင် ဆရာတော်များ ဖြစ်ကြသည်။

## ဆဋ္ဌပိုင်း အပြီးသတ်ခြင်း

ဤတွင် ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီး ဖြစ်မြောက်အောင် ဆောင်ရွက်တော် မူခဲ့ကြသည့် သံဃာ့ဝန်ဆောင် ဆရာတော်များ၏ အမည်စာရင်းကို ဖော်ပြရာ ဆဋ္ဌပိုင်း အပြီးတည်း။[၁]

သုတေသီနံ ဟိတတ္ထာယ၊ ဘာဒူနံ ပသာဒါယ စ။
ရစိတေ ဣမဂန္ထမှိ၊ သမတ္တော ဆဋ္ဌမော ဟိ ခေါ။

၁။ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး မှတ်တမ်း၊ နောက်ဆက်တွဲများ အပိုင်း (၂) အတွေ့ရထွေလည်းကြည့်။

# သတ္တမပိုင်း

## ပဌမသန္နိပါတ

**သံဃာ့ဝန်ဆောင်ဆရာတော်များ ပဌမအကြိမ် ကြွလာတော်မူခြင်း။** ။ပင့်လျှောက်ချက်အရ သံဃာ့ဝန်ဆောင် ဆရာတော်များသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက် အောင်မြင်ရေးအတွက် တာဝန်ယူ ဆောင်ရွက်ရန် သီတင်းသုံးရာ အခြေခံဒေသ အသီးသီးမှ ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်သို့ ၁၃၄၁-ခုနှစ်၊ တပို့တွဲလဆန်း ၁၃-ရက် (၂၉-၁-၈၀) နေ့မှ ၁၃၄၁-ခုနှစ်၊ တပို့တွဲလဆန်း ၁၅-ရက် (၃၁-၁-၈၀)နေ့အတွင်း ကြွရောက်တော်မူလာကြသည်။

**လျှောက်လွှာနှင့်တကွ စာရွက် စာတမ်းများဆက်ကပ်ခြင်း။** ။ဆရာတော်များ ဇမ္ဗူဒီပကျောင်းသို့ အစုံအညီ ရောက်ရှိတော်မူသောအခါ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က သံဃာ့ဝန်ဆောင် ဆရာတော်များအား အောက်ပါလျှောက်လွှာနှင့်အတူ လုပ်ငန်းဆောင်ရွက်သည့်အခါ အထောက်အကူ ပြုနိုင်ရန် သာသနာရေး ဦးစီးဌာနက စုဆောင်းထားသော စာရွက်စာတမ်း ၁၃-မျိုး နှင့် ပိဋကတ်ကျမ်းစာများကို ဆက်ကပ်သည်။

## ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ လျှောက်လွှာ

ရိုသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည် သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် သံဃာတော်အရှင်မြတ်တို့ဘုရား—

၁။ ယခုကျင်းပမည့် အစည်းအဝေးပွဲကြီးသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် အဖွဲ့၏ ပထမအကြိမ် အစည်းအဝေးပွဲကြီးဖြစ်ပါသည်ဘုရား၊ ဤအစည်းအဝေးပွဲကြီး၌ ပါဝင်ဆောင်ရွက်တော်မူကြမည့် သမ္မုတိရ သံဃာ့ဝန်ဆောင် ဆရာတော် အရှင်မြတ်များကို ဖူးမြင်ကြရသဖြင့် အလွန်ပင် ဝမ်းမြောက် ကြည်ညိုမှုဖြစ်ရပါသည် ဘုရား။

၂။ ဆရာတော်များသံဃာ့ဝန်ဆောင် အဖွဲ့က ၁၃၄၂- ခုနှစ်၊ နယုန်လဆန်း ၁၂-ရက်၊ ၁၃-ရက်၊ ၁၄-ရက်နေ့များတွင် ကျင်းပမည့် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး အောင်မြင်စွာ ကျင်းပနိုင်ရေးအတွက် စီစဉ်ဆောင်ရွက်တော်မူကြရန် ဖြစ်ပါသည်ဘုရား။ ထို့ပြင် ယင်းအစည်းအဝေးပွဲကြီး၌ တင်သွင်း၍ အတည်ပြုချက်ရယူရန် အောက်ပါပြုပါ လုပ်ငန်း( ၄ ) ရပ်နှင့် စပ်လျဉ်းပြီး စာတမ်းများ ရေးသား ပြုစုတော်မူကြရန် ဖြစ်ပါသည် ဘုရား။

( က ) သံဃာတော်များ ဝိနည်းတရားတော်နှင့်အညီ ကျင့်ကြံသီတင်းသုံးနေထိုင်နိုင်မှုကို ရည်စူး၍ သံဃာတော်များ အချင်းချင်းကြပ်မတ်သွားနိုင်မည့် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့ အစည်း အဆင့်ဆင့် ပေါ်ပေါက်လာရေးအတွက် ဖွဲ့စည်းဆောင်ရွက်ရန်။

( ခ ) ဝိနည်းမမှုကံဆိုင်ရာ သံဃာ့အဓိကရဏ်းများ ဖြေရှင်းဆုံးဖြတ်ရေးအတွက် နည်းလမ်းများ ရေးဆွဲသတ်မှတ်ရန်။

( ဂ ) သိက္ခာမတင် သိမ်မဝင်ပဲ မိမိဘာသာ သင်္ကန်းဝတ်နေကြသော ရဟန်းတု၊ ရဟန်းယောင်များ ပျောက်ကွယ်ရေး အတွက် သာသနာဝင် လက်မှတ်ခေါ် "ရဟန်းဖြစ်ရက်ချုပ်" ကို စီစဉ်ရေးဆွဲ၍ ရဟန်းသံဃာတော်တိုင်း ကိုင်ဆောင်ရန်။

( ဃ ) အစည်းအဝေးကြီးမှ ပေါ်ပေါက်လာမည့် သာသနာတော်တော်ဆိုင်ရာ အခြားလိုအပ်ချက်များကို ဆောင်ရွက်ရန်။

၃။ အထက် အပိုဒ် ( ၂ )တွင် ဖော်ပြထားသည့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး သို့ သံဃာ့ကိုယ်စားလှယ်များ အဖြစ် တက်ရောက်နိုင်ရန် ရွေးဦးစွာ သံဃာသမ္မုတိရ ( သံဃာ့ကိုယ်စားလှယ် ) သံဃာတော်များ ရွေးချယ်နိုင်ရေးအတွက် ဆောင်ရွက်ရမည့် နည်းလမ်းများကို ပြုစုရေးဆွဲ၍ သံဃာ့ဝန်ဆောင် အဖွဲ့တဖွဲ့လုံး၏ အတည်ပြုချက်ကို ရယူဆောင်ရွက်ပေးတော်မူကြရန်ဖြစ်ပါသည် ဘုရား။

၄။ ဆရာတော်များ သံဃာ့ ဝန်ဆောင် အဖွဲ့အနေဖြင့် လုပ်ငန်းများဆောင်ရွက်သည့်အခါ အထောက်အကူပြုနိုင်ရန် သာသနာရေး ဦးစီးဌာနက အောက်ပါ စာရွက် စာတမ်းများကို ဆက်ကပ်ပါသည် ဘုရား။

( က ) ယိုးဒယား သံဃာ့လွှတ်တော် ပန္နက်ပုံစံ။
( ခ ) ကမ္ဘောဒီယား သံဃာ့လွှတ်တော် ပန္နက်ပုံစံ။

( ဂ ) လ၂အို သံဃာ့လွှတ်တော် ပန္နက်ပုံစံ။
( ဃ ) မြန်မာမင်းများ လက်ထက် သုဓမ္မာဖွဲ့စည်းပုံ။
( င ) သာသနာပိုင် ဥပဒေ နှင့် ဓမ္မဝိနယ ပြန်တမ်း၊ မင်းတုန်းမင်းကြီး အမိန့်တော်။
( စ ) မြန်မာပြည် ဗုဒ္ဓသာသနာပြုအဖွဲ့ချုပ်ကြီး၏ စည်းမျဉ်းဥပဒေ အကျဉ်းချုပ် ( ၁၃၀၄-ခု )။
( ဆ ) ပြည်ထောင်စု မြန်မာနိုင်ငံ သံဃာ့လွှတ်တော် ဖွဲ့စည်းပုံ။
( ဇ ) ၁၉၆၅-ခုနှစ် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးကောင်စီ ဥပဒေအမှတ် ၁-အရ ရုပ်သိမ်းခဲ့သည့်—
  ( ၁ ) ၁၃၁၁-ခုနှစ် ဝိနိစ္ဆယ ဌာနနှင့် ဝိနိစ္ဆယခုံ အက်ဥပဒေ၊
  ( ၂ ) ကောဇာသက္ကရာဇ် ၁၃၁၂-ခုနှစ် ( သာသနာတော်သက္ကရာဇ် ၂၄၉၄-ခုနှစ် ) ပါဠိတက္ကသိုလ် နှင့် ဓမ္မာစရိယ အက်ဥပဒေ၊
  ( ၃ ) ၁၉၅၂-ခုနှစ် ပါဠိပညာရေးအဖွဲ့ အက်ဥပဒေ၊
( ဈ ) ၁၉၆၂-ခုနှစ်မှ ၁၉၇၀-ခုနှစ်အထိ ဘာသာ သာသနာရေးဆိုင်ရာ ထုတ်ပြန်ချက်များ။
( ည ) ဗုဒ္ဓသာသနာတော်လုံးဆိုင်ရာ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေမူကြမ်း ( မှော်ဘီမူ )။
( ဋ ) ပြည်ထောင်စု မြန်မာနိုင်ငံ သံဃာတော်များ၏ သာသနာဝင်လက်မှတ် မူကြမ်း ( မှော်ဘီမူ )။
( ဌ ) ဗုဒ္ဓသာသနာတော်လုံးဆိုင်ရာ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေမူကြမ်း ( မန္တလေးမူ )။
( ဍ ) သံဃာ့ဝိနည်း ဓမ္မကံမှုခင်း ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ။
( ဎ ) သာသနာဝင်လက်မှတ် ( မူကြမ်း )။
  ( ၁ ) ရဟန်းတော်များအတွက်၊
  ( ၂ ) သီလရှင်များအတွက်၊
( ဏ ) ပြည်နယ်/တိုင်း အလိုက် ကောက်ယူထားသော ကျောင်းစာရင်း နှင့် ဝါဆိုသံဃာစာရင်း။

( တ ) ဂိုဏ်းများ အလိုက် ကောက်ယူထားသော ကျောင်း စာရင်း နှင့် ဝါဆို သံဃာစာရင်း။

( ထ ) ပိဋကတ်တော်များ။

၅။ ထို့ပြင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ကိစ္စကို ဆရာတော် သံဃာတော်များ ဘက်က မိမိတို့ တာဝန်အလျောက် ဆောင် ရွက်တော် မူကြသော အခါ ဒါယကာများ ဘက်က လည်း မိမိတို့ တာဝန် အလျောက် ဆရာတော် သံဃာတော်များ စိတ်ချမ်းမြေ့စွာ သီတင်းသုံး နေထိုင်လျက် လုပ်ငန်း ဆောင်ရွက်နိုင် စိမ့်သောငှာ အောက်ပါအတိုင်း အဖွဲ့ ၉ -ဖွဲ့ ဖွဲ့စည်းပြီး အဘက်ဘက်တွင် ပြည့်စုံအောင် စွမ်းအား ရှိသလောက် ဆောင်ရွက်လျက် ရှိပါသည် ဘုရား—

( က ) ဗဟိုညှိနှိုင်းဆောင်ရွက်ရေး အဖွဲ့၊

( ခ ) အလုပ်အမှုဆောင်အဖွဲ့၊

( ဂ ) ဥပဋ္ဌာကအဖွဲ့(သံဃာ့ဝန်ဆောင်အဖွဲ့အား ကူညီသည့် အဖွဲ့)၊

( ဃ ) မှတ်တမ်းရေး နှင့် သတင်းပြန်ကြားရေးအဖွဲ့၊

( င ) စီမံခန့်ခွဲရေးအဖွဲ့၊

( စ ) ဘဏ္ဍာရေးအဖွဲ့၊

( ဆ ) အခမ်းအနား ပြင်ဆင်ရေးအဖွဲ့၊

( ဇ ) ဆွမ်းကွမ်းအဖွဲ့၊

( ဈ ) ကြိုဆို နေရာချထားရေး နှင့် ပို့ဆောင် ဆက်သွယ်ရေးအဖွဲ့၊

၆။ ဤကဲ့သို့ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် ဆရာ ဒကာ နှစ်ဦး နှစ်ဘက် မိမိတို့ စွမ်းအားရှိသလောက် ဆောင်ရွက်ကြရာ ဒကာများဘက်မှ ချွတ်ယွင်းချက်များ ရှိပါလျှင် သည်းခံ ခွင့်လွှတ်တော် မူကြပြီး လိုအပ်ချက်များ ရှိပါကလည်း မိန့်ကြားပါရန် လျှောက်ထား ပါ သည် ဘုရား၊ မင်္ဂလာရှိသော ဤနေ့ထူး နေ့မြတ်တွင် စတင် ကျင်းပသည့် သံဃာ့ ဝန်ဆောင် အဖွဲ့ အစည်းအဝေးသည် အဆင့်တိုင်း အဆင့်တိုင်းတွင် အစစ အရာရာ ချောမော ပြေပြစ်စွာဖြင့် အောင်မြင်အောင် ဆောင်ရွက် နိုင်ပြီး ယင်းသို့ ဆောင်ရွက်ခြင်းသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး အောင်မြင်စွာ

တို့မှ ကြွရောက်ပြီးတော့ လာတယ်ဆိုတာ အင်မတန်ကြုံတောင့် ကြုံခဲသဘော လည်းရှိပါတယ်၊ အဲဒီတော့ မိမိတို့ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော်မှာ ပေါက်ဖွားတဲ့ နိုင်ငံတော်သားချင်းအတူတူ ဖြစ်နေပေမဲ့လဲပဲ ခုနက တိုင်းတို့ ပြည်နယ်တို့ ကွဲလွဲနေတဲ့အတွက်လည်း တပါးနဲ့တပါး ဆုံကြဖို့ ဆိုတာလည်း အင်မတန် ခဲယဉ်းတဲ့ ဒုလ္လဘအချက်တခုပါပဲ၊ အဲ အခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အဲဒီသာသနာရေး ဌာနက ပင့်လျှောက်တဲ့အတွက် ဒီနေ့ဟာ သာသနာရေးနဲ့ ဆွေးနွေးတိုင်ပင်ဖို့ဆိုတဲ့ အချက်နဲ့ ဒါစုံစုံညီညီနဲ့ရောက်ရှိလာတာ ခုနက အကျိုးဆောင်များ ဖတ်ကြားတဲ့ စာရင်းကို တွေ့ရတဲ့အတွက် ဒါဝမ်းမြောက်မိပါတယ်။

အဲဒီတော့ ကြွရောက်လာတဲ့အခါမှာလဲပဲ ခုနက ဒီနေ့ အစီအစဉ်အရမှာ သံဃာတော်များနဲ့ ဆွေးနွေးတိုင်ပင်ဖို့ဆိုတဲ့အချက်တွေလဲပဲ အဲဒီ တော်တော်ပဲ စီစဉ်ထားရှိပါတယ်၊ ပြီးတော့ အဲဒီအချက်တွေကို ဆွေးနွေးတဲ့ အခါမှာလဲပဲ သန္ဒိပတိဘာနံ ဝေါဟာရဝေ ဓမ္မဝါကထာ၊ အဲဒီအရိယောဝါ၊ အဲဒီ တုဏှိဘာဝေါ - ဆိုတဲ့ ဒီအချက်ကို ထောက်ထားခဲ့မယ်ဆိုလို့ရှိရင်ဖြင့် အဲဒီ မိမိတို့ သံဃာ့အစည်းအဝေးတခု ဒီလိုဆောင်ရွက်တဲ့ နေရာမှာလဲပဲ ဒီဓမ္မီ ဝါကထာဆိုတဲ့အရဖြင့် ဒီဓမ္မဝိနယနဲ့လျော်တယ်လို့ ယူဆတဲ့အချက်များလဲပဲ အဲဒါကို ဝမ်းမြောက် ဝမ်းသာဖြင့် စီစဉ်ဆောင်ရွက်ဖို့ပါပဲ၊ အဲဒီ မလျော် ဘူးလို့ မိမိယူဆတဲ့နေရာမျိုး တွေ့ခဲ့လို့ရှိရင်လဲပဲ ဆိတ်ဆိတ်နေခြင်းဟာ သာပြီးတော့ ကောင်းတယ်လို့အချက်ကိုဖြင့် အားလုံးပဲ လိုက်နာကျင့်သုံးနိုင် လိမ့်မယ်လို့ ယူဆမိပါတယ်၊ ယူဆမိတဲ့အတွက် သံဃာတော်များအပေါ် လဲ မေတ္တာရပ်ပြီးတော့ အဲဒီခမာဂုဏ်ဆိုတာကတော့ဖြင့် နာယကတိုင်း နာ ယကတိုင်း လိုက်နာကျင့်သုံးရမဲ့ အချက်ဖြစ်တဲ့အတွက် ဒီသည်းခံတဲ့ ခမာဆို တဲ့တရားဟာဖြင့် လက်နက်ကောင်းတခုပဲ၊ ခန္တျာဘိယျောန ဝိဇ္ဇတိ - လို့ ဗုဒ္ဓရှင်တော်မြတ်လဲ မိန့်ကြားထားသည့်အတိုင်း ဒါသည်းခံတဲ့ တရားထက် လွန်ကဲထက်တရားဟာတော့ မရှိဘူးလို့ဆိုပြီးတော့ မိမိထက်ကြီးကဲတဲ့ နာယက ပုဂ္ဂိုလ်များလဲ -

ခမာ ဇာဂရိယုဋ္ဌာနံ၊ သံဝိဘာဂေါ ဒယိက္ခနာ။
နာယကဿ ဂုဏာ ဧတေ၊ ဣစ္ဆိတဗ္ဗာ သတံ ဂုဏာ။

ဆိုတဲ့ ပြည်သူ့နီတိအချက်ကို ထောက်ထားခဲ့မယ်ဆိုလို့ ရှိရင်လဲပဲ ခမာဂုဏ် ဟာ လက်နက်ကောင်းတခုပဲလို့ ယူဆမိပါတယ်။

အဲဒါကြောင့် သံဃာတော်များအချင်းချင်း သာသနာရေး သာသနာမှု ကိစ္စအဝဝကို ဆောင်ရွက်တဲ့အခါမှာ တပါးနှင့် တပါး တဦးနှင့် တဦး

ကာယကံမေတ္တာ၊ ဝစီကံမေတ္တာ၊ မနောကံမေတ္တာဆိုတဲ့ အဲဒီစေတနာမေတ္တာ စေတနာထားပြီးတော့ ဦးခေါင်းအောအောဖြင့် ဆွေးနွေးတိုင်ပင်ခဲ့လို့ ရှိရင် မိမိတို့ မူလရည်သန်ချက်ပြုထားတဲ့ အဲဒီ အခု သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဆိုတဲ့ အဲဒီခေါင်းစီး စာလုံးအရဖြင့် မိမိတို့ဆန္ဒဟာ အားလုံးပဲ မိမိတို့မျှော်မှန်းထားတဲ့ အတိုင်း အောင်မြင်မှုကို ရရှိနိုင်လိမ့်မယ်လို့ ဆိုတဲ့ အချက်ကိုလဲပဲ သတိပြုမှုပြီးဘော့ သံဃာတော်များလဲ တပါးနှင့် တပါး ဝမ်း ဂုဏ်လက်ကိုင်ထားပြီးတော့ ခုနကဆွေးနွေးတိုင်ပင်တော်မူကြပါဆိုတဲ့အချက်၊ အဲဒါပြီးဘော့ ဒီသြဝါဒနဲ့ ပတ်သက်တဲ့ အချက်လဲပဲ အချိန်ကာလကို ဒီ သြဝါဒပေးဖို့ရာဆိုတဲ့ တွေ့ရာရှိခဲ့ပါတယ်၊ ရှိခဲ့တဲ့အတွက် အချိန်ကာလကို အလွန်ကြီး ရှည်လျားမသွားအောင် အခု ဘုံပျံဆရာတော်ကပဲ ဒီသြဝါဒရေး ထားတဲ့ စာတမ်းကို ဖတ်ကြားပြီးတော့ အမိန့်ရှိပါလိမ့်မယ်။''

''ပြည်ထောင်စုဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဒေသအသီးသီးတို့မှ ဗုဒ္ဓသာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဆွေးနွေးညှိနှိုင်းတော်မူကြ ရန် ကြွရောက်တော်မူလာကြကုန်သော လဇ္ဇီပေသလ သိက္ခာကာမ ပရိယတ္တိ ဝိသာရဒ ဗျတ္တ - ပဋိဗလ - စသော ဂုဏ်အပေါင်းတို့နှင့် ပြည့်စုံတော်မူကြကုန် သော သာသနာ့ဦးသျှောင် သံဃာ့ဝန်ဆောင် ဆရာတော် သံဃာတော်များ ဘုရား—

လေးအသင်္ချေ နှင့် ကမ္ဘာတသိန်း ကာလပတ်လုံး ပါရမီတော် ဆယ်ပါး အကျယ် အားဖြင့် အပြားသုံးဆယ် စွန့်ခြင်းကြီး ငါးပါး စရိယ သုံးပါး ဘုရားဖြစ်ကြောင်း နည်းကောင်း လမ်းမှန် တို့ကို နိရန္တရ ဘာဝနာဖြင့် အခါ မလပ် မရပ်မနား ကြိုးစားအားထုတ် ဖြည့်ကျင့်တော်မူမှ ရရှိတော် မူခဲ့သော မြတ်စွာဘုရား၏ သာသနာတော်မြတ်ကြီးသည် ကာလအားဖြင့် နှစ်ပေါင်း ( ၂၅၂၃ ) နှစ် အထိ ရှိခဲ့ပါပြီ။

ယင်းသို့ နှစ်ပေါင်း ( ၂၅၂၃ ) နှစ် အထိ ဗုဒ္ဓသာသနာတော်မြတ်ကြီး သန့်ရှင်း တည်တံ့ပြန့်ပွားလာခဲ့ပုံကို ဉာဏ်အမြင်ဖြင့် ဆင်ခြင်သောအခါ ဘုန်း လောကနာထ သုံးလောကဆရာ ဘုရားမြတ်စွာ ပဟာပရိနိဗ္ဗာန် စံတော် မူပြီးသည်မှ နောက်ပိုင်းကာလ၌ အရှင်မဟာကဿပ, အရှင်အာနန္ဒာ - စသော သာသနာ့ ဦးသျှောင် သံဃာ့ဝန်ဆောင် ရဟန္တာအရှင်မြတ်ကြီးများ မှစ၍ ပရမ္ပရ ဆရာစဉ်ဆက် သိဿာနုသိဿ တပည့်စဉ်ဆက် လက်ဆင့်ကမ်းလာ ကြိုးပမ်း ဆောင်ရွက်တော်မူလာခဲ့ကြပုံကို သမန္တပါသာဒိက ဝိနယအဋ္ဌကထာ ကျမ်းကြီး၌ တွေ့မြင် ဖတ်ရှု ကြရပါသည်။

ဗုဒ္ဓမြတ်စွာဘုရား မဟာပရိနိဗ္ဗာန် စံဝင်တော်မူသည်မှ နောက် အတိတ် သာသနာတော် (၂၅၂၃) နှစ်ပတ်လုံး သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် အရှင်မဟာကဿပ, အရှင်အာနန္ဒာ – စသော မဇ္ဈိမ ဒေသ ခေတ် သံဃာ့ဝန်ဆောင် ရဟန္တာ အရှင်မြတ်များ နှင့် အဇာတသတ် မင်း စသော မင်းများ နှင့် တိုင်းသူပြည်သား လူအများတို့ သာသနာတော် အရေး အတွက် ဆောင်ရွက်ခဲ့ကြပုံကိုလည်းကောင်း မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာ တော် ရောက်လာချိန်မှ စ၍ ရှင်အရဟံ စသော သံဃာတော်များ နှင့် အနော် ရထာ မင်းစော စသော မင်း နှင့် ပြည်သူလူထုတို့၏ သာသနာပြုခဲ့ကြပုံကို လည်းကောင်း သာသနာတော် သမိုင်းကြောင်းက ကောင်းစွာ ညွှန်ပြ နေပါသည်။

ယခုအချိန်မှ နောင်းကာလများ၌ ဗုဒ္ဓသာသနာတော်မြတ်ကြီး နှစ်ပေါင်း များစွာ ခိုင်မာတည်တံ့ရေး၊ တိုးတက်ပြန့်ပွားရေး၊ စင်ကြယ်သန့်ရှင်းရေးတို့ အတွက် ဆက်လက် ဆောင်ရွက်ကြရမည့် တာဝန်ရှိ၍ သာသနာပြုရမည့် ကိစ္စ သည် သက်တော်ထင်ရှား ဘုရားသားတော်ကြီးများ ဖြစ်တော်မူကြကုန်သော မြန်မာနိုင်ငံ တဝှမ်းလုံးမှ ကသိန်းနီးပါးရှိ သံဃာတော်များက ယုံကြည်အား ထားလျက် သံဃာ့ဝန်ဆောင်အဖြစ် ဆန္ဒပေး ရွေးချယ် တင်မြှောက်လိုက် သော တပည့်တော် သံဃာ့ဝန်ဆောင် ဆရာတော်များ ဦးဆောင်၍ ဆန္ဒရှင် သံဃာတော်များ နှင့် နိုင်ငံတော် အစိုးရ ပြည်သူလူထု ဆရာ ဒကာ ညီညွတ်မှု ဖြင့် ဦးထမ်း ပဲ့ထမ်း နှစ်ဖက် နှစ်သမ်း ကြိုးပမ်းဆောင်ရွက်ကြရမည့် အလှည့် အကြိမ်သို့ ရောက်ရှိလာပါပြီ၊ သို့ပါ၍ ယနေ့မှ စတင်ကာ အားလုံးသော သံဃာ့ဝန်ဆောင် အရှင်သူမြတ်တို့သည် သာသနာ့ဝန်ထမ်း ရဟန်း, သာမဏေ အားလုံး လိုက်နာနိုင်မည့် ဓမ္မဝိနယနှင့် အညီ စည်းကမ်းများကို စုပေါင်း ပြုစု ရေးသားကြရာ၌ တညီတညွတ်တည်း ဆောင်ရွက်တော်မူကြလိမ့်မည်ဟု ယုံကြည် မျှော်လင့်ပါသည်။

သာသနာတော်ထမ်း ရဟန်း သံဃာတော်များ သန္တာန်၌ သီလ, သမာဓိ, ပညာ - သာသနာတော် သုံးရပ် သန့်ရှင်း တည်တံ့ ပြန့်ပွားကြပြီး တိုင်းသူ ပြည်သား ဒါယကာ, ဒါယိကာမများ သန္တာန်၌ ကိုယ့်သာသနာကို ချစ် မြတ်နိုးတတ်သော စိတ်၊ ကိုယ့်ဘဝကို ချစ်မြတ်နိုးတတ်သော စိတ်၊ ကိုယ့် နိုင်ငံကို ချစ်မြတ်နိုးတတ်သော စိတ်များ ပြန့်ပွားကြ၊ တည်တံ့ကြ၊ သန့်ရှင်း ကြ၍ ယောဂဝလေးဖြာ ကုန်ငြိမ်းရာမှန် မြတ်နိဗ္ဗာန်တိုင်အောင် အကျိုးရကြ ဘို့ အရေး သာသနာ့ဦးဆောင် သံဃာ့ဝန်ဆောင် ဆရာတော်များ ထေရ နဝ မဇ္ဈိမ ဖြစ်တော်မူကြကုန်သော သံဃာတော်များ အားလုံးတို့ နှင့် ပြည်သူ

လူထု အများစုံတို့သည် သံဃာတော်ဖက်မှ ဓမ္မစက်၊ နိုင်ငံတော် အစိုးရ ဖက်မှ အာဏာစက်ဖြင့် နှစ်ဖက်နှစ်လမ်း ကြိုးပမ်းကြလျက်၊ ဆောင်ရွက်ကြလျက် ဗုဒ္ဓသာသနာတော်မြတ်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ဆောင်ရွက် တော် မူကြပါရန် တိုက်တွန်း လျှောက်ထားပါသည် သာသနာ့ ဦးသျှောင် သံဃာ့ဝန်ဆောင် ဆရာတော် သံဃာတော်များ အပေါင်းတို့ ဘုရား"

**ခေတ္တရပ်နား။** ။ဆက်လက်၍ အကျိုးတော်ဆောင် ဆရာတော်က သံဃာ့ဝန်ဆောင် အဖွဲ့က အဓိက ဆောင်ရွက်ရမည့် လုပ်ငန်းများကို ရှင်းလင်း လျှောက်ထားပြီး **အစည်းအဝေးကို** နံနက် ၁၀-နာရီတွင် ခေတ္တ ရပ်နားတော် မူကြသည်။

**အဖွဲ့ငယ်များ ဖွဲ့ရေး။** ။မွန်းလွဲ ၁-နာရီ အချိန်တွင် အစည်းအဝေးကို ဆက်လက် ကျင်းပရာ အစည်းအဝေး အစီအစဉ်အရ သံဃာ့ဝန်ဆောင်အဖွဲ့၏ အဓိက လုပ်ငန်းရပ်များကို စာတမ်း ရေးသား ပြုစုပြီး သံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်ပြရေးအတွက် အဖွဲ့ငယ်များ ဖွဲ့စည်း ဆောင်ရွက် သွားရေးတို့ကို ညှိနှိုင်းတော်မူကြသည်။

**အကြံပေးချက်။** ။ဆက်လက်၍ **သာသနာတော်** သန့်ရှင်း တည်တံ့ ပြန့်ပွားရေးနှင့် စပ်လျဉ်း၍ သံဃာတော်များထံမှ အကြံပေးချက်များ တောင်း ခံရန် အဖွဲ့မှ ဆုံးဖြတ်ချက် ချတော်မူကြပြီး သံဃာ့ဝန်ဆောင် အဖွဲ့၏ နေ့စဉ် အစည်းအဝေး အချိန်ဇယားနှင့် လုပ်ငန်း အစီအစဉ်ပြု ပြုကျင့်နည်းကို ညှိနှိုင်း တော် မူကြပြီး မွန်းလွဲ ၃-နာရီ ၁၁-မိနစ် အချိန်တွင် ပဌမနေ့ အစည်း အဝေးကို ရပ်နားသည်။

**လိုအပ်ချက် ဖြည့်တင်းပေး။** ။ဖော်ပြပါ စတင်ကျင်းပသည့် သံဃာ့ ဝန်ဆောင် အဖွဲ့ ပဌမအကြိမ် အစည်းအဝေးသို့ ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၊ ဒုတိယဝန်ကြီး ဦးအုန်းကျော် နှင့် ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာနမှ ပုဂ္ဂိုလ်များ၊ သာသနာရေး ဦးစီးဌာနမှ ပုဂ္ဂိုလ်များ တက်ရောက် ကြည်ညိုကြပြီး သံဃာ့ဝန်ဆောင် အဖွဲ့ ၏ လိုအပ်ချက်များကို ဖြည့်တင်း ဆောင်ရွက်ပေးကြသည်။

ဝေဠု တပေါနော စ၊ ဇနာ အညောညနိဿိတာ။
ဝိသုဒ္ဓတ္ထာယ စက္ကဿ၊ ဒွိကိယာ ဝိပုလာယ ဝါ။

**ဒုတိယအကြိမ် အစည်းအဝေး။** ။၁၃၄၁ - ခုနှစ် တပို့တွဲလပြည့်ကျော် ၂-ရက် (၂-၂-၈၀) နေ့တွင် သံဃာ့ဝန်ဆောင် ဆရာတော်များ ဒုတိယ အကြိမ် စည်းဝေး၍ အောက်ပါအတိုင်း ဆုံးဖြတ်တော် မူကြသည်။

၁။ သံဃသမ္မုတိရ ကိုယ်စားလှယ် ရွေးချယ်သည့် နည်းလမ်း စာတမ်းပြုစုရေး အဖွဲ့ငယ်ကို အဖွဲ့ဝင် ဝန်ဆောင် ဆရာတော် ၇ - ပါးဖြင့် ဖွဲ့စည်းပြီး လုပ်ငန်းတာဝန်များ အပ်နှင်း၍ ( ၇ )ရက် အတွင်း စာတမ်းပြုစုရေးသားကာ ဝန်ဆောင် ဆရာတော်များ အစည်းအဝေးသို့ တင်ပြရန်။

၂။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းရေးအတွက် အခြေခံ စည်းမျဉ်း ရေးဆွဲရေး အဖွဲ့ငယ်ကို ဝန်ဆောင် ဆရာတော် (၂၀) ပါးဖြင့် ဖွဲ့စည်းပြီး လုပ်ငန်းတာဝန်များ အပ်နှင်း၍ (၁၅) ရက် အတွင်း စာတမ်း ပြုစုကာ ဝန်ဆောင် ဆရာတော်များ အစည်းအဝေးသို့ တင်ပြရန်။

၃။ ဝိနည်း ဓမ္မကံဆိုင်ရာ သံဃာ့ အဓိကရုဏ်းများ ဖြေရှင်း ဆုံးဖြတ်ရေး နည်းလမ်းများ ရေးဆွဲရေး အဖွဲ့ငယ်ကို ဝန်ဆောင်ဆရာတော် (၂၀) ပါးဖြင့် ဖွဲ့စည်းပြီး လုပ်ငန်း တာဝန်များ အပ်နှင်း၍ (၁၅) ရက် အတွင်း စာတမ်းပြုစု၍ ဝန်ဆောင်ဆရာတော်များ အစည်းအဝေးသို့ တင်ပြရန်။

၄။ သာသနာဝင်လက်မှတ် စီစဉ်ရေး အဖွဲ့ငယ်ကို ဝန်ဆောင် ဆရာတော် ( ၇ ) ပါးဖြင့် ဖွဲ့စည်းပြီး လုပ်ငန်း တာဝန်များ အပ်နှင်း၍ ( ၇ ) ရက် အတွင်း စာတမ်း ပြုစု၍ ဝန်ဆောင် ဆရာတော်များ အစည်းအဝေးသို့ တင်ပြရန်။

၅။ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီး ( ၅ ) ပါး ပါဝင်သော ဩဝါဒါစရိယ ဆရာတော်များ အဖွဲ့ကို ဖွဲ့စည်းလျက် ယင်း ဖွဲ့စည်း ရွေးချယ် တင်မြှောက်ခြင်းကို လက်ခံတော်မူပါရန် နှင့် အစည်းအဝေး ကျင်းပရာ ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်သို့ ကြွရောက် သီတင်းသုံးပြီး ဩဝါဒ ပေးတော် မူပါရန်၊ အကယ်၍ ကျန်းမာရေး နှင့် အခြားအကြောင်းများကြောင့် မကြွရောက်နိုင်လျှင် စာဖြင့် ဩဝါဒပေးတော် မူကြပါရန် အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများအား လျှောက်ထားလွှာဆက်ကပ်ရန်။

၆။ ဝန်ဆောင်သံဃာ့ အဖွဲ့အား အကြံပေးနိုင်ရန် တိပိဋကဓရ ဆရာတော်များ ပါဝင်သော အကြံပေးအဖွဲ့ကို ဖွဲ့စည်းလျက် ယင်း ဖွဲ့စည်း ရွေးချယ်ခြင်းကို လက်ခံပါရန် နှင့် ဆရာတော်များ အကြံဉာဏ်ကို ရယူရန် အတွက် အစည်းအဝေး ကျင်းပရာ ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်သို့ ကြွရောက်ပါရန် ပင့်လျှောက် ပေးပို့ ဆက်ကပ်ရန်။

၇။ သံဃာ့ဝန်ဆောင် အစည်းအဝေး၏ အဖွဲ့ဝင်များသည် သက်ဆိုင်ရာ စာတမ်းများကို ဆွေးနွေး ညှိနှိုင်း ပြုစု ရေးသားရန် အတွက် သံဃာ့ ဝန်ဆောင်အဖွဲ့ အစည်းအဝေးကို ခေတ္တ ရပ်နားရန် အသီးသီး ဆုံးဖြတ်သည်။

**တတိယအကြိမ် အစည်းအဝေး။** ။သံဃာ့ဝန်ဆောင် ဆရာတော်များသည် ၁၃၄၁-ခုနှစ် တပို့တွဲလပြည့်ကျော် ၁၃ ရက် (၁၃-၂-၈၀)နေ့တွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒီပ ကျောင်းဆောင် အစည်းအဝေး ခန်းမ၌ တတိယအကြိမ် စည်းဝေးတော် မူကြ၍—

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ပွဲကြီးကို ကမ္ဘာအေး ဆဋ္ဌသံဂါယနာ မဟာပါသာဏလိုဏ်ဂူတော်ကြီး အတွင်း၌ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၁-ရက်၊ ၁၂-ရက် ၁၃-ရက် (၁၉၈၀-ခု၊ မေလ ၂၄-၂၅-၂၆) နေ့များတွင် ကျင်းပရန် နှင့် ယင်း နယုန်လဆန်း ၁၄-ရက် (မေလ ၂၇-ရက်)ကို အရံနေ့အဖြစ် သတ်မှတ်တော် မူရန် အစည်းအဝေးက သဘောတူ လက်ခံကြောင်း ဆုံးဖြတ်တော် မူကြသည်။

**စတုတ္ထအကြိမ် အစည်းအဝေး။** ။တဖန် သံဃာ့ဝန်ဆောင် ဆရာတော်များသည် ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၁-ရက် (၁၅-၂-၈၀)နေ့တွင် စည်းဝေးတော် မူကြ၍—

၁။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့၏ သာသနာဝင် လက်မှတ် စီစဉ် ရေးဆွဲရေး အဖွဲ့ဝင်က ရေးဆွဲ တင်ပြသော သံဃာတော်များ၏ သာသနာဝင် လက်မှတ် (ပဌမမူကြမ်း) ကို ဆွေးနွေး ညှိနှိုင်း ပြင်ဆင်တော် မူကြပြီးနောက် သံဃာ့ဝန်ဆောင် အစည်းအဝေးက လက်ခံ အတည်ပြုတော် မူကြောင်း ဆုံးဖြတ်တော် မူကြသည်။

၂။ အဆိုပါ အဖွဲ့ဝင်ကပင် ရေးဆွဲတင်ပြသော ဗုဒ္ဓဘာသာ သီလရှင် များ၏ မှတ်ပုံတင် လက်မှတ် (ပဌမမူကြမ်း) ကိုလည်း အစည်းအဝေးသို့ တက်ရောက်တော် မူကြသော ဝန်ဆောင် ဆရာတော်များက ဆွေးနွေး ညှိနှိုင်း ပြင်ဆင်တော် မူကြပြီးနောက် လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

**ပဉ္စမအကြိမ် အစည်းအဝေး။** ။၁၃၄၁-ခုနှစ်၊ တပေါင်း လဆန်း ၅-ရက် (၁၉-၂-၈၀) နေ့တွင် သံဃာ့ဝန်ဆောင် ဆရာတော်များ အစည်းအဝေးကို ကျင်းပသည်၊ ယင်း အစည်းအဝေးက ၁၃၄၂-ခုနှစ်

နယုန်လဆန်း ၁၁၊ ၁၂၊ ၁၃၊ ၁၄-ရက်နေ့များတွင် ကမ္ဘာအေး ကုန်းမြေ ဆဋ္ဌသံဂါယနာ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ ကျင်းပ ပြုလုပ်မည့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ တက်ရောက်ရန် သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်း စည်းကမ်း စာတမ်း (ပဌမမူကြမ်း)ကို ဆွေးနွေး ညှိနှိုင်းတော် မူကြပြီးနောက် ဤ သံဃာ့အစည်းအဝေးက လက်ခံ အတည် ပြုတော်မူကြောင်း ဆုံးဖြတ်တော်မူကြသည်။

**ဆဋ္ဌမအကြိမ် အစည်းအဝေး။** ။၁၃၄၁-ခုနှစ် တပေါင်း လဆန်း ၆-ရက် (၂၀-၂-၈၀) နေ့တွင်လည်း သံဃာ့ဝန်ဆောင် ဆရာတော်များ စည်းဝေးတော် မူကြသည်။ ယင်း အစည်းအဝေးတွင်—

၁။ ပြင်ဆင် ရေးဆွဲ တင်ပြသော သံဃာ့ဝန်ဆောင် အဖွဲ့၏ လုပ်ငန်း အစီ အစဉ်ပြ ပြက္ခဒိန် ပြင်ဆင်ချက်ကို ဤ ဝန်ဆောင် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

၂။ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ အခြေခံဒေသ အသီး သီးရှိ သံဃာတော်များအား ရှင်းပြရာ၌ ရှင်းလင်းပွဲများ၏ အဖွင့် လျှောက် လွှာများ နှင့် နိဂုံး လျှောက်လွှာများကို တမူတည်း ဖြစ်စေမှုကို သဘော ကိုက်ညီတော် မူကြ၍ တင်ပြသော လျှောက်ထားလွှာ စာကြမ်းများကို ဤအစည်းအဝေးက လက်ခံကြောင်း ဆုံးဖြတ်တော်မူကြသည်။

၃။ ဝိနည်း ဓမ္မကံဆိုင်ရာ သံဃာ့အဓိကရုဏ်းများ ဖြေရှင်း ဆုံးဖြတ်ရေး နည်းလမ်း ရေးဆွဲရေး အဖွဲ့ငယ်က ရေးဆွဲတင်ပြသော 'ဝိနည်း ဓမ္မကံ အဓိ ကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ (ပဌမမူကြမ်း)'ကို ဖြည့်စွက်ပြင်ဆင်ချက်များဖြင့် ဤ အစည်းအဝေးက လက်ခံ အတည်ပြုတော်မူကြကြောင်း ဆုံးဖြတ်တော်မူကြသည်။

**သတ္တမအကြိမ် အစည်းအဝေး။** ။၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၇-ရက် (၂၁-၂-၈၀) နေ့တွင်လည်း သံဃာ့ဝန်ဆောင် ဆရာတော်များ စည်းဝေးတော် မူကြသည်။ ထိုအစည်းအဝေးတွင်—

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့မှ သံဃာ့အဖွဲ့ အစည်း အဆင့်ဆင့် ဖွဲ့စည်းရေးအတွက် အခြေခံစည်းမျဉ်း ရေးဆွဲရေး အဖွဲ့ ငယ်က ရေးဆွဲတင်ပြသော 'ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်

သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း (ပဌမမူကြမ်း)’ကို ဝန်ဆောင် အစည်းအဝေးက ဖတ်ကြား ဆွေးနွေး စိစစ်တော်မူကြပြီးနောက် (ယာယီ) အတည်ပြု လက်ခံတော်မူကြောင်း ဆုံးဖြတ်တော်မူကြသည်။

**အဋ္ဌမအကြိမ် အစည်းအဝေး။** ။၁၃၄၁-ခုနှစ် တပေါင်း လဆန်း ၉ ရက် (၂၃-၂-၈၀)နေ့တွင် မူကား ပဌမအသုတ် နောက်ဆုံး အဋ္ဌမ အကြိမ် အစည်းအဝေးပွဲကို ကျင်းပသည်။ ယင်း အစည်းအဝေးတွင်—

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့မှ သံဃာ့ အဖွဲ့ အစည်း အဆင့်ဆင့် ဖွဲ့စည်းရေးအတွက် အခြေခံ စည်းမျဉ်း ရေးဆွဲရေးအဖွဲ့ ငယ်က သတ္တမအကြိမ် အစည်းအဝေးတွင် တင်ပြခဲ့သော ‘ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း (ပဌမမူကြမ်း)’၌ ထပ်မံ ဖြည့်စွက်ချက်များနှင့် အတူ ယင်း မူကြမ်းကို ယနေ့ အဋ္ဌမအကြိမ် အစည်းအဝေးက လက်ခံ အတည်ပြုတော်မူကြောင်း ဆုံးဖြတ် တော်မူကြသည်။

**အစည်းအဝေး အကြိမ်ကြိမ် ကျင်းပခဲ့။** ။၁၃၄၁-ခုနှစ် တပို့တွဲ လပြည့်ကျော် ၁ ရက် (၁-၂-၈၀) နေ့မှ ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၉-ရက် (၂၃-၂-၈၀) နေ့အထိ ကျင်းပသည့် ပဌမ သာသနာပါတွင်--

သံဃာ့ဝန်ဆောင်အဖွဲ့ ၈-ကြိမ်၊ သာသနာ့ဝင်လက်မှတ် အဖွဲ့ငယ် ၁၄-ကြိမ်၊ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရေး အဖွဲ့ငယ် ၁၄-ကြိမ်၊ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အဖွဲ့ငယ် ၁၈-ကြိမ်၊ ဝိနည်း ဓမ္မကံ အဖွဲ့ငယ် ၂၂-ကြိမ် စုစုပေါင်း (၇၆) ကြိမ် အစည်းအဝေးများ ပြုလုပ် ကျင်းပ ဆောင်ရွက်တော်မူခဲ့ကြသည်။

**အခြေခံ ဒေသများ၌ ရှင်းလင်းခြင်း။** ။သံဃာ့ဝန်ဆောင် ဆရာတော်များသည် ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၁၁-ရက် (၂၅-၂-၈၀) နေ့မှ ၁၃၄၁ ခုနှစ် တပေါင်းလဆန်း ၁၃-ရက် (၂၇-၂-၈၀) နေ့အချိန် ကာလအတွင်း ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒိပ ကျောင်းဆောင်မှ မိမိ တို့ဆိုင်ရာ အခြေခံဒေသများသို့ ပြန်ကြွတော်မူကြသည်။

အခြေခံဒေသအသီးသီးတို့၌ ပြုလုပ်သည့် ရှင်းလင်းပွဲများတွင် အသုံးပြုရန် စာရွက်စာတမ်း ၁၃-မျိုးကိုလည်း သံဃာ့ဝန်ဆောင် ဆရာတော်များအား သာသနာရေး ဦးစီးဌာနက ဆက်ကပ်သည်။ ၎င်းကို အနက် သာသနာ လက်မှတ်ဆိုင်ရာ အခေါ်အဝေါ်များလည်း ပါရှိသည်။

**ရှင်းလင်းခဲ့, အကြံဉာဏ်များ ရယူခဲ့။** ။သံဃာ့ဝန်ဆောင် ဆရာတော်များသည် ရှင်းလင်းပွဲ၌ အသုံးပြုရန် ပဌမသန္နိပါတအတွင်း ဆုံးဖြတ်အတည်ပြုခဲ့သော စာရွက် စာတမ်းပေါင်း ၁၃-မျိုးကို ယူဆောင်တော်မူကြ၍ ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၁၄-ရက် (၂၀၊ ၂၊ ၈၀) နေ့မှ ၁၃၄၁-ခုနှစ် နှောင်းတန်ခူးလဆန်း ၈-ရက် (၂၃၊ ၃၊ ၈၀) နေ့များအတွင်း မိမိတို့ဆိုင်ရာ အခြေခံဒေသများသို့ ကြွရောက်တော်မူ၍ စာတမ်း (ပဌမမူကြမ်း) များကို သံဃာတော်အရှင်မြတ်တို့အား ဌာနပေါင်း ၃၃၂-ဌာနခွဲ၍ ရှင်းလင်းတင်ပြခဲ့ကြသည်။ သံဃာတော်များထံမှလည်း အကြံဉာဏ်များကို ရယူတော်မူခဲ့ကြသည်။ ထိုသို့ ရှင်းလင်းတင်ပြရာတွင် အချို့သော ခရီးလွန် သံဃာများမှလွဲ၍ ကြွရောက်နိုင်သော သံဃာများက ကိုယ်တိုင်ကြွရောက်တော်မူကြ၍လည်းကောင်း မကြွရောက်နိုင်သော သံဃာတော်များက ဆန္ဒပေးတော်မူကြ၍လည်းကောင်း စုစုပေါင်း သံဃာတော် (၁၀၃၅၁၇) တို့ တက်ရောက်တော်မူကြသည်။

**ရှင်းလင်းကြောင်း သတင်းစာများ၌ ဖော်ပြ။** ။ယင်းသို့ သံဃာ့ဝန်ဆောင် ဆရာတော်များ၏ အခြေခံ ဒေသ အသီးသီး၌ ရှင်းလင်းကြောင်း သတင်းကိုလည်း အင်္ဂလိပ် မြန်မာ သတင်းစာများ၌ ဖော်ပြကြသည်။

**နမူနာထုတ်ပြခြင်း။** ။ဤ၌ ကျိုင်းတုံတွင် ရှင်းလင်းပုံ သတင်းကို နမူနာအဖြစ် အောက်ပါအတိုင်း ဖော်ပြအပ်သည်။

### သံဃာ့ဝန်ဆောင် ဆရာတော်များ ကျိုင်းတုံ၌ ရှင်းလင်း

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပရေးကိစ္စနှင့် ပတ်သက်၍ ရှမ်းပြည်နယ်မှ သံဃာ့ဝန်ဆောင် ဆရာတော်များသည် ကျိုင်းတုံမြို့၌ (၂၇၊ ၂၊ ၈၀) ရက်တွင် ရှင်းလင်းပွဲ ပြုလုပ်သည်။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး နှင့် ပတ်သက်သော စာတမ်းမူကြမ်းများကို ရှမ်းဘာသာ, ဂုန်ဘာသာ, မြန်မာဘာသာများဖြင့် ရှင်းလင်းတင်ပြကြောင်း သတင်းရရှိသည်။[1]

ဤသည်လျှင် ပဌမ သန္နိပါတနှင့် စပ်၍ သိမှတ်ဖွယ် အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ၊
ရစိတော ဣမ ဂန္ထမှိ၊ သမတ္တော သတ္တမော ဟိ ခေါ။

---

၁။ မိုလ်တခွန်ထောင်။ ၂၉၊ ၂၊ ၈၀။

# အဋ္ဌမပိုင်း

## ဒုတိယ သန္နိပါတ

## သံဃာ့ဝန်ဆောင် ဆရာတော်များ ဒုတိယအကြိမ် ကြွလာတော်မူခြင်း

သံဃာ့ဝန်ဆောင် ဆရာတော်များသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ်မြောက် အောင်မြင်ရေးအတွက် တာဝန်ယူဆောင်ရွက်ချိန် မိမိတို့ သီတင်းသုံး နေထိုင်ရာ အခြေခံဒေသ အသီးသီးမှ ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပ ကျောင်းဆောင်သို့ ၁၃၄၁-ခုနှစ် တန်ခူးလဆန်း ၉-ရက် ( ၂၄၊ ၃၊ ၈၀) နေ့မှ ၁၃၄၁-ခုနှစ် တန်ခူးလဆန်း ၁၀-ရက် ( ၂၅၊ ၃၊ ၈၀ ) နေ့အတွင်း ဒုတိယအကြိမ် ကြွရောက်တော်မူလာကြသည်။

**ဒုတိယအကြိမ် ပဥ္စမ အစည်းအဝေး။** ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် ဆရာတော်များ၏ ဒုတိယအကြိမ် ပဥ္စမနေ့ အစည်းအဝေးကို ၁၃၄၁-ခုနှစ် တန်ခူးလဆန်း ၁၁-ရက် ( ၂၆၊ ၃၊ ၈၀ ) နေ့ မွန်းလွဲပိုင်း ၁-နာရီအချိန်တွင် ကျင်းပသည်။ ယင်း အစည်းအဝေး ပွဲသို့ ဩဝါဒါစရိယ ဆရာတော်များ နာယက ဆရာတော်များ အကြံပေး ဆရာတော်များဖြစ်သည့် တိပိဋကဓရ ဆရာတော်များ၊ သံဃာ့ဝန်ဆောင် ဆရာတော်များ အဖွဲ့ ဥက္ကဋ္ဌ အကျိုးတော်ဆောင်များ အဖွဲ့ နှင့် ဝန်ဆောင် ဆရာတော်များ ကြွရောက်တော်မူကြသည်။

**သမ္မောဒနီယကထာ မြွက်ကြား။** ။ရှေးဦးစွာ သံဃာ့ ဝန်ဆောင် အဖွဲ့ အကျိုးတော်ဆောင် ဆရာတော် ဦးဧဝတာက အစည်းအဝေး အစီအစဉ်များကို လျှောက်ထားပြီး အဖွဲ့ ဥက္ကဋ္ဌ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဦးဣန္ဒာစာရက အစည်းအဝေးသို့ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ စုံစုံ ညီညီရောက်ရှိလာသည့်အတွက် ဝမ်းမြောက် အားရကြောင်း ရဟန်းတော်များနှင့် လူများပါ အပရိဟာနိယ တရားတော် ခုနစ်ပါး အတိုင်း လေးစားစွာ လိုက်နာကျင့်သုံးကြပါက အမျိုးဘာသာ နှင့် သာသနာပါ တိုး

တက်မည်ဖြစ်ကြောင်း ပြည်နယ် တိုင်း အသီးသီးတွင် ရှင်းလင်း လျှောက်ထား ခဲ့ရာ၌ ရရှိခဲ့သော အကြံဉာဏ်များကို ယခု အစည်းအဝေးတွင် တိုင်ပင် စည်းဝေးရန် တိုက်တွန်းကြောင်းဖြင့် သမ္မာဒနီယကထာ ဝမ်းမြောက် ဝမ်း သာစကား နှုတ်ခွန်းဆက် မြွက်ကြားတော်မူသည်။

**ပြန်လည် တင်ပြ လျှောက်ထား။** ။ထို့နောက် သံဃာ့ဝန်ဆောင် အဖွဲ့ ဝင် ဆရာတော်များက ပြည်နယ် နှင့် တိုင်း ၁၄ - ခုနှင့် ရွှေကျင်ဂိုဏ်း, မဟာ ဒွါရဂိုဏ်း, မူလဒွါရဂိုဏ် များရှိ ဆရာတော် သံဃာတော်များအား အခြေခံ ဒေသအလိုက် ရှင်းလင်း လျှောက်ထား ခဲ့သည်များကို ပြန်လည် တင်ပြ လျှောက်ထားကြသည်။

**ဒုတိယအကြိမ် ဒုတိယနေ့ အစည်းအဝေး။** ။သံဃာ့ဝန်ဆောင် ဆရာ တော်များသည် ၁၃၄၁ - ခုနှစ် တန်ခူးလဆန်း ၁၃ - ရက် (၂၀၊ ၃၊ ၇၀) နေ့တွင် ဒုတိယအကြိမ် ဒုတိယနေ့ အစည်းအဝေးကို ကျင်းပတော် မူကြ သည်။ ယင်း အစည်းအဝေးတွင်—

၁။ အကြံပေးချက်များကို အခြေခံ၍ ပဋ္ဌမမူကြမ်းများကို သက်ဆိုင်ရာ အဖွဲ့ငယ်များက ပြန်လည် စိစစ် ညှိနှိုင်းတော် မူကြပြီး ဒုတိယမူကြမ်း ပြုစု နိုင်ရန် လိုအပ်သော အချက်အလက်များကို စုဆောင်းပြီး ၃ - ရက် အတွင်း အဖွဲ့ငယ်များက ဝန်ဆောင် သံဃာ့ အစည်းအဝေးသို့ တင်ပြပေးရန် ဆုံးဖြတ်တော်မူကြသည်။

၂။ မကျန်းမမာ ဖြစ်နေသော ဆရာတော် ဦးပညာဘိနန္ဒ၏ နေရာတွင် မော်လမြိုင် တောင်လေးလုံး ကျောင်းတိုက်မှ ဆရာတော် ဦးနာဂသေနာဘိဝံသ (ဂ) အဖွဲ့ငယ် (ဝိနည်းဓမ္မကံဆိုင်ရာ သံဃာ့အဓိကရုဏ်းများ ဖြေရှင်း ဆုံး ဖြတ်ရေး နည်းလမ်းများ ရေးဆွဲရေး အဖွဲ့ငယ်) ၏ ယာယီ ခေါင်းဆောင် အဖြစ် တင်မြှောက်ရန် ဆုံးဖြတ်တော်မူကြသည်။

၃။ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရေးဆိုင်ရာ နေ့ရက် ပြင် ဆင် သတ်မှတ်ချက်နှင့်စပ်လျဉ်း၍ နောက်အကြိမ် အစည်းအဝေးတွင်မှ စဉ်းစား ဆောင်ရွက်ရန် ဆုံးဖြတ်တော်မူကြသည်။

၄။ မကျန်းမမာ ဖြစ်နေသော ဆရာတော် ဦးပညာဘိနန္ဒ ကျန်းမာ လာစေရန် ဝန်ဆောင် သံဃာက မေတ္တာပို့ ဆုတောင်းကြောင်း စာရေးသား ရန် ဆုံးဖြတ်တော်မူကြသည်။

**ဒုတိယအကြိမ် တတိယနေ့ အစည်းအဝေး။** ။သံဃာ့ဝန်ဆောင် ဆရာတော်များသည် ၁၃၄၁ - ခုနှစ် တန်ခူးလပြည့်ကျော် ၁-ရက် (၃၁၊၃၊၈၀) နေ့တွင်လည်း စည်းဝေးတော်မူ၍ –

၁။ **သာသနာဝင် လက်မှတ်** ပဋ္ဌမမူကြမ်းကို ၎င်းအဖွဲ့ငယ်က **စိစစ်**ပြသည့်အတိုင်း အမည်ကို သာသနာဝင်မှတ်တမ်းဟု ပြင်ဆင်ကာ စာအုပ်ပါ အတွင်းစာသား အချက်အလက် များကိုလည်း အဖွဲ့ငယ်က စိစစ် တင်ပြသည့်အတိုင်း လက်ခံ၍ ဒုတိယမူကြမ်းအဖြစ် ရိုက်နှိပ်ရန် သဘောတူ လက်ခံ အတည်ပြု၍ ဆုံးဖြတ်တော်မူကြသည်။ ထို့ပြင် သီလရှင်များ၏ မှတ်ပုံတင် လက်မှတ်ကိုလည်း "သာသနာ့ နွယ်ဝင် မှတ်တမ်း" ဟု အမည်ပြောင်းလဲရန်နှင့် အခြားလိုအပ်သည်များကို ရဟန်းတော်များ၏ သာသနာဝင် မှတ်တမ်းနှင့် လိုက်လျောညီစွာ ပြုပြင်ပြီး ဒုတိယမူကြမ်း အဖြစ် ပြုစုရန် သဘောတူ ဆုံးဖြတ်တော်မူကြသည်။

၂။ အခြေခံ ဒေသများသို့ ကြွရောက်ပြီး သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များ ရွေးချယ်ရန် ရက်ကို ၁၃၄၁-ခုနှစ် တန်ခူးလပြည့်ကျော် ၈ - ရက် (၇၊ ၄၊ ၈၀) တနင်္လာနေ့မှ ၁၃၄၂-ခုနှစ် ကဆုန်လဆန်း ၁၄-ရက် (၂၇၊ ၄၊ ၈၀) တနင်္ဂနွေနေ့ အတွင်း ရွေးချယ်ခြင်း စာရင်းပြုစုခြင်းများ အပြီးသတ် ဆောင်ရွက်ရန် သတ်မှတ် အတည်ပြု ပြဋ္ဌာန်း ဆုံးဖြတ်တော်မူကြသည်။

**ဒုတိယအကြိမ် စတုတ္ထနေ့ အစည်းအဝေး။** ။၁၃၄၁ - ခုနှစ် တန်ခူးလပြည့်ကျော် ၂ -ရက် (၁၊ ၄၊ ၈၀) နေ့တွင် ဒုတိယအကြိမ် စတုတ္ထနေ့ **အစည်းအဝေး**ဖြစ်၍ သံဃာ့ဝန်ဆောင် ဆရာတော်များ စည်းဝေးတော်မူကြ၍ –

ဝိနည်း ဓမ္မကံ အဓိကရုဏ်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ ရေးဆွဲရေး အဖွဲ့ငယ်က ဝိနည်း ဓမ္မကံ အဓိကရုဏ်း ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (ပဋ္ဌမမူကြမ်း) ကို ဒုတိယမူကြမ်း အဖြစ် ပြုစုရန် ပြင်ဆင်ဖြည့်စွက် နှုတ်ပယ်၍ တင်ပြချက်များကို ဝန်ဆောင် ဆရာတော် အစည်းအဝေးက ဆွေးနွေး **စိစစ်**တော် မူကြပြီး အဖွဲ့ငယ်က တင်ပြသည့် ပြင်ဆင်ချက်များအရ ဒုတိယမူကြမ်းကို ပြုစုရန် အတည်ပြု ဆုံးဖြတ်တော်မူကြသည်။

**ဒုတိယအကြိမ် ပဥ္စမနေ့ အစည်းအဝေး။** ။သံဃာ့ဝန်ဆောင် ဆရာတော်များ၏ ဒုတိယအကြိမ် ပဥ္စမနေ့ အစည်းအဝေးကို ၁၃၄၁-ခုနှစ် တန်ခူး

လပြည့်ကျော် ၃-ရက် (၂၊ ၄၊ ၈၁) နေ့တွင် ကျင်းပသည်။ ယင်း အစည်းအဝေးတွင်—

သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းရေးဆွဲရေး (ခ) အဖွဲ့ငယ်က သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း (ပဌမမူကြမ်း) ကို ရဟန်း ရှင် လူ များ၏ အကြံပေးချက်များအပေါ် အခြေခံလျက် လိုအပ်သလို ညှိနှိုင်း ပြင်ဆင် ဖြည့်စွက် နုတ်ပယ်၍ တင်ပြသော ပြင်ဆင်ချက်များကို ဝန်ဆောင် ဆရာတော်များ အစည်းအဝေးက လက်ခံတော်မူ၍ ၎င်းပြင်ဆင်ချက်အရ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း (ဒုတိယမူကြမ်း) ကို ပြုစုရန် လက်ခံ အတည်ပြု ဆုံးဖြတ်တော် မူကြသည်။

**ဒုတိယအကြိမ် ဆဋ္ဌမနေ့ အစည်းအဝေး။** ။၁၃၄၁ - ခုနှစ် တန်ခူး လပြည့်ကျော် ၄-ရက် (၃၊ ၄၊ ၈၀) နေ့ ဒုတိယအကြိမ် ဆဋ္ဌမနေ့ အစည်းအဝေးတွင်—

၁။ ဘက်ဆိုင်ရာအခြေခံ ဒေသများ ဂိုဏ်းများအလိုက် ဒုတိယအကြိမ် ရှင်းလင်းမည့် အစီအစဉ်နှင့် သံဃာ့ကိုယ်စားလှယ် ရွေးချယ်မည့် အစီအစဉ် ၂-ရပ်နှင့် စပ်လျဉ်း၍ တနိုင်ငံလုံးရှိ ရဟန်း သံဃာတော်များအား ဝန်ဆောင် ဆရာတော်များ အဖွဲ့အနေဖြင့် လျှောက်ထားရန် စာမူကြမ်းကို အကျိုးဆောင် ဆရာတော် ဘုရားက တင်ပြရာ ယင်း သို့ လျှောက်ထားရန်နှင့် တင်ပြသော စာမူကို လက်ခံကြောင်း အစည်းအဝေးက ဆုံးဖြတ်တော်မူကြသည်။

၂။ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရေးနည်းလမ်း စာတမ်း ပြုစုရေး အဖွဲ့ငယ်က ရွေးချယ်ရေး နည်းလမ်း ပြင်ဆင်ချက်ကိုလည်းကောင်း၊ ၁၀၀ လျှင် ၁-ပါးနှုန်းဖြင့် တွက်ချက် တင်ပြသော သံဃာ့ကိုယ်စားလှယ် စာရင်းကို လည်းကောင်း ဝန်ဆောင် အစည်းအဝေးက နောင်တွင် လိုအပ် လျှင် လိုအပ်သလို ပြုပြင်ရန် ဟူသော သဘောဖြင့် လက်ခံ အတည်ပြု ကြောင်း ဆုံးဖြတ်တော် မူကြသည်။

**ဒုတိယအကြိမ် သတ္တမ အစည်းအဝေး။** ။၁၃၄၁ - ခုနှစ် တန်ခူးလဆုတ် ၅-ရက်နေ့ အစည်းအဝေးတွင်—

၁။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့ အစည်း အခြေခံစည်းမျဉ်း ရေးဆွဲရေး အဖွဲ့ငယ်က စည်းမျဉ်းတွင် ထပ်မံ ထည့်သွင်းရန် တင်ပြသော အချက်များကို ဝန်ဆောင် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

၂။ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပရာတွင် အစစ အရာရာ ချောမော ပြေပြစ်စွာနှင့် အောင်မြင်စွာ ပြီးမြောက်နိုင်ရန် အတွက် အဖွဲ့ငယ်များ ဖွဲ့စည်း၍ တာဝန်များ ခွဲဝေ ဆောင်ရွက်သွားရန်နှင့် အောက်ပါ အဖွဲ့ငယ်များကို ပူးတွဲတင်ပြသော စာရင်းပါ သံဃာတော်များ ပါဝင် စေ လျက် ဖွဲ့စည်းရန် ဆုံးဖြတ်တော် မူကြသည်။

(က) ဦးဆောင်အဖွဲ့၊

(ခ) ကိုယ်စားလှယ် စိစစ်ရေးအဖွဲ့၊

(ဂ) ညှိနှိုင်း ဆော်သြရေး အဖွဲ့၊

(ဃ) အစီအစဉ် နှင့် မှတ်တမ်းများ ရေးဆွဲပြုစုရေး အဖွဲ့၊

(င) အဆိုစစ်ရေး အဖွဲ့။

**ဒုတိယအကြိမ် အဌမနေ့ အစည်းအဝေး။** ။၁၃၄၁-ခုနှစ် တန်ခူး လပြည့်ကျော် ၆-ရက် (၅၊ ၄၊ ၈၀) နေ့ ဒုတိယကြိမ် အဌမနေ့ အစည်း အဝေးတွင်—

၁။ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးသို့ တက်ရောက်ရန် သံဃာ့ ကိုယ်စားလှယ် ရွေးချယ်မှု နှင့် ပတ်သက်၍ ဒုတိယ အကြိမ် ဆဌမနေ့ အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ် ၂-မှ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ရွေးချယ်ရေး နည်းလမ်း စည်းကမ်း သတ်မှတ်ချက်ကို ပယ်ဖျက်ရန် ဆုံးဖြတ် တော်မူကြသည်။

၂။ နောက်ဆက်တွဲ (က) အဖြစ် ဖော်ပြထားသည့်[၁] မြို့နယ်များ အလိုက် ဂိုဏ်းအလိုက် သတ်မှတ်ထားသော သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် စာရင်းအတိုင်းပင် ရွေးချယ်သင့်ကြောင်း တညီ တညွတ်တည်း ဆုံးဖြတ် တော်မူကြသည်။

၃။ နောက်ဆက်တွဲ (ခ) အဖြစ် ဖော်ပြထားသည့်[၁] သမ္မုတိရ သံဃာ့ ကိုယ်စားလှယ်များကို ရွေးချယ်ရာတွင် သံဃာ့ဝန်ဆောင် ဆရာတော်များ ကျင့်သုံးရမည့် နည်းလမ်း စည်းကမ်းများအတိုင်း ဆောင်ရွက် သွားကြရန် တညီ တညွတ်တည်း ဆုံးဖြတ်တော်မူကြသည်။

---

၁။ ပထမအကြိမ် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့ အသီရင် ခံစာကြည့်။

**ဒုတိယအကြိမ် ဆောင်ရွက်ချက် အချုပ်။** ။၁၃၄၁-ခုနှစ် တန်ခူး လဆန်း ၁၁-ရက် (၂၆၊ ၃၊ ၈၀) နေ့မှ ၁၃၄၁-ခုနှစ် တန်ခူးလပြည့်ကျော် ၆-ရက် (၅၊ ၄၊ ၈၀) နေ့ အတွင်း ကျင်းပသည့် ဒုတိယ သန္နိပါတ၌ —

သံဃာ့ဝန်ဆောင် အဖွဲ့ ၈-ကြိမ်၊ သာသနာဝင် လက်မှတ် အဖွဲ့ငယ် ၅-ကြိမ်၊ သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရေး အဖွဲ့ငယ် ၆-ကြိမ်၊ သံဃာ့ အဖွဲ့ အစည်း အခြေခံ စည်းမျဉ်း အဖွဲ့ငယ် ၃-ကြိမ်၊ ဝိနည်း ဓမ္မကံ အဖွဲ့ငယ် ၆-ကြိမ်၊ စုစုပေါင်း ၂၈-ကြိမ် အစည်းအဝေး ပြုလုပ်တော်မူကြ၍ သာသနာဝင် အကြံပေးစာ ၂၉၄-စောင်၊ သံဃသမ္မုတိ အကြံပေးစာ ၇၀၊ ဝိနည်း ဓမ္မကံ အကြံပေးစာ ၁၆၉၊ အခြေခံစည်းမျဉ်း အကြံပေးစာ ၃၅၇၊ အထွေထွေ အကြံပေးစာ ၁၂၂၊ စုစုပေါင်း ၁၀၁၂ (တထောင့်တဆယ့်နှစ်စောင်) တို့ကို အခြေခံလျက် ပဌမမူကြမ်းများကို ဒုတိယမူကြမ်း အဖြစ် ပြန်လည် ပြင်ဆင် ရေးသားတော် မူကြသည်။

**အခြေခံဒေသများမှ ဒုတိယအကြိမ် ရှင်းလင်း။** ။သံဃာ့ ဝန်ဆောင် ဆရာတော်များသည် ၁၃၄၁-ခုနှစ် တန်ခူးလပြည့်ကျော် ၇-ရက် (၆၊ ၄၊ ၈၀) နေ့မှ ၁၃၄၁-ခုနှစ် တန်ခူးလပြည့်ကျော် ၈-ရက် (၇၊ ၄၊ ၈၀) နေ့ ကာလအတွင်း ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်မှ မိမိတို့ ဆိုင်ရာ အခြေခံဒေသများသို့ ပြန်ကြွတော်မူကြသည်။

၁၃၄၁-ခုနှစ် တန်ခူးလပြည့်ကျော် ၉-ရက် (၈၊ ၄၊ ၈၀) နေ့မှ ၁၃၄၂-ခုနှစ် ကဆုန်လပြည့် (၂၉၊ ၄၊ ၈၀) နေ့များအတွင်း မိမိတို့ ဆိုင်ရာ အခြေခံဒေသများ၌ စာတမ်း (ဒုတိယမူကြမ်း) များကို သံဃာတော်များအား ရှင်းလင်းပြီး သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များကို ရွေးချယ်တော်မူကြသည်။

**သတင်းစာများ၌ဖော်ပြ။** ။ဖော်ပြပါ အကြောင်းအရာများကို ပြည်သူပိုင် မြန်မာ, အင်္ဂလိပ် သတင်းစာများ၌ ဖော်ပြသဖြင့် ရဟန်း ရှင်လူ ပြည်သူ အများ သိခွင့်ရရှိကြသည်။ ဤ၌ နမူနာအဖြစ် အောက်ပါ (၆၊ ၄၊ ၈၀) နေ့ထုတ် ဗိုလ်တထောင် သတင်းစာပါ အချက် အလက်ကို အောက်ပါအတိုင်း ဖော်ပြအပ်သည်။

**သံဃာ့ဝန်ဆောင် ဒု အကြိမ် အစည်းအဝေး နောက်ဆုံးနေ့ပြီး**

**ရန်ကုန် ဧပြီ ၅။**

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ **အစည်းအဝေးပွဲကြီး** ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် **ဆရာတော်များ**

အဖွဲ့၏ ဒုတိယ အကြိမ် အစည်းအဝေးကို မတ်လ ၂၆-ရက်က စတင်၍ ကျင်း ပခဲ့ရာ အစည်းအဝေး၏ နောက်ဆုံးနေ့အဖြစ် ယနေ့ နံနက်က ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်၌ ကျင်းပသည်။

အဆိုပါ သံဃာ့ဝန်ဆောင် ဆရာတော်များသည် သက်ဆိုင်ရာ ပြည်နယ် တိုင်းများရှိ အခြေခံဒေသများသို့ ပြန်လည် ကြွရောက်တော်မူကြပြီး ဧပြီ ၇-ရက်မှ ၂၇-ရက် အတွင်း ၁၃၄၁-ခုနှစ် တန်ခူး လဆုတ် ၈-ရက်မှ ၁၃၄၂-ခုနှစ် ကဆုန်လဆန်း ၄-ရက်အတွင်း ဒုတိယအကြိမ် စာတမ်းများကို ဆရာတော် သံဃာတော်အရှင်မြတ်များအား ရှင်းလင်းလျှောက်ထား ကြမည့် အပြင် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးသို့ တက်ရောက်ရန် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ခြင်းတို့ကို ဆောင်ရွက်တော် မူကြမည် ဖြစ်ကြောင်း သတင်းရရှိသည်။ (သတင်းစဉ်)[၁]

ဤသည်လျှင် ဒုတိယ သန္နိပါတ နှင့် စပ်၍ သိမှတ်ဖွယ်တို့ကို ဖော်ပြရာ အဋ္ဌမပိုင်း အပြီးတည်း။

သုတေသိနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိတော ဣမ ဂန္ထမှိ၊ သမတ္တော အဋ္ဌမော ဟိ ခေါ။

—

၁။ မိုလ်တထောင် ၁၃၄၁-ခု၊ တန်ခူးလဆုတ် ၇-ရက်၊ တနင်္ဂနွေနေ့ (၆၊ ၄၊ ၈၀)

# နဝမပိုင်း

## တတိယသန္နိပါတ

## သံဃာ့ဝန်ဆောင် ဆရာတော်များ တတိယအကြိမ် ကြွလာတော်မူခြင်း

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တတိယအကြိမ် အစည်းအဝေးများ ကျင်းပရန် လုပ်ဆောင်သင့်သည့် လုပ်ငန်းများကို ဆက်လက်ဆောင်ရွက်ရန် ၁၃၄၂-ခုနှစ် ကဆုန်လပြည့် (၂၀၊ ၄၊ ၈၀) နေ့မှ ၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၂-ရက် (၃၀၊ ၄၊ ၈၀) နေ့များတွင် ပြည်နယ်၊ တိုင်း အခြေခံ ဒေသ အသီးသီးသို့ ကြွရောက်တော် မူခဲ့ကြသော သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်ကြီး (၆၅) ပါးတို့သည် ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပ ကျောင်းဆောင်သို့ ချောမောစွာ ပြန်လည် ရောက်ရှိတော်မူကြသည်။

**ဦးပုညာဘိနန္ဒ ပျံလွန်တော်မူ၍ လျော့။** ။သံဃာ့ဝန်ဆောင် အဖွဲ့ဝင် စစ်ကိုင်းတိုင်း စစ်ကိုင်း အခြေခံဒေသမှ သက်တော် ၇၆-နှစ် သိက္ခာတော် ၅၅-ဝါရ တောင်ဘီလူးချောင် ဆရာတော် ဦးပုညာဘိနန္ဒမှာ ၁၃၄၂-ခုနှစ် ကဆုန်လဆန်း ၄-ရက်နေ့တွင် ပျံလွန်တော် မူသဖြင့် ဝန်ဆောင် အဖွဲ့ ၆၆-ပါးမှ တပါးလျော့နေခြင်း ဖြစ်သည်။

**တတိယအကြိမ် ပဌမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၄-ရက် (၂၊ ၅၊ ၈၀) နေ့တွင် သံဃာ့ဝန်ဆောင် ဆရာတော်များ တတိယအကြိမ် ပဌမနေ့ အစည်းအဝေးပွဲကို ကျင်းပတော် မူကြသည်။ ယင်း အစည်းအဝေးပွဲတွင်—

၁။ ဩဝါဒါစရိယ ဆရာတော် အဘိဓဇမဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဦးတိက္ခ[၁] နှင့် သံဃာ့ဝန်ဆောင် ဆရာတော် စစ်ကိုင်းတောင်ရိုး

---

၁။ အဘိဓဇမဟာရဋ္ဌဂုရု ပွင့်လှသိမ်ကုန်း ဆရာတော် ဘုရားကြီးသည် ၁၃၄၂-ခုနှစ် ကဆုန်လဆန်း ၁၀-ရက်နေ့ နံနက် ၉-နာရီ ၄၅-မိနစ် အချိန်တွင် ပျံလွန်တော် မူသည်။

တောင်တောင်ဘီလူးချောင် ဆရာတော် ဦးပညာဘိနန္ဒတို့ ဘဝနတ်သံ ပျံလွန်တော် မူကြသည့်အတွက် ဝမ်းနည်းကြောင်း မှတ်တမ်းတင်ရန် ဆုံးဖြတ်တော် မူကြသည်။

၂။ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် စိစစ်ရေး အဖွဲ့က တင်သွင်းသော သံဃာ့ကိုယ်စားလှယ်များ၏ စာရင်းကို ပြည်နယ်၊ တိုင်း အလိုက် ဂိုဏ်းအလိုက် အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

၃။ ရန်ကုန် အခြေခံဒေသမှ ပျက်ကွက်သော ကိုယ်စားလှယ် (၇)နေရာနှင့် ညောင်ဦးမြို့နယ်မှ (၁)နေရာ တို့ကို နောက်ဆက်တွဲ ရွေးချယ် ပေးရန် သင့် မသင့် သက်ဆိုင်ရာ သာသနာရေးဌာနနှင့် ညှိနှိုင်းပြီးမှ နက်ဖြန် ကျင်းပမည့် ဝန်ဆောင် အစည်းအဝေးတွင် ထပ်မံ တင်သွင်း စဉ်းစားရန် ဆုံးဖြတ်တော် မူကြသည်။

၄။ စစ်ကိုင်းတောင်ရိုး သီလရှင် ဆရာကြီးများ၏ သီလရှင် မှုခင်း ပြဿနာများကို သံဃာ့ရုံးများမှသာ အဆုံးအဖြတ် ခံယူနိုင်ရေး အသနားခံချက်ကို ယခု အစည်းအဝေးကြီးက အလေးအနက် မှတ်တမ်းတင်ထားရန် ဆုံးဖြတ်တော် မူကြသည်။

**တတိယအကြိမ် ဒုတိယနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန် လပြည့်ကျော် ၅-ရက် (၃၊ ၅၊ ၈၀) တတိယအကြိမ် ဒုတိယနေ့ အစည်းအဝေးတွင်—

၁။ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း ရေးဆွဲရေး အဖွဲ့ငယ်၏ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ဒုတိယမူကြမ်း ပြင်ဆင်ချက်ကို အဖွဲ့ငယ်က တင်ပြသည့်အတိုင်း အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

၂။ ရန်ကုန် အခြေခံဒေသမှ ပျက်ကွက်ကိုယ်စားလှယ် (၇) နေရာနှင့် ညောင်ဦးမြို့နယ်မှ (၁) နေရာတို့တွင် နောက်ဆက်တွဲ ထပ်မံ ရွေးချယ်ခြင်း မပြုပဲ စည်းကမ်းအတိုင်း ရပ်ဆိုင်းထားရန် ဆုံးဖြတ်တော် မူကြသည်။

**တတိယအကြိမ် တတိယနေ့ အစည်းအဝေး။** ။၁၃၄၂- ခုနှစ် ကဆုန် လပြည့်ကျော် ၆-ရက် (၄၊ ၅၊ ၈၀)နေ့ အစည်းအဝေးတွင်—

ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးတွင် ရွေးချယ်ရမည့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ၏ အရေအတွက်ကို ဂိုဏ်း အလိုက် ပြည်နယ်၊ တိုင်း အလိုက် သတ်မှတ်ရန် အတွက် သမ္မုတိရ သံဃာ့

ကိုယ်စားလှယ် ၄-ပါးလျှင် ၁ ပါးကျွန်းဖြင့် တွက်ချက် တင်ပြသော ဗဟို ဝန်ဆောင် (၃၀၃) ပါးအနက်မှ သံဃာများသော စစ်ကိုင်း မန္တလေး နှင့် ရန်ကုန်မှ (၁) ပါးစီ လျော့၍ ကျန်ရှိသော ဗဟို သံဃာ့ဝန်ဆောင် အရေအတွက် (၃၀၀)ကို ဤအစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယအကြိမ် စတုတ္ထနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၇-ရက် (၅၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင် တတိယနေ့ အစည်းအဝေး ဆုံးဖြတ်ချက်များကို အတည်ပြုတော်မူကြသည်။

**တတိယအကြိမ် ပဉ္စမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၈-ရက် ပဉ္စမနေ့ အစည်းအဝေးတွင်—

၁။ ဝိနည်း ဓမ္မကံမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်း ဒုတိယမူကြမ်းကို ပြင်ဆင် ဖြည့်စွက်သော အချက် ၁၅-ချက်ကို အစည်းအဝေးက လက်ခံပြီး အပိုဒ် ၅၇၊ ၅၈-နှင့် စပ်လျဉ်း၍ နောက်နေ့ကျင်းပမည့် အစည်းအဝေးတွင် ဆက်သက်စဉ်းစားရန် ဆုံးဖြတ်တော်မူကြသည်။

၂။ အစီအစဉ် ရေးဆွဲရေး အဖွဲ့ဝင် အကျိုးဆောင် ဆရာတော် ဦးကောသလ္လတင်ပြသော ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ကျင်းပမည့် အစီအစဉ်ကို ပြင်ဆင် ဖြည့်စွက်ချက်များဖြင့် လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

၃။ သာသနာ့အလံတော် အနေအထား နှင့် အရောင်သတ်မှတ်ပေးရန် "နာယက ဆရာတော် ၆-ပါး၊ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဦးဝိစိတ္တသာရာဘိဝံသ၊ ဦးဝဏ္ဏသိရီ (သံလျင်)၊ ဦးတေဇောဘာသာဘိဝံသ (ပေါင်းတည်)၊ ဦးကုမာရာဘိဝံသ" ဟူသော ဆရာတော် ၁၀—ပါးတို့အား သမ္မုတိပေး၍ အစည်းအဝေးက တာဝန်ပေးအပ်ကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယ အကြိမ် ဆဋ္ဌမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၉-ရက် (၇၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင်—

၁။ ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်း ဒုတိယမူကြမ်း စာအုပ်ပါ အပိုဒ် ၅၇-နှင့် ၅၈-တို့ကို အဖွဲ့ဝင်က ယနေ့ ပြင်ဆင်တင်ပြသော ပြင်ဆင်ချက်များအတိုင်း အစည်းအဝေးက လက်ခံ၍ ဤအပိုဒ်များကို လုပ်ထုံး လုပ်နည်း စာအုပ်၌ ထည့်သွင်းရန် တညီတညွတ်တည်း လက်ခံအတည်ပြု ဆုံးဖြတ်တော်မူကြသည်။

၂။ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးအတွက် အစီအစဉ်များကို အဖွဲ့ငယ် အကျိုးဆောင် ဆရာတော်က ထပ်မံတင်ပြသည့် အတိုင်း အစည်းအဝေးက လက်ခံကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယ အကြိမ် သတ္တမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၁၀-ရက် (၈၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင်—

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (ပဌမမူကြမ်း)ကို ယင်း အဖွဲ့ငယ်က တင်ပြသည့် အတိုင်း ပြင်ဆင်ချက် ဖြည့်စွက်ချက်များဖြင့် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယ အကြိမ် နဝမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၁၅-ရက် (၁၃၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင်—

၁။ ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း) နှင့် စပ်လျဉ်း၍ ပြင်ဆင်နုတ်ပယ်ချက်များကို တတိယအကြိမ် အဋ္ဌမနေ့ အစည်းအဝေး၌ တင်ပြခဲ့သည့်အတိုင်း လက်ခံအတည်ပြုရန် ဆုံးဖြတ်တော်မူကြသည်။

၂။ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ (မူကြမ်း) အဆိုတင်သွင်းလွှာကို ယနေ့ အဖွဲ့ငယ် အကျိုးဆောင်က ပြင်ဆင်တင်ပြသည့်အတိုင်း ဝန်ဆောင် သံဃာ့အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယ အကြိမ် ဒသမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် နယုန်လဆန်း ၂-ရက် (၁၅၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင်—

၁။ ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်း ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ မူကြမ်း အတည်ပြုရန် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တင်သွင်းမည့် အဆိုတင်သွင်းလွှာ (ထပ်မံပြုပြင် တင်ပြသည့် အဆိုတင်သွင်းလွှာ) ကို ဝန်ဆောင် အစည်းအဝေးက ဆွေးနွေးစိစစ်ပြီး အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

၂။ သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်း အတည်ပြုရန် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ တင်သွင်းမည့် အဆိုတင်သွင်းလွှာကို

သံဃာ့ဝန်ဆောင် အစည်းအဝေးက ပြင်ဆင်ချက် ၄-ရပ်ဖြင့် လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

၃။ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ဝင် ဆရာတော်များ စုစုပေါင်း အရေအတွက်ကို ၈၁-ပါး သတ်မှတ်ရန် နှင့် လက်ရှိ အဘိဓဇမဟာရဋ္ဌဂုရု (၄) ပါး, အဂ္ဂမဟာပဏ္ဍိတ (၃၀) ပါးအပြင် ဂိုဏ်းအသီးသီးမှ မဟာထေရ် (၄၇) ပါး (နောက်ဆက်တွဲ (က) ဇယားအရ) ခွဲဝေ သတ်မှတ်ချက်များကိုပါ သံဃာ့ဝန်ဆောင် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

**တတိယအကြိမ် ကောဒသမနေ့ အစည်းအဝေး။** ။၁၃၄၂-ခုနှစ် နယုန်လဆန်း ၃-ရက် (၁၆၊ ၅၊ ၈၀) နေ့ အစည်းအဝေးတွင်—

၁။ ဆရာတော် ဦးခေမာဝုဓ ဖတ်ကြား တင်သွင်းသော ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တင်သွင်းမည့် သံဃာ့ဝန်ဆောင် အဖွဲ့၏ အစီရင်ခံစာကို ပြင်ဆင် ဖြည့်စွက်ချက်များဖြင့် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော်မူကြသည်။

၂။ ဆရာတော် ဦးဉာဏာဘိဝံသ ဖတ်ကြား တင်သွင်းသော သာသနာဝင် မှတ်တမ်း မူကြမ်း အတည်ပြုရန် အစည်းအဝေးကြီးသို့ တင်သွင်းမည့် အဆိုတင်သွင်းလွှာကို ပြင်ဆင်ဖြည့်စွက်ခြင်းများဖြင့် ဝန်ဆောင် အစည်းအဝေးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

၃။ ကျောက်ဆည် အခြေခံဒေသမှ ဆရာတော် ဦးဝရသမ္မောဓိ တင်ပြသော သာသနာဝင် မှတ်တမ်း အဖုံး၌ အစိမ်းရောင်ခံ တက်နေပုံ၊ သာသနာ့နှယ်ဝင် မှတ်တမ်းအဖုံး၌ လပြည့်ဝန်းပုံ ရိုက်နှိပ်သင့်ကြောင်း အကြံပြုချက်ကို ဝန်ဆောင် သံဃာ့အစည်းအဝေးက မှတ်တမ်း တင်ထားရန် ဆုံးဖြတ်တော်မူကြသည်။

**တတိယအကြိမ် ဒွါဒသမနေ့ အစည်းအဝေး။** ။သံဃာ့ဝန်ဆောင် ဆရာတော်များသည် ၁၃၄၂-ခုနှစ် နယုန်လဆန်း ၄-ရက် (၁၇၊ ၅၊ ၈၀) နေ့တွင် တတိယအကြိမ် ဒွါဒသမမြောက်နေ့ အဖြစ် နောက်ဆုံး စည်းဝေးတော် မူကြသည်။ ယင်း အစည်းအဝေးတွင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၌ မိန့်ကြားတော်မူမည့် သံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ ဆရာတော်၏ အဖွင့် မိန့်ခွန်းကို ဆွေးနွေးတော်မူကြပြီး ပြင်ဆင်ချက်များဖြင့် ဤအစည်းအဝေးကြီးက လက်ခံ အတည်ပြုကြောင်း ဆုံးဖြတ်တော် မူကြသည်။

## သံဃာ့ဝန်ဆောင်အဖွဲ့ တတိယသန္နိပါတ ဆောင်ရွက်ချက် အကျဉ်းချုပ်

၁၃၄၂-ခုနှစ် ကဆုန်လပြည့်ကျော် ၄-ရက် (၂၊ ၅၊ ၈၀) နေ့မှ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၉-ရက် (၂၂၊ ၅၊ ၈၀) နေ့အတွင်း ကျင်းပသည့် တတိယ သန္နိပါတ၌ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက် အောင်မြင်ရန် သံဃာ့ဝန်ဆောင် အဖွဲ့ ၁၂-ကြိမ်၊ သာသနာ့ဝင်မှတ်တမ်း အဖွဲ့ငယ် ၂-ကြိမ်၊ သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အဖွဲ့ငယ် ၃-ကြိမ်၊ ဝိနည်း ဓမ္မကံ အဖွဲ့ငယ် ၃-ကြိမ်၊ စုစုပေါင်း ၂၀-ကြိမ် တိုင်တိုင် အစည်းအဝေးပွဲများ ကျင်းပ ပြုလုပ်၍ သာသနာ့ဝင်မှတ်တမ်း အကြံပေးစာ ၃၄-စောင်၊ ဝိနည်း ဓမ္မကံ အကြံပေးစာ ၁၀-စောင်၊ သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အကြံပေးစာ ၃၅-စောင်၊ အထွေထွေ အကြံပေးစာ ၄၀-စောင်၊ စုစုပေါင်း ၁၂၇-စောင်တို့ကို အခြေခံလျက် ဒုတိယ မူကြမ်းများကို ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ပွဲကြီးသို့ တင်သွင်းနိုင်သည့် အဆင့်သို့ ရောက်အောင် အပြီးသတ် ပြင်ဆင် ရေးသားခဲ့ကြကုန်၏။

သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်း စည်းကမ်းစာတမ်းကိုမူ သံဃာ့ဝန်ဆောင် အဖွဲ့ ဒုတိယအကြိမ် အစည်းအဝေး (ဒုတိယ သန္နိပါတ) အတွင်း၌ပင် အတည်ပြုပြီး စာတမ်းပါ သတ်မှတ်ချက်များနှင့်အညီ သံဃာ့ကိုယ်စားလှယ်များကို ရွေးချယ်ခဲ့ပြီး ဖြစ်၏။

ဤ တတိယအကြိမ် အစည်းအဝေး (တတိယသန္နိပါတ) အတွင်း၌ မူရင်းစာတမ်းများကို အထောက်အကူ ပြုမည့် အခြားစာတမ်းများ, စာရင်းများ, ဩဝါဒကထာများ, ကျေးဇူးကြောင်း လျှောက်ထားလွှာများကိုပါ ရေးသားပြုစုတော်မူခဲ့ကြသည်။

## ဝန်ဆောင်အဖွဲ့ ဆောင်ရွက်ချက် အချုပ်

၁၃၄၁-ခုနှစ် တပို့တွဲလပြည့်ကျော် ၁-ရက် (၃၊ ၂၊ ၈၀) နေ့မှ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၀-ရက် (၂၃၊ ၅၊ ၈၀) နေ့အထိ ကာလအတွင်း ကျင်းပသည့် သံဃာ့ဝန်ဆောင် အဖွဲ့၏ အစည်းအဝေးများမှာ စုစုပေါင်း ၁၂၄-ကြိမ် ဖြစ်၍ အကြံဉာဏ် ပေးစာပေါင်း ၁၁၃၉-စောင် ဖြစ်ကြောင်း သိရသည်။[၁]

---

၁။ အသေးစိတ်စာရင်း ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး မှတ်တမ်း။ ၇၄-၇၅ ကြည့်။

ဤသို့ဖြင့် သံဃာ့ဝန်ဆောင် ဆရာတော်များသည် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် အပင်ပန်းခံ၍ ကြိုးပမ်းတော်မူခဲ့ကြကုန်၏။

မဟတာ ပရိဿမေန၊ ဘာရနိတ္ထာရကာဃတိ။
မဟာသန္နိပါတတ္ထာယ၊ ဥယျုဇ္ဇန္တိ အနေကဓာ။

....

## သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ်များအား ပင့်စာ ဆက်ကပ် ပင့်လျှောက်

နိုင်ငံတော် အစိုးရ နှင့် ပြည်သူလူထု၏ လိုလေသေး မရှိအောင် ကူညီထောက်ပံ့မှုဖြင့် သာသနာ့ သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးကို ၁၃၄၂-ခုနှစ် နယုန်လဆန်း (၁၁) ရက် (၁၂) ရက် (၁၃) ရက် (၁၄) ရက် နေ့များတွင် ကျင်းပမည်ဖြစ်သဖြင့် သံဃာ့ဝန်ဆောင် အဖွဲ့ဥက္ကဋ္ဌ, အတွင်းရေးမှူး ဆရာတော်များ၏ လက်မှတ်ဖြင့် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် မြန်မာပြည်ဘဝှန်းလုံးမှ ၁၂၃၅-ပါးတို့ အထံ အောက်ပါအတိုင်း ပင့်စာဆက်ကပ်၍ ပင့်ဆောင်တော်မူကြသည်။

ဤသမိုင်းကျမ်း၌ မိမိထံ၌ အဆင်သင့်ရှိ အောက်ပါ ပင့်သောစာကို နမူနာအဖြစ် ဖော်ပြအပ်ပါသည်။

**သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး**
**ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး**
**သံဃာ့ဝန်ဆောင်အဖွဲ့**
**ဇမ္ဗူဒီပကျောင်းဆောင်၊ ကမ္ဘာအေး၊ ရန်ကုန်**

၁၃၄၂-ခုနှစ်၊ ကဆုန်လဆုတ် (၈) ရက်
၁၉၈၀-ပြည့်နှစ်၊ မေလ (၆) ရက်

ဆက်ကပ်ရန်ပါဘုရား—

ဦးကေလာသ
မဟာဝိသုတာရာမတိုက်၊ အမှတ် (၁၀) ရပ်ကွက်
ပခုက္ကူ မြို့။

ရှိသေစွာ ပင့်လျှောက်ပါသည် ဘုရား —

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးကို ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း (၁၁)

ရက် (၁၂) ရက် (၁၃) ရက်နှင့် (၁၄) ရက်နေ့များတွင် ရန်ကုန်မြို့၊ ကမ္ဘာအေးကုန်းမြေ၊ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ ကျင်းပမည်ဖြစ်ပါ၍ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်ဖြစ်တော်မူသော ဆရာတော် အရှင်သူမြတ်တို့အား ထိုအစည်းအဝေးပွဲကြီးသို့ တက်ရောက်နိုင်ရန် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း (၉) ရက်၊ ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၂—ရက်နေ့တွင် ရန်ကုန်မြို့၊ ကမ္ဘာအေးကုန်းမြေ၊ ပုဗ္ဗဝိဒေဟကျောင်းဆောင်၊ အပရဂေါယာနကျောင်းဆောင်၊ ဥတ္တရကုရုကျောင်းဆောင်သို့ အရောက် ကြွရောက်တော်မူပါရန် ရိုသေစွာ ပင့်လျှောက်ပါသည်ဘုရား။ ဆက်ကပ်ထားသည့် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် အသိအမှတ်ပြုလွှာကို တပါတည်း ယူဆောင်လာတော်မူပါဘုရား။

ဆရာတော်ကိုယ်တိုင် ကြွရောက်တော် မူပါရန်နှင့် အကယ်၍ ကိုယ်တိုင် မကြွရောက်နိုင်ပါကလည်း ကိုယ်စားလှယ် စေလွှတ်ခြင်း မပြုပါရန် လျှောက်ထားပါသည်ဘုရား။ ဆရာတော် ကြွသည့်အခါ အိပ်ရာလိပ်ယူဆောင်လာရန် မလိုကြောင်းနှင့် ပစ္စာသမဏနှင့် ကပ္ပိယကိုလည်း ခေါ်လာရန် မလိုပါကြောင်း ထပ်မံလျှောက်ထားပါသည် ဘုရား။

ကြွရောက်ရေး ကိစ္စနှင့် ပတ်သက်၍ သက်ဆိုင်ရာ ပြည်နယ်တိုင်း ပြည်သူ့ကောင်စီ အလုပ် အမှုဆောင်အဖွဲ့၊ မြို့နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့နှင့် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး ဌာနတို့က စီစဉ်ဆောင်ရွက် ပေးကြမည် ဖြစ်ပါကြောင်း လျှောက်ထားပါသည် ဘုရား။

ဤပင့်လျှောက်လွှာနှင့် အတူ ဖော်ပြပါ စာရွက်စာတမ်းများကိုလည်း ပူးတွဲ ဆက်ကပ်ပါသည် ဘုရား—

- ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း အခြေခံ စည်းမျဉ်းများ ၁—အုပ်၊
- ဝိနည်း ဓမ္မကံ အဓိကရဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ ၁-အုပ်၊
- သံဃာတော်များ၏ သာသနာဝင်လက်မှတ်တမ်း ၁—အုပ်၊
- ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး လုမ်းညွှန်စာအုပ် ၁-အုပ်၊

— ထေရုပ္ပတ္တိရေးသွင်းရန် ပုံစံ ၁—ရွက်။

ထေရုပ္ပတ္တိပုံစံ စာရွက်ကို အပြည့်အစုံ ရေးသွင်းပြီးလျှင် ယခု ဆက်ကပ်သော စာရွက် စာတမ်းများ နှင့် အတူ တပါတည်း ပြန်လည် ယူဆောင်တော်မူခဲ့ပါဘုရား။

(ဘဒ္ဒန္တဇာနန္ဒာဘိဝံသ) (ဘဒ္ဒန္တရေဝတ)
ဥက္ကဋ္ဌ အကျိုးတော်ဆောင်

**သံဃာ့ကိုယ်စားလှယ်များ ကြွရောက်တော်မူကြပြီ, ကြိုဆိုကြပြီ**

နိုင်ငံတော် အစိုးရ၏ စီနစ်တကျ ပင့်ဆောင်ချက်အရ သံဃာ့သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ဆရာတော်များသည် မိမိတို့ အခြေခံဒေသ အသီးသီးမှ ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေရှိ ဇမ္ဗူဒီပ ကျောင်းဆောင်, ပုဗ္ဗဝိဒေဟ ကျောင်းဆောင်, ဥတ္တရကုရုကျောင်းဆောင်, အပရဂေါယာနကျောင်းဆောင် ကြီးများသို့ မော်တော်ကား, မီးရထား, သင်္ဘော, လေယာဉ် ခရီးစဉ် အသွယ်သွယ်တို့ဖြင့် ၁၃၄၂ - ခုနှစ် နယုန်လဆန်း ၇- ( ၂၀၊ ၅ ၊ ၈၀ ) နေ့မှ စ၍ ကြွရောက်တော်မူလာကြသည်။ နယုန်လဆန်း ၈-ရက်နေ့တွင် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ အထူး မီးရထားဖြင့် သံဃာတော် အပါး ၅၀၀-ခန့် တစုတဝေးတည်း ကြွရောက်တော်မူလာကြကုန်၏။

**ကဗျာများဖြင့် ရွတ်ဆို ပူဇော် ကြိုဆို**

ထိုသို့ ကြွရောက်တော်မူလာကြသော သံဃာ့ကိုယ်စားလှယ် ဆရာတော်များအား သာသနာရေး ဦးစီးဌာနက ဝမ်းမြောက်ဝမ်းသာ ကြိုဆိုကြသည်။ ယင်းသို့ ကြိုဆိုရာတွင် သာသနာရေး ဦးစီးဌာနမှ ဝန်ထမ်း အမျိုးသမီးများက "သံဃာအား ဘုရားယုံခဲ့သည်" ဟူသော အောက်ပါ ရှစ်လုံးဘွဲ့ ထုတိဝန္ဒနာကဗျာများကို ရွတ်ဆိုပူဇော်ကြိုဆိုကြသည်။

**ကြိုဆို ပူဇော်သော ဝန္ဒနာ ကဗျာများ**

၁။ သိန်းကျော်သံဃာ့ ဆန္ဒတူညီ၊
သမ္မုတိရ ထေရဇာနည်၊
သာသနာတွက် အားတက်လာပြီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၂။ ရွှေဆောင်ရွှေသွား မမှားဖြောင့်တည်၊
ဝန်ဆောင်ထေရ်ကြီး စုစည်းဆောင်သည်၊
သမ္မုတိရ ထေရစုံညီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၃။ တစ် သုံး လေး နှစ် ဇေဌခါမှီ၊
စံပယ််မြတ်လေး ပျံ့မွှေးသင်းကြည်၊
အခါကောင်းမို့ ထေရ်ပေါင်းစုံညီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၄။ ခေတ်ကောင်းသစ်ကောင်းနှစ်ထောင်းကြုံပြီ၊
သာသနာ့သုံးရပ် မြင့်မြတ်ဂုဏ်ရည်၊
သန့်ရှင်းတည်တံ့ ပြန့်နှံ့စေမည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၅။ သာသနာ့ကွယ်ကြောင်း မကောင်းလီလီ၊
အင်္ဂုတ္တိုရ်ကျမ်း ခွဲခြမ်းပြသည်၊
သတိဆောင်၍ ရှောင်ရပေမည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၆။ သံကိုသံဖျက် သံချေးတက်သည်၊
သာသနာ့တွင်း မလင်းမကြည်၊
တိမ်ညိုလွှမ်းသည့် လစန်းပုံညီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၇။ ပုရေ အဓမ္မော သဘောကိုတည်၊
နောင်မှနောင်တ ရှောင်ရပေမည်၊
လသာဆဲမို့ အားခဲထေရ်ညီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၈။ ကန်ဘောင်ပရိယတ် ပဋိပတ်ရေကြည်၊
ပဋိဝေဓ ပဒုမ္မာကြာညီ၊
ပရိယတ်ဆောင်မှ ငါးထောင်တည်မည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၉။ အပရိဟာနိယ မမှုလမ်းညီ၊
တထောင်ကျော်မျှ သံဃာ့မထေရ်၊

.သာသနာ့ရေး စုဝေးဆောင်သည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၁၀။ သံဂါယနာ ဆင်နွဲတူညီ၊
သာသနာ့ညစ်ကြေး ဆေးကြောစေမည်၊
သန့်တည်ပြန့်မှု ရှည်ခံပေမည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၁၁။ ဝိနည်းတရား တသားတည်းတည်၊
သံဃာချင်းချင်း စည်းမျဉ်းအညီ၊
နေထိုင်ရေးသို့ ချင့်တွေးမြှော်ရည်၊
သံဃာအား ဘုရားယုံခဲ့သည်။

၁၂။ ဝိနည်းဆုံးဖြတ် ပိဋကတ်ညီ၊
အာဏာဓမ္မ မျှတစေမည်၊
တုံ့စစ် ခွဲခြမ်း မှတ်တမ်းကိုယ်စီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၁၃။ ကျောင်း နှင့် သင်္ကန်း ဆွမ်းပန်းမွေးကြည်၊
ဆေးဝါးပစ္စည်း လှူနည်းစုံသည်၊
ဒါယကာဝတ် မချွတ်ပါပြီ၊
သံဃာအား ဘုရားယုံခဲ့သည်။

၁၄။ အားရနှစ်လို ကြိုဆိုပါသည်၊
ကိုယ့်စိတ် ချမ်းမြေ့ စန်းတွေ့စုံညီ၊
ညီညာပေါင်းလို့ အောင်ကြောင်းကိုရည်၊
သံဃာအား ဘုရားယုံခဲ့သည်။

## မြန်မာ့အသံမှ အသံလွှင့်ပေးခဲ့

ဖော်ပြပါ ထုတိဝန္ဒနာ ကဗျာ အကြိုလင်္ကာများကို တနိုင်ငံလုံးရှိ ဆန္ဒပေး သံဃာတော်များ နှင့် ပြည်သူအများပါ နားသောတဆင်နိုင်ရန် အလို့ငှာ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၈-ရက်နေ့ (၂၁၊ ၅၊ ၈၀) နေ့ နံနက်ပိုင်း မြန်မာ့အသံကလည်း အသံလွှင့်ပေးခဲ့လေသည်။

**အကြိုညှိနှိုင်းပွဲများ ပြုလုပ်ခြင်း။** ။တနိုင်ငံလုံးမှ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များသည် ၁၃၄၂-ခုနှစ် နယုန်လဆန်း ၇-ရက်

( ၂၀၊ ၅၊ ၈၀ ) နေ့မှ စတင်၍ ကမ္ဘာအေးကုန်းမြေရှိ ကျောင်းဆောင်ကြီးများသို့ အသုတ်လိုက် အသုတ်လိုက် ကြွရောက်တော်မူလာကြရာ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၉-ရက် ( ၂၂၊ ၅၊ ၈၀ ) နေ့ ညနေတွင် သံဃာ့ ကိုယ်စားလှယ် ( ၁၂၁၈ ) ပါး အစုံအညီ ရောက်ရှိတော်မူကြသည်။

ထိုနေ့မှာပင် ပြည်နယ် နှင့် တိုင်းအလိုက်, ဂိုဏ်းအလိုက်, ဆက်သွယ်ရေးကိုယ်စားလှယ်များ ရွေးချယ်ပြီး ထိုကိုယ်စားလှယ်များ၏ ညှိနှိုင်း အစည်းအဝေးကို ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၀-ရက် နေ့က ဇမ္ဗူဒီပကျောင်းဆောင် အစည်းအဝေးခန်းမ၌ ကျင်းပတော်မူကြသည်။ ထိုအစည်းအဝေးတွင် နောက်နောက်တွင် စတင်ကျင်းပမည့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးအတွက် လိုအပ်သော ကြိုတင် ညှိနှိုင်းမှုများကို ပြုလုပ်တော်မူကြသည်။

**ဝန်ဆောင်, နာယက လျှာထားခြင်း။** ။၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၀-ရက် ( ၂၃၊ ၅၊ ၈၀ ) နေ့ နေ့ခင်းပိုင်း နှင့် ညပိုင်းတွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ညှိနှိုင်း လျှာထားခြင်း, နိုင်ငံတော် သံဃာ့မဟာနာယက ဥက္ကဋ္ဌ နှင့် အဖွဲ့ဝင်များကို ညှိနှိုင်းလျှာထားခြင်းများ ပြုလုပ်တော်မူကြသည်။

**နိုင်ငံတော် သမတကြီး ဆရာတော်ကြီးများ ဖူးမြော်။** ။၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၀-ရက်( ၂၃၊ ၅၊ ၈၀ )နေ့ ညနေ ၆-နာရီခန့်တွင် နိုင်ငံတော်ကောင်စီ ဥက္ကဋ္ဌ, နိုင်ငံတော်သမ္မတကြီး ဦးနေဝင်းသည် ကမ္ဘာအေးကုန်းမြေရှိ ဇမ္ဗူဒီပကျောင်းဆောင်သို့ ရောက်ရှိလာပြီး—

၁။ အဘိဓဇမဟာရဋ္ဌဂုရု မုဒ္ဒုန်းဆရာတော် ဘုရားကြီး ဦးကောသလ္လ၊

၂။ အဘိဓဇမဟာရဋ္ဌဂုရု စစ်ကိုင်းတောင်ရိုး ရွှေဟသာ တိုက်သစ် ဆရာတော်ဘုရားကြီး ဦးပဏ္ဍိတသီရိ၊

၃။ အဘိဓဇမဟာရဋ္ဌဂုရု ခန္တီး ဆရာတော် ဘုရားကြီး ဦးသုဇန၊

၄။ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ် ဆရာတော် ဘုရားကြီး ဦးဝိသုဒ္ဓ၊

၅။ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာဝန်ဆောင်အဖွဲ့ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မ ဆရာတော် ဘုရားကြီး ဦးဣန္ဒာစာရ တို့ကို ဖူးမြော်ကန်တော့၍ လျှောက်ထားရန် ရှိသည်များကို လျှောက်ထားလေသည်။

**ပစ္စယာနုဂ္ဂဟဖြင့်ထောက်ပံ့မည်။** ။နိုင်ငံတော် သမ္မတကြီးက ပဌမအချက် အနေဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကိစ္စကို ဩဝါဒါ စရိယ ဆရာတော်ကြီးများနှင့် သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာ တော်များက တာဝန်ယူ ဆောင်ရွက်တော်မူကြရန် ဖြစ်ကြောင်း၊ နိုင်ငံတော် အစိုးရနှင့် တိုင်းသူပြည်သားများက ပစ္စယာနုဂ္ဂဟဖြင့် ထောက်ပံ့အားပေးရန် ဖြစ်ကြောင်းကို လျှောက်ထားလိုကြောင်း။

**ရုပ်ပွားစေတီများ ပြည်သူများ ပူဇော်နိုင်ရန် ဆောင်ရွက်သင့်။** ။နိုင်ငံ တော်သမ္မတကြီးက ဒုတိယအချက်အနေဖြင့် နီပေါဘုရင်က ဓမ္မပဏ္ဏာအနေဖြင့် ပို့လိုက်သည့် ရွှေ, ငွေ, ကြေး, သံ, ခဲ, သတ္တု ၅-မျိုး ရောစပ်ထားသော ပဥ္စလောဟ ရုပ်ပွားတော်နှင့် ဆံချီစေတီတော်တို့ကို အများ ပြည်သူ လူထု ပူဇော်နိုင်ရန် ဆောင်ရွက်ပေးလျှင် လက်ဆောင်ပေးသည့် ပုဂ္ဂိုလ်လည်း အကျိုးရှိပြီး တပည့်တော်တို့လည်း အကျိုးရှိနိုင်ကြောင်းကို လျှောက်ထား လိုကြောင်း။

**စာဟောင်း ပေဟောင်း ပိဋကများ ထိန်းသိမ်းလို။** ။တတိယအချက် အနေဖြင့် ယခုလို တနိုင်ငံလုံးမှ ရဟန်းသံဃာတော်များ ဆုံတုန်း အချိန်တွင် စာဟောင်းပေဟောင်း ပိဋကတ်များနှင့် စပ်လျဉ်းပြီး ထိန်းသိမ်းမှုမရှိလျှင် တစတစ ပျောက်ပျက်သွားနိုင်သည့်အတွက် ဆရာတော်များက ညွှန်ကြားခဲ့ ပါလျှင် တပည့်တော်များက ကျကျနန ထိန်းသိမ်းစောင့်ရှောက် သွားလို ကြောင်း စသည်ဖြင့် လျှောက်ထားလေသည်။

**မဟာနာယက အဖွဲ့ဝင် လျှာထား။** ။၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၀-ရက် (၂၃၊ ၅၊ ၈၀) နေ့ ည ၇-နာရီမှစ၍ မကြုံစဘူး မိုးကြီး ရွာ သည်၊ တကယ်တော့ မိုးကြီးက သာသနာ့ သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးကို ကြိုဆိုခြင်းဖြစ်ဟန် တူသည်။ ယင်းသို့ မိုးကြီးသည်းထန်စွာ ရွာသည့်ကြားမှာပင် ဗဟိုသံဃာ့ ဝန်ဆောင် အလျာ ဆရာတော် ၂၂၈-ပါးတို့ အစည်းအဝေး ပြုလုပ်တော်မူကြပြီး နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ကို ရွေးချယ်လျှာထားကြသည်။ မန္တလေး ၄-မြို့နယ် နှင့် ကျန်အခြေခံဒေသနှစ်ခုအတွက် လျှို့ဝှက်ဆန္ဒပေး စံနစ်ဖြင့် နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင် ဆရာတော်များကို ရွေးချယ် လျှာထားကြ သည်။ ကျန် ပြည်နယ်/တိုင်း နှင့် ဂိုဏ်းတို့က အချင်းချင်းညှိနှိုင်းကြ၍ မဟာ နာယက အဖွဲ့ဝင် ဆရာတော်များကို လျှာထားပေးကြကုန်၏။

**ညှိနှိုင်းချက်အတိုင်း ကိုက်ညီစွာ ရွေးချယ်နိုင်ခဲ့။** ။၁၃၄၂-ခုနှစ်၊ နယုန် လဆန်း ၁၂-ရက် (၂၅၊ ၅၊ ၈၀) နေ့ ညနေပိုင်း၌ နိုင်ငံတော် ဗဟို

သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို တရားဝင် ရွေးချယ်ရာ၌ လည်းကောင်း ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၃-ရက် (၂၆၊ ၅၊ ၈၀) နေ့တွင် နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ကို တရားဝင် ရွေးချယ်ရာ၌လည်းကောင်း ကြိုတင် ညှိနှိုင်းထားချက်အတိုင်း ကိုက်ညီစွာ ရွေးချယ်နိုင်ခဲ့လေသည်။

## နဝမပိုင်း အပြီးသတ်ခြင်း

သံဃာ့ဝန်ဆောင် ဆရာတော်များ တတိယအကြိမ် ကြွရောက်တော်မူလာ၍ စည်းဝေးတိုင်ပင် ဆုံးဖြတ်ပုံ အချုပ်မှစ၍ ဗဟိုသံဃာ့ဝန်ဆောင်၊ နိုင်ငံတော် သံဃာ့ မဟာနာယက လျာထားသည့်အထိ သမိုင်းကို ဖော်ပြရာ နဝမပိုင်းကို ဤတွင် လက်စသတ်လိုက်ပါပြီ။

သုတေသိနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိတေ ဣဓ ဂန္ထမှိ၊ သမတ္တော နဝမော ဟိ ခေါ။

—

# ဒသမပိုင်း

## ပထမအကြိမ် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး

### ပထမနေ့ အစည်းအဝေး သမိုင်းမှတ်တမ်း

သာသနာတော်နှစ် ၂၅၂၄ ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၁ - ရက် ( ၂၄၊ ၅၊ ၈၀ ) စနေနေ့။

ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ ပထမအကြိမ် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးကို နံနက် ၈-နာရီ အချိန်တွင် စတင် ကျင်းပလေသည်။ အစည်းအဝေးကြီးတွင် အစည်းအဝေး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့၏ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မဆရာတော် ဘုရားကြီးက ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်တော်မူ၍ သံဃာ့ဝန်ဆောင်အဖွဲ့၏ အကျိုးတော်ဆောင် မန္တလေး တောင်သမန်တိုက်မှ ဦးရေဝတက အခမ်းအနားမှူးအဖြစ် ဆောင်ရွက်တော်မူသည်။

အခမ်းအနားမှူး ဆရာတော်က တပည့်တော် ဖတ်ကြား လျှောက်ထားပါသည် ဆရာတော် အရှင်သူမြတ်တို့ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ အစည်းအဝေး ကျင်းပရန် အချိန်အခါ နီးကပ်နေပြီ ဖြစ်ပါ၍ လိုဏ်ဂူတော်ကြီး အတွင်း သတ်မှတ်ထားသော နေရာသို့ ကြွရောက်၍ နေရာ ယူတော်မူကြပါရန် ပင့်လျှောက်ပါသည် ဘုရား။

တပည့်တော် ထပ်၍ လျှောက်ထားပါသည် ဘုရား၊ ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ အစည်းအဝေးကြီး ကျင်းပရန် အချိန်နီးကပ်နေပြီ ဖြစ်ပါ၍ လိုဏ်ဂူတော်ကြီးအတွင်း သတ်မှတ်ထားသော နေရာသို့ ကြွရောက်၍ နေရာ ယူတော်မူကြရန် ပင့်လျှောက်ထားပါသည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ( ပထမအကြိမ် ) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးတွင်

အစည်းအဝေး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မဆရာတော် ဘုရားကြီးက ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ပြီး ဘုရားတပည့်တော် သံဃာ့ဝန်ဆောင် အဖွဲ့၏ အကျိုးတော်ဆောင်. မန္တလေးတောင်သမန်တိုက်မှ ရေဝတဂ အခမ်းအနားမှူးအဖြစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း လျှောက်ထားပါသည် ဘုရားဟု လျှောက်ထားသည်။

**အစည်းအဝေးကြီးစတင်ဖွင့်လှစ်ကြောင်းကြေညာခြင်း။** ။အခမ်းအနားမှူး ဆရာတော်က ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးကို ဥက္ကဋ္ဌ ပဲခူးမြို့မ ဆရာတော်ဘုရားကြီး၏ ခွင့်ပြုတော်မူချက်အရ စတင်ဖွင့်လှစ်ကြောင်း ကြေငြာ လျှောက်ထားပါသည် ဆရာတော်တို့ဘုရားဟု လျှောက်ထား၍ အခမ်းအနားကို ဖွင့်လှစ်တော်မူသည်။

**ပထမနေ့ အစည်းအဝေး အထမြောက်ကြောင်း ကြေညာ။** ။အခမ်းအနားမှူး ဆရာတော် ဘုရား။ ဘုရားတပည့်တော်တို့၏ အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော သံဃာအရေအတွက်မှာ (၁၂၂၆) ပါးဖြစ်၍ တက်ရောက်နိုင်သော သံဃာကိုယ်စားလှယ် အရေအတွက်မှာ (၁၂၃၅) ပါး ဖြစ်ပါတယ်။ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်သော သံဃာတော်ပေါင်း ရာနှုန်းမှာ (၉၉.၃) နှုန်း ဖြစ်၍ သတ်မှတ်ထားသော (၇၅) ရာခိုင်နှုန်းထက် ကျော်လွန်သဖြင့် အစည်းအဝေးကြီး အောင်မြင်ထမြောက်ကြောင်း လျှောက်ထားပါသည် ဆရာတော်တို့ဘုရား။

ဘုရားတပည့်တော်တို့ အစည်းအဝေးကြီး၏ ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့ကို ဖွဲ့စည်းရန် လိုအပ်ပါသဖြင့် နယုန်လဆန်း (၁၀) ရက်နေ့ကပင် ဂိုဏ်းအသီးသီး၊ ပြည်နယ် တိုင်း အသီးသီးတို့က ဆန္ဒပေးကြပြီးဖြစ်၍ ထိုဆရာတော် ဘုရားများသည် ယခု အစည်းအဝေးကြီးအတွင်း ကြွရောက်၍ သီတင်းသုံး ရောက်ရှိလျက် ရှိနေပါပြီဘုရား၊ ဩဝါဒါစရိယဆရာတော်ကြီးများ အဖွဲ့တွင် ပါဝင်သော ဘွဲ့တော်များစာရင်းကို ဖတ်ကြားခြင်း မပြုတော့ပါဘုရား။ ပုံနှိပ်ဝေငှထားသည့် စာရင်းပါအတိုင်း ဖြစ်ပါသည်။ ထိုဝေငှထားသော စာရင်းတွင် အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီး (၄) ပါး နှင့် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီး အပါး (၃၀) တို့ ပါဝင်၍ စုစုပေါင်း ဩဝါဒါစရိယ ဆရာတော်ကြီး (၃၆) ပါး ဖြစ်ကြောင်း လျှောက်ထားပါသည်ဘုရား။

**သာသနဿ စ လောကဿ ဝုဍ္ဎိ ဘဝတု ဂါထာ ၃-ကြိမ် ရွတ်ဆို ဖွင့်လှစ်**

အစည်းအဝေးကို သာသနဿစလောကဿ ဝုဍ္ဎိ ဘဝတု အောက်ဖော်ပြပါ ၃-ဂါထာဖြင့် ရွတ်ဆို၍ ဖွင့်လှစ်တော်မူကြပါသည်။

သာသနဿ စ လောကဿ၊ ဝုဍ္ဎိ ဘဝတု သဗ္ဗဒါ။
သာသနမ္ပိ စ လောကဉ္စ၊ ဒေဝါ ရက္ခန္တု သဗ္ဗဒါ။

သာသနဿ စ လောကဿ၊ ဝုဍ္ဎိ ဘဝတု သဗ္ဗဒါ။
သာသနမ္ပိ စ လောကဉ္စ၊ ဒေဝါ ရက္ခန္တု သဗ္ဗဒါ။

သာသနဿ စ လောကဿ၊ ဝုဍ္ဎိ ဘဝတု သဗ္ဗဒါ။
သာသနမ္ပိ စ လောကဉ္စ၊ ဒေဝါ ရက္ခန္တု သဗ္ဗဒါ။

**အစည်းအဝေးကြီး တရပ်လုံး၏ အစီအစဉ်ကို အတည်ပြု။** ။ဗမာခမ်း အနားမှူး ဆရာတော်က—အစည်းအဝေးကြီး တခုလုံး၏ အကြမ်းဖျင်း အစီအစဉ်မှာ ဖြန့်ဝေထားသည့်အတိုင်း ဖြစ်ပါတယ်ဘုရား၊ အကြမ်းဖျင်း အစီအစဉ်ကို အစည်းအဝေးကြီးက အတည်ပြုပြီးတဲ့နောက် နေ့စဉ် ဆောင်ရွက်ရမည့် အသေးစိတ် အစီအစဉ်များကို သတင်းစဉ်မှာ ဖော်ပြပြီး ဖြန့်ဝေမည် ဖြစ်ပါတယ်ဘုရား၊ ယခု အကြမ်းဖျင်း အစီအစဉ်ကို အစည်းအဝေးကြီးက သဘောတူ-မတူ ဥက္ကဋ္ဌ ဆရာတော် ဘုရားကြီးမှတဆင့် အတည်ပြုပေးတော်မူပါရန် လျှောက်ထားပါသည်ဘုရားဟု လျှောက်ထားလေသည်။

ဥက္ကဋ္ဌ ဆရာတော်က—ဆရာတော်သံဃာတော် အရှင်မြတ်တို့ဘုရား၊ ခုနက တင်သွင်းသွားတဲ့ အစည်းအဝေးကြီး တရပ်လုံး အကြမ်းဖျင်း အစီအစဉ်ကို သဘောတူကြပါသလားဘုရား၊ သဘောတူလျှင် ဆိတ်ဆိတ်နေတော်မူကြပါရန် ဖြစ်ပါတယ်ဘုရား၊ ဆရာတော်အရှင်သူမြတ်များဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ်ခေါ်တော်မူရန် ဖြစ်ပါတယ်ဘုရားဟု လျှောက်ထား၍ ဆရာတော်များက သာဓု သုံးကြိမ်ခေါ်၍ အတည်ပြုပါသည်။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က အစီအစဉ် အတည်ပြုပြီးတဲ့အတွက် နေ့စဉ်ဆောင်ရွက်မည့် အသေးစိတ် အစီအစဉ်များကို သတင်းစဉ်မှာ ဖော်ပြပြီး ဖြန့်ဝေမှာဖြစ်ပါတယ်ဘုရား၊ ယနေ့ အစီအစဉ်ကို သတင်းစဉ်ထဲမှာ ဖော်ပြထားသည့်အတိုင်း ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း လျှောက်ထားပါသည်ဘုရားဟု လျှောက်ထားသည်။

## အဘိဓဇ မဟာရဋ္ဌဂုရု စစ်ကိုင်း ရွှေဟင်္သာဆရာတော်ဘုရားကြီး၏ ဩဝါဒကထာ မြွက်ကြားခြင်း

**အခမ်းအနားမှူး ဆရာတော်က** ယနေ့အစည်းအဝေး အစီအစဉ် အရ အစည်းအဝေးကြီး၏ ဩဝါဒ စရိယ ဆရာတော် အဘိဓဇမဟာရဋ္ဌဂုရု စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီးက ဩဝါဒကထာ မြွက်ကြားဖို့ ဖြစ်ပါတယ်ဘုရား၊ စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီးအား ဩဝါဒ ကထာမြွက်ကြားပေးတော်မူရန် ဘုရားတပည့်တော် လျှောက်ထားပါသည် ဟု လျှောက်ထားရာ—

အဘိဓဇမဟာရဋ္ဌဂုရု စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီးက အောက် ပါအတိုင်း ဩဝါဒ မြွက်ကြားတော်မူသည်။

မြန်မာနိုင်ငံတော် တဝန်းလုံးရှိ တသိန်းကျော်သော သံဃာတော်မြတ် တို့၏ ကိုယ်စား သမ္မုတိရ ကြွရောက်တော်မူလာကြကုန်သော ဒေသဆိုင်ရာ ဦးဆောင်ရှေ့သွား လမ်းညွှန် ဖြစ်တော်မူကြကုန်သော ပရိယတ္တိ ဆောက ပဋိပတ္တိမာမက ဝိနယဂရုက သိက္ခာကာမ ဖြစ်တော်မူကြကုန်သော ဆရာတော် များကို သာသနာတော် သန့်ရှင်းရေး တည်တံ့ရေး ပြန့်ပွားစည်ပင်ရေးအဖြစ် ကျင်းပပြုလုပ်သော ဤအစည်းအဝေးကြီး၌ မိယိဘပုဗ္ဗင်္ဂမာ - သမ္မောဒမာန အခြင်းအရာတို့ဖြင့် ကျွန်းမာရွှင်လန်းစွာ တွေ့ဆုံကြရသောကြောင့် အတိုင်း အသိ ဝမ်းမြောက် ဝမ်းသာဖြစ်မိပါသည်။

အရှင်ဘုရားတို့ တပည့်တော်တို့၏ ဆောင်ရွက်ပြီး ဆောင်ရွက်ဆဲ ဆောင် ရွက်လတ္တံ့ဖြစ်သော သာသနာတော် သန့်ရှင်း စင်ကြယ်ရေးကိစ္စကို ဆင်ခြင် ပါလျှင်—

**အခါတပါး၌** အရှင်အာနန္ဒာ အရှင်မြတ်သည့် ကောသမ္ဗီပြည် နိဂြောဓာရုံကျောင်းတော်၌ အခိုက်အတံ့ သီတင်း သုံးတော်မူစဉ် အညဘိတ္တိယ- တိတ္ထိ၏ တပည့်ဖြစ်သော အိမ်ရှင်ဒကာ ဘဝယက်သည် အရှင်အာနန္ဒာ အရှင် မြတ်ထံ လာရောက်ဆည်းကပ်ပြီးသကာလ အရှင်အာနန္ဒာအား မေးလျှောက် သည်မှာ -

အရှင်ဘုရား လောက၌ အဘယ်မည်သော ပုဂ္ဂိုလ်တို့ ဟောကြားသော တရားသည် သွက္ခာတမ္မ "ကောင်းသော ဟောကြားအပ်သော တရား" ဖြစ်ပါသနည်း အရှင်ဘုရားဟု လျှောက်ပါသည်။ ထိုအခါ အရှင်အာနန္ဒာက ဒကာ သည်လိုဆိုလျှင် ဒကာကိုပင် ပြန်၍မေးမည်၊ အသင်ဒကာသဘောကျသလို ဖြေပါ။ ဒကာ-အကြင်ပုဂ္ဂိုလ်တို့သည် ရာဂကင်းကြောင်းတရားကို ဟောကြား

တော်မူကြကုန်၏။ ဒေါသကင်းကြောင်းတရားကို ဟောတော်မူကြကုန်၏။ မောဟကင်းကြောင်း တရားကို ဟောတော်မူကြကုန်၏။ ထိုပုဂ္ဂိုလ်တို့ ဟောကြားသော တရားသည် "သွာက္ခာတဓမ္မ" ကောင်းစွာ ဟောကြားအပ်သော တရား ဖြစ်သလား (သို့မဟုတ်) "ဒုအက္ခာတဓမ္မ" မကောင်းသဖြင့် ဟောကြားအပ်သော တရား ဖြစ်သလား၊ အသင် ဒကာ သဘောကြသလို ဖြေစမ်းပါဟု အရှင်အာနန္ဒာက အမိန့်ရှိတော်မူသောအခါ ဒကာက အရှင်အာနန္ဒာအား ရာဂကင်းကြောင်း၊ ဒေါသကင်းကြောင်း၊ မောဟ ကင်းကြောင်း ဖြစ်သော တရား ဖြစ်သောကြောင့် သွာက္ခာတဓမ္မ ထိုပုဂ္ဂိုလ်ဟောကြားအပ်သော တရားသည် ကောင်းစွာ ဟောကြားအပ်သော တရား ဖြစ်ပါသည်ဟု ဖြေကြား လျှောက်ထားသည်။ ထိုအခါ အရှင်အာနန္ဒာက ဤမေးခွန်း ပုစ္ဆာနှင့်စပ်သို့ အသင့်ကိုယ်တိုင်က ဖြေကြားပြီးဖြစ်၍ ငါတို့က ဖြေကြားရန် မလိုတော့ဟု အမိန့်ရှိပါသည်။

ထို့နောက် ဒကာက ဆက်လက်၍ လျှောက်ထားသည်မှာ အရှင်ဘုရား လောက၌ အဘယ်ပုဂ္ဂိုလ်တို့သည် "သုပ္ပဋိပန္န ကောင်းစွာကျင့်သုံးအပ်သော ပုဂ္ဂိုလ်တို့ ဖြစ်ပါသနည်း အရှင်ဘုရား"ဟု ထပ်မံ လျှောက်ထားသောအခါ အရှင်အာနန္ဒာက ဒိပုစ္ဆာနှင့် စပ်၍လည်း ဒကာကိုပင် ပြန်၍ မေးမည်၊ အသင်ဒကာ သဘောကျသလိုသာ ဖြေပါဟု မိန့်တော်မူပြီးသကာလ အရှင်အာနန္ဒာမထေရ်က အမိန့်ရှိတော်မူသည်မှာ လောက၌ အကြင် ပုဂ္ဂိုလ်တို့သည် ရာဂကင်းခြင်းငှာ ကျင့်တော်မူကြကုန်၏၊ ဒေါသကင်းခြင်းငှာ ကျင့်တော်မူကြကုန်၏၊ မောဟကင်းခြင်းငှာ ကျင့်တော်မူကြကုန်၏၊ အဲသည်လို ပုဂ္ဂိုလ်တို့သည် "သုပ္ပဋိပန္န ကောင်းစွာကျင့်သော ပုဂ္ဂိုလ်တို့ ဖြစ်သလား၊ သို့မဟုတ် ဒုပ္ပဋိပန္န မကောင်းသဖြင့် ကျင့်သော ပုဂ္ဂိုလ်တို့ ဖြစ်သလား ဒကာသဘောကျသလို ဖြေပါဟု" အမိန့်ရှိတော်မူသောအခါ ထို ဒကာက- အရှင်ဘုရား လောက၌ ရာဂကင်းခြင်းငှာ၊ ဒေါသကင်းခြင်းငှာ၊ မောဟကင်းခြင်းငှာ ကျင့်သုံးတော် မူကြသည်ဖြစ်၍ ထိုပုဂ္ဂိုလ်တို့သည် သုပ္ပဋိပန္န ဂုဏ်ဖြင့် ပြည့်စုံသော ပုဂ္ဂိုလ်တို့ ဖြစ်ပါသည်ဟု လျှောက်ထားသောအခါ ရှင်အာနန္ဒာက သည်ပုစ္ဆာနှင့် စပ်၍လည်း ငါတို့မှာ ဖြေရန်မလို သင်ကိုယ်တိုင်ပင် ဖြေကြားပြီး ဖြစ်လေသည် ဟု အမိန့်ရှိပါသည်။ ထို့နောက် ဒကာက ဆက်လက်၍ လျှောက်ထားသည်မှာ အရှင်ဘုရား လောက၌ အဘယ်ပုဂ္ဂိုလ်တို့သည် ကျင့်သုံးအပ်ပြီးသော ပုဂ္ဂိုလ်တို့ ဖြစ်ပါသနည်းဟု လျှောက်ထားသောအခါ ဤမေးခွန်း၌လည်း သင့်ကိုပင် ပြန်၍ မေးမည်၊ အသင် သဘောကျသလို ဖြေပါဟု ရှင်အာနန္ဒာက မိန့်ကြားသည့်ကာလ၊ လောက၌ အကြင်

ပုဂ္ဂိုလ်တို့သည် ရာဂကို ပယ်အပ်ပြီ၊ ဒေါသကို ပယ်အပ်ပြီ၊ မောဟကို ပယ်အပ်ပြီ။ နောက်တဖန် မဖြစ်ရအောင် အားထုတ်ပြီ။ နောင်တဖန် ဖြစ်ပေါ်ခြင်း မရှိပြီ။ ဤကဲ့သို့သော ပုဂ္ဂိုလ်သည် လောက၌ ပြုအပ်ပြီးသော သုကတ ပုဂ္ဂိုလ်ဖြစ်သလား၊ (သို့မဟုတ်) မပြုအပ်သေးသော ပုဂ္ဂိုလ်ဖြစ်သလား၊ အသင်ဒကာ သဘောကျသလို ဖြေပါဟု အရှင်အာနန္ဒာက မိန့်တော်မူသော အခါ၊ ထိုအခါ ထိုဒကာက အရှင်ဘုရား လောက၌ အကြင်ပုဂ္ဂိုလ်တို့သည် ရာဂကို ပယ်အပ်ပြီ၊ ဒေါသကို ပယ်အပ်ပြီ၊ မောဟကို ပယ်အပ်ပြီ၊ နောင်တဖန် မဖြစ်အောင် ပြုအပ်ပြီ ဖြစ်သောကြောင့် ထိုပုဂ္ဂိုလ်တို့သည် လောက၌ သုကတ မည်သော ပုဂ္ဂိုလ်ဖြစ်ပါသည်ဟု ပြန်လည် လျှောက်ထားရာ အရှင်အာနန္ဒာက ဤပုစ္ဆာ၌လည်း အသင် ကိုယ်တိုင် ဖြေကြားပြီး ဖြစ်၍ ငါတို့က ထပ်မံဖြေကြားရန် မလိုတော့ပြီဟု အမိန့်ရှိတော်မူရာ ဒကာက အရှင်ဘုရား၊ အရှင်ဘုရား မိန့်တော်မူသည်မှာ အလွန်တရာ ကောင်းမြတ်လှပါပေသည်။ မိမိဂုဏ်ကိုလည်း မချီးမြှောက် သူတပါးကိုလည်း မထိခိုက်စေပဲ မိန့်ကြားတော် မူသည်မှာ ကောင်းမြတ်လှပါပေသည် ဟု လျှောက်ထားပါသတဲ့။

ယခု ဖော်ပြအပ်သော ရှင်အာနန္ဒာ၏ ဓမ္မကထာကို ဥပမာအဖြစ်ဖြင့် သတိပြုတော်မူကြပါရန် ဖြစ်ပါသည်။ ပစ္စက္ခလက်ငင်းကာလ ယခု အချိန်အခါ၌ တပည့်တော်များ အရှင်ဘုရားများ ဆောင်ရွက်ဆဲဖြစ်သော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားစည်ပင်ရေးတို့နှင့် စပ်၍ ပြောဟောတော် မူကြခြင်းသည် သွာက္ခာတ သဘော သက်သလား၊ ဒုအက္ခာတ သဘော သက်သလား ဆိုသည်ကို ဆင်ခြင်တော်မူကြလျှင် "သွာက္ခာတသဘော" သက်သည်ကို အရှင်ဘုရားများ သိတော်မူပြီး ဖြစ်ပါသည်။

"သုပ္ပဋိပန္န" ဖြစ်ကြောင်းကိုလည်း အရှင်ဘုရားများ သိတော်မူပြီး ဖြစ်ပါသည်။ ယင်းကဲ့သို့ သွာက္ခာတ၊ သုပ္ပဋိပန္န ဂုဏ်တို့နှင့် ပြည့်စုံစွာ ဆောင်ရွက်တော် မူကြပါမှုကား သုကတ ဂုဏ်သို့ ရောက်မည် ဖြစ်ပါသည်။

အရှင်ဘုရားတို့သည် မိမိတို့ သီတင်းသုံးရာ ပြည်နယ်၊ တိုင်း၊ မြို့နယ်၊ ရပ်ကွက်၊ ကျေးရွာအုပ်စုတို့၌ လမ်းညွှန်ရှေ့သွား မထေရ်မြတ်များ ဖြစ်တော်မူကြသည် ဖြစ်၍ အရှင်ဘုရားတို့က စပြီးလျှင် သာသနာတော် သန့်ရှင်းရေးကို ရှေ့ရှုသောအားဖြင့် သွာက္ခာတဂုဏ်၊ သုပ္ပဋိပန္နဂုဏ်တို့နှင့် ပြည့်စုံတော်မူအောင် ကျင့်သုံး လမ်းပြ၍ ပြည်နယ်၊ တိုင်း၊ မြို့နယ်၊ ရပ်ကွက်၊ ကျေးရွာအုပ်စုတို့၌ သက်ဆိုင်ရာ သံဃာတော် အရှင်မြတ်တို့ကိုလည်း ထိုက်သည် အားလျော်စွာ ယင်း ဂုဏ်တို့နှင့် ပြည့်စုံနိုင်သမျှ ပြည့်စုံလေအောင်

အားထုတ်၍ စောင့်ရှောက် ထိန်းသိမ်းတော်မူကြရန် သတိပေး တိုက်တွန်းအပ်ပါသည် အရှင်ဘုရား။

တပည့်တော်တို့၏ ကျေးဇူးရှင်ဖြစ်တော်မူသော မြတ်စွာဘုရား၏ ဓမ္မဝိနယ ပိဋကတော်လာ သြဝါဒကထာတို့ကို ရိုသေလေးစားစွာ သတိပြု၍ လိုက်နာကြပါလျှင် တပည့်တော်တို့၏ သာသနာတော်သည် အမြဲတမ်း သန့်ရှင်းစင်ကြယ် တောက်လင်း နေမည်ကိုလည်း အရှင်ဘုရားများ သိတော်မူပြီးဖြစ်ပါသည်။

ရာဂ၊ ဒေါသ၊ မောဟတို့ကို မပြတ်သတိပြုကာ ၎င်းတို့ကို မိမိတို့၏ အကျိုးစီးပွားမဲ့ ကို ပြုတတ်သော အဇ္ဈတ္တရန်သူ အစစ်ကို အမှန် သိမြင်တော်မူကြ၍ တတ်နိုင်သမျှ တစတစ ခေါင်းပါးအောင် အားနည်းအောင် ဆင်ခြင်တော်မူကြပြီးလျှင် မိမိတို့၏ အတွင်းရန်သူ အစစ်တို့ ဖြစ်ကြကုန်သော ထိုရာဂ၊ ဒေါသ၊ မောဟတို့ကြောင့်ဖြစ်သော အဓိကရုဏ်းတို့ကို မဖြစ်စေ၍ ထိန်းသိမ်း စောင့်ရှောက်တော်မူကြသောအားဖြင့် သာသနာတော်ကို သန့်ရှင်းတောက်ပစေလျက် ပြန့်ပွားစည်ပင်အောင် အရှင်ဘုရားတို့က နည်းလမ်းညွှန်ပြတော်မူကြပြီးလျှင် ဆောင်ရွက်တော်မူကြပါစေသတည်းဟု ပတ္ထနာပြု၍ ဤသြဝါဒကထာကို နိဂုံးချုပ်လိုက်ပါသည် အရှင်မြတ်တို့ဘုရား။ ယင်းသို့ မြွက်ကြားတော်မူ၍ အပြီးတွင် အခမ်းအနားမှူး ဆရာတော်က သာဓုခေါ်တော်မူကြပါဘုရားဟု တိုက်တွန်းရာ ဆရာတော် သံဃာတော် အရှင်မြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြပါသည်။

**ဥက္ကဋ္ဌဆရာတော်ဘုရားကြီးက အဖွင့်မိန့်ခွန်းမြွက်ကြား။** ။အခမ်းအနားမှူး ဆရာတော်က အစည်းအဝေး အစီအစဉ်အရ အစည်းအဝေးကြီး၏ ဥက္ကဋ္ဌ ပဲခူးမြို့မ ဆရာတော်ဘုရားကြီး အဖွင့်မိန့်ခွန်း မြွက်ကြားရန် ဖြစ်ပါတယ်ဘုရား၊ ပဲခူးမြို့မဆရာတော် ဘုရားကြီးအား အဖွင့်မိန့်ခွန်း မြွက်ကြားပေးတော်မူပါရန် လျှောက်ထားပါသည်ဘုရားဟု လျှောက်ထားရာ ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးက အောက်ပါမိန့်ခွန်းကို မိန့်ကြား လျှောက်ထားတော် မူသည်။

ဒီနေ့ဂိုဏ်းပေါင်းစုံ သံဃာ့ဝန်မဆောင် သံဃာ့သမ္မုတိရ ဝန်ဆောင်ဖြစ်တဲ့ ဆရာတော်များရဲ့ အစည်းအဝေး လျှောက်ကြားစာကို မဖတ်ကြားမီ တပည့်တော်ရှေးဦးစွာ အစ သံဃာ့အစည်းအဝေးကြီးနှင့် စပ်လျဉ်းပြီးတော့ ပဏာမ နိဒါန်းသဘောဖြင့် ဝမ်းမြောက်ဖွယ်ရာ အနုမောဒနာကထာ ပြောကြားလိုတာကတော့ဖြင့် မနေ့က ဒီနေ့ သံဃာ့အစည်းအဝေးနဲ့ စပ်လျဉ်းပြီးတော့ကာ အစည်းအဝေး မကျင်းပမီ ညနေ ၆-နာရီ အချိန်လောက်မှာ

အခု ခုနက ဩဝါဒကထာ မိန့်ကြားပြီးတော့ သွားတဲ့ အဘိဓဇမဟာရဋ္ဌ-ဂုရု ဆိုတဲ့ ဆရာတော်ဘုရားကြီးများကို ဦးညွတ်ရန် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သမ္မတကြီး ရောက်ရှိပြီးတော့ လာပါတယ်။ အဲဒီ ဆရာတော်ကြီးများကို ဖူးမျှော်ကန်တော့ရန်ဆိုတဲ့ အနေဖြင့်ရောက်ရှိလာတဲ့ အခါမှာ ဝမ်းမြောက်ဖွယ်ရာ ဘယ်လိုကြားသိရသလဲဆိုယင်ဖြင့် ယခု သမ္မုတိရ သံဃာတော်များ ဦးဆောင်ပြီးတော့ ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့် သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော်များ ဦးဆောင်ပြီးတော့ ဆောင်ရွက်တဲ့ ကိစ္စနဲ့ ပတ်သက်ပြီးတော့ သာသနာ သန့်ရှင်းရေးနဲ့ စပ်လျဉ်းတဲ့ တာဝန်ကိုလည်းပဲ ဒါ အမျှင်ဘုရားများရဲ့ သံဃာတော်များ ဆောင်ရွက်ရမယ့် တာဝန်ဖြစ်ပါတယ်၊ တပည့်တော်များရဲ့ သာသနာ့ ဒါယကာ ဖြစ်တဲ့ နိုင်ငံတော် အစိုးရနှင့် တကွ တိုင်းသူပြည်သားကတော့ဖြင့် သာသနာ ပစ္စယာနုဂ္ဂဟဖြင့် ထောက်ပံ့ အားပေးဖို့ပဲအနေဖြင့် လျှောက်ထားတဲ့ ပထမ စကားရပ်၊ ဒုတိယစကားရပ် အနေအားဖြင့် နံ့ပေါ်ဘုရားက ဓမ္မပဏ္ဏာ အနေဖြင့် ပို့လိုက်တဲ့ ရုပ်ပွားတော်နှင့် ဆံချည် ရွှေချည် ပဉ္စလောဟ ဆိုတဲ့ ရွှေ၊ ငွေ၊ ကြေး၊ သံ၊ ခဲ ဆိုတဲ့ ဓာတ်ငါးပါး စပ်ပြီးတော့ထားတဲ့ ရုပ်ပွားတော်နဲ့ ဆံချည်စေတီတော် အဲဒီ စေတီတော်များကိုလည်းပဲ အများပြည်သူလူထုရဲ့ မိမိတဦးတည်းသာ မဟုတ်ပဲနဲ့ အများပြည်သူလူထုရဲ့ ပူဇော်နိုင်ရန် အနေဖြင့် ဒါကို ဌာပနာထားပြီးတော့ စေတီတည်ရရင် ကောင်းမယ်ဆိုတဲ့ အချက်ကိုလည်းပဲ ဒုတိယအနေဖြင့် ဒါ လျှောက်ထားခဲ့ပါတယ်။ တတိယအနေအားဖြင့် ဆိုလို့ရှိယင် မြန်မာနိုင်ငံတော် တဝှမ်းလုံးမှာရှိနေတဲ့ စာပေပိဋကတ်တော်များနှင့် စပ်လျဉ်းပြီးတော့ ဒီစာပေ ပိဋကတ်တော်များဟာလည်းပဲ ထိန်းသိမ်းမှု မရှိယင်ဖြင့် တစတစ ပျောက်ပျက်ပြီးတော့ သွားနိုင်ဖို့ရာ ရှိပါတယ်။ ဒါ့ကြောင့် ဒီစာပေ ပိဋကတ်များကိုလည်းပဲ အရှင်ဘုရားများက ညွှန်ကြားခဲ့လို့ရှိယင်ဖြင့် သာသနာ့ဒါယကာအဖြစ် ခံယူတဲ့ တပည့်တော်များက ဆိုလို့ရှိယင်ဖြင့် ဒါဆိုင်ရာ လိုအပ်တဲ့ အချက်အလက်ဖြင့် ဒီပိဋကတ်တော်တွေကို စောင့်ရှောက်သွားဖို့ဆိုတဲ့ အဲဒီ စကားသုံးခုကို ကြားရတဲ့အတွက် ဒီနေ့ သံဃာတော် တသိန်းကျော် မြန်မာနိုင်ငံ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်မှာ တသိန်းကျော်ဆိုတဲ့ သံဃာတော်ထဲကနေပြီးတော့ လက်ရွေးစဉ် သာသနာ့အဖြစ်ဖြင့် ဒီနေ့ မဟာပါသာဏလိုဏ်ဂူထဲမှာ ကြွရောက်ပြီးတော့ အားလုံးပဲ ကြွရောက်ပြီးတော့ ချီးမြှောက်ကြတဲ့ ဆရာတော်များ ရှိခဲ့ပါတယ်။ အဲဒီ ဆရာတော်များ အနေဖြင့်လည်းပဲ ခုနက နံပါတ်တစ် အနေဖြင့် နိုင်ငံတော် သမ္မတကြီးရဲ့ လျှောက်ထားတဲ့ အချက်မှာဆိုယင်ဖြင့် သာသနာ သန့်ရှင်းရေးနဲ့ ပတ်သက်ပြီးတော့ မိမိကျရာ

တာဝန်ဟာဖြင့် ဒါ ငါတို့ရဲ့ တာဝန်ပဲ ဆိုတဲ့ အနေကိုလည်းပဲ ရှေးဦးစွာ သတိပြုရန် လေးစားစွာ သံဃာတော် အရှင်သူမြတ်များကို တဆင့် လျှောက်ထားမှု ပြုပါတယ်။

နောက်ပြီးတော့ ဒုတိယဆိုလို့ ရှိယင်ဖြင့် ဒီ လျှောက်ကြားစာမှာလည်းပဲ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သာသနာ သန့်ရှင်း ပြန့်ပွားရေး ပထမမူကြမ်း ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးက သံဃာ့ ဝန်ဆောင် အဖွဲ့ ဥက္ကဋ္ဌ၏ ဥက္ကဋ္ဌဆရာတော်ရဲ့ လျှောက်ကြားစာ ဒီကနေ့.... ကြွရောက်ပြီးတော့ လာကြတဲ့ ခုနက တသိန်းကျော်လောက်ရှိတဲ့ သံဃာ ထဲက နေပြီးတော့ ဒါ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော် ဖြစ်တဲ့ ဒါ ဆရာတော်များထဲမှာလည်းပဲ ဩဝါဒ ဆရာတော်ကြီးများကို အမှူးထား ပြီးတော့ ဒီဩဝါဒါစရိယဖြစ်တဲ့ ဆရာတော်ကြီးများကို အမှူးထား၍ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် တဝှမ်းလုံး ကြွရောက် ပြီးတော့ လာကြတဲ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော် ဖြစ်တဲ့ ဆရာတော် အရှင်မြတ်တို့ဘုရား တပည့်တော် ဂိုဏ်းပေါင်းစုံ သံဃာ့အဖွဲ့အစည်းအဝေး ကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌ ဣန္ဒာစာရက ပိတိဝေဂ သမုဋ္ဌိတအဇ္ဈာသယမောဒနကထာ မင်္ဂလာစကားကို လေးမြတ်စွာ လျှောက်ထား ပါသည် ဘုရား။

ယနေ့ ဤအချိန်အခါသည် တပည့်တော်များ၏ သာသနာ့ သမိုင်း၌ နိုင်ငံတော် လွတ်လပ်ရေး ရသည့် အချိန်မှ စပြီးတော့ ဤကာလအတွင်းမှာ မကြုံစဘူး ထူးကဲလှသည့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဟူသော ရည်ရွယ်ချက်ဖြင့် စည်းလုံးညီညွတ်စွာ ကာယ၊ စိတ္တ-သာမဂ္ဂီ အပြည့်အဝထား၍ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဂိုဏ်းပေါင်းစုံ ဆရာတော် များ ဝမ်းပန်းတသာ ကြွရောက်တော်မူလာကြသည့် အတွက် တပည့်တော် များ အနေဖြင့် ဝမ်းမြောက်၍ မဆုံး၊ ကြည်ညို၍ မဆုံး ဖြစ်ရသည်ကို ဦးစွာ ရှေးဖျား သာရဏီယကထာ စကား လျှောက်ထားအပ်ပါသည် ဘုရား။

သံဃာ့ဆန္ဒနှင့် ကျင်းပမည့် အချိန်ကာလ။ ။ဘုရားတပည့်တော် ဆက်လက် ၍ လျှောက်ထား လိုပါသည်ဘုရား၊ ဤဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ကြီးကို နိုင်ငံတော်အစိုးရ၏ လိုလားတောင်းတ အားပေးကူညီမှုဖြင့် နိုင်ငံ တော် တဝှမ်းလုံးရှိ သံဃာတော် အရှင်မြတ်များ၏ ဆန္ဒနှင့်အညီ ကျင်းပ ပြုလုပ်ခြင်း ဖြစ်ပါသည်ဘုရား၊ ယင်းသို့ ကျင်းပပြုလုပ်သည့်အခါ ယနေ့ကစ၍ နယုန်လဆန်း ၁၄ - ရက်အထိ ၄ - ရက်တို့ ကာလပတ်လုံး ကျင်းပပြုလုပ်ရန် စီစဉ်ထားပါသည် ဘုရား၊ ဤဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးက သာသနာတော် အဓွန့်ရှည်စွာ တည်တံ့ ထွန်းလင်း တောက်ပချန် ဟူသော

ရည်သန်ချက်ဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် မည်သို့ မည်ပုံ ဆောင်ရွက်ရမည်ကို တိုင်ပင် ညှိနှိုင်း ဆွေးနွေး ဆုံးဖြတ်ရမည်ဖြစ်ပါသည်ဘုရား။

ယင်းကဲ့သို့ တိုင်ပင် ညှိနှိုင်း ဆွေးနွေးဆောင်ရွက်ကြရာဝယ် အဓိကအကျဆုံးဖြစ်သည့် သာသနာ့ဝန်ထမ်း ရဟန်းသံဃာတော်များ အနေပါ၌ ဆောင်ရွက်ရမည့် ကြီးမားသော တာဝန်များ ကျရောက်လျက် ရှိနေပါသည် ဘုရား။ သံဃာတော် အရှင်မြတ်တို့ဘုရား ဘုရားရှင် ပညတ်တော်မူခဲ့တဲ့ ဝိနည်း သိက္ခာပုဒ်တော်များကို ရိုသေစွာ လိုက်နာ ကျင့်သုံးကြပါမှ တပည့်တော်များလည်းပဲ လမ်းမမှား - ပစ္စည်းလေးပါး လှူဒါန်းကြတဲ့ ဒကာ ဒကာမများလည်း ကြည်ညို သဒ္ဓါပွားကြ၍ အကျိုးများပြီးလျှင် ဒကာနှင့် ဆရာ အပြန်အလှန် အကျိုးတရ ဖြစ်ကြဖို့ရာကိုလည်းပဲ—

သာဂါရော အနာဂါရော စ၊ ဥဘော အညောညနိဿိတာ။
အာရာဓယန္တိ သဒ္ဓမ္မံ၊ ယောဂက္ခေမံ အနုတ္တရံ[၁]။

ဆိုတဲ့ အဲဒီ ဓမ္မက္ခန္ဓာတို့နှင့်အညီစွာ သာသနာတော် စည်ပင် ပြန့်ပွား ထွန်းကားမည် ဖြစ်ပါသောကြောင့် ဤ ယခု ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး၌ သာသနာ့ဝန်ထမ်း ရဟန်းသံဃာတော်များနှင့် သက်ဆိုင်သည့် စည်းမျဉ်းများ၊ စာတမ်းများကို တပည့်တော်တို့ တင်သွင်း ထားရှိခြင်းဖြစ်ပါသည်ဘုရား။

**ယုံကြည်ချက်နှင့် သာသနာ့ တာဝန်။** ။ဤ စည်းမျဉ်းများ၊ စာတမ်းများ ဘုရားတပည့်တော်တို့ အဲဒီ သာသနာ့ဝန်ထမ်း ရဟန်း သံဃာတော်များ လိုက်နာ ကျင့်သုံးခြင်းဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ရေးနှင့် မချွတ်ကေန် အမှန်ပင် ဖြစ်လာရမည်ဟု ဘုရားတပည့်တော် ယုံကြည်ကြသည့်အတိုင်း ဆရာတော်တို့ ကိုယ်တိုင်လည်း ဒီ ယုံကြည်ကြမည် အမှန်ပင် ဖြစ်ပါလိမ့်မည် ဘုရား။ ထိုကဲ့သို့ ယုံကြည်ကြသည့်အတိုင်း သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် အထက်ဖက်မှ ကြွရောက်လာမည့် သာသနာ့ တာဝန်များကိုလည်း ထမ်းဆောင်တော် မူကြရန် သံဃာတော် အရှင်သူမြတ်များ အားလုံးတို့သည် ကိုယ်ရေစိတ်ပါ ထက်သန်စွာဖြင့် ဆောင်ရွက်နိုင်ရေးအတွက် ဝမ်းမြောက်ဝမ်းသာ အစဉ် နှလုံးသွင်းထားရှိရန် အဓိကလိုအပ်ပါသည် ဘုရား။

---

၁။ ဣတိဝုတ် ပါဠိတော်။ ၂၇၀။ ဗဟုကာရသုတ်။ -

ဘုရားတပည့်တော်တို့သည် ဤရခဲလှစွာသော အခွင့်အရေးများကို ရှေ့က ဖြင့် ကြုံစည်ခဲ့ကြပါသည်ဘုရား။ ကိုယ်နှင့်ဖြင့်လည်း ဆောင်ရွက်ရန် အားထုတ် ပြောဆိုခဲ့ကြပါသည် ဘုရား။ သို့ရာတွင် အခြေအနေအရ မဖြစ်မြောက်သည်ကို ဆရာတော်များ အသိပင် ဖြစ်ပါသည်ဘုရား။ ယခုသော်မှ သံဃာတော်အရှင် မြတ်များ အားလုံး မျှော်မှန်းထားတဲ့ ရယူလိုကြတဲ့ ရည်မှန်းချက်သည် ဆရာ တော်တို့ မျက်မှောက်၌ ရောက်ရှိနေပြီ ဖြစ်ပါသည်ဘုရား။ ဤ အစည်း အဝေးပွဲကြီးသို့ ကြွရောက်တော် မူလာကြသော ဆရာတော်များသည် သာ သနာတော်အတွက် ဤအခွင့်အရေးကို မဆုံးရှုံးကြစေပဲ မိမိရရ ဆုပ်ကိုင် ကြ၍ အောင်အောင်မြင်မြင် ဖြစ်အောင် ဆောင်ရွက်တော် မူကြပါရန် ဘုရား တပည့်တော် ရိုသေလေးမြတ်စွာ တိုက်တွန်း တောင်းပန် အပ်ပါသည်ဘုရား၊ အထူးအားဖြင့် ဤကိစ္စကို ဆောင်ရွက်တော် မူကြရာ၌ ပုဂ္ဂိုလ်စွဲ ဂိုဏ်းဂဏစွဲ မထားကြပဲ ဘုရားရှင် သာသနာတော် အတွက်ကိုသာ ဦးတည်တဲ့စိတ် အပြည့်အဝ လက်ကိုင်ထားပြီးတော့ ဆောင်ရွက်တော်မူရန် လွန်စွာ လိုအပ် လှပါတယ်ဘုရား။

ဘုရားတပည့်တော်တို့ စုံပေါင်းညီညာ ယခုလို ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ကျင်းပနိုင်ခြင်းမှာလည်းပဲ—

၁။ ကြွရောက်တော် မူလာကြတဲ့ ဆရာတော် သံဃာတော်များ၏ ကြီးမားသော လုံ့လ ဉဿာဟဖြင့် ဆောင်ရွက်တော် မူကြ သည်ကို လည်းကောင်း

၂။ အစည်းအဝေးသို့ မကြွရောက်နိုင်တဲ့ ဆရာတော် သံဃာတော် များက သဘောတူ ဆန္ဒပြုကြသည်များကို လည်းကောင်း

၃။ ထိုထိုဒေသရှိ ဆရာတော် တို့နှင့်တကွ သက်တော်ရှည် သံဃာ့ ဦးဆောင် ဆရာတော်ကြီးများ၏ ဩဝါဒစကား အားပေး ကူညီမှု ပြုခဲ့သည်များကို လည်းကောင်း

၄။ ထိုထိုဒေသ နှင့် ပြည်နယ်၊ မြို့နယ်၊ ရပ်ကွက်၊ ကျေးရွာအုပ်စု ကောင်စီဝင် သူတော်စင်တို့၏ အားပေး ကူညီမှုများသည် လည်းကောင်း

အားကြီးသော အထောက်အပံ့များ ဖြစ်၍ ဤကဲ့သို့ ကျင်းပရန်ဖြစ်တယ် လို့ တပည့်တော်များ ဝမ်းမြောက်ရွှင်လန်း မှတ်တမ်းတင် ထားအပ်ပါသည် ဘုရား။

ဆရာတော်များသည် ဘုရားတပည့်တော်တို့ မျှော်မှန်းထားသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် မိမိတို့ ကျရောက်ရာ နေရာမှ ကျရာတာဝန်များကို မဖြစ်မနေ ဆောင်ရွက်ကြမည် ဟူသော အဓိပတိ၊ ဆန္ဒ၊ လုံ့လ၊ ဝီရိယ အပြည့်အဝ ထားရှိတော်မူကြသည် ဟူသော ယုံကြည်အားကိုး ချက်ဖြင့် တပည့်တော် ရိုသေလေးစားစွာ တိုက်တွန်းနှိုးဆော်စကား လျှောက် ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ မိန့်ခွန်း မြွက်ကြား လျှောက်ထားအပြီး အခမ်းအနားမှူး ဆရာတော်က သာဓု သုံး ကြိမ် ခေါ်တော်မူကြရန် တပည့်တော် လျှောက်ထားပါတယ် ဘုရား ဟု တိုက်တွန်းရာ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့က သာဓု သုံးကြိမ် ခေါ်တော်မူကြပါသည်။

**သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ အစီရင်ခံစာကို တင်သွင်းခြင်း- ထောက်ခံခြင်းနှင့် ပုတ်တမ်းတင်ခြင်း**

ထို့နောက် အခမ်းအနားမှူး ဆရာတော်က အစည်းအဝေး အစီအစဉ် အရ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ အစီရင်ခံစာကို ဖတ်ကြား တင်သွင်းမည့် ဟသ်ာတအခြေခံဒေသမှ ဓမ္မာနုဓမ္မမဟာဒွါရနိကာယ ဂဏရက္ခိတ ဦးခမာဝုဓ ဆရာတော်အား အစီရင်ခံစာကို ဖတ်ကြားတင်သွင်း ရန် ပင့်လျှောက်ပါသည်ဘုရား ဟု ဆို၍ လျှောက်ထားရာ—

**ဦးခမာဝုဓ ဆရာတော်က** အောက်ပါအတိုင်း တင်သွင်း လျှောက်ထား တော်မူသည်၊ **အစည်းအဝေးကြီး** ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့ တွဲဖက်အတွင်းရေးမှူး ဖြစ်သော ဘုရားတပည့်တော် ဓမ္မာနုဓမ္မမဟာဒွါရ- နိကာယမှ ခမာဝုဓက သံဃာ့ဝန်ဆောင်အဖွဲ့၏ ဆောင်ရွက်ချက် လျှောက်လွှာ ကို တင်သွင်း ဖတ်ကြား လျှောက်ထားပါမည် ဘုရား၊ အပြည့်အစုံကိုမူ သီးခြားစာအုပ် ရိုက်နှိပ်၍ အရှင်ဘုရားတို့အား ဆက်ကပ်ထားပြီး ဖြစ်ပါသည် ဘုရား။ ဒီစာအုပ်ပါပဲဘုရား။ ဆရာတော်များ လက်ဝယ်သို့ ဆက်ကပ်ပြီး ဖြစ်နေပါပြီ ဘုရား။

သာသနာတော်နှစ် ၂၅၂၃ - ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၁ - ခုနှစ် နတ်တော်လပြည့်ကျော် ၁၂ - ရက်၊ ခရစ်နှစ် ၁၉၇၉ - ခုနှစ် ဒီဇင်ဘာလ ၁၅ - ရက်နေ့မှစ၍ ပြာသိုလ်လဆန်း ၆ - ရက် ဒီဇင်ဘာလ ၂၃ - ရက်နေ့ အထိ ရက်ပေါင်း ၉ - ရက်အတွင်း၌ ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီး

ဌာန၊ ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် သုဓမ္မာဂိုဏ်း၊ ရွှေကျင်ဂိုဏ်း၊ မဟာဒွါရဂိုဏ်း အစရှိသော ဂိုဏ်းပေါင်းစုံမှ သံဃနာယက သာသနာ့ဦးသျှောင် ဆရာတော်ကြီးများ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်း ပေါင်းစုံ သံဃာ့အစည်းအဝေးကြီးကို တာဝန်ယူ ဆောင်ရွက်တော်မူကြမည့် သံဃာ့ဝန်ဆောင် ဆရာတော် ၆၆ - ပါးကို ဂိုဏ်းအသီးသီးနှင့် ပြည်နယ် တိုင်း များရှိ အခြေခံဒေသ အသီးသီးမှ သံဃဆန္ဒ သံဃာသမ္မုတိဖြင့် ရွေးချယ် ပေးတော် မူကြပါရန် လျှောက်ထားခဲ့ပါသည် ဘုရား။ ထိုလျှောက်ထားချက် အရ ၁၃၄၁ - ခုနှစ် တပို့တွဲလဆန်း ၈-ရက်၊ ၁၉၈၀-ပြည့်နှစ် ဇန်နဝါရီလ ၄ - ရက်နေ့ မတိုင်မီ ဂိုဏ်းအသီးသီးနှင့် အခြေခံဒေသ အသီးသီးတို့မှ သံဃာ့ ဝန်ဆောင် ဆရာတော် ၆၆ - ပါးကို သံဃဆန္ဒ သံဃာသမ္မုတိဖြင့် ရွေးချယ် ခဲ့ကြပါသည် ဘုရား။ ထိုသို့ ရွေးချယ်ခဲ့ရာတွင် သတ်မှတ်ထားသည့် အတိုင်း သုဓမ္မာဂိုဏ်းမှ ၅၈ - ပါး၊ ရွှေကျင်ဂိုဏ်းမှ ၅ - ပါး၊ မဟာဒွါရဂိုဏ်းမှ ၂-ပါး၊ မူလဒွါရဂိုဏ်းမှ ၁-ပါး ပါဝင်ခဲ့ပါသည်ဘုရား။

အရှိအသေ အလေးအမြတ် ပြုအပ်သော ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ဘုရား—

သံဃာ့ဝန်ဆောင် ဆရာတော် ၆၆-ပါးတို့သည် ၁၃၄၁ - ခုနှစ် တပို့တွဲ လပြည့်နေ့၊ ၁၉၈၀-ပြည့်နှစ်၊ ဇန်နဝါရီလ ၃၁- ရက်နေ့တွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ၊ ဇမ္ဗူဒီပကျောင်းဆောင်သို့စုံညီစွာကြွရောက်တော်မူကြပြီး နောက် ၁၃၄၁-ခုနှစ် တပို့တွဲလပြည့်ကျော် ၁-ရက်၊ ၁၉၈၀ - ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁ - ရက်နေ့တွင် ပဏာမ အစည်းအဝေးကို ကျင်းပပြုလုပ်၍ ကြွရောက်တော် မူလာကြသည့် သံဃာ့ဝန်ဆောင် ဆရာတော် ၆၆ - ပါး စာရင်းကို ဖတ်ကြားပြီး အတည်ပြုခဲ့ပါသည် ဘုရား။ ယင်း အစည်းအဝေး၌ သံဃာ့ဝန်ဆောင်အဖွဲ့၏ မဟာနာယက ဆရာတော် ၆-ပါး၊ ဥက္ကဋ္ဌဆရာတော် ၁-ပါး၊ ဒုတိယ ဥက္ကဋ္ဌဆရာတော် ၂ - ပါး၊ အကျိုးတော်ဆောင် ဆရာတော် ၁ - ပါး၊ တွဲဖက်အကျိုးတော်ဆောင် ဆရာတော် ၂ - ပါး နှင့် အဖွဲ့ဝင် ၅၄- ပါးတို့ ပါဝင်သော သံဃာ့ဝန်ဆောင် အဖွဲ့ကို ဖွဲ့စည်းခဲ့ကြပါသည်ဘုရား။ ထို အစည်းအဝေးမှာပင် ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာနက သာ သနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးကြီးအတွက် ကြိုတင် ဆောင်ရွက်ထားရမည့် လုပ်ငန်း အစီအစဉ်များကို လျှောက်ထား၍ သံဃာ့ဝန်ဆောင် အဖွဲ့အနေဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်း အစီအစဉ်များကို စနစ်တကျ သတ်မှတ်ဖော်ပြသည့် လုပ်ငန်း အစီအစဉ်ပြ ပြက္ခဒိန်ကို ရေးဆွဲ အတည်ပြုခဲ့ကြပါသည် ဘုရား။ ထိုနေ့ အစည်းအဝေး

မှာပင် သံဃာ့ဝန်ဆောင်အဖွဲ့က အဓိက ဆောင်ရွက်ရမည့် လုပ်ငန်းစဉ် ၄ ရပ်ကို သတ်မှတ် အတည်ပြုခဲ့ကြပါသည် ဘုရား။

**လုပ်ငန်းစဉ်များမှာ—**

၁။ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ တက်ရောက်ရန် သံဃာ့ကိုယ်စားလှယ်များ ရွေးချယ်မည့် နည်းလမ်း စည်းကမ်းများ အရေအတွက် နှင့် အရည်အချင်းများ သတ်မှတ်ခြင်း။

၂။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းရန် အခြေခံ စည်းမျဉ်း ရေးဆွဲခြင်း။

၃။ ဝိနည်း ဓမ္မကံဆိုင်ရာ သံဃာ့အဓိကရုဏ်း မှုခင်းများ ဖြေရှင်းရေးအတွက် နည်းလမ်းများ ရေးဆွဲသတ်မှတ်ခြင်း။

၄။ သာသနာဝင်မှတ်တမ်း စီစဉ်ရေးဆွဲခြင်းတို့ဖြစ်ပါသည်ဘုရား။

အဆိုပါ လုပ်ငန်းစဉ်များကို ဆောင်ရွက်ရန်အတွက် အဖွဲ့ငယ် ( ၄ )ခုကို သံဃာ့ဝန်ဆောင် အဖွဲ့ ပထမအကြိမ် ဒုတိယအစည်းအဝေး၌ ဖွဲ့စည်းခဲ့ပါသည် ဘုရား။ ထိုအဖွဲ့ငယ်များမှာ—

၁။ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့်နည်းလမ်း စာတမ်းပြုစုရေး အဖွဲ့ငယ်

၂။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ရေးဆွဲရေး အဖွဲ့ငယ်

၃။ ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ ရေးဆွဲရေး အဖွဲ့ငယ်

၄။ သာသနာဝင် မှတ်တမ်း စီစဉ်ရေးဆွဲရေး အဖွဲ့ငယ်တို့ ဖြစ်ကြပါသည်ဘုရား။

ထိုအဖွဲ့ငယ် ( ၄ ) ခု အပြင် သံဃာ့ဝန်ဆောင်အဖွဲ့က လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော ဩဝါဒများ အကြံဉာဏ်များကို ရယူနိုင်ရန်အတွက်

၁။ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီး ( ၅ ) ပါး ပါဝင်သည့် ဩဝါဒါစရိယ အဖွဲ့

၂။ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ( ၃ )ပါး ပါဝင်
သော အကြံပေးအဖွဲ့များကိုလည်း ဖွဲ့စည်းခဲ့ကြပါသည်ဘုရား။

အရိုအသေ အလေးအမြတ် ပြုအပ်သော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား—

သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်းစာတမ်း ပြုစုရေး အဖွဲ့ငယ်သည် မြန်မာနိုင်ငံ တဝန်းလုံးရှိ ဂိုဏ်းအသီးသီး နှင့် မြို့နယ်အသီးသီးရှိ ဝါဆိုသံဃာ စာရင်းကို အခြေခံပြုတွက်ချက်၍ အဖွဲ့ငယ် အစည်းအဝေး အကြိမ်ပေါင်း ( ၁၄ )ကြိမ် ကျင်းပ ဆွေးနွေး ညှိနှိုင်းပြီးလျှင် ဂိုဏ်းအလိုက် မြို့နယ်များအလိုက် သံဃာဦးရေ အရ အချိုးကျ ရွေးချယ်ရမည့် နည်းလမ်း စည်းကမ်းများကို စီစဉ် ရေးဆွဲခဲ့ပါသည်၊ ထိုစာတမ်းကို ၁၃၄၁-ခုနှစ် တပေါင်းလဆန်း ၅-ရက်၊ ၁၉၈၀-ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၉-ရက်နေ့တွင် ကျင်းပသော သံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် ပဥ္စမ အစည်းအဝေးသို့ တင်သွင်း၍ ပထမမူကြမ်းအဖြစ် အတည်ပြုခဲ့ကြပါသည်ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ရေးဆွဲရေး အဖွဲ့ငယ်သည် အကိုးအကား မှီငြမ်းပြုစုစရာ စာအုပ်စာတမ်း ရှာဖွေရှုနိုင်သမျှ စုဆောင်းပြီးလျှင် လာအိုနိုင်ငံနှင့် ယိုးဒယားနိုင်ငံတို့၌ သံဃာ့အဖွဲ့စည်း အုပ်ချုပ်ပုံ၊ မင်းတုံးမင်း လက်ထက် သုဓမ္မာဖွဲ့စည်းပုံ၊ ၁၉၆၅ - ခုနှစ် မှော်ဘီမြို့၌ ကျင်းပသော ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးက ရေးဖွဲ့သည့် ဗုဒ္ဓသာသနာတော်လုံးဆိုင်ရာ သံဃာ့ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေမူကြမ်း နှင့် မန္တလေး ဆရာတော်များ ပြင်ဆင် ရေးဆွဲသည့် သံဃာ့ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေမူကြမ်းများကို အခြေခံထား၍ အဖွဲ့ငယ် အစည်းအဝေး အကြိမ်ပေါင်း ( ၁၅ ) ကြိမ် ကျင်းပ ဆွေးနွေးညှိနှိုင်း၍ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ရေးဆွဲခဲ့ကြပါသည်ဘုရား။ ယင်း စည်းမျဉ်းကို ၁၃၄၁ - ခုနှစ်၊ တပေါင်းလဆန်း ၉-ရက်၊ ၁၉၈၀-ပြည့်နှစ် ဖေဖော်ဝါရီလ ၂၃-ရက်နေ့တွင် ကျင်းပသည့် သံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် အဋ္ဌမအစည်းအဝေးသို့ တင်သွင်း အတည်ပြုခဲ့ကြပါသည်ဘုရား။

ဝိနည်းမေ့ကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ ရေးဆွဲရေး အဖွဲ့ငယ်သည် ဝိနည်း ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ ယောဇနာ၊ ဂဏ္ဌိ အစရှိသော ဝိနည်း ကျမ်းဂန်များကို မှီငြမ်းပြု၍ အဖွဲ့ငယ် အစည်းအဝေးပေါင်း ( ၂၂ )ကြိမ် ကျင်းပ ဆွေးနွေးညှိနှိုင်း

ပြီးလျှင် ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်း ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ စာတမ်းကို ၁၃၄၁ - ခုနှစ်၊ တပေါင်းလဆန်း ၆ - ရက် ၁၉၈၀ - ပြည့်နှစ် ဖေဖော်ဝါရီလ ၂၀ - ရက်နေ့တွင် ကျင်းပသော သံဃာ့ ဝန်ဆောင်အဖွဲ့ ပထမအကြိမ် ဆဋ္ဌမ အစည်းအဝေးသို့ တင်သွင်း အတည် ပြုခဲ့ကြပါသည် ဘုရား။

သာသနာ့ဝင်မှတ်တမ်း စီစဉ်ရေးဆွဲရေး အဖွဲ့ငယ်သည် အစည်းအဝေး အကြိမ်ပေါင်း ( ၇ )ကြိမ် ကျင်းပဆွေးနွေး ညှိနှိုင်းပြီးလျှင် ဝိနည်းကျမ်းဂန် နှင့် လျော်ညီစွာ သာသနာ့ဝင် မှတ်တမ်း မူကြမ်းကို ရေးဆွဲခဲ့ကြပါသည် ဘုရား၊ ထို မူကြမ်းကို ၁၃၄၁ - ခုနှစ်၊ တပေါင်းလဆန်း ၁-ရက်၊ ၁၉၈၀- ပြည့်နှစ် ဖေဖော်ဝါရီလ ၁၅ - ရက်နေ့တွင် ကျင်းပသည့် သံဃာ့ဝန်ဆောင် အဖွဲ့ ပထမအကြိမ် စတုတ္ထအစည်းအဝေးသို့ တင်သွင်းပြီး အတည်ပြုခဲ့ကြပါ သည် ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့သည် ဖော်ပြ ခဲ့ပြီးသော ပထမမူကြမ်း စာတမ်းလေးမျိုးကို ယူဆောင်၍ တပြည်လုံးရှိ သံဃာတော်များအား ရှင်းလင်းတင်ပြရန် မိမိတို့ သက်ဆိုင်ရာ မြို့နယ် ဒေသ အသီးသီးသို့ ကြွရောက်တော် မူခဲ့ကြပါသည်ဘုရား။ သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ မြို့နယ် ဒေသ အသီးသီး၌ ပထမအကြိမ် ရှင်းလင်း တင်ပြ၍ သံဃာဆန္ဒ နှင့် အကြံဉာဏ်များ ရယူခဲ့ကြပါသည်ဘုရား။ သက်ဆိုင်ရာ မြို့နယ် ဒေသ အသီးသီးသို့ သံဃာ့ဝန်ဆောင် ဆရာတော်များ မကြွမီကပင် ရေဒီယို နှင့် သတင်းစာများမှ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် ရဟန်း ရှင် လူ ပြည်သူများထံမှ အကြံဉာဏ်များ ပေးပို့ကြပါရန် သံဃာ့ဝန် ဆောင် အဖွဲ့က မေတ္တာ ရပ်ခံခဲ့ပါသည် ဘုရား။

သံဃာ့ဝန်ဆောင် ဆရာတော်များ ရှင်းလင်းပွဲအတွက် သက်ဆိုင်ရာမြို့နယ် ဒေသများသို့ ကြွရောက်သည့် နောက်နေ့မှာပင် သာသနာရေး ဦးစီးဌာန၌ စာရင်းရရှိ အတည်ပြုထားသော သံဃာ့ဂိုဏ်း ကိုးဂိုဏ်းအနက် သံဃာ့ ဝန် ဆောင် အဖွဲ့၌ မပါဝင်သော ကျန် သံဃာ့ဂိုဏ်း ငါးဂိုဏ်းမှ တာဝန်ခံ ကိုယ် စားလှယ်များကို သာသနာရေး ဦးစီးဌာနသို့ ပင့်ဆောင်ခဲ့ပါသည် ဘုရား။ ထိုသို့ ပင့်ဆောင်ခဲ့သော တာဝန်ခံ ဆရာတော်များမှာ ဝေဠုဝန်ဂိုဏ်းမှ ( ၃ ) ပါး၊ ငှက်တွင်းဂိုဏ်းမှ ( ၁ ) ပါး၊ အနောက်ချောင်း ဒွါရဂိုဏ်းမှ ( ၁ ) ပါး၊ မဟာရင်ဂိုဏ်းမှ ( ၁ ) ပါး၊ ဂဏဝိမုတ်ကူးတို့ဂိုဏ်းမှ( ၁ )ပါး ဖြစ်ပါသည်ဘုရား။ ထိုဆရာတော်များအား သံဃာ့ဝန်ဆောင်အဖွဲ့က ပြုစု

ထားသော စာရွက်စာတမ်းများကို ဆက်ကပ်ပြီးလျှင် မိမိတို့ ဂိုဏ်းဆိုင်ရာ သံဃာတော်များအား တာဝန်ယူ ရှင်းလင်းရန်အတွက် တာဝန်ပေးအပ်ခဲ့ပါသည် ဘုရား။

သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များသည် ၁၃၄၁ - ခုနှစ်၊ တပေါင်းလဆန်း ၁၁-ရက်၊ ၁၉၈၀-ပြည့်နှစ် ဖေဖော်ဝါရီလ ၂၅-ရက် နေ့မှစ၍ ၁၃၄၁-ခုနှစ် နှောင်းတန်ခူးလဆန်း ၈-ရက်၊ ၁၉၈၀-ပြည့်နှစ် မတ်လ ၂၃-ရက်နေ့အထိ ရက်ပေါင်း (၃၀) တိုင်တိုင် နေရာဌာနပေါင်း သုံးရာ သုံးဆယ့်နှစ် (၃၃၂) ဌာနတို့၌ ရှင်းလင်းတင်ပြခဲ့ကြ၍ သံဃဆန္ဒနှင့် အကြံပေးချက်များကို ရယူခဲ့ကြပါသည် ဘုရား။ ထို ပဌမမူကြမ်း ရှင်းလင်းပွဲသို့ ကိုယ်တိုင်ကြွရောက်သော ရဟန်းသံဃာတော်ပေါင်း ရှစ်သောင်း လေးထောင် လေးရာ ငါးဆယ့်ခုနစ် (၈၄၄၅၇) ပါးရှိ၍ ကိုယ်တိုင်မကြွရောက်နိုင်သဖြင့် ဆန္ဒပေးသော ရဟန်းသံဃာတော်များမှာ တသောင်းကိုးထောင့်ခြောက်ဆယ် (၁၉၀၆၀) ပါး ဖြစ်ပါသည်ဘုရား။ မြန်မာနိုင်ငံ တဝန်းလုံးတွင် ရဟန်းသံဃာတော်ပေါင်း တသိန်းကိုးထောင်သုံးဆယ့်နှစ် (၁၀၉၀၃၂) ပါးရှိသည့်အနက် ရဟန်း သံဃာတော် တသိန်းသုံးထောင်ငါးရာတဆယ့်ခုနစ် (၁၀၃၅၁၇) ပါး တို့အား ရှင်းလင်း တင်ပြ၍ ထိုသံဃာတော်များထံမှ အကြံဉာဏ်များ ရယူခဲ့ကြပါသည်ဘုရား။

သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်များသည် ၁၃၄၁-ခုနှစ်၊ နှောင်းတန်ခူးလဆန်း (၁၀) ရက်နေ့၊ ၁၉၈၀ ပြည့်နှစ်၊ မတ်လ (၂၅) ရက်နေ့တွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒိပကျောင်းဆောင်သို့ ပြန်လည်ကြွရောက်တော်မူကြပြီးလျှင် မြန်မာနိုင်ငံ တဝန်းလုံးရှိ ရဟန်းရှင်လူ များထံမှ လက်ခံရရှိသော အကြံပေးစာပေါင်း တထောင်ကဆယ့်နှစ် (၁၀၁၂) စောင်တို့ကိုဖတ်၍ လေ့လာသုံးသပ်၍ သက်ဆိုင်ရာအဖွဲ့ငယ်များသို့ ခွဲဝေ ပေးအပ်ခဲ့ပါသည် ဘုရား။ ယင်းအကြံပေးစာများအနက် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်း စည်းကမ်း စာတမ်းနှင့် ပတ်သက်သော အကြံပေးစာပေါင်း အစောင် (၇)၊ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းနှင့် ပတ်သက်သော အကြံပေးစာပေါင်း (၃၅၇) စောင်၊ ဝိနည်းဓမ္မကံ အဓိကရဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် ပတ်သက်သော အကြံပေးစာပေါင်း (၁၆၉) စောင်၊ သာသနာဝင် လက်မှတ်နှင့် ပတ်သက်သော အကြံပေးစာပေါင်း (၂၈၄)စောင်၊ အထွေထွေ အကြံပေးစာပေါင်း (၁၂၂) စောင်တို့ကို အသီးသီး တူရာပေါင်းစု၍ အဖွဲ့ငယ် (၄) ခုက ဖတ်၍ လေ့လာ သုံးသပ်ပြီးလျှင် သင့်လျော်

သည့် အကြံဉာဏ်များကို စာတမ်း မူကြမ်းများ၌ ထည့်သွင်း အသုံးပြုခဲ့ကြ ပါသည်ဘုရား။

အခြေအနေအရ အသုံးမပြုနိုင်သေးသော အကြံပေးချက်များကို နောင် သင့်လျော်သောအခါ အသုံးပြုနိုင်ရန်အတွက် မှတ်တမ်းပြုစု၍ သိမ်းဆည်း ထားရှိပါသည် ဘုရား။ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်း စာတမ်းပြုစုရေး အဖွဲ့ဝင်သည် တနိုင်ငံလုံးမှ ပေးပို့ကြသော အကြံဉာဏ်များကို လေ့လာ သုံးသပ်ပြီးလျှင် ဒုတိယအကြိမ် အဖွဲ့ဝင် အစည်းအဝေးပေါင်း ( ၆ )ကြိမ် ကျင်းပ ဆွေးနွေး ညှိနှိုင်းပြီးလျှင် သံဃာ့ ကိုယ်စားလှယ် ရွေးချယ်ရမည့် နည်းလမ်းစည်းကမ်းများကို ၁၃၄၁ - ခုနှစ် နှောင်းတန်ခူးလပြည့်ကျော် ( ၆ )ရက်၊ ၁၉၈၀-ပြည့်နှစ်၊ ဧပြီလ ( ၅ )ရက် နေ့တွင် ကျင်းပသော သံဃာ့ဝန်ဆောင်အဖွဲ့ ဒုတိယအကြိမ် အဋ္ဌမ အစည်း အဝေးသို့ တင်ပြ အတည်ပြုခဲ့ကြပါသည်ဘုရား။

သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ရေးဆွဲရေး အဖွဲ့ဝင်သည် တနိုင်ငံ လုံးမှ ပေးပို့ကြသော အကြံဉာဏ်များကို ဖတ်ရှု ပေဖန်သုံးသပ်၍ ဒုတိယ အကြိမ် အဖွဲ့ဝင် အစည်းအဝေးပေါင်း ( ၃ ) ကြိမ် ကျင်းပ ဆွေးနွေး ညှိနှိုင်းပြီးလျှင် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ရေးဆွဲခဲ့ကြပါသည် ဘုရား။ ထိုအခြေခံစည်းမျဉ်းကို ၁၃၄၁ - ခုနှစ်၊ နှောင်းတန်ခူးလပြည့်ကျော် ( ၅ ) ရက်၊ ၁၉၈၀-ပြည့်နှစ်၊ ဧပြီလ ( ၄ ) ရက်နေ့တွင် ကျင်းပသော သံဃာ့ဝန်ဆောင်အဖွဲ့ ဒုတိယအကြိမ် သတ္တမ အစည်းအဝေးသို့ တင်ပြအတည် ပြုခဲ့ကြပါသည် ဘုရား။ ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံး ဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်း ရေးဆွဲရေး အဖွဲ့ဝင်သည် ရဟန်း ရှင် လူတို့၏ အကြံဉာဏ် ပေးချက်များကို ဖတ်ရှု လေ့လာ ဝေဖန်သုံးသပ်၍ ဒုတိယအကြိမ် အဖွဲ့ဝင် အစည်းအဝေးပေါင်း ( ၆ )ကြိမ် ကျင်းပ ဆွေးနွေး ညှိနှိုင်းပြီးလျှင် ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ရေးဆွဲခဲ့ကြပါသည် ဘုရား၊ ထို မူကြမ်းကို ၁၃၄၁-ခုနှစ်၊ နှောင်းတန်ခူးလပြည့်ကျော် ( ၂ )ရက်၊ ၁၉၈၀ - ပြည့်နှစ်၊ ဧပြီလ ( ၁ ) ရက်နေ့တွင် ကျင်းပသည့် သံဃာ့ဝန်ဆောင် အဖွဲ့ ဒုတိယအကြိမ် စတုတ္ထအစည်းအဝေးသို့ တင်ပြ အတည်ပြုခဲ့ကြပါသည်ဘုရား။

သာသနာ့ဝင် မှတ်တမ်း စီစဉ်ရေးဆွဲရေး အဖွဲ့ဝင်သည် မြန်မာနိုင်ငံ တဝန်းလုံးရှိ ရဟန်း ရှင် လူများထံမှ ပေးပို့ကြသော အကြံဉာဏ်များကို ဖတ်ရှုလေ့လာသုံးသပ်ပြီးလျှင် ဒုတိယအကြိမ် အဖွဲ့ဝင် အစည်းအဝေးပေါင်း ( ၅ )ကြိမ် ကျင်းပ ဆွေးနွေး ညှိနှိုင်းလျက် သာသနာ့ဝင်မှတ်တမ်း မူကြမ်းကို

ရေးဆွဲခဲ့ကြပါသည် ဘုရား။ ထိုသာသနာဝင် မှတ်တမ်း မှုကြမ်းကို ၁၃၄၁-ခုနှစ်၊ နှောင်းတန်ခူးလပြည့်ကျော် (၁)ရက်၊ ၁၉၈၀-ပြည့်နှစ်၊ မတ်လ ၃၁-ရက်နေ့တွင် ကျင်းပသည့် သံဃာ့ဝန်ဆောင်အဖွဲ့ ဒုတိယအကြိမ် တတိယ အစည်းအဝေးသို့ တင်ပြ အတည်ပြုခဲ့ကြပါသည်ဘုရား။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့ ဒုတိယအကြိမ် နယ်လှည့် ရှင်းလင်းပွဲများ မပြုလုပ်မီ ကြိုတင်၍ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ချောမော အောင်မြင်စွာ ကျင်းပနိုင်ရေးအတွက် ဖော်ပြပါ အဖွဲ့ငယ် (၅)ဖွဲ့ကို ဖွဲ့စည်း ထားရှိပါသည်ဘုရား။ ထိုအဖွဲ့များမှာ—

၁။ ဦးဆောင် ဆရာတော်များ အဖွဲ့

၂။ ကိုယ်စားလှယ် စီစစ်ရေး အဖွဲ့

၃။ ညှိနှိုင်း ဆော်ဩရေး အဖွဲ့

၄။ အစီအစဉ် ရေးဆွဲရေး နှင့် မှတ်တမ်းပြုစုရေးအဖွဲ့။

၅။ အဆိုစိစစ်ရေး အဖွဲ့တို့ ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား—

သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များသည် ၁၃၄၁ - ခုနှစ်၊ နှောင်းတန်ခူး လပြည့်ကျော် (၉)ရက်၊ ၁၉၈၀ - ပြည့်နှစ်၊ ဧပြီလ (၆)ရက် နေ့တွင် သက်ဆိုင်ရာ အခြေခံဒေသရှိ မြို့နယ် အသီးသီးသို့ ကြွရောက်တော် မူကြပြီးလျှင် ၁၃၄၂ - ခုနှစ် ကဆုန်လပြည့်နေ့၊ ၁၉၈၀ - ပြည့်နှစ် ဧပြီလ (၂၀) ရက်နေ့အထိ မိမိတို့ သက်ဆိုင်ရာ ဂိုဏ်းအလိုက်၊ မြို့နယ်အလိုက် သံဃာတော်များအား ဒုတိယအကြိမ် ရှင်းလင်းတင်ပြ၍ အကြံပြုချက်များရယူခြင်း၊ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ တက်ရောက်ရန် သံဃာ့ကိုယ်စားလှယ်များကို သံဃသမ္မုတိဖြင့် ရွေးချယ်ခြင်း လုပ်ငန်းကို အောင်မြင်စွာ ဆောင်ရွက်ခဲ့ကြပါသည် ဘုရား။

အလားတူပင် သံဃာ့ဝန်ဆောင်အဖွဲ့၌ ပါဝင်ခြင်း မရှိသေးသော ကျန် သံဃာ့ဂိုဏ်း ငါးဂိုဏ်းမှ တာဝန်ခံ ဆရာတော် ကိုယ်စားလှယ်များကို သာသနာရေး ဦးစီးဌာနသို့ ပင့်ဖိတ်၍ ဒုတိယမှုကြမ်း စာရွက် စာတမ်းများကို ပေးအပ်ခဲ့ပါသည်ဘုရား၊ ထိုစာတမ်း မှုကြမ်းများနှင့် ပတ်သက်သည့် သိသင့် သိထိုက်သော အချက်များကိုလည်း သာသနာရေး ဦးစီးဌာနမှ ရှင်းလင်း လျှောက်ထား ခဲ့ကြပါသည်ဘုရား။ ထိုသံဃာ့ဂိုဏ်း ငါးဂိုဏ်းမှ တာဝန်ခံ ကိုယ်စားလှယ် ဆရာတော်များသည် မိမိတို့သက်ဆိုင်ရာ ဂိုဏ်းဝင်သံဃာတော်

များအား ဒုတိယအကြိမ် ရှင်းလင်း တင်ပြ၍ အကြံပြုချက်များ ရယူခြင်း၊ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တက်ရောက်ရန် မိမိတို့ ဂိုဏ်းအလိုက် သတ်မှတ်ထားသော သံဃာ့ကိုယ်စားလှယ် အရေအတွက်ကို ရွေးချယ်ခြင်း လုပ်ငန်းများကို အောင်မြင်စွာ ဆောင်ရွက်ခဲ့ကြပါသည် ဘုရား။

သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များသည် ၁၃၄၂-ခုနှစ် ကဆုန် လပြည့်ကျော် (၂) ရက်၊ ၁၉၈၀-ပြည့်နှစ်၊ မေလ ၃၀-ရက်နေ့တွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင်သို့ ပြန်လည်ကြွရောက် လာကြပြီးလျှင် အနယ်နယ် အရပ်ရပ်ရှိ ရဟန်းရှင်လူတို့ ထံမှ ပေးပို့သော ဒုတိယမူကြမ်း စာတမ်းနှင့် ပတ်သက်သည့် အကြံပေးစာ တချို့နှစ်ဆယ့်ခုနစ် (၁၂၇) စောင်တို့ကို အဖွဲ့ငယ် လေးခု ခွဲဝေဖတ်ရှုပြီးလျှင် ထိုအကြံပေးချက် များမှ သင့်လျော်ရာယူပြီး ဒုတိယမူကြမ်း စာတမ်းများကို ပြင်ဆင် ပြည့်စွက်၍ နောက်ဆုံး မူကြမ်းကို ရေးသား ပြုစုခဲ့ကြပါသည် ဘုရား။ နောက်ဆုံး ရေးသားပြီးသော စာတမ်း မူကြမ်းများကို ဤဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးပွဲကြီးသို့ တင်သွင်းရန် သက်ဆိုင်ရာ သံဃာ့ဝန်ဆောင် ဆရာတော်များ အား အသီးသီး တာဝန်ခွဲဝေပေးအပ်ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား—

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့ကို စတင် ဖွဲ့စည်း ခဲ့သည့် နေ့မှစ၍ ယနေ့အထိ ပထမအကြိမ် အဖွဲ့ငယ်များ အစည်းအဝေးပေါင်း (၅၀) ကြိမ်၊ သံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေးပေါင်း (၀) ကြိမ်၊ ဒုတိယအကြိမ် အဖွဲ့ငယ်များ အစည်းအဝေး အကြိမ်ပေါင်း (၂၀) ကြိမ်၊ သံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေး အကြိမ်ပေါင်း (၀) ကြိမ်၊ တတိယ အကြိမ် အဖွဲ့ငယ်များ အစည်းအဝေးပေါင်း (၀) ကြိမ်၊ သံဃာ့ဝန်ဆောင် အဖွဲ့ အစည်းအဝေးပေါင်း (၁၁) ကြိမ်၊ စုစုပေါင်း အဖွဲ့ငယ်များ အစည်း အဝေး (၀၆) ကြိမ်၊ စုစုပေါင်း သံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေး (၂၇) ကြိမ် ကျင်းပပြုလုပ်ခဲ့၍ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး အတွက် လိုအပ်သော အစီအစဉ်များ၊ စာတမ်းများ၊ အဆိုတင်သွင်း ဆွေး နွေး အတည်ပြုရန် မူကြမ်းများ၊ အဆိုတင်သွင်းလွှာများကို စီစဉ် ရေးသား ပြုစု ဆောင်ရွက်ခဲ့ကြပါသည် ဘုရား။

သံဃာ့ဝန်ဆောင် ဆရာတော်များသည် အသွားအလာ ခက်ခဲသော တောင်ပေါ်ဒေသများ နှင့် ကျေးလက် တောရွာများပါမကျန် ရဟန်းသံဃာ

တော်များထံ အရောက်သွား၍ နှစ်ကြိမ်တိုင်တိုင် ရှင်းလင်းတင်ပြ အကြံဉာဏ် ရယူခြင်း၊ သံဃာ့ကိုယ်စားလှယ်များ ရွေးချယ်ခြင်းလုပ်ငန်း တာဝန်များကို ကိုယ်စိတ်နှစ်ပါး ပင်ပမ်းနွမ်းနယ်မှုကို ပမာဏမပြုပဲ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် အားကြီးမာန်တက် ဆောင်ရွက်တော် မူခဲ့ကြ ပါသည်ဘုရား။

ယင်းသို့ ရှင်းလင်းပွဲများ နှစ်ကြိမ်တိုင်တိုင် ပြုလုပ်ခြင်း၊ ရွေးချယ်ပွဲများ ပြုလုပ်ခြင်းတို့ကို အောင်မြင်စေရန်အတွက် တိုင်းနှင့်ပြည်နယ်၊ မြို့နယ်အသီးသီးမှ အာဏာပိုင် အဖွဲ့အစည်းများသည် သံဃာ့ဝန်ဆောင် ဆရာတော်များ၏ ခရီးသွားလာမှုကို စောင့်ရှောက်ကူညီ ဆောင်ရွက်ပေးခြင်း၊ ရှင်းလင်းပွဲများသို့ မြို့နယ်အတွင်းရှိ သံဃာတော်များကို ပင့်ဖိတ်၍ ပေးခြင်း၊ ပြည်သူ့ကောင်စီ များ၏ ဦးဆောင်မှုဖြင့် စေတနာရှင် ဒါယကာ ဒါယိကာမများက ဆွမ်း ကွမ်း အဖျော်ယမကာများ လှူဒါန်းခြင်းများကို ပြုလုပ်၍ သတ်မှတ်ထား သည့် အချိန်အတောအတွင်း သတ်မှတ်ထားသည့် အစီအစဉ်အတိုင်း ပြီး မြောက်စေရန် နှစ်ကြိမ်စလုံး အားကြိုးမာန်တက် ဆောင်ရွက်ခဲ့သည်ကို တွေ့ရှိ ခဲ့ရပါသည် ဘုရား။ အဆိုပါ ပြည်သူ့ကောင်စီများနှင့် အလှူရှင်များ၏ စေတနာ သဒ္ဓါတရားကို တပည့်တော်တို့ သံဃာ့ဝန်ဆောင်အဖွဲ့က သာဓု အနု မောဒနာ ပြုပါသည် ဘုရား။ မြို့နယ် အသီးသီးရှိ ဆရာတော် သံဃာတော် များကလည်း ရှင်းလင်းပွဲများသို့ အားတက်သရော တက်ရောက်ကြပြီးလျှင် အကြံဉာဏ်များပေးခြင်း၊ ကျရောက်သည့် တာဝန်ကို အားကြိုးမာန်တက် ဆောင်ရွက်ကြခြင်းများအတွက် တပည့်တော်တို့ သံဃာ့အဖွဲ့က ကျေးဇူးတင် စွာဖြင့် မှတ်တမ်းတင် ထားရှိပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဤအစည်းအဝေးပွဲကြီးသို့ ကြွရောက်တော် မူလာကြသည့် သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာ တော်များအတွက် အစစအရာရာ ချမ်းသာ လွယ်ကူစွာ သီတင်းသုံး နေထိုင် နိုင်ရန် စီစဉ်ထားရှိပါသည်ဘုရား၊ ဤသို့ စီစဉ်ထားရှိပါသော်လည်း အလွန် တိုတောင်းသည့် အချိန်ကာလအတွင်း ဆောင်ရွက်ခဲ့ရသည့်အတွက် ချွတ်ယွင်း ချက်များ၊ လစ်ဟင်းမှုများ ရှိနိုင်ပါသည်ဘုရား။ ထို ချွတ်ယွင်း လစ်ဟင်းမှု များ တွေ့ရှိပါက သည်းခံစိတ်ဖြင့် ခွင့်လွှတ်ကြပါရန် တောင်းပန် လျှောက် ထားပါသည်ဘုရား။

အရိုအသေ ပြုအပ်ပါသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်း အဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် ကူညီထောက်ပံ့မှု ပြုခဲ့သော ပြည်

ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၊ နိုင်ငံတော် သမ္မတကြီးကို အမှူးထား၍ နိုင်ငံတော်ကောင်စီနှင့်တကွ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် ပါဝင်ကူညီဆောင်ရွက်ကြသော နိုင်ငံတော် အာဏာပိုင် အဖွဲ့အစည်း အသီးသီး နှင့် အုပ်စု အာဏာပိုင် အဖွဲ့အစည်းများ၊ ပစ္စယာနုဂ္ဂဟဖြင့် လှူဒါန်းထောက်ပံ့ကြသော စေတနာရှင် ဒါယကာ ဒါယိကာမများ ကာယသုခ၊ စိတ္တသုခ နှစ်ပါး နှင့် ပြည့်စုံကြစေရန် ဤအစည်းအဝေးပွဲကြီးသို့ တက်ရောက်တော်မူကြပါသော သံဃာ့ကိုယ်စားလှယ် ဆရာတော် အားလုံးတို့က မေတ္တာ ဘာဝနာ ပွားများကြောင်း ဖော်ပြလျက် ဤအစီရင်ခံစာကို နိဂုံးချုပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

**ထို့နောက် အခမ်းအနားမှူး ဆရာတော်က** အခုဖတ်ကြား တင်သွင်းလျှောက်ထားသွားသော အစီရင်ခံစာကို မှတ်တမ်းတင်ရန်အတွက် ထောက်ခံဆွေးနွေးမည့် ပုဂ္ဂိုလ်များရှိပါက ထောက်ခံ ဆွေးနွေးရန် ဖြစ်ပါသဖြင့် ထောက်ခံ ဆွေးနွေးမည့် ပုဂ္ဂိုလ်များ ကြွတော်မူပါဘုရားဟု ပင့်ခေါ်ရာ—

**ဦးပညာဝရက** အခု တင်သွင်းသွားသော အဆိုကို ဆရာတော်ဘုရားများကို ရိုသေလေးစားစွာနှင့် တပည့်တော် လေးလေးနက်နက် ထောက်ခံပါသည်ဘုရား။ တပည့်တော် ရှမ်းပြည်နယ်၊ ကလောမြို့ဒေသ အောင်ဗန်း၊ မိုးကောင်း ဖြစ်ပါတယ်ဘုရားဟု လျှောက်ထား ထောက်ခံလေသည်။

အခမ်းအနားမှူး ဆရာတော်က ထပ်မံပြီး ထောက်ခံ ဆွေးနွေးမည့် ပုဂ္ဂိုလ်ရှိပါက ကြွရောက်ရန် ပင့်လျှောက်ပါသည်ဘုရား ဟု ပင့်ခေါ်ရာ—

**ဦးသေဋ္ဌိလာဘိဝံသက** တပည့်တော် ရန်ကုန်တိုင်း မြောက်ဥက္ကလာပမြို့နယ် မူလဓမ္မရက္ခိတ သေဋ္ဌိလာဘိဝံသ အနေဖြင့် ထောက်ခံပါတယ် ဟု လျှောက်ထား တင်သွင်း အပ်ပါတယ်ဘုရား ဟု ထောက်ခံဆွေးနွေးလေသည်။

**၎င်းနောက် အခမ်းအနားမှူး ဆရာတော်က** သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့၏ အစီအရင်ခံစာကို ဤအစည်းအဝေးပွဲကြီးက မှတ်တမ်းတင်ရန်အတွက် သဘောတူ - မတူ ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးမှ ပန်ကြားပေးပါရန် လျှောက်ထားပါသည်ဘုရား ဟု လျှောက်ဆိုရာ—

ဥက္ကဋ္ဌဆရာတော်က ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ယခု တင်သွင်းသွားသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ဆောင်ရွက်ချက်များ အစီရင်ခံစာကို ဤအစည်းအဝေးကြီးက မှတ်တမ်းတင်ရန် အတွက်

သဘောတူတော်မူကြပါသလားဘုရား- သဘောတူလျှင် ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါတယ်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်တော်မူရန် ဖြစ်ပါတယ်ဘုရား ဟု တိုက်တွန်းတော် မူရာ ဆရာတော်များက သာဓုသုံးကြိမ် ခေါ်တော်မူရန် အတည်ပြုတော်မူကြသည်။

**သံဃာ့ဝန်ဆောင်အဖွဲ့၏ ဩဝါဒါစရိယဆရာတော် အဘိဓဇမဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်းဆရာတော် ဘဒ္ဒန္တတိက္ခ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားတော်မူကြရန် အဆိုကို တင်သွင်းခြင်း၊ ထောက်ခံ ဆွေးနွေးခြင်းနှင့် မှတ်တမ်းတင်ခြင်း**

အခမ်းအနားမှူးဆရာတော်က အစီအစဉ်အရ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့၏ ဩဝါဒါစရိယ ဆရာတော် အဘိဓဇမဟာ-ရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာတော် ဘဒ္ဒန္တတိက္ခ ဘဝနတ်ထံပျံလွန်တော်မူသွားသဖြင့် သံဝေဂဉာဏ် ပွားများတော်မူကြရန် အဆိုတင်သွင်းမည့်ပုဂ္ဂိုလ် ကြွရောက်ပါရန် ပင့်လျှောက်ပါသည်ဘုရား ဟု လျှောက်ထားရာ—

ဦးကောသလ္လ[၁] သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အစည်းအဝေးကြီး သို့ ကြွရောက်တော် မူလာကြသော ဉက္ကဋ္ဌ ဆရာတော်၊ အကျိုးတော်ဆောင် ဆရာတော်၊ နာယက ဆရာတော်၊ ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများ၊ အကြံပေး ဆရာတော်ဘုရားများနှင့်တကွ သံဃာ့ဝန်ဆောင် ဆရာတော်၊ သံဃာသမ္မုတိရ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၊ ပဲခူးတိုင်း ပြည်မြို့ ပွင့်လှသိမ်ကုန်း ကျောင်းတိုက်ကြီး၏ အကြီးအမှူး ဦးစီးနာယက မြန်မာနိုင်ငံလုံးဆိုင်ရာ ဝေဠုဝန် နိကာယကြီး၏ အဓိပတိ ပြည်မြို့ ရွှေဆံတော် စေတီတော် ဂေါပကအဖွဲ့ကြီး၏ ဩဝါဒါစရိယ၊ နိုင်ငံတော် ဩဝါဒါစရိယ ပိဋကဆောက နာနာနယကောဝိဒဂန္ထပါတ သိက္ခာကာမ သာသနမာမက စသည့်အဖု ဖု ဂုဏ်ထူးစုံတို့ဖြင့် ပြည့်စုံတော် မူပါပေသောကြောင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော် နှစ်ခုတို့ဖြင့် လေးစားကော်ရော်ပူဇော် အထူးကို ခံယူရပါသော သက်တော် (၉၈) သိက္ခာတော် (၇၉)

---

၁။ တိပိဋကရေမွေဘဏ္ဍာ့ဂါရိုက ဆရာတော် ဦးကောသလ္လ

ဝါရှိ ဘဒ္ဒန္တတိက္ခ ဆရာတော်ဘုရားကြီးသည် ၁၃၄၂-ခုနှစ်၊ ကဆုန်လဆန်း ၁၁-ရက် (၂၃-၄-၈၀) ခုနှစ် ဗုဒ္ဓဟူးနေ့ နံနက် ၉-နာရီ မိနစ် ၃၀-အချိန်၌ ခန္ဓာအိမ်နှင့် စွန့်ခွာပစ်၍ အသစ်လန်းဆန်း ခန္ဓာနန်းဝယ် စံမြန်းဌာနေ ပျော်ရှာလေပြီ ဖြစ်ပါသောကြောင့် နှမြောတသ ဝမ်းနည်းလှပါကြောင်း သံဃာ့ဝန်ဆောင် အဖွဲ့ကြီးနှင့်တကွ ကြွရောက်တော် မူလာကြသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဆရာတော် သံဃာတော် အရှင်မြတ်တို့က မှတ်တမ်းတင်တော်မူကြပါရန် ရန်ကုန်အခြေခံဒေသ သံဃာ့ဝန်ဆောင် နှင့် အကြံပေးအဖွဲ့ဝင် တပည့်တော် ကောသလ္လက ရိုသေလေးစား ဦးညွှတ်ဘွားကာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား ဟု လျှောက်ထား တင်သွင်းလေသည်။ ထို့နောက် အခမ်းအနားမှူး ဆရာတော်က ယခု တင်သွင်းသည့် သံဝေဂဉာဏ် ပွားများရန် အဆိုကို ထောက်ခံ ဆွေးနွေးရန် ရှိပါက ထောက်ခံဆွေးနွေးမည့် ပုဂ္ဂိုလ် ကြွတော်မူပါဘုရားဟု ပင့်ခေါ်ရာ ဦးဉာဏဝံသက လေးစားအပ် လေးစားထိုက်သော ဩဝါဒါစရိယ ဆရာတော် စသော သံဃာတော် အရှင်သူမြတ် အပေါင်းတို့ ဘုရား။ အခု သံဃာ့ဝန်ဆောင် အဖွဲ့ကြီး၏ ဩဝါဒါစရိယ ဆရာတော် အဘိဓဇမဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်းဆရာတော် ဘဒ္ဒန္တတိက္ခ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားတော်မူကြရန် အဆိုကို ရန်ကုန်မြို့ ပဋ္ဌနိကာယ အရှင်ကောသလ္လ တင်သွားပါတယ် ဘုရား။ ၎င်းအဆိုကို ဘုရားတပည့်တော် လျှောက်ထားဖို့ရာက ၎င်း ဩဝါဒါစရိယ ဆရာတော် ဖြစ်တော်မူသော ဆရာတော်ဘုရားကြီးသည်ကား သီလ သမာဓိ စသော သိက္ခာပေါင်းများစွာ ပြည့်စုံလှသည်ဖြစ်သောကြောင့် မိမိ၏ လေသာရှိသော အရပ်ဆယ်မျက်နှာမှ အရပ်ရှစ်မျက်နှာမှ လာကြကုန်သော လူ ရှင် ရဟန်းအပေါင်းတို့အား လိမ်မာယဉ်ကျေး ဆုံးမတော်မူခြင်း အစထား၍ လူ နတ် နိဗ္ဗာန် သုံးတန်သော ချမ်းသာ စသည်တို့ကို ရနိုင် ရောက်နိုင်ကြောင်း သူတော်ကောင်းတရားကို ပေးနိုင်ကြသည် ဖြစ်သောကြောင့် ထို ဆရာတော် ဘုရားကြီး ပျံလွန်တော်မူသွားသည့် သံဝေဂဉာဏ် ပွားများရန်အတွက် အဆိုတင်သွားသော အရှင်ကောသလ္လ၏ အဆိုကို ဘုရားတပည့်တော် မှော်ဘီမြို့ အခြေခံ တိုက်ကြီးမြို့ ဉာဏဝံသက ထောက်ခံပါကြောင်း ရှိသေစွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား ဟု လျှောက်ဆို ထောက်ခံခဲ့လေသည်။

၎င်းနောက် အခမ်းအနားမှူး ဆရာတော်က အဘိဓဇမဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာတော် ဘဝနတ်ထံ ပျံလွန်တော်မူသွားသဖြင့် သံဝေဂဉာဏ်

ပွားများဘော်မူကြရန် အဆိုကို ဤအစည်းအဝေးကြီးက မှတ်တမ်းတင်ရန် အတွက် ဥက္ကဋ္ဌဆရာတော်ဘုရားကြီးမှ တဆင့် ပန်ကြားပေးရန် လျှောက်ထား ပါသည် ဘုရားဟု လျှောက်ထားရာ–

**ဥက္ကဋ္ဌဆရာတော်က** ဆရာတော် အရှင်သူမြတ်တို့ဘုရား။ **သံဃာ့ဝန်ဆောင်** အဖွဲ့၏ ဩဝါဒါစရိယ အဘိဓဇမဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာ တော်ဘုရားကြီး ဘဝနတ်ထံ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများရန်အဆိုကို မှတ်တမ်းတင်ရန်အတွက် သဘောတူကြပါသလားဘုရား။ သဘောတူလျှင် ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါတယ်ဘုရားဟု လျှောက် ထားတော်မူကာ ဆရာတော် သံဃာတော် အရှင်သူမြတ်များက ဆိတ်ဆိတ် နေကြသည်။

**သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အဖွဲ့ယဉ်ဥက္ကဋ္ဌ စစ်ကိုင်းအခြေခံဒေသမှ တောတောင်ဘီလူးချောင် ဆရာတော် ဦးပုညာဘိနန္ဒ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ်ပွားတော်မူကြရန် အဆိုတင်သွင်းခြင်း၊ ထောက်ခံဆွေးနွေးခြင်း နှင့် မှတ်တမ်းတင်ခြင်း**

**အခမ်းအနားမှူး ဆရာတော်က** အစီအစဉ်အရ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ အဖွဲ့ယဉ် ဥက္ကဋ္ဌ စစ်ကိုင်း အခြေခံဒေသမှ တောတောင်ဘီလူးချောင် ဆရာတော် ဦးပုညာဘိနန္ဒ ဘဝနတ်ထံ ပျံလွန်တော်မူသွားသဖြင့် သံဝေဂဉာဏ် ပွားများ တော် မူကြရန် အဆိုတင်သွင်းမည့် ပုဂ္ဂိုလ် ကြွရောက်ပါရန် လျှောက်ထား ပါသည် ဘုရား ဟု လျှောက်ထားပင့်ခေါ်ရာ–

**ဦးသာဂရက** သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်း ပေါင်းစုံ **သံဃာ့အစည်းအဝေးပွဲကြီး၏** ဩဝါဒါစရိယ ဆရာတော်ကြီးများ နှင့်တကွ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်သူမြတ်တို့ဘုရား။

သာသနာတော်သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးပွဲကြီး ဖြစ်မြောက်ရန် ကြိုးပမ်းဆောင်ရွက်တော်မူခဲ့သည့် သံဃာ့ဝန် ဆောင် အဖွဲ့ကြီး၌ အဖွဲ့ဝင်ဖြစ်တော်မူသော စစ်ကိုင်းမြို့ စစ်ကိုင်းတောင်ရိုး တောတောင် ဘီလူးချောင်ဆရာတော် ဦးပုညာဘိနန္ဒ၏ ထေရုပ္ပတ္တိအကျဉ်းချုပ် နှင့် လုပ်ဆောင်ချက်များကို ဘုရားတပည့်တော် စစ်ကိုင်းမြို့ လှေးကျွန်းမြေ

အုတ်ကျောင်းမှ သာဂရက အနည်းငယ် တင်ပြ လျှောက်ထားခွင့် ပြုပါရန် ရှေးဦးစွာ လျှောက်ထားပါရစေဘုရား၊ ဆရာတော် ဦးပညာဘိနန္ဒကို စစ်ကိုင်း မြို့ မြေတိုင်းအင်စပက်တော် ဦးလှဘော် နှင့် ဇနီးဒေါ်လှမယ်တို့မှ ၁၂၆၇ ခု နှစ်၊ မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်ဘုရား။ ငယ်ရွယ်စဉ်က မြန်မာ ၇-တန်း အောင်မြင်ခဲ့ပြီးနောက် သာမဏေဘဝသို့ ရောက်သောအခါ သာသ နာတော်မှာ ပျော်မွေ့သဖြင့် ရဟန်းဘဝအထိ တက်ရောက်ခဲ့ပါသည်ဘုရား။ ရဟန်းဘဝနှင့် မန္တလေးမြို့တွင် နေထိုင်စဉ် ညောင်ကန်ဆရာတော် ဘုရားကြီး တိုက် ဆရာတော်ဘုရား စသော ထင်ပေါ်ကျော်ကြားသော ဆရာတော်ကြီး များ၏ ထံတော်တွင် ပရိယတ္တိစာပေများကို ကြိုးကြိုးစားစား သင်ကြားတတ် မြောက်ခဲ့ပါသည်ဘုရား။ ဆဋ္ဌသံဂါယနာတင်စဉ်အခါက မူလဝိသောဓကနှင့် ပဋိဝိသောဓက အဖြစ်ဖြင့်လည်းကောင်း သင်္ဂီတိကာရက အဖြစ်ဖြင့်လည်း ကောင်း ပါဝင်ဆောင်ရွက် လုပ်ကိုင်ခဲ့ပါသည်ဘုရား။ ဝိနိစ္ဆယဌာနများ ပေါ် ပေါက်စဉ်က မြို့နယ်ဝိနည်းဓိုရ် အဖြစ်ဖြင့် ဝိနိစ္ဆယမှုခင်းများကို အဆုံးအဖြတ် ပေးတော်မူခဲ့ပါသည်ဘုရား၊ ဝိနိစ္ဆယအရာ၌ အလွန်တရာ ကျွမ်းကျင်လိမ်မာလှ ပါသည်ဘုရား။

ဆရာတော်သည် မသိတာမရှိ မတတ် တာမရှိစေရဆိုတဲ့အတိုင်း ရှင်သာမဏေ ဘဝကပင် ဒွေးချိုး၊ လေးချိုး၊ တြိချိုး၊ တေးထပ်၊ ဘောလယ် စသော ကဗျာ လင်္ကာများ ရေးသားမှုတို့ကို လေ့လာနိုင်နင်းတော်မူခဲ့ပါသည်ဘုရား။ ထို့ပြင် အင်္ဂလိပ်စာကိုလဲ အသက်အရွယ်ကြီးမှ လေ့လာတတ်မြောက်ခဲ့ပါသည်၊ အသက် အရွယ်ကြီးမှ သင်ကြားရသဖြင့် အပြောအဆို မသွက်သော်လည်း အရေးအသား ဘက်တွင် ယခုခေတ် ဘီ-အေ၊ အမ်-အေများနည်းတူ ရေးသားရာတွင် ကျွမ်း ကျင်မှု ရှိပါသည်ဘုရား။

ပါဠိဘာသာ အရေး အဖတ် အပြော ဘက်စုံ ကျွမ်းကျင်လိမ္မာတော်မူသည်၊ ပါဠိစာပေတွင် အဋ္ဌကထာဋီကာဉာဏ် သက်ရောက်အောင် ဂမ္ဘီရဉာဏ်ရှိတော် မူသည့်အလျောက် မိမိကဲ့သို့ တတ်ကျွမ်းစေလိုသော စေတနာဖြင့် ပါဠိပထမပြန် စာမေးပွဲ စည်းမျဉ်းများ၊ ပါဠိတက္ကသိုလ် ဥပဒေများကို ပြင်ဆင်ပြဋ္ဌာန်း၍ ပါဠိစာပေ အဆင့်အတန်း မြင့်မားစေရန် အကြိမ်ကြိမ် ကြိုးပမ်း ဆောင်ရွက်ခဲ့ ဘူးပါသည်ဘုရား၊ ယခုသည်း ပြင်ဆင်ရန်အတွက် အားလုံး စည်းမျဉ်းဥပဒေ မူကြမ်းများ ရေးဆွဲပြီး ဖြစ်ပါသည်ဘုရား၊ ပါဠိပညာရေးစနစ်ကို တခေတ် ပြောင်းပစ်ရန် အမြဲတမ်း သမ္မာဆန္ဒရှိနေသော ပုဂ္ဂိုလ်ထူးတပါး ဖြစ်ပါသည် ဘုရား။

အထူးသဖြင့် ဝိနိစ္ဆယရုံးများတွင် အကြီးအကဲအနေဖြင့် ဝိနည်းဓမ္မကံမှုခင်းများ ဖြေရှင်းဆုံးဖြတ်ခဲ့ဘူးသဖြင့် ယခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန သာသနာတော်သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် ၆၆-ပါးတို့၏ အဖွဲ့ဝင် ၄-ခုအနက် ဝိနည်းဓမ္မကံ အဓိကရဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းရေးဆွဲရေးအဖွဲ့၏ ဥက္ကဋ္ဌအဖြစ် တာဝန်ထမ်းဆောင်တော်မူရပါသည်ဘုရား၊ ကျရောက်သည့်တာဝန်ကို ခြေသံ့မင်းကြီးအလား ရှိရှိသေသေ လေးလေးစားစား ထမ်းဆောင်တော်မူခဲ့ပါသည် ဘုရား၊ စေ့စေ့စပ်စပ် ဆောင်ရွက်ပုံကို ဥပဒေပညာရှင်ကြီးများပင် အံ့သြကြရပေသည်၊ ဝိနိစ္ဆယ လုပ်ထုံးလုပ်နည်း ဥပဒေရေးဆွဲရာတွင် ဆရာတော်သည် ဂိုဏ်းဂဏစွဲ ပုဂ္ဂိုလ်စွဲမထားပဲ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကိုသာ အလေးပေး၍ ရေးသားတော်မူခဲ့ပါသည်ဘုရား။

ထိုကဲ့သို့ နောင်တော်ညီတော် မထေရ်ကျော် ၆၆-ပါးနှင့် သာသနာတော်အတွက် အားကြိုးမာန်တက် ဆောင်ရွက်တော်မူစဉ် လေ့ပြေးတိုးတက်ကျိုး ဆိုသကဲ့သို့ အဖွဲ့ခေါင်းဆောင် ဆရာတော် ဦးပုညာဘိနန္ဒသည် အဖွဲ့အား သံဃာတော်များအား တာဝန်ပုံအပ်ပြီး သက်တော် ၇၅- သိက္ခာတော် ၅၅-ဝါအရ ၁၃၄၂-ခု၊ ကဆုန်လဆန်း ၄-ရက်၊ ကြာသပတေးနေ့ နံနက် ၅-နာရီ ၃၀-မိနစ်အချိန်တွင် ထက်ရပ်နတ်ဘုံ ခိုလှုံပြောင်းစံခါ သာသနာ့ကြယ်တပွင့် ကြွေလွင့်ခဲ့ရပါသည်ဘုရား။

ထိုကဲ့သို့ သာသနာ့အာဇာနည် ဝန်ဆောင်ဆရာတော် ဦးပုညာဘိနန္ဒ ဘဝနတ်နန်း ကြွမြန်းတော်မူသည့်အတွက် သဘာပတိ ဆရာတော်ဘုရားကြီးများနှင့်တကွ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ညီညာဖျဖျ ကြွရောက်တော် မူလာကြကုန်သော အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားကြီးများ၊ တိပိဋကဓရ ဆရာတော်ဘုရားကြီးများ၊ တပြည်လုံးမှ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များက ဝမ်းနည်းကြောင်းအထိမ်းအမှတ်အနေဖြင့် ၁-မိနစ်ခန့် မရဏာနုဿတိကမ္မဋ္ဌာန်း စီးဖြန်း၍ အမျှပေးဝေရန် အစည်းအဝေးကြီးမှ ဝမ်းနည်းကြောင်း မှတ်တမ်းတင်ရန် အဆိုပြုတင်သွင်း လျှောက်ထားအပ်ပါသည် ဆရာတော်သံဃာတော် အရှင်မြတ်တို့ဘုရား ဟု လျှောက်ထား တင်သွင်းတော်မူခဲ့လေသည်။

သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များက ၁-မိနစ်ခန့် မရဏာနုဿတိ ကမ္မဋ္ဌာန်း စီးဖြန်းကြပါသည်၊ ထို့နောက် —

**အခမ်းအနားမှူး ဆရာတော်က။** ။ယခု တင်သွင်းသည့် သံဝေဂဉာဏ် ပွားများရန် အဆိုကို ထောက်ခံဆွေးနွေးရန် ရှိပါက ထောက်ခံဆွေးနွေးမည့် ပုဂ္ဂိုလ် ကြွရောက်တော်မူပါဘုရား ဟု ပင့်လျှောက်ရာ —

**ဦးစိန္တာသာရက။** ။ဩဝါဒါစရိယ ဆရာတော် ဘုရားကြီးများ အမှူး ပြုသည့် မြန်မာနိုင်ငံ တဝှန်းမှ ကိုယ်စားလှယ်ပြု ကြွရောက်တော်မူလာကြသော သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်မြတ် တို့ဘုရား၊ "ပုဂ္ဂလ ဝိသေသော ဇာနိတဗ္ဗော" ဥပဒေသနှင့် အညီ ဘုရား တပည့်တော်များ၏ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် စစ်ကိုင်းမြို့မှ တောတောင် ဘီလူးချောင် ဆရာတော် ဘုရားကြီး ဘဒ္ဒန္တပညာဘိနန္ဒသည် အသက်အရွယ် တော် ကြီးရင့် အိုမင်းပြီးနောက် နောက်ဆုံး ပစ္ဆိမ အရွယ်သို့ ရောက်ပင် ရောက် သော်ငြားလည်း ပုဂ္ဂလ ဝိသေသ သာသနာ့ အာဇာနည်ကြီး ဖြစ်သည့် အလျောက် သာသနာ့ သမိုင်းအစဉ်မှာ ဥဒါန်းတွင် ကျန်နေမဲ့ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဖြစ် မြောက်ရေးအတွက် ကိုယ် နှင့် အသက်ကိုမျှ ပမာန မထားပဲ ဆောင်ရွက်တော် မူခဲ့ပြီး ဘဝနတ်နန်း စံမြန်းတော်မူရာ၌ သခ်ါရသဘော စိတ်အာရုံ စေတော် မူကြလျက် မရဏာနုဿတိ ကမ္မဋ္ဌာန်း စီးဖြန်းတော်မူ၍ သံဝေဂဉာဏ် ပွားတော် မူကြပါရန် စစ်ကိုင်းတိုင်း စစ်ကိုင်းမြို့ အုတ်ကျောင်း ဆရာတော်ဘုရား တင် သွင်းသည့် အဆိုကို မကွေးတိုင်း မကွေး အခြေခံဒေသမှ သံဃာ့ဝန်ဆော ဘုရားတပည့်တော် စိန္တာသာရ လေးနက်စွာ ဆွေးနွေးထောက်ခံပါသည် ဆရာ တော် သံဃာတော် အရှင်သူမြတ်တို့ဘုရား ဟု လျှောက်ထား ထောက်ခံ လေသည်။

**၎င်းနောက် အခမ်းအနားမှူး ဆရာတော်က။** ။စစ်ကိုင်း အခြေခံဒေသမှ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် တောတောင်ဘီလူးချောင် ဆရာတော် ဦးပညာဘိ- နန္ဒ ဘဝနတ်နန်း ပျံလွန်တော်မူသွားသဖြင့် သံဝေဂဉာဏ်ပွားများတော်မူကြ ရန် အဆိုကို ဤအစည်းအဝေးကြီးက မှတ်တမ်းတင်ရန်အတွက် ဥက္ကဋ္ဌ ဆရာ တော်ကြီးမှ တဆင့် ပန်ကြားပေးတော်မူရန် လျှောက်ထားပါသည် ဘုရား ဟု ဥက္ကဋ္ဌ ဆရာတော်အား ပန်ကြား လျှောက်ထားသည်။

**ထိုအခါ ဥက္ကဋ္ဌ ဆရာတော်က။** ။အခု အဆိုရှင်များ တင်သွင်းပြီးတော့ သွားတဲ့ ပြည်မြို့ ဩဝါဒါစရိယ ပြည်မြို့ပွင့်လှသိမ်ကုန်းဆရာတော်၊ နောက်

ပြီးတော့ သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုများ ဖြေရှင်းရေးကို လုပ်ကိုင်ဆောင်ရွက်ပြီးတော့ နေတဲ့ စစ်ကိုင်း အခြေခံဒေသ တောတောင် ဘီလူးချောင် ဆရာတော်–အဲဒီ ဆရာတော် ၂-ပါးနဲ့ ပတ်သက်ပြီးတော့ သံဃာ့ အထူးဖြင့် ချီးကျူးပူဇော်ရန် ဆိုတဲ့ အနေကိုလဲပဲ ဒီကာလ္လဟာတော့ ပြီးသွားပါပြီ ဆိုပါတော့၊ ပြီးသွား သွားတဲ့အတွက် အထူး ဒါကတော့ ဥက္ကဋ္ဌရဲ့ ပြောဘို့ရာ တာဝန်တော့ မဟုတ်ပါဘူး၊ တာဝန်မဟုတ်ပေမယ့် အခုဆိုရင် ၉-နာရီနဲ့ မိနစ်သောက် အချိန်ရှိသွားတော့ အချိန်လဲပဲ နည်းနည်း ရနေသေးတဲ့အတွက် အဲဒီ ဆရာတော် ၂-ပါးတို့တွင်လဲပဲ တောတောင် ဘီလူးချောင် ဦးပုညာနန္ဒ ဆိုဘာ အခု သာသနာ သန့်ရှင်းရေး ကိစ္စနဲ့ ပတ်သက်ပြီးတော့ လုပ်ကိုင် ဆောင်ရွက်နေတဲ့ ပုဂ္ဂိုလ်ဖြစ်ပါတယ်၊ ဖြစ်တဲ့အတွက် အခုနတုန်းက အခုနတုန်းက အဆိုပြုသွားတဲ့ ဆရာတော်ဘုရားရဲ့ အလိုကတော့ဖြင့် သာသနာ့ အာဇာနည်ဆိုတဲ့ အနေအားဖြင့် သုံးသွားတော့ အဲဒါကလဲပဲ ဒီ သာသနာ့ အာဇာနည်တို့၊ သာသနာ့ သူရဲကောင်းတို့၊ သာသနာ့ လူရည်ချွန်တို့ ဆိုတာကတော့ဖြင့် လောက ဝေါဟာရစကားလုံးတွေ ရှိခဲ့တယ်၊ ရှိခဲ့တဲ့အတွက် အခု ပြောဆိုလိုတာကတော့ဖြင့် ဒီသာသနာ့ သူရဲကောင်းဆိုတဲ့ အနေဖြင့် သုံးနှုန်းပြီးတော့ ဒီဆရာတော်တွေဟာ အခု ဒီသာသနာ့ဝန်ဆောင် သမ္မုတိရ သံဃာ့ကိုယ်စားလှယ်ဖြစ်တဲ့ ဆရာတော်များနဲ့ လုပ်ဖော်ကိုင်ဖက် ဖြစ်နေကြတယ်၊ အဲဒီလုပ်ဖော်ကိုင်ဖက်ခြင်း ဖြစ်နေတဲ့အတွက် တလေ့တည်းစီး တခရီးထဲသွား ဆိုတာလို ဒီလို သာသနာရေး သာသနာကိစ္စ ဆောင်ရွက်နေဆဲမှာ ကျဆုံးပြီးတော့ သွားတဲ့အတွက် သံဃေဂ အထူးဖြင့် ချီးကျူးပူဇော်မှု ဆိုတဲ့ ကာလ္လ ပြီးသွားတဲ့အခါကျတော့ ဆက်လက်ပြီးတော့"သရီရံခဏဝိဒ္ဓံသိ၊ ဂုဏာ ကပ္ပန္တဌာယိနော" ဆိုတဲ့ တရားဒေသနာအရဖြင့် "သရီရံ၊ ကိုယ်ခန္ဓာသည်။ ခဏ ဝိဒ္ဓံသိ၊ မကြာခဏ ပျက်စီးရတဲ့ သဘောရှိ၏။ ဂုဏာ၊ အသက်ရှိစဉ် စဆောင်ရွက်ခဲ့တဲ့ သတ္တိအထူး ဂုဏ်ကျေးဇူးတို့သည်။ ကပ္ပန္တဌာယိနော၊ ကမ္ဘာကုန်ဆုံးသော်လည်း ပျက်ပြုန်းမရှိ တည်နေနိုင်ဘိ သကဲ့သို့"ဆိုတဲ့ အဲဒီ တရားအရဖြင့် ကမ္ဘာကြွေသော်လည်း ဥဒါန်းမကြေဆိုတဲ့ စကားစဉ်ဟာ ခုနက ပြောခဲ့တဲ့ အဲ့ဒီဓမ္မကထာ ကြည့်ပြီးတော့ကာ ဖြစ်ရှိခဲ့တဲ့ စကားစဉ်ပဲလို့ ယူဆရပါတယ်။ အဲဒါကြောင့်မို့လို့ အခု စစ်ကိုင်း အခြေခံဒေသ တောတောင် ဘီလူးချောင် ဆရာတော် ဦးပုညာဘိနန္ဒဟာ မိမိတို့ ပဋိစ္စသမုပ္ပါဒ် ခရီးစဉ်ကို မလွန်ဆန်နိုင်လို့ ကျဆုံးပြီးတော့ သွားရတယ်ဆိုတာ ဘာဖြစ်လို့ ကျဆုံးတဲ့စကားကို သုံးနိုင်သလဲဆိုရင် ဘဝနတ်ထံ စံလွန်တယ်၊ ပျံလွန်တော်မူသွားတယ် ဆိုတဲ့ အနေမျိုး မဟုတ်ပဲနဲ့ အဲဒီ ကျဆုံးဆိုတာကတော့ ဒီရှင်သာမဏေဘဝလောက်က "သံသာရဝဋ္ဋဒုက္ခတော မောစနတ္ထာယလို့" ဆိုတယ်။

ဒါ မိမိတို့သည် ရည်သန်ချက်တခု၊ အဲဒီ အခါလောကက ပါခဲ့တယ်၊ ဘဝလွတ်မြောက်ရေး လမ်းစဉ်ကို အားထုတ်နေတဲ့အခါမှာ ဆိုလို့ရှိရင်ဖြင့် ဒီသံဃာတော်များကို ဘာဖြစ်လို့ ကျဆုံးတယ်လို့ ဒီလိုသုံးနိုင်သလဲ ဆိုလို့ရှိရင်ဖြင့် ယခုမျက်မြင် လောကမှာ ဆိုလို့ရှိရင် တိုင်းပြည်ရဲ့ တာဝန် ထမ်းဆောင်နေတဲ့ စစ်သည်တော်များကိုသာ တိုက်ပွဲမှာ ကျဆုံးတယ်လို့ ဒီလို အသုံးအနှုန်း ရှိပေမယ့် လဲပဲ ဒီသံဃာတော် အရှင်မြတ်များဟာလဲပဲ တိုက်ပွဲကျဆုံးတယ် ဆိုတာကတော့ဖြင့် ဘယ်သူတွေနဲ့ တိုက်ပွဲ အမြဲတစေ ဆင်နေရသလဲဆိုရင် ပုထုဇဉ်ဘဝ မိမိတို့သန္တာန် ဖြစ်ပြီးတဲ့ လိုချင်တဲ့တရားကို မလိုချင်အောင်· စိတ်ဆိုးတဲ့တရားကို စိတ်မဆိုးအောင် – အမြင်မှန်တွေ ဖုံးလွှမ်းကာကွယ်တဲ့တရားကို မကာကွယ်အောင်ဆိုတဲ့ အမြင်မှန်ရရှိအောင်ဆိုတဲ့ အဲဒီတရား ဆိုးတွေနဲ့ အမြဲတစေသာ သံဃာတော်များဟာ တိုက်ပွဲဆင်နေရဘယ် ဆိုတာကတော့ဖြင့် သာမန်ပုဂ္ဂိုလ်တို့ ပကတိမျက်စေ့ဖြင့် မမြင်နိုင်ပဲနဲ့ ဉာဏ်မျက်စေ့နဲ့ကြည့်မှ သံဃာတော်များ အပေါ်မှာ မြင်နိုင်ပါတယ်။ အဲဒါကြောင့် အခု မိမိ သာသနာ သန့်ရှင်း တည်တံ့ပြန့်ပွားရေးဆိုတဲ့အလုပ်ကိစ္စကို ဆောင်ရွက်နေဆဲမှာ ဘာတွေ တိုက်ပွဲဝင်နေသလဲဆိုရင် တရားတော်နဲ့ ပတ်သက်ပြီးတော့ ဝိနယနဲ့ အဝိနယဆိုတဲ့ မသူတော်တရား မထွန်းကားမီဆိုတဲ့ ရှေးသံဂါယနာတင် မထေရ်ကြီးများ မိန့်ကြားခဲ့တဲ့ မိန့်ခွန်းတော်ကို ဒါတွေကို ထောက်ပြီးတော့ အဲဒီသာသနာရေး သာသနာ့ကိစ္စအတွက် ဆောင်ရွက်နေတဲ့အခါမှာ ကျဆုံးသွားရတဲ့အဘွက် ခုနတုန်းက ပဋိစ္စသမုပ္ပါဒ် ခရီးစဉ်ကို မလွန်ဆန်နိုင်လို့၊ ကျဆုံးရသွားပေမယ့် အသက်ရှိစဉ်က ဆောင်ရွက်ခဲ့တဲ့သာသနာနဲ့ ပတ်သက်တဲ့ ကိစ္စအဝဝ၊ ဘာသာရေးနဲ့ ပတ်သက်တဲ့ကိစ္စအဝဝ၊ ပညာရေးနဲ့ ပတ်သက်တဲ့ကိစ္စအဝဝတွေကို ထောက်ထားပြီးတော့ ကမ္ဘာကြေသော်လည်း ဥဒါန်းမကြေ ဆိုတဲ့ အနေဖြင့် အဲဒီအရှင်ဦးပုညာဘိနန္ဒရဲ့ အသက်ရှိစဉ်က စွန့်စားသွားတဲ့သတ္တိ အထူး ဂုဏ်ကျေးဇူးတို့သည် ခုနက သံဝေဂ အထူးသဖြင့် ချီးကျူးပူဇော်မှုရဲ့ နောက်ဆက်တွဲမှာ ကမ္ဘာကြေသော်လည်း ဥဒါန်းမကြေဆိုသကဲ့သို့ အဲဒီ သံဃာတော်များဘက်ကလဲပဲ သာသနာသူရဲကောင်းတယောက် ကျဆုံးပြီးတော့ သွားတယ်ဆိုတဲ့အနေဖြင့် ဒါဝမ်းနည်း တသဘွယ်ရာ အချက်ပါ၊ အဲဒီ ဦးပုညာဘိနန္ဒ ဆရာတော်၊ ဆရာတော်အရှင်သူမြတ်တို့ဘုရား သံဃာ့ဝန်ဆောင်အဖွဲ့ဝင် စစ်ကိုင်း အခြေခံဒေသမှ တောတောင် ဘီလူးချောင် ဆရာတော် ဘဝနတ်ထံ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများရန် အဆိုကို မှတ်တမ်းတင်ရန်အတွက် သဘောတူကြပါသလား ဘုရား၊ သဘောတူရင် ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါတယ်ဘုရား ဟု လျှောက်ထား မိန့်ကြား၍ မှတ်တမ်းတင်တော်မူသည်။

ၾ္ငင်းနောက် အခမ်းအနားမှူး ဆရာတော်က။ ။အစီအစဉ်အရ တပည့်တော်တို့ရဲ့ နံနက်ပိုင်း အစည်းအဝေးကို ရပ်နားရန် ဖြစ်ပါတယ်ဘုရား၊ နေ့လယ်ပိုင်း အစည်းအဝေးကို မွန်းလွဲ ၁ - နာရီ တိတိတွင် ကျင်းပမည်ဖြစ်ကြောင်း လျှောက်ထားအပ်ပါသည်ဘုရား။ ယခု အစည်းအဝေး ရပ်နားပါမည်၊ ဩဝါဒါစရိယ ဆရာတော် ဘုရားကြီးများ ကြွသွားတော်မူပြီးမှ ကျန်ဆရာတော်များ ကြွတော်မူပါဘုရား ဟု လျှောက်ထား၍ နံနက်ပိုင်း အစည်းအဝေးကို ရပ်သိမ်းလိုက်လေသည်၊ နံနက်ပိုင်း အစည်းအဝေးကို နံနက် ၁၀ - နာရီ အချိန်တွင် ရပ်နား၍ နေ့လယ်ပိုင်း အစည်းအဝေးကို မွန်းလွဲ ၁ - နာရီ အချိန်တွင် ပြန်လည်ကျင်းပသည်။ နေ့လည်ပိုင်း ၁ - နာရီ ထိုးခါနီးတွင် အခမ်းအနားမှူး ဆရာတော်က ဆရာတော်အရှင်သူမြတ်တို့ဘုရား၊ နေ့လယ်ပိုင်း အစည်းအဝေးကြီး ကျင်းပရန် အချိန်နီးကပ်နေပြီ ဖြစ်ပါ၍ သတ်မှတ်ထားသော နေရာကို ကြွရောက်နေရာ ယူတော်မူကြပါရန် ပင့်လျှောက်ပါသည်ဘုရား ဟု သုံးကြိမ် တိုင်တိုင် လျှောက်ထားလေသည်။

---

## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ( မူကြမ်း ) ကို တင်သွင်းခြင်း

နေ့လယ် ၁ - နာရီ အချိန်တွင် အခမ်းအနားမှူး ဆရာတော်က တပည့်တော်တို့ ပထမနေ့ နေ့လယ်ပိုင်း အစည်းအဝေးကို အစီအစဉ်အရ ဆက်လက် ကျင်းပမည်ဖြစ်ကြောင်း လျှောက်ထားပါသည်ဘုရား။ အစီအစဉ်အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း ( မူကြမ်း ) နှင့် ပတ်သက်၍ တင်သွင်းရန် ဖြစ်ပါတယ်ဘုရား။ တင်သွင်းမည့် သန်လျင် အခြေခံဒေသမှ ဆရာတော် ဦးဝဏ္ဏသိရိ ကြွရောက်ပါရန် ပင့်လျှောက်ပါတယ်ဘုရား ဟု ပင့်ခေါ်လေသည်၊ ထိုအခါ ဦးဝဏ္ဏသိရိက အောက်ပါအတိုင်း လျှောက်ထား တင်သွင်းလေသည်၊ ကြွရောက်တော်မူလာကြသော ထေရနဝ မဇ္ဈိမဖြစ်သော သံဃာတော် အရှင်မြတ်တို့အား လေးစားလျက် ဘုရားတပည့်တော် တာဝန်ကျရာ အပိုင်းကဏ္ဍကို ဆောင်ရွက်ပါမယ်ဘုရား။

သာသနာတော် ၂၅၂၄ - ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန်လဆန်း ၁၁ - ရက် စနေနေ့တွင် ကျင်းပသော သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်း အဆိုလွှာပါဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူသော ဩဝါဒစရိယ ဆရာတော်ကြီးများ၊ အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ ဆရာတော် နှင့် အဖွဲ့ဝင် ဆရာတော်များ၊ သံဃာသမ္မုတိနှင့် သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား သန်လျင် အခြေခံအဆင့် ဘုန်းတော်ကြီး ၀ဏ္ဏသီရိက ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းမူကြမ်းကို လေးမြတ်စွာ တင်သွင်းလျှောက်ထားပါမည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ သီတင်းသုံး နေထိုင်တော်မူကြသော သံဃာတော်များသည် သင်္ဂါယနာ ငါးတန် မြောက်အောင် တင်အပ်ပြီးသော ထေရဝါဒ ပိဋကတ်တော်များကို လက်ခံ ကျင့်သုံးကြသည့် ထေရဝါဒ ဂိုဏ်းဝင်များသာ ဖြစ်ကြပါသည်ဘုရား။ ရဟန်းသံဃာတော် အားလုံးသည် သဗ္ဗညုဘုရား ရှင်၏ ရှေ့ရင်တော်နှစ် သားတော်စစ်များ ဖြစ်ကြ၍ ပင်ကိုယ် သဘာဝအားဖြင့် အယူသီလ တူမျှကြပြီး ဖြစ်ပါသည်ဘုရား။

ဤသို့ ဓာတ်ပြေ ပရိယတ္တိအားဖြင့်လည်းကောင်း၊ ဆရာစဉ်ဆက် ဆင်းသက်လာပုံအားဖြင့်လည်းကောင်း၊ အကျင့်သိက္ခာ အယူသီလအားဖြင့်လည်းကောင်း ပြောပနှင့်ထိုက်အောင် ကွဲပြားခြားနားမှု မရှိကြောင်းကို ဆရာတော် အရှင်သူမြတ်တို့ကိုယ်တိုင် တွေ့မြင် သိရှိကြပြီး ဖြစ်ပါသည်ဘုရား။

ထိုသို့ ပင်ကိုယ် သဘာဝအားဖြင့် အစစအရာရာ ညီညွတ်ပြီးသော ရဟန်းသံဃာတော်များသည် လွန်ခဲ့သော နှစ်ပေါင်း တရာခန့်က စ၍ အာဏာစက်ဖြင့် ထောက်ပံ့မှုကို မရရှိခဲ့သောကြောင့် ဂိုဏ်းအမျိုးမျိုး ကွဲပြားခဲ့ရပါသည်ဘုရား၊ ဂိုဏ်းအမျိုးမျိုး ကွဲပြားသည့် အားလျော်စွာ သံဃာအချင်းချင်း ကြီးကြပ်အုပ်ထိန်းမှု စနစ်သည်လည်း တစတစ လျော့နည်းလာခဲ့ပါသည်ဘုရား။

သံဃာ့နာယက မဟာထေရ်ကြီးများက ဆုံးမဩဝါဒသည် နိုင်ငံလုံးအတိုင်းအတာအထိ ပြန့်နှံ့ခြင်း မရှိတော့ပဲ သံဃနာယက မဟာထေရ်ကြီးများ၏ ဆုံးမဩဝါဒမှ ကင်းလွတ်နေသော ရဟန်း သံဃာများ ပေါ်ပေါက်လာခဲ့ပါသည်ဘုရား။ ထိုရဟန်း သံဃာများသည် မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးခါစ (၇)ရက် မြောက်သော နေ့မှာပင် "ကိုယ်ထင်ရာ ကိုယ်လုပ်ခွင့်ရပြီ" ဟု ကြွေးကြော်သော သုဘဒ္ဒ အမည်ရှိ တောထွက် ရဟန်းကြီးကဲ့သို့ "ငါ့ကျောင်းငါထိုင် ဘယ်သူဆိုင်လဲ" ဟူသော အကျင့်မျိုးကို ကျင့်သုံးလာ

ကြရုံမျှမက "ကိုယ်ဟာကိုယ်ဝတ် ဘယ်သူမျှ မချွတ်နိုင်"ဟူသော ရဟန်းမျိုးလည်း ပေါပေါက်လျက် ရှိကြောင်းကို ဆရာတော်ဘုရားများ ကိုယ်တိုင်တွေ့မြင်သိရှိကြပြီး ဖြစ်သည်ဟု ယုံကြည်ပါသည်ဘုရား။ ဒီလိုပြုကျင့်သုံး နေသော ရဟန်းအချို့ကို ဖယ်ရှားရန်နှင့် သံဃာမှန်သော်လည်း အဆုံးအမကွာ၍ ဝိနည်းတရားတော်နှင့် ညီညွတ်အောင် ပနေသော ရဟန်းများကို ဝိနည်းတရားတော်နှင့်အညီ ကျင့်ကြံ သီတင်းသုံး နေထိုင်စေရန်အတွက် သံဃာအချင်းချင်း ကြီးကြပ်အုပ်ထိန်းသည့် စနစ်တခုကို ဖော်ထုတ်ရန် လိုအပ်လျက်ရှိသည်ဟု ယုံကြည်ယူဆပါသည်ဘုရား။ ယခင် မြန်မာနိုင်ငံ သာသနာ့သမိုင်းတလျှောက်၌ သံဃာတော်များသည် နိုင်ငံတော်အုပ်ချုပ်မှုများနှင့် လိုက်လျောညီထွေရှိသည့် သံဃာအချင်းချင်း ကြီးကြပ်အုပ်ထိန်းမှု စနစ်ကို သာသနာပိုင် ဂိုဏ်းချုပ်၊ ဂိုဏ်းအုပ်၊ ဂိုဏ်းထောက် ဟူ၍ ခေတ်နှင့် စနစ်နှင့် ကိုက်ညီအောင် ကျင့်သုံး ဆောင်ရွက်ခဲ့ကြပါသည် ဘုရား။

ခေတ်အဆက်ဆက် သာသနာ့အကျိုးကို ဆောင်သော သာသနာပြု ဆရာတော်ကြီးများ၊ မဟာထေရ်ကြီးများသည် ခေတ်နှင့် ကိုက်ညီသည့် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ကြီးကြပ်အုပ်ထိန်းမှု စနစ်ကို ဆောင်ရွက်ကြ သကဲ့သို့ ယခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အုပ်ချုပ်မှုနှင့် လိုက်လျော် ညီထွေရှိသော သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်ဖြင့် ကြီးကြပ် အုပ်ထိန်းသည့် စနစ်ကို မြန်မာနိုင်ငံ တဝန်းလုံးရှိ သံဃာတော်များ၏ ဆန္ဒဖြင့် ရွေးချယ်တင်မြှောက်အပ်သော တပည့်တော်တို့ သံဃာ့ဝန်ဆောင် အဖွဲ့က ရေးဆွဲခဲ့ကြပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ တပည့်တော်တို့ သံဃာ့ဝန်ဆောင်အဖွဲ့က ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ရေးဆွဲပြီးနောက် နှစ်ကြိမ်တိုင်တိုင် တပြည်လုံးရှိ သံဃာတော်များ၏ ရှေ့တော်မှောက်သို့ သွားရောက်တင်ပြ၍ သံဃာတော်များထံမှ အကြံဉာဏ်များ တိုက်ရိုက် ရယူခြင်း၊ စာဖြင့်ပေးပို့၍ အကြံဉာဏ်များကို ရယူခြင်း ပြုလုပ်လျက် ဤအခြေခံစည်းမျဉ်းကို ကြိမ်ဖန်များစွာ ဝေဖန် ဆွေးနွေး ညှိနှိုင်းစီစစ် ပြီးနောက် နိုင်ငံတော်၏ အခြေခံ အနေနှင့် လိုက်လျောညီထွေဖြစ်အောင် သံဃာတော်အားလုံး၏ စည်းလုံးညီညွတ်မှုကို ရည်ရွယ်၍လည်းကောင်း သံဃာတော်များ ဝိနည်း တရားတော်နှင့် အညီ ကျင့်ကြံ သီတင်းသုံး နေထိုင်နိုင်ရန် ရည်ရွယ်၍လည်းကောင်း ပြည့်စုံနိုင်သမျှ ပြည့်စုံအောင် စီစဉ်ရေးသား၍ ဤအစည်းအဝေးကြီးက အတည်ပြု ပြဋ္ဌာန်း

ပေးနိုင်ရန် သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား ဘုရားတပည့်တော် ဝဏ္ဏသီရိက တင်သွင်းရခြင်း ဖြစ်ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ဤအခြေခံစည်းမျဉ်း၏ အနှစ်သာရကို ဘုရားတပည့်တော် ဆက်လက်၍ လျှောက်ထားပါသည်ဘုရား။ တပည့်တော်တို့၏ သာသနာတော်တွင် ဂိုဏ်း အသီးသီးရှိ သံဃာတော်များသည် သာသနာ့ဝန်ကို အသီးသီး ထမ်းဆောင်လျက် ရှိကြပါသည် ဘုရား။ ဘုရားတပည့်တော်တို့၏ အခြေခံစည်းမျဉ်းတွင် ဂိုဏ်းအသီးသီးသည် မူလရှိပြီးသော ဂိုဏ်းဖွဲ့စည်းပုံ အရ ဆိုင်ရာဂိုဏ်းအတွင်း သံဃာ့ကိစ္စများ ဆောင်ရွက်နိုင်မှုရှိကြပြီး တဂိုဏ်း နှင့် တဂိုဏ်း ဆက်သွယ် ဆောင်ရွက်ရန် လိုအပ်ပါက လည်း ဆက်သွယ် ညှိနှိုင်း ဆောင်ရွက်နိုင်ရန် စနစ်များကိုသည်း ထည့်သွင်း ရေးဆွဲထားပါသည်ဘုရား။ ယခုရှိပြီးသော သတ်မှတ်ထားသည့် သံဃာ့ဂိုဏ်းကိုးဂိုဏ်းမှအပ ထပ်မံ၍ အခြား သံဃာ့ဂိုဏ်းသစ်များ တည်ထောင်ခွင့်ကို ပိတ်ပင် တားမြစ်ချက်လည်း ရှိပါသည်ဘုရား။ သံဃာ့ညီညွတ်ရေးကို ရှေ့ရှု၍ သံဃာကွဲပြားမှုကို မဖြစ်စေလိုသောကြောင့် ဤအချက်ကို ထည့်သွင်းရခြင်း ဖြစ်ပါသည်ဘုရား။ ယခုတည်ရှိပြီးသော သံဃာ့ဂိုဏ်းများသည်လည်း နောင်ကာလတွင် သဘောတူရာ ပူးပေါင်းနိုင်ရန် ခွင့်ပြုချက်လည်း ပေးထားပါသည် ဘုရား။ နောက်တချက်မှာ နိုင်ငံတွင်းရှိ သံဃာဟူသမျှသည် သက်ဆိုင်ရာ ဂိုဏ်း၊ သက်ဆိုင်ရာ သံဃာ့အဖွဲ့အစည်းမှ ကင်းလွတ်၍ နေခွင့်မရှိကြောင်းကို လည်း ထည့်သွင်း ရေးဆွဲထားပါသည်ဘုရား။

အခြေခံစည်းမျဉ်းအရ သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းပုံကို အကျဉ်းချုပ် အားဖြင့် ဖော်ပြ လျှောက်ထားရမည် ဆိုပါက ပုံသဏ္ဍာန်အားဖြင့် အပိုင်း နှစ်ပိုင်း ရှိသည်ကို တွေ့မြင်နိုင်ပါသည်ဘုရား။ ပထမပိုင်းမှာ နိုင်ငံတော် အဆင့်ဖြစ်၍ တပြည်လုံးရှိ ဂိုဏ်းအသီးသီး ဂိုဏ်းဝင်သံဃာ အသီးသီး ခွဲခြားမှုမပြုပဲ ညီညီညွတ်ညွတ် ပေါင်းရုံး စုစည်းထားသော အဖွဲ့ကြီးသုံးဖွဲ့ ပါဝင်ပါသည်ဘုရား။ ရှေးဦးစွာ သက်တော်ရှည် ဆရာတော်ကြီးများ ပါဝင်သော နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့သည် နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့မှ တဆင့် တပြည်လုံးရှိ သံဃာတော်များအား ဆုံးမဩဝါဒပေးမည် ဖြစ်ပါသည်ဘုရား။ ထို့နောက် တပြည်လုံးရှိ သံဃာတော်အားလုံးကို တာဝန်ခံရသော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့နှင့် ထိုအဖွဲ့၏ နေ့စဉ်လုပ်ငန်းများကို တာဝန်ယူ ဆောင်ရွက်မည့် နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဟူ၍ နိုင်ငံတော်အဆင့်တွင် သံဃာ့အဖွဲ့အစည်းကြီး ဖွဲ့ရှိပါသည်ဘုရား။ တဖန် သံဃာတော်များအတွင်း၌ ကိုယ်တိုင်ကိုယ်ကျ ကြီးကြပ်ကွပ်ကဲနိုင်ရန် တိုင်းနှင့်

ပြည်နယ်၊ မြို့နယ် ရပ်ကွက် ကျေးရွာ အုပ်စုများတွင် သတ်မှတ်ထားသော ဂိုဏ်းအလိုက် အဖွဲ့အစည်းများအလိုက်ဟူ၍ သီးခြားအဆင့်အားဖြင့် သုံးဆင့်ရှိမည် ဖြစ်ပါသည်ဘုရား။ သံဃာ့ဝန်မဆောင် ဆရာတော်များကတဆင့် သက်ဆိုင်ရာ သံဃာ့နာယက အဖွဲ့များဖြင့် သံဃာတော်များကို ကြီးကြပ်အုပ်ထိန်းမှုများ ပြုလုပ် ဆောင်ရွက်သွားမည် ဖြစ်ပါလိမ့်မည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယခု ဘုရားတပည့်တော် တင်သွင်းမည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၌ နိဒါန်းနှင့်တကွ အခန်းပေါင်း တဆယ့်လေးခန်း ပါရှိပါသည်ဘုရား။

အခန်း (၁) ၌ အမည်နှင့် အဓိပ္ပာယ် ဖော်ပြချက် ပါဝင်၍၊ အခန်း (၂) ၌ အခြေခံမူကြောင်းကို ဖော်ပြထားပါသည်ဘုရား။ အခန်း (၃) ၌ သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်ဖွဲ့စည်းပုံ၊ အခန်း (၄) ၌ သက်တမ်းများ သက်မှတ်ချက်၊ အခန်း (၅) ၌ ရွေးကောက်ခွင့်ပြုခြင်းများ ပါဝင်ပါသည်ဘုရား။ အခန်း (၆) ၌ အရွေးယူခြင်း၊ အခန်း (၇) ၌ အစားထိုးရွေးချယ်ခြင်း၊ အခန်း (၈) ၌ အစည်းအဝေးများ ကျင်းပခြင်းတို့ ပါဝင်ပါသည်ဘုရား။ အခန်း (၉) ၌ ဝိနိစ္ဆယ ဆိုင်ရာ လုပ်ငန်းများ၊ အခန်း (၁၀) ၌ သာသနာ့ အလံတော်၊ အခန်း (၁၁) ၌ နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ တံဆိပ်တော် အကြောင်း ဖော်ပြထားပါသည်ဘုရား။ အခန်း (၁၂) ၌ အခြေခံမူဝါဒများ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်း၊ အခန်း (၁၃) ၌ လုပ်ထုံးလုပ်နည်း စေ့ဆိုင်ရာ ပြင်ဆင်၊ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်းနှင့် အခန်း (၁၄) တွင် အထွေထွေ အကြောင်းအရာများကို ဖော်ပြထားပါသည်ဘုရား။ နောက်ဆက်တွဲ (က) တွင် သတ်မှတ်ထားသော သံဃာ့ဂိုဏ်းများ စာရင်းကို ဖော်ပြထား၍ နောက်ဆုံးတွင် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းပုံ ဇယားကို ဖော်ပြထားပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယခု ဘုရားတပည့်တော် လိုရင်းကို အကျဉ်းချုပ် လျှောက်ထားရလျှင် ... သာသနာတော် ... ရှင်း တည်တံ့ ... သံဃာတော်များသည် မြတ်စွာဘုရား ပညတ်တော်မူခဲ့သော ဝိနည်း ... နှင့် အညီ သီတင်းသုံး နေထိုင်ရန် လိုအပ်ပါသည်ဘုရား။ ... သံဃာတော်များ ဝိနည်းတရားတော်နှင့်အညီ ကျင့်ကြံ ... နိုင်ရေးအတွက် ... သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်ဖြင့် သံဃာအများ ... ကြီးကြပ်အုပ်ထိန်း ... စနစ်တခု ရှိသင့်သည်ဟု ယူဆ ... ပြည်ထောင်စု ဆိုရှယ်လစ်

သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်းကို တညီတညွတ်တည်း အတည်ပြု ပြဋ္ဌာန်းပေးတော်မူကြရန် မလွဲမသွေ လိုအပ်လျက် ရှိပါသည်ဘုရား။ ကြွရောက်တော် မူလာကြသော သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များသည် ဤအခြေခံစည်းမျဉ်းကို ကောင်းသည်ထက် ကောင်းအောင် ဝေဖန်ဆွေးနွေး အတည်ပြုတော် မူကြပါရန် လျှောက်ထားပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယခု ဘုရားတပည့်တော် သန်လျင် အခြေခံဒေသမှ ဝဏ္ဏသီရိက သံဃာ့ဝန်ဆောင်အဖွဲ့၏ကိုယ်စား ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို တပိုဒ်ချင်း ဖတ်ကြား လျှောက်ထား တင်သွင်းပါမည်ဘုရား။

မာတိကာခေါင်းတော့ မလျှောက်ထားတော့ပါဘုရား။ နိဒါန်းကပဲ စတင်ပြီး လျှောက်ထားပါမည် ဘုရား။ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းမူကြမ်းကို ဖတ်ကြား လျှောက်ထားပါသည်။



## ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း)ကို တင်သွင်းခြင်း

**ရင်းနောက် အခမ်းအနားမှူး ဆရာတော်က။** ။ဝိနည်း ဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ (မူကြမ်း) ကို တင်သွင်းရန် ဖြစ်ပါသည် ဘုရား။ တင်သွင်းမည့် မန္တလေး အခြေခံဒေသမှ ဆရာတော် ဦးကုမာရာဘိဝံသ ကြွရောက်ပါရန် ပင့်လျှောက်ပါသည်ဘုရားဟု ပင့်လျှောက်ရာ—

**ဦးကုမာရာဘိဝံသ** က အောက်ပါအတိုင်း လျှောက်ထား တင်သွင်းတော်မူသည်။ သာသနာတော် ၂၅၂၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၁-ရက် စနေနေ့တွင် ကျင်းပသော သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း) အဆိုတင်သွင်းလွှာပါဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးပွဲကြီးသို့ကြွရောက်တော် မူလာကြသည့် ရိုသေလေးမြတ် ပူဇော်အပ်သော အစည်းအဝေးကြီး၏ ဩဝါဒါစရိယ ဆရာတော်ကြီးများ၊ ဤအစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် တာဝန်ယူ ဆောင်ရွက်တော်မူကြသော သံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌဆရာတော် နှင့် အဖွဲ့ဝင်ဆရာတော်များ တနိုင်ငံလုံးရှိ သံဃာတော်များအား ကိုယ်စားပြုသော သံဃာ့ကိုယ်စားလှယ် အရှင်သူမြတ်တို့ ဘုရား။

မန္တလေး အခြေခံဒေသမှ တပည့်တော် ကုမာရကိတ္တိ သ ည် ဝိနည်း၊ ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို လေးမြတ်စွာ တင်သွင်းပါမည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား —

"ဝိနယောနာမ ဗုဒ္ဓသာသနဿ အာယု၊ ဝိနယေ ဌိတေ သာသနံ ဌိတံနာမ ဟောတိ၊ ဝိနည်းကျင့်ဝတ် မည်သည် ဘုရားရှင် သာသနာတော်၏ အသက်မည်၏။ ဝိနည်းကျင့်ဝတ် တည်တံ့လျှင် သာသနာတော် တည်တံ့ပြီးသည်မည်တော့သည်" ဟူသော ပထမ သံဂါယနာတင် ရဟန္တာအရှင်မြတ် ငါးရာတို့၏ စကားတော်ကို ဦးထိပ်ထက် ပန်ဆင်လျက် လဇ္ဇီ ပေသလ သိက္ခာကာမ သာသန မာမက ဖြစ်တော်မူကြသည့်သာသနာပြု ဆရာတော် သံဃာတော် အဆက်ဆက်တို့သည် ဝိနည်း တရားတော်ကို အလေးထား၍ သာသနာတော်ကို သန့်ရှင်းတည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်တော် မူခဲ့ကြပါသည်ဘုရား။

ဘုရား တပည့်တော်တို့ ယခု မျက်မှောက်ခေတ် သာသနာတော်၌ အရေးတကြီး တားဆီးကာကွယ် ဖယ်ရှားရန် လိုအပ်နေသည့် သာသနာ့အန္တရာယ်ကြီးသုံးရပ် ပေါ်ပေါက်လျက် ရှိနေသည်ကို တွေ့မြင်နေရပါသည်ဘုရား၊ ထိုသာသနာ့ အန္တရာယ်ကြီး သုံးရပ်တို့မှာ —

၁။ ဖြစ်ပေါ်လာသော ဝိနည်း ဓမ္မကံဆိုင်ရာ အဓိကရုဏ်း မှုခင် များကို ဓမ္မဝိနယနှင့် အညီ ငြိမ်းအေးမှုရအောင် မဆောင်ရွက်နိုင်ခြင်း၊

၂။ သာသနာတော်ကို အန္တရာယ် ဖြစ်စေနိုင်သည့် ပြုကျင့်မှု၊ ဟောပြောမှု၊ ရေးသားမှုများကို ထိရောက်စွာ မဟန့်တားနိုင်ခြင်း၊

၃။ သိက္ခာမတင် သိမ်မဝင်မူ၍ မိမိဘာသာ သင်္ကန်းဝတ်နေကြသည့် ရဟန်းတု ရဟန်းယောင်များ နှင့် ဝိနည်းကျင့်ဝတ်ကို စောင့်ထိန်းလိုက်နာခြင်း မရှိပဲ ဂန္ထဓုရဝိပဿနာဓုရ နှစ်ပါးကို စွန့်ပစ်ပြီး ဂိဟိကမ္မ ဗုဒ္ဓပဋိ-

ကုဋ္ဌ အမှုများကို အမြဲမပြတ် ပြုလုပ်နေသော အလဇ္ဇီ ဒုဿီလ ရဟန်း ဆိုးများကို မဖယ်ရှားနိုင်ခြင်း

ဟူ၍ သုံးရပ်တို့ ဖြစ်ပါသည်ဘုရား။

ထိုသာသနာ့ အန္တရာယ်ကြီး သုံးရပ်သည် လက်ရှိ ပစ္စုပ္ပန်သာသနာရေးကို နှောက်ယှက်လျက် အနာဂတ် သာသနာတော်ကိုလည်း အကြွင်းမဲ့ ဖြိုဖျက်ရန် ရန်မူခိုမ်းခြောက်လျက် ရှိနေသည်ကို အရှင်ဘုရားတို့ကိုယ်တိုင် တွေ့မြင် သိရှိပြီး ဖြစ်ပါသည်ဘုရား၊ ထိုသာသနာ့ အန္တရာယ်ကြီး သုံးရပ်ကို လဇ္ဇီ ပေသလ သိက္ခာကာမ သာသနမာမက ဖြစ်တော်မူကြသော အရှင်ကောင်း အရှင်မြတ်များက တားဆီး ကာကွယ် ဖယ်ရှားခြင်း မပြုပဲ လျစ်လျူရှုနေပါလျှင် တနေ့ဘခြား ကြီးပွားတိုးပွားလာပြီး လက်ရှိ ပစ္စုပ္ပန် သာသနာရေးကို အနှောင့်အယှက်ပေး၍ အနာဂတ် သာသနာတော်ကို အကြွင်းမဲ့ ဖြိုခွင်း ဖျက်ဆီးပစ်ပါလိမ့်မည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား —

ဘုရားတပည့်တော် တင်ပြလျှောက်ထားခဲ့သော သာသနာ့ ဘေးအန္တရာယ် များကို မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန် ပြုပြီးသည့်နောက် မဟာသာဝကကြီး ဖြစ် တော်မူသော အရှင်မဟာကဿပ ရဟန္တာ အရှင်သူမြတ်သည် "ငါ့ရှင်တို့— မသူတော်တရား မထွန်းကားမီ၊ သူတော်ကောင်းတရား တားမြစ်ပိတ်ပင်ခြင်း မခံရသေးမီ၊ အဓမ္မဝါဒီ ပုဂ္ဂိုလ်တို့ အင်အားမကောင်းမီ၊ ဓမ္မဝါဒီ ပုဂ္ဂိုလ်တို့ အင်အား မနည်းသေးမီ၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားစေရန် ဓမ္မဝိနယကို သံဂါယနာ တင်ကြပါစို့" ဟု တိုက်တွန်း နှိုးဆော်ပြီး သာသနာ့ အန္တရာယ် အသွယ်သွယ်ကို တားဆီးဖယ်ရှား၍ သာသနာတော်ကို ကာကွယ် စောင့်ရှောက်တော် မူသကဲ့သို့ —

ထိုနည်းတူစွာပင် ဘုရားတပည့်တော်တို့သည်လည်း ညီညီညွတ်ညွတ်ရှိသော ယခု အချိန်အခါမှ စ၍ သာသနာ့အန္တရာယ်များကို တားဆီးပယ်ရှားပြီး သာ သနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် ဆောင်ရွက်တော်မူကြရန် အချိန်သင့်ပါပြီဘုရား။

ဤသို့ ဆောင်ရွက်ရာတွင် တယောက်ဘပေါက်၊ တဒေသ တခု၊ တနယ်တ မျိုး၊ တကျောင်းတဂါထာ၊ တရွာတပုဒ်ဆန်း ဆိုသကဲ့သို့ အမျိုးမျိုး မဖြစ်စေ ရန် အကြိမ်ကြိမ် အခါခါ စည်းဝေး တိုင်ပင်ညှိနှိုင်းပြီး အကြံပေးချက်များ ရယူ၍ ဝိနည်းဓမ္မကံအရ ဖြစ်ပေါ်လာသော အဓိကရုဏ်းများကို ညီညွတ် မှန် ကန်စွာ ဖြေရှင်း ဆောင်ရွက်နိုင်ရန်အတွက် ဘုရားတပည့်တော်တို့သည် ဝိနည်

ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်း မူကြမ်းကို ရေးသား၍ ဤအစည်းအဝေးကြီးသို့ တင်သွင်းရခြင်း ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား —

ဘုရားတပည့်တော် ဆက်လက်၍ ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများတွင် ပါဝင်သော အရေးကြီးသည့် အချက်အလက်များကို အကျဉ်းချုပ်အားဖြင့် တင်ပြလိုပါသည် ဘုရား။ ဤလုပ်ထုံးလုပ်နည်းတွင် နိဒါန်း နှင့် တကွ အခန်းပေါင်း ကိုးခန်းပါဝင်၍ အခန်းတစ်၌ အမည်နှင့် အဓိပ္ပာယ်ဖော်ပြချက် ပါဝင်ပါသည်ဘုရား။ အခန်းနှစ်၌ ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများကို စတင် ပြေလည်အေးငြိမ်းစေခြင်း နှင့် အခန်းသုံးတွင် ဝိနည်းဓိုရ် ပုဂ္ဂိုလ်များ ရွေးချယ် တင်မြှောက်ခြင်း၊ အခန်းလေးတွင် ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများကို လက်ခံခြင်း နှင့် သံဃဝိနိစ္ဆယအဖွဲ့ ဖွဲ့စည်းခြင်းတို့ ပါဝင်ပါသည်ဘုရား။ အခန်းငါးတွင် သံဃဝိနိစ္ဆယဌာန၌ ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်း စစ်ဆေးနေစဉ်ကာလအတွင်း မှုခင်းဆိုင်ရာ ပစ္စည်းအရပ်ရပ်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ အခန်းခြောက်၌ ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများကို သံဃဝိနိစ္ဆယအဖွဲ့က စစ်ဆေးဆုံးဖြတ်ခြင်း၊ အခန်းခုနစ်၌ အယူခံ စောဒနာဝင်ခြင်း နှင့် သံဃဝိနိစ္ဆယအဖွဲ့သစ် ဖွဲ့စည်း ဆုံးဖြတ်ခြင်း၊ အခန်း ရှစ်၌ သံဃဝိနိစ္ဆယ အဖွဲ့၏ ဆုံးဖြတ်ချက်ကို လိုက်နာစေခြင်းတို့ ပါဝင်ပါသည်ဘုရား၊ အခန်းကိုး၌ အထွေထွေနှင့် ဤလုပ်ထုံးလုပ်နည်းကို အထောက်အကူပြုသည့် နောက်ဆက်တွဲ ဇယား ငါးခုနှင့် ပုံစံတဆယ့်လေးခုတို့ ပါဝင်ပြီး ပြည့်ပြည့်စုံစုံ ရေးသားပြုစု၍ တင်ပြ ထားပါသည် ဘုရား။

ဤလုပ်ထုံးလုပ်နည်း စာအုပ်များကို ကြွရောက်တော်မူလာကြသော ဆရာတော် အရှင်သူမြတ်များအား အသီးသီး ဆက်ကပ်ထားပြီး ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား —

ဘုရားတပည့်တော် တင်ပြအစီရင်ခံခဲ့သည့် သာသနာတော် သန့်ရှင်း စင်ကြယ်ရေး နှင့် အဓွန့်ရှည်စွာ တည်တံ့ ပြန့်ပွားရေးတို့အတွက်လည်းကောင်း သံဃာတော်များအတွင်း အချင်းချင်း ညီညွတ်မှုကို ပြုသောအားဖြင့် လည်းကောင်း ဤဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ဘုရားတပည့်တော်တို့၏ သံဃာ့ အဖွဲ့အစည်းကြီး

တရပ်အား များစွာ အထောက်အကူ ဖြစ်စေလိမ့်မည်ဟု ယုံကြည်ပါသော ကြောင့် ဤဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တင်သွင်းရခြင်း ဖြစ်ပါသည်ဘုရား။

ဘုရားတပည့်တော်တို့ တင်သွင်းသော ဤဝိနည်းဓမ္မကံ အဓိကရဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ကြွရောက်တော်မူလာကြသော ဆရာတော် သံဃာတော်များသည် မလိုအပ်သည်ကို ပယ်ဖျက်၍ လိုအပ်သည်များကို ဖြည့်စွက်ခြင်းဖြင့် ကောင်းသည်ထက် ကောင်းအောင် ဆောင်ရွက်တော်မူကြပါရန် နှင့် ဤအစည်းအဝေးကြီးက တညီတညွတ်တည်း အတည်ပြု ပေးတော်မူကြပါရန် မန္တလေး အရှေ့တောင် မြို့နယ် ဗန်းမော်တိုက် ဘုရားတပည့်တော် ကုမာရာဘိဝံသက သာသနာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား တင်သွင်း လျှောက်ထားအပ်ပါသည် ဘုရား။

**ထိုနောက် အခမ်းအနားမှူး ဆရာတော်က။** ။အခု အချိန်က စပြီးတော့ ဘုရားတပည့်တော် ဝိနည်းဓမ္မကံ အဓိကရဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ ( မူကြမ်း ) ကို ပခုက္ကူ အခြေခံဒေသ ရွှေပေါက် ပင် ကျောင်းတိုက်မှ ဆရာတော် ဦးဝေပုလ္လသာမိ နှင့် သန်လျင် အခြေခံဒေသ တွံတေးမှ ဦးနန္ဒာဘိဝံသတို့က ဆက်လက် တပိုဒ်ချင်း တပိုဒ်ချင်း ဖတ်ကြား လျှောက်ထားပါလိမ့်မည်ဘုရား ဟု မြွက်ကြားတော်မူသည်။

ဆရာတော် ဦးဝေပုလ္လသာမိ နှင့် ဦးနန္ဒာဝံသဘိုက တပိုဒ်ချင်း ဖတ်ကြား လျှောက်ထားပါသည်။

**ထိုနောက် အခမ်းအနားမှူး ဆရာတော်က။** ။အစီအစဉ်အရ တပည့် တော်တို့ နေ့လည်ပိုင်း အစည်းအဝေးကို အဖျော်ယမကာ ဆက်ကပ်နိုင်ရန် ( မိနစ် နှစ်ဆယ် ) ခန့် ခေတ္တ ရပ်နားမည် ဖြစ်ပါသည်ဘုရား။ အစည်းအဝေးကို မွန်းလွဲ ၃ - နာရီ ၂၅ - မိနစ် နာရီတွင် ပြန်စပါမည်ဘုရား။ အဖျော်ယမကာ များကို လိုဏ်ဂူတော် အတွင်းမှာပင် ဆက်ကပ်ရန် စီစဉ်ထားပါကြောင်း လျှောက်ထားပါသည်ဘုရား။

အစည်းအဝေးကို မိနစ်နှစ်ဆယ် ရပ်နား၍ မွန်းလွဲ ၃ - နာရီ ၂၅ - မိနစ် အချိန်တွင် ပြန်လည် ကျင်းပလေသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား။နေ့ လည်ပိုင်း အစည်းအဝေးကြီး ကျင်းပရန် အချိန် နီးကပ်နေပြီ ဖြစ်ပါ၍ သတ်မှတ် ထားသော နေရာသို့ ကြွရောက်၍ နေရာ ယူတော်မူကြပါရန် ပင့်လျှောက်ပါ သည်ဘုရား ဟု ပင့်လျှောက်လေသည်။

—

# ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းနှင့် ပတ်သက်၍ ရှင်းလင်း လျှောက်ထား ဖတ်ကြား တင်သွင်းခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။အစီအစဉ်အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်း နှင့် ပတ်သက်၍ တင်သွင်းရန် ဖြစ်ပါသည်ဘုရား။ တင်သွင်းမည့် မန္တလေး အခြေခံဒေသမှ ဦးဉာဏာဘိဝံသ ကြွရောက်ပါရန် ပင့်လျှောက်ပါသည်ဘုရား ဟု ဦးဉာဏာဘိဝံသကို ပင့်ခေါ်တော်မူလေသည်။

**ဦးဉာဏာဘိဝံသက။** ။အောက်ပါအတိုင်း တင်သွင်းတော်မူသည်၊ သာသနာတော်နှစ် ၂၅၂၄ - ခုနှစ်၊ ကောဇာ သက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန်လဆန်း ၁၁ - ရက်၊ စနေနေ့တွင် ကျင်းပသော ပထမ အကြိမ် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ တင်သွင်းသည့် သာသနာဝင် မှတ်တမ်း အဆိုပြုလွှာပါဘုရား။

ဘုရားတပည့်တော် ဉာဏာဘိဝံသ ရိုသေလေးစားစွာ လျှောက်ထားအပ်ပါသည် ဘုရား။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ **သံဃာ့အစည်းအဝေးပွဲကြီး** ကျင်းပပြုလုပ်ရာ ဤ မဟာပါသာဏလိုဏ်ဂူတော်ကြီး အတွင်းသို့ ကြွရောက်တော် မူလာကြသော အစည်းအဝေးကြီး၏ ဩဝါဒါစရိယ ဆရာတော်များ အမှူးထား၍ **သံဃာသမ္မုတိဝင်** သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်မြတ်တို့အား ဘုရားတပည့်တော် မန္တလေး အခြေခံဒေသ မန္တလေးမြို့ မိုးကောင်းတိုက် ညောင်ရမ်းပါဠိတက္ကသိုလ် ဝါးတန်း စာချကျောင်း၊ ဉာဏာဘိဝံသက သာသနာဝင်မှတ်တမ်း မူကြမ်းကို လေးမြတ်စွာ တင်သွင်း လျှောက်ထားပါသည်ဘုရား။ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားတပည့်တော်တို့၏ သာသနာတော်နှစ် ( ၂၁၅ ) ခုနှစ် တတိယသံဂါယနာ တင်သည့်အချိန်မှ သာသနာ့ဝန်ထမ်း ရဟန်းတော်များတွင် ဝိနယအဓိကရုဏ်းများ ကြီးကျယ်စွာ ဖြစ်ခဲ့တာကို ဆရာတော်ဘုရားများ သိတော်မူကြပြီး ဖြစ်ပါသည်ဘုရား။ ထိုဝိနယအဓိကရုဏ်းများ အကြောင်းကို ဘုရားတပည့်တော် အနည်းငယ် တင်ပြလိုပါသည်ဘုရား။

ဆရာတော် **သံဃာတော်** အရှင်မြတ်တို့**ဘုရား။** ဘုရားတပည့်တော်တို့၏ ကိုးကွယ်အားထားရာ ရှင်တော်မြတ်ဘုရားသည် ပါရမီဆယ်ပါး၊ စရိယ သုံးပါးကို ပြည့်ဝစွာ ဖြည့်ကျင့် ဆည်းပူးတော်မူခဲ့ခြင်းကြောင့် အရဟတာစသော

ဂုဏ်တော်ကိုးပါးနှင့် ပြည့်စုံတော်မူသော သဗ္ဗညုတဉာဏ်သခင် ဘုရားရှင် အဖြစ်သို့ ရောက်တော်မူခဲ့ပါသည်။ ဘုရားရှင်သည် အစ၊ အလယ်၊ အဆုံး သုံးပါးသော ကောင်းခြင်းဂုဏ်ရှိသည့် တရားတော်ကို ဖွင့်ဟထုတ်ဖော် ဟော ကြားတော် မူခဲ့ပါသည်ဘုရား။ ထိုတရားတော်သည်လည်း သွက္ခာတဘာ အစရှိသော ဂုဏ်တော်ခြောက်ပါးနှင့် ပြည့်စုံတော်မူပါပေသည်။ ထိုတရား ရတနာကို နာယူမှတ်သား ကျင့်ကြံအားထုတ် ပွားများသော သံဃာတော် များသည် သုပ္ပဋိပန္နတာ စသော ဂုဏ်တော် ကိုးပါးနှင့် ပြည့်စုံတော်မူသော သံဃာရတနာများ ဖြစ်ကြပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားစစ် ဘုရားမှန် တရား စစ် တရားမှန် သံဃာစစ် သံဃာမှန် ပေါ်ထွန်းလာသောအခါ ဤမျှလောက သား လူအများတို့သည် ဝမ်းသာအားရ ဖြစ်ကြ၍ ကိုးကွယ်ရာ ဆည်းကပ်ရာ အဖြစ် သဒ္ဓါပသန္န အလွန်ကြည်ညိုကြသောကြောင့် သာသနာတော်၌ ပေး ကမ်း လှူဒါန်းကြပါသည်၊ ထိုအခါ သာသနာတော်ကြီးသည် လာဘဂ္ဂ မဟတာ ဟု ဆိုအပ်သော မြတ်သော ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်း လေးပါး ပေးကမ်း လှူဒါန်းခြင်း များပြား လာပါသည် ဘုရား။ လာဘဂ္ဂ မဟတာ ခေတ်အသွင်သို့ ရောက်ရှိလာရာမှ ထင်ပေါ်ကျော်ကြား လေးစား ကြည်ညိုသူ မြတ်သော အခြံအရံများပြားသည့် ယသဂ္ဂမဟတာ အဖြစ်သို့ ရောက်ရှိလာပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ တပည့်တော်တို့၏ သာ သနာတော်ကြီးသည် လာဘဂ္ဂမဟတာခေါ် မြတ်သော ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်းလေးပါး ပေါများလာရာမှ ယသဂ္ဂမဟတာ ကြည်ညိုသူ မြတ် သော အခြံအရံ များပြားခြင်းသို့ ရောက်လာသောအခါ ပုဂ္ဂိုလ်အချို့သည် ပင်ပန်းကြီးစွာ လုပ်ကိုင်မှုမပြုရပဲ အေးဆေးသက်သာစွာ စားသောက် နေ ထိုင်လိုသောကြောင့် လည်းကောင်း ပုဂ္ဂိုလ် အချို့သည် တရား ဥပဒေကို ချိုးဖောက်ပြီးနောက် ပြစ်ဒဏ်ခံရမည်ကို ကြောက်ရွံ့သောကြောင့် လည်း ကောင်း သာသနာတော်၏ ဆန့်ကျင်ဘက် အယူရှိတဲ့သူများကလည်း ဖျက် ဆီးလိုသော အကြံဖြင့် သာသနာတော်တွင်းသို့ ဝင်၍ သာသနာ့ လာဘ် လာဘကို မှီ၍ မိမိတို့ အယူအဆများကို ဆောင်ယူသွင်းရန် သာသနာတော် တွင်းသို့ ဝင်ရောက်လာကြပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဤသို့ ဝင်လာတာ တရား သောနည်းဖြင့်ဖြစ်စေ၊ မတရားသောနည်းဖြင့်ဖြစ်စေ ရသည့်နည်းဖြင့် သာသနာ တော်တွင်းသို့ ဝင်ရောက်လာကြခြင်း ဖြစ်ပါသည်ဘုရား။ တရားတဲ့နည်း ဆိုရာ

မှာ သာသနာကို မကြည်ညိုသော်လည်း ကြည်ညိုဟန် ဆောင်၍ ရဟန်းစစ် ရဟန်းကောင်းများထဲ တောင်းပန်ပြီး ဝိနည်းဓမ္မကံ နှင့် အညီ ဝင်လာခြင်းကို ဆိုလိုပါသည်ဘုရား။ မတရားသောနည်းနှင့် ဝင်လာသည်ဆိုရာမှာ မိမိ သဘော အတိုင်း သင်္ကန်းဝတ်ရုံကာ အယောင်ဆောင် ဝင်လာခြင်းကို ဆိုလိုပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဤကဲ့သို့ နည်းနှစ်မျိုးကို အသုံးပြုပြီး သာသနာဘွင်းသို့ ရောက်လာတဲ့အခါ ဂန္ထဓုရ၊ ဝိပဿနာဓုရ တည်းဟူသော သာသနာ့အလုပ်ကို မလုပ်ကြပဲ မိမိထင်ရာမြင်ရာ ကြိုက်နှစ်သက်ရာ ဝိနည်း ဓမ္မကံ နှင့် မညီသော အလုပ်များကို လုပ်ကြပါသည်ဘုရား။ ဒကာ ဒကာမများ ကြည်ညိုလာအောင် အခြား ပဥ္စလက်နည်း လိမ်ညာသော နည်းတွေနှင့် လာဘ် လာဘများကို ရအောင် လုပ်လာကြပါသည်။ လာဘ်လာဘကို ငဲ့ပြီး လုပ်လာ ကြသည်ကို ဆရာတော်များ အမြင်အတွေ့ပဲဖြစ်ပါသည်ဘုရား။ ဤကဲ့သို့ သံဃာ ကောင်း အယောင်ဆောင်ကာ သံဃာစစ် သံဃာမှန်များ နှင့် ရောရောထွေး ထွေး လုပ်လာကြတော့ ငြင်းခုံမှုတွေ ခိုက်ရန်မှုတွေ ဝိနယအဓိကရုဏ်းမှုတွေ များစွာ ဖြစ်လာပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ရှေးယခင်က သာသနာတော် ၌ သာသနာ့ဝန်ထမ်း ရဟန်းတော်များထဲမှ တပည့်တော် လျှောက်ခဲ့သလို ရောရောထွေးထွေး ရှိခဲ့သဖြင့် အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးရှိတဲ့ ဓမ္မဝါဒီ မဟာထေရ်ကြီးများဖက်မှလည်း ဓမ္မစက်ကို တိတိကျကျ အသုံးပြုပြီး လျှင် ရဟန်းဆိုး ရဟန်းကောင်း ကွဲပြား ထင်ရှားအောင် ခွဲခြား ထုတ်ဖော်ခဲ့ ကြပါသည်ဘုရား။

ဒကာတော်များဖက်က ဖြစ်သည့် သီရိဓမ္မာသောကမင်းကြီး အမှူးရှိတဲ့ အုပ်ချုပ်ရေးဝန်ထမ်းများကလည်း အာဏာစက်ကို အသုံးပြုပြီးလျှင် ရဟန်း ကောင်းများကို ချီးမြှောက်ခြင်း၊ ရဟန်းဆိုးများကို နှိမ်ချခြင်း ပြုခဲ့ကြပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ယခု လက်ရှိ သာသနာမှာ လည်း ရဟန်းတု ရဟန်းယောင်များ ဝင်ရောက်ပြီးတော့ သာသနာတော် ညစ်နွမ်း မှိန်စေတဲ့ အလုပ်တွေကို လုပ်ဆောင်နေကြတာကို ယခု ကြွရောက်လာ ကြတဲ့ ဆရာတော် သံဃာတော်များ အမြင် အကြား အသိပင် ဖြစ်ပါသည် ဘုရား။

ဘုရားတပည့်တော် ဆက်လက်၍ လျှောက်ထားလိုတာက ဒီသာသနာ အတွင်းမှာလဲပဲ ရှေးရိုးထွေးထွေး ဖြစ်ပေါ်လာရတဲ့ အကြောင်းတွေကို ဆင်ခြင် သုံးသပ်ကြည့်လျှင် —

(က) သာသနာတွင်းသို့ ဝင်လာစဉ်အခါက စနစ်တကျ စီစစ်၍ ဝင်လာသည်မဟုတ်၊ အတိုအစရှေးရှေး ကျောက်အရော်ရော် ဒလစ်ဟာ ဝင်လာခဲ့ခြင်း။

(ခ) ဝင်ပြီးသောအခါ၌လည်း စနစ်တကျ ထိန်းသိမ်းကွပ်ကဲမှု မပြုနိုင်ခြင်း။

(ဂ) သာသနာတော်ကို ဓမ္မာနုဂ္ဂဟ ပုဂ္ဂလာနုဂ္ဂဟဖြင့် ထောက်ပံ့နေကြတဲ့ ဒကာ ဒကာမတွေရဲ့ သဒ္ဓါတရားကို အခွင့်ကောင်း ယူပြီး မဟုတ်တဲ့ အခွင့်အရေးကို ဘုန်းပြု၍ မမှန်ကန်သော နည်းများဖြင့် စည်းရုံးကြခြင်းဟူသော အချက်များကို တွေ့ရှိပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား ... ဘုရားတပည့်တော် လျှောက်ထားတင်ပြခဲ့တဲ့ ရဟန်းတုပုံ ဂုဏ်းဖေယာင်များသည် အရေအတွက် အားဖြင့် အလွန်နည်းပါးပါသေးသည် ဘုရား။ ဒါပေမဲ့ နေရာဒေသတိုင်း မှာကို အဲသလို ပုဂ္ဂိုလ်မျိုးတွေ ရောက်၍နေ ရှိနေတတ်ပါသည်ဘုရား။ ဟောဒီနေ ပြောနေတတ်ပါသည်ဘုရား။ ... ဒုတိယတဲ့ စာမျက်နှာ ၂၇၃ ... "အလဇ္ဇီ တယောက်သည် အလဇ္ဇီ ရာပေါင်းများစွာကို ဖြစ်စေနိုင်၏" ဟု ဆိုပါသည်။ ဒါကြောင့် တပည့်တော် လျှောက်ထားခဲ့တဲ့ အတုအယောင်တွေဟာ တစတစ အပေါင်းအသင်း များလာပြီးသော့ ကြီးထွားလာအောင် ရှိပါသည်ဘုရား။

လောကအသုံးစကားနှင့် လျှောက်ထားရမည်ဆိုလျှင် "ငါးခုံးမတကောင်ကြောင့် တလှေလုံးပုပ်" ဆိုထားတဲ့သို့ ဒီလို ရဟန်းယောင် နည်းနည်းပါးပါး စစ်မှန်တဲ့ ရဟန်းသံဃာတော် အားလုံးအပေါ် ... အမြင်မှားတွေ ဖြစ်လာနိုင်ပါသည်ဘုရား။ ဂုဏ်သိက္ခာ ညှိုးနွမ်းသိမ်ငယ်လာမယ် ဖြစ်ပါသည် ဘုရား။ ယခု တပည့်တော်တို့ဟာ ဒီအရာကို ကုသနိုင်ဖို့ အချိန်ရပါသေးသည် ဘုရား။

... ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဒီလို ရဟန်းတု ရဟန်း ယောင်တွေကြောင့် သာသနာတော်မှာ အညစ်အကြေး ဖြစ်ရတာ ဟာခု ကြွရောက်တော်မူလာကြတဲ့ ဆရာတော် သံဃာတော်တို့ ... စိတ် မချမ်းမသာ

ဖြစ်ကြမှာပါပဲ ဘုရား။ ဘယ်လိုလုပ်ကိုင်ရမယ်ဆိုတာကို တွေးတော ကြံဆပြီးတော့လဲ နေကြမှာပါပဲဘုရား။ လုပ်ဖို့ကောင်းတဲ့ အချက်ကိုလည်း တွေးတော ကြံဆနေကြမှာပါပဲလို့ ဘုရားတပည့်တော် ယုံကြည်ပါသည် ဘုရား။

ဘုရားတပည့်တော်တို့လို သီဟိုဠ် ယိုးဒယား စသည့် အခြား ထေရဝါဒ ဗုဒ္ဓဘာသာ နိုင်ငံတွေမှာ သူ့ဘိုရဲ့ နိုင်ငံရဲ့ နိုင်ငံနဲ့ လိုက်လျောညီထွေဖြစ်သည့် သာသနာဝင် မှတ်တမ်းမျိုးတွေကို ကိုင်ဆောင်ကြရသည် ဆိုတာကို ဘုရား တပည့်တော်တို့မှာ လေ့လာရတဲ့ စာအုပ်စာတမ်းတွေမှာ တွေ့ရှိရပါသည် ဘုရား။

ဒါ့ကြောင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ကိစ္စကို ဆောင်ရွက်ရန် အစည်းအဝေး ကြွရောက်တော်မူလာကြသည့် ဆရာတော် သံဃာတော်များက သာသနာထဲမှာရှိတဲ့ အုတ်ကြားမျက်ပေါက် အတု အယောင်တွေကို ရှင်းလင်းသုတ်သင်ပြစ်ဖို့ ဆုံးဖြတ်ကြပါသည်၊ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားတပည့်တော် တင်ပြ လျှောက်ထားတဲ့ ဤ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းကို ကိုင်ဆောင်ထားခြင်းအားဖြင့် သံဃာတော်များတွင် အကျိုးတရားများကို ရရှိနိုင်ကြောင်း ယုံကြည်ပါသည်ဘုရား။ အကျိုးတရား တွေကတော့–

(က) သိက္ခာမတင် သိမ်မဝင်ပဲ သာသနာတော်တွင်းသို့ ဝင်ရောက်လာသူတို့၏ အန္တရာယ်မှ ကာကွယ်နိုင်ခြင်း

(ခ) သိက္ခာတင် သိမ်ဝင်လာသည့် ရဟန်းတော်သည် ရဟန်းတော်များသည်လည်း သာသနာတော်တွင်းသို့ ရောက်လာပြီးသော အခါ ဝိနည်း ဓမ္မကံနှင့် ဆန့်ကျင်သည့် အပြုအမူများကို မပြုလုပ်မိအောင် ထိမ်းချုပ် ဟန့်တားနိုင်ခြင်း

(ဂ) ဆရာ နှင့် တပည့် သီတင်းသုံးဖော် အချင်းချင်း ဖြစ်စေ၊ ဆရာ နှင့် ဒကာ ဖြစ်စေ၊ စိတ်ချယုံကြည်စွာ ပေါင်းသင်း ဆက်ဆံနိုင်ခြင်း

(ဃ) သာသနာရေးဆိုင်ရာ သံဃာ့ကံဆောင်ခြင်း၊ ဤလို အစည်း အဝေးမျိုးအတွက် သံဃာ့သမ္မုတိ ကိစ္စများ ဆောင်ရွက်ရာတွင် အထောက်အကူ များစွာဖြစ်နိုင်ခြင်း စသည်တို့ ဖြစ်ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားတပည့်တော်တို့ ဝိနယပိဋကမဟာဝဂ္ဂ ပါဠိတော်မှာ 'တာဒေဝဆာယာမေတဗ္ဗာ' စသည်ဖြင့် ဟောတော်မူခဲ့သည့်အတိုင်း ဘုရားရှင် ပညတ်တော်မူသော ရဟန်းရက်ချုပ် ရှိတာကို တပည့်တော်တို့အားလုံး သိရှိပြီး ဖြစ်ပါသည်ဘုရား၊ ဒီရက်ချုပ်ဟာ ဘုရားတပည့်တော်တို့ သံဃာတော်အတွင်းမှာတော့ လုံလောက်ပါသည်ဘုရား၊ ဒါပေမယ့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားဖို့ဟာ သံဃာတော်ချည်းနဲ့ပဲ ဆောင်ရွက်လို့ မဖြစ်နိုင်ပါဘုရား၊ သာသနာ့နုဂ္ဂဟ ဒါယကာ ဒါယိကာမများနဲ့ ပူးပေါင်းဆောင်ရွက်မှ အောင်မြင်နိုင်မှာ ဖြစ်ပါသည်ဘုရား၊ ဒီအခါမှာ ရဟန်းရက်ချုပ်ဟာ တပည့်တော်တို့ သံဃာတော်ဘက်မှ လုံလောက်သော်လည်း ဒါယကာ ဒါယိကာမများဘက်မှ ပြည့်စုံမှ ပြည့်စုံပါမည်ဘုရား၊ သာသနာတော်ကို ထောက်ပံ့ လှူဒါန်းနေကြတဲ့ ဒါယကာ ဒါယိကာမများရဲ့ စိတ်ထဲမှာ သံသယကင်းစေပြီး သံဃာစစ် သံဃာမှန်ကို ကိုးကွယ် ဆည်းကပ်နိုင်အောင် ဆောင်ရွက်ပေးဖို့ လိုတာကို တွေ့ရပါသည်ဘုရား၊ ဒါ့ကြောင့် ဒီရဟန်းရက်ချုပ်ကို အခြေခံမူတည်ပြီးတော့ ပြည့်စုံလုံလောက်သော သာသနာဝင် မှတ်တမ်းမျိုးကို ပြုစုထားရှိသင့်သည်ဟု ယုံကြည်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ သံဃာ့ဝန်ဆောင် ဆရာတော်များသည် သာသနာဝင်မှတ်တမ်း စီစဉ်ရေး အဖွဲ့ငယ်တခုကို ဖွဲ့စည်း၍ သာသနာဝင်မှတ်တမ်းကို ရေးဆွဲပြီးလျှင် ၂-ကြိမ် တိုင်တိုင် သံဃာတော်များ ရှေ့မှောက်သို့ ချပြ၍ အကြံဉာဏ်များကို ရယူပြီးတဲ့နောက် ဤ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းကို ရေးသားပြုစုပြီး တင်ပြရခြင်း ဖြစ်ပါသည်ဘုရား၊ သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း စာအုပ်ငယ်ကို ဆရာတော် သံဃာတော် အရှင်မြတ်တို့အား ဆက်ကပ်ထားပြီး ဖြစ်ပါ၍ ဖတ်ကြားခြင်း မပြုတော့ပဲ သာသနာဝင် မှတ်တမ်း၌ ပါဝင်သော အချက်အလက်များကို အကျဉ်းချုံး၍ ဘုရားတပည့်တော် သျှောက်ထားပါမည်ဘုရား၊ ဤ သာသနာဝင်မှတ်တမ်း တွင် ရှင်သာမဏေနှင့် ရဟန်းတော်ကို တဆက်တည်း ရေးသွင်းမှတ်သားနိုင်ရန် ပူးတွဲထားရှိပါသည်ဘုရား၊ ဘွဲ့တော်၊ ဥပဇ္ဈာယ်ဆရာ၊ ကျောင်းတိုက်၊ မယ်တော်၊ ခမည်းတော်တို့၏ အမည်၊ နေရပ် နှင့် အလုပ်အကိုင်၊ ရှင် ဒါယကာ ဒါယိကာမ၊ ရဟန်း ဒါယကာ ဒါယိကာမ တို့၏ အမည် နေရပ် နှင့် အလုပ်အကိုင်များ ဖော်ပြရန် စီစဉ်ထားပါသည်ဘုရား၊ မယ်တော် ခမည်းတော်တို့၏ အမျိုးသားမှတ်ပုံတင် နံပါတ်ကို ထည့်သွင်းစေရခြင်းမှာ

နိုင်ငံခြားသားနှင့် တိုင်းရင်းသားကို ကွဲပြားခြားနားစွာ သိနိုင်ရန် ဖြစ်ပါသည် ဘုရား၊ ဓာတ်ပုံနှင့် အင်္ဂါရပ်များ ထည့်သွင်းထားရခြင်းမှာ အလွယ်တကူ အတုအပ မပြုလုပ်နိုင်ရန် ဖြစ်ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ လူဝင်မှုကြီးကြပ်ရေး နှင့် ပြည်သူ့အင်အားဦးစီးဌာနမှ မြို့နယ်ဦးစီးမှူး ထည့်သွင်းထားရခြင်းမှာ မိမိတို့ သက်ဆိုင်ရာမြို့နယ်မှသာ ကိစ္စပြီးပြတ်နိုင်ပါ၍ ပြည်နယ်၊ တိုင်း မြို့များသို့ သွားရသည့်ဒုက္ခမှ ကင်းဝေးနိုင်ရန်အတွက် ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန၏ လက်အောက်ခံ ဌာနများ အဖွဲ့တူဖြစ်သည့် လူဝင်မှုကြီးကြပ် ရေးနှင့် ပြည်သူ့အင်အား ဦးစီးဌာန မြို့နယ် ဦးစီးမှူးများ ထည့်သွင်း၍ တာဝန်ပေးရခြင်း ဖြစ်ပါသည်ဘုရား၊ ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ယခု ဘုရားတပည့်တော်များ တင်သွင်းသွားသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် 'သံဃာတော်များ၏ သာသနာဝင်' မှတ်တမ်းသည် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် များစွာ အထောက် အပံ့ ဖြစ်မည့်အပြင် သံဃာစစ် သံဃာမှန်များ များပြားထွန်းကားလာမည်ဟု ယုံကြည်သည့်အတိုင်း ဒီသာသနာဝင် မှတ်တမ်းကို အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော အရှင်မြတ်များ၏ ကောင်းသည်ထက် ကောင်းအောင် ဝိုင်းဝန်းပြုစု အကြံဉာဏ်များ ပေးတော်မူကြ၍ ဤသံဃာ့ အစည်းအဝေးကြီးမှ တညီတညွတ်တည်း အတည်ပြု ပြဋ္ဌာန်းပေးပါရန် ဘုရား တပည့်တော် ရိုသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည်ဘုရား၊ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

---

## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း) ကို ဂိုဏ်းအလိုက် ပြည်နယ် တိုင်းအလိုက် ထောက်ခံ ဆွေးနွေးခြင်း

၎င်းနောက် အခမ်းအနားမှူး ဆရာတော်က အစီအစဉ်အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များက ထောက်ခံဆွေးနွေးရန် ဖြစ်ပါ တယ်ဘုရား။ တပါးလျှင် ၁၀-မိနစ်ထက်မများ အချိန်ကို သတ်မှတ်ထားပါ တယ်ဘုရား၊ အချိန်ကိုလေးစားသောအားဖြင့် 'တိတိကျကျ လိုက်နာကြရန်



ဂဏဝိမုတ်ကူးတို့ဂိုဏ်းမှ ဆရာတော် ဦးဝီရိယ ဆွေးနွေးလျှောက်ထားစဥ်

မေတ္တာရပ်ခံ လျှောက်ထားပါတယ်ဘုရား၊ ယခုအစီအစဉ်တွင် ဖော်ပြသည့်အတိုင်း ဂဏဝိမုတ် ကူးတို့ဂိုဏ်းမှ ကိုယ်စားလှယ် စတင်ဆွေးနွေးဖို့ ကြွရောက်ပါရန် ပင့်လျှောက်ပါတယ်ဘုရားဟု ပင့်ခေါ်တော်မူရာ—

ဦးဝိရိယ ( ဂဏဝိမုတ် ကူးတို့ဂိုဏ်း )က အောက်ဖော်ပြပါအတိုင်း ဆွေးနွေးခဲ့လေသည်။

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသည့် သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်သူမြတ်တို့ဘုရား။ ဂဏဝိမုတ် ကူးတို့ဂိုဏ်း၏ ကိုယ်စား တပည့်တော် ဝိရိယက ရိုသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည် ဘုရား။

လူ နတ် ဗြဟ္မာ သတ္တဝါတို့၏ ပူဇော်အထူးကို ခံတော်မူထိုက်သော သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာ ဘုရားသခင်သည် ချမ်းသာစစ် ချမ်းသာမှန်ကို ရရှိစေနိုင်သည့် နည်းကောင်းလမ်းမှန် မြတ်သော သဒ္ဓမ္မသုံးဖြာ သာသနာတော် သုံးရပ်ကို ဟောကြားထုတ်ဖော် တည်ထောင်တော်မူခဲ့ပါသည်၊ ဗုဒ္ဓရှင်တော်ဘုရားသည် သဒ္ဓမ္မသုံးဖြာ သာသနာတော် သုံးရပ်ကို ဟောကြားထုတ်ဖော် တည်ထောင်တော်မူရာမှာ လွယ်လွယ်နှင့်တည်ထောင်နိုင်ခဲ့သည်မဟုတ်ပါ။ လေးသင်္ချေနှင့် ကမ္ဘာတသိန်း ကာလပတ်လုံး ပါရမီများကို ဖြည့်ဆည်းပူးတော် မူပြီးမှသာ ဟောကြားထုတ်ဖော် တည်ထောင်တော် မူခဲ့သည့် သာသနာတော်သုံးရပ် သန့်ရှင်း တည်တံ့ ပြန့်ပွားနေသမျှ ကာလပတ်လုံး သတ္တဝါ ဝေနေယျတို့အတွက် ချမ်းသာစစ် ချမ်းသာမှန်ကို ရရှိစေနိုင်သည့် နည်းကောင်း လမ်းမှန်များ တည်ရှိနေမည်သာ ဖြစ်ပါသည်။ ဗုဒ္ဓရှင်တော်ဘုရားသည် ယင်း သာသနာတော် သုံးရပ်ကို သန့်ရှင်း တည်တံ့ ပြန့်ပွားစေရန် ထိန်းသိမ်း စောင့်ရှောက်မှု တာဝန်ကို ထမ်းဆောင်တော်မူကြရန် အလို့ငှာ တပည့်သား သံဃာတော်များအား ဝိနည်း စည်းမျဉ်း ဥပဒေပေါင်း များစွာကို ပညတ်တော်မူ၍ တာဝန်ပေး အပ်နှင်းတော် မူခဲ့ပါသည်။ ယင်းသို့ ဗုဒ္ဓရှင်တော်ဘုရား တာဝန် ပေးအပ်နိုင်တော်မူခဲ့သည့် အတိုင်း သံဃာ့အဖွဲ့ဝင် ဆရာတော်များအား သံဃာ့စည်းမျဉ်း ဥပဒေဟု ဆိုအပ်သော ဝိနည်းတရားတော်ကို လိုက်နာ ကျင့်သုံးခြင်း၊ မြတ်စွာဘုရား ပေးအပ်သည့် ဂန္ထဓုရ ဝိပဿနာဓုရ တာဝန်နှစ်ပါးကို ထမ်းဆောင်ခြင်းအားဖြင့် ချီးမြှင့်ထောက်ပံ့၍ ထိမ်းသိမ်း စောင့်ရှောက်ကြသလို လူ ဒါယကာ ဒါယိကာမများကလည်း မြတ်စွာဘုရား ခွင့်ပြုတော် မူခဲ့သည့်အတိုင်း သံဃာတော်များအား ပစ္စည်းလေးပါးဖြင့် ချီးမြှင့်ထောက်ပံ့၍ ထိမ်းသိမ်း စောင့်ရှောက်ခဲ့ကြပါသည်။

ဤသို့ သာသနာတော် သုံးရပ်ကို ထိမ်းသိမ်း စောင့်ရှောက် ခဲ့ကြရာတွင် အထက် ဖော်ပြပါ နည်းတို့ဖြင့်သာ ဆောင်ရွက်ခဲ့ကြသည် မဟုတ်ပါ၊ သုဘဒ် ရဟန်းကြီး ပြောကြားချက်ကို သံဝေဂယူပြီး အရှင်မဟာကဿပ ထေရ်မြတ် ကြီးသည်—

"ဟန္ဒ မယံ အာဝုသော ဓမ္မဉ္စ ဝိနယဉ္စ သင်္ဂါယာမ ပုရေ အဓမ္မောဒိပ္ပတိ ဓမ္မော ပဋိဗာဟိယျတိ၊ ပုရေ အဝိနယော ဒိပ္ပတိဝိနယော ပဋိဗာဟိယျတိ၊ ပုရေအဓမ္မဝါဒိနော ဗလဝန္တော ဟောန္တိ၊ ဓမ္မဝါဒိနော ဒုဗ္ဗလာ ဟောန္တိ၊ ပုရေအဝိနယဝါဒိနော ဗလဝန္တော ဟောန္တိ၊ ဝိနယဝါဒိနော ဒုဗ္ဗလာ ဟောန္တိ[၁]။

ငါ့ရှင်တို့ မတရား အဓမ္မဝါဒ မထွန်းပမီ၊ တရားဓမ္မဘာဖြင့် ပိတ်ပင်ခြင်း မခံရမီ၊ မဟုတ်မမှန်သော ဝိနည်း စည်းကမ်း မထွန်းပမီ၊ ဟုတ်မှန်သော ဝိနည်း တရား ပိတ်ပင်ခြင်း မခံရမီ၊ အဓမ္မဝါဒီပုဂ္ဂိုလ်များ အင်အားမကောင်းမီ၊ ဓမ္မဝါဒီ ပုဂ္ဂိုလ်များ အင်အား မနည်းမီ၊ ဝိနည်း လေးစား မလိုက်နာသူများ အင်အား မကောင်းမီ၊ ဝိနည်း လေးစားလိုက်နာသူများ အင်အား မနည်းမီ၊ ဓမ္မဝိနယကို ယခု ငါတို့ သင်္ဂါယနာ တင်ကြကုန်စို့"ဟု ပဌမ သံဂါယနာတင်ရန် နှိုးဆော် မိန့်မြွက်၍ သာသနာတော်နှင့် ဆန့်ကျင်သည့် ကျင့်ကြံပြုလုပ်မှု၊ ပြောဆို ဟောပြောမှု စသော အန္တရာယ်များ ပေါ်ပေါက်စ ပြုလာသောအခါ သာသနာ့ ဘေးရန် အန္တရာယ်များကို တားဆီးပိတ်ပင်၍ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ပြုလုပ် ဆောင်ရွက်ခဲ့ကြပါသည်။

မျက်မှောက်ခေတ် သာသနာတော် အခြေအနေကို ကြည့်ရှု သုံးသပ်မည် ဆိုပါလျှင် သာသနာတော်ကြီး ဂုဏ်သိက္ခာ နိမ့်ကျ ညှိုးနွမ်း ဆုတ်ယုတ်သွား စေရန်လည်းကောင်း သာသနာတော်ကြီး ပျက်စီး ကွယ်ပျောက် သွားစေရန် လည်းကောင်း ကျင့်ကြံ လုပ်ဆောင်နေကြသူ ပြောဆို ဟောပြော နေကြသူ ရေးသားထုတ်ဝေနေကြသူ ရှင်လူအချို့ ပေါ်ပေါက်စ ပြုနေသည်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြားသိ ဖတ်ရှုနေကြရပါသည်။ ယင်းသို့ သာသနာတော် သုံးရပ်ကို ဆုတ်ယုတ်ပျက်ပြားစေမည့် သာသနပစ္စတ္ထိက သာသနာ့ရန်သူ သာသနာ့အန္တရာယ်များ ပေါ်ပေါက်စ ပြုလာသည်ကို မတားဆီးမပိတ်ပင်ပဲ လျစ်လျူရှုနေပါလျှင် တစတစကြီးထွား၍ တိမ်းပါးပျက်စီးသွားမည်မှာ မလွဲ ဧကန် အမှန်ဖြစ်ပါသည်။ ဤသို့ ပေါ်ပေါက်စပြုလာသည့် သာသနာ့အန္တရာယ် များကို ကာကွယ်တားမြစ်၍ သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွား

၁။ ဝိ၊ ၄။ ၄၇၁

အောင်၊ အကောင်းဆုံး ဆောင်ရွက်ရန်မှာလည်း ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း မှီတင်း သီတင်းသုံးလျက် ရှိကြသော ဂိုဏ်း အသီးသီးရှိ ဆရာတော် သံဃာတော်များ အားလုံး ညီညွတ်စွာ ဖွဲ့စည်း တည် ထောင်ထားသည့် သံဃာ့အဖွဲ့အစည်း ရှိမှသာ ထိထိရောက်ရောက် ဆောင်ရွက် နိုင်မည် ဖြစ်ပါသည်။

ထို သံဃာ့ အစည်းအဝေးကြီးကို ကျစ်လစ် သေချာစွာ ဖွဲ့စည်းနိုင်ရန် အလို့ငှာ အဖက်ဖက်ပြည့်စုံသော သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းတရပ်ကို လိုအပ်လျက် ရှိပါသည်၊ ထိုလိုအပ်ချက်ကို ဖြည့်ဆည်းရန် အတွက် ဤ ပြည် ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို အဘည်ပြု ပြဋ္ဌာန်းရန် တပည့်တော်များ၏ ဂုဏ်ဘိမုတ်ကူးတို့ ဂိုဏ်း ဝင် သံဃာတော်များ အနေဖြင့် ချွင်းချက်မရှိ ထောက်ခံ ဆန္ဒပြုပါကြောင်း ဂိုဏ်းဝင်သံဃာတော်များ ကိုယ်စား တပည့်တော် ဝိရိယက ရိုသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ စေတုဘူမိက မဟာသတိပဋ္ဌာန် ငှက်တွင်းဂိုဏ်း ကိုယ်စားလှယ် ဆရာတော် ထောက်ခံ ဆွေး နွေးရန် ကြွတော်မူပါဘုရားဟု ဖင့်လျှောက်ရာ ဦးဉာဏဝံသက အောက်ပါ အတိုင်း ထောက်ခံ ဆွေးနွေးခဲ့လေသည်။

ဘုရားတပည့်တော် လျှောက်ထားပါမည် ဘုရား၊ အဘိဓဇမဟာရဋ္ဌဂုရု၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီးများ၊ တိပိဋကဓရ ဆရာတော်ကြီးများနှင့် တကွ ပြည်နယ် တိုင်း အသီးသီးတို့မှ ကြွရောက်တော်မူကြကုန်သော သံဃာ့ ဝန်ဆောင် ဆရာတော်များနှင့် သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များ ဖြစ် တော်မူကြသော သံဃာ့တော် အရှင်မြတ်တို့ဘုရား၊ ယခုလို စုံစုံလင်လင်နှင့် သာသနာရေး ဆွေးနွေးခွင့် ရတဲ့ အချိန်သည် မင်္ဂလာရှိတဲ့ အချိန်လို့ ဘုရား တပည့်တော် အထူးပင် ဝမ်းမြောက်မိပါတယ် သံဃာ့တော် အရှင်မြတ်တို့ ဘုရား၊ ယခုလို သံဃာတော် အရှင်မြတ်တို့နဲ့တကွ ဝမ်းပန်းတသာ ဆုံဆည်း ရတဲ့ မင်္ဂလာရှိသော အချိန်မှာ ဘုရားတပည့်တော်တို့ရဲ့ မြတ်ဘုရား ထားတော် မူခဲ့သော သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ပါရာဇိကကဏ် ပါဠိတော်လာ အရှင်သာရိပုတ္တရာက မြတ်စွာဘုရားအား လျှောက်ထားသဖြင့် မြတ်စွာဘုရားကိုယ်တော်မြတ် ဖြေကြားချက်ကို ဘုရားတပည့်တော် အနည်းငယ် ဘင်ပြ ဆွေးနွေးလိုပါသည် ဘုရား။

အို ချစ်သား သာရိပုတ္တရာ— ဝိပဿီ၊ သိခီ၊ ဝေဿဘူ ဤ သုံးဆူသော ဘုရားရှင်တို့၏ သာသနာတော်သည် တပည့်သာဝကတို့အား တရား အကျယ်

မဟောသဖြင့် လည်းကောင်း ဟောသော သုတ်များသည် အနည်းငယ်မျှ ဖြစ်သောကြောင့် လည်းကောင်း သိက္ခာပုဒ် စည်းမျဉ်းများလည်း မရှိသောကြောင့် လည်းကောင်း ပါတိမောက်ကိုလည်း မပြသောကြောင့်လည်းကောင်း သာသနာတော် အရှည်မခန့် မတည်တံ့ပဲ ပျက်ကွယ်ခဲ့ရလေသည်၊ ဘုရားရှင်၏ ဩဝါဒခံယူကာ အတုလိုက်၍ ကျင့်ကြံကြကုန်သော မြတ်စွာဘုရား၏ တပည့်သား သာဝကတို့သည်လည်း ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် လေလာချိန်မှာ ပျဉ်ချပ်ပေါ်တွင် ကြိုးမသီပဲ တင်ထားသော ပန်းများကဲ့သို့ တရားတော်များကို ဖရိုဖရဲ ပြိုကွဲစေကြခြင်း ပျောက်ဖျက်၍ ပျောက်ကွယ်ကြခြင်းတို့ကြောင့် ထိုဝိပဿီ၊ သိခီ၊ ဝေဿဘူ သုံးဆူသော ဘုရားရှင်တို့၏ သာသနာတော်သည် အရှည်မခန့် မတည်တံ့ပဲ ပျက်ကွယ်ခဲ့ရလေသည်”

အို ချစ်သား သာရိပုတ္တရာ— ကကုသန်၊ ကောဏာဂုံ၊ ကဿပ ဤ သုံးဆူသော ဘုရားရှင်တို့၏ သာသနာတော်သည် ဘုရားတပည့်သား သာဝကတို့အား တရားအကျယ် ဟောသောကြောင့် လည်းကောင်း ဟောသော သုတ်များသည် များပြားသောကြောင့် လည်းကောင်း သိက္ခာပုဒ် စည်းမျဉ်းများလည်း ပညတ်ထားသောကြောင့် လည်းကောင်း ပါတိမောက်ကိုလည်း ပြသောကြောင့် လည်းကောင်း အရှည်ခန့်၍ တည်တံ့ တည်ရှိခဲ့ကြလေသတည်း။

ဘုရားရှင်၏ ဩဝါဒခံယူကာ အတုလိုက်၍ ကျင့်ကြကုန်သော ဗုဒ္ဓ၏ တပည့်သား သာဝကတို့သည် ဘုရားရှင် ပရိနိဗ္ဗာန် ပြုပြီးနောက် လေတိုက်သော်လည်း ပျဉ်ချပ်ပေါ်တွင် ကြိုးသီထားသော ပန်းများကဲ့သို့ တရားတော် ဝိနည်း စည်းကမ်းချက်များကို ဖရိုဖရဲ မပြိုကွဲစေပဲ ထိမ်းသိမ်းကြခြင်းကြောင့် အရှည်ခံ၍ ကြာမြင့်စွာ တည်တံ့ခဲ့လေသည် ဟု မိန့်တော်မူလေသည်။

မြတ်စွာဘုရားမိန့်ကြားပြီးသည့်နောက် ရှင်သာရိပုတ္တရာသည် လက်ကန်တော့ ထိုး၍ ရှိသေလေးမြတ်စွာ ဘုရားရှင်အား ရှိခိုးလျက် တေဿ ဘဂဝါတကာလော၊ ဘုန်းတော်ကြီးတော်မူသော အို အရှင်မြတ်ဘုရား စည်းကမ်းကောင်းများ ချမှတ်ရှိန် တန်ပါပြီဘုရား။ တေဿ သုဂတကာလော၊ လာခြင်း ကောင်းတော်မူသော အို အရှင်မြတ်ဘုရား သာသနာစည်ပြော စည်းကမ်းကောင်းများ ချမှတ်ချိန် တန်ပါပြီ ဘုရား။ “ယံဘဂဝါ သာဝကာနံ သိက္ခာပဒံ ပညာပေယျ ဥဒ္ဒိသေယျ ပါတိမောက္ခံ”၊ ဘုန်းတော်ကြီးတော်မူသော အရှင်မြတ်ဘုရား သည်အကျင့်ကြောင့် သိက္ခာပုဒ်ပညတ်၍ ပါတိမောက်ကို ပြရာ၏ “ယဒိဒံ ဗြဟ္မစရိယံ အဒ္ဓနိယံ အဿစိရဋ္ဌိတိ” ထိုအကြောင်းဖြင့် သာသနာတော်ကြီးသည် အရှည်ခံ၍ ကြာမြင့်စွာ တည်တံ့မည် ဖြစ်ပါသည် ဘုရား။

ဤမျှဖြင့် ဘုရားရှင်နဲ့ သာရိပုတ္တရာတို့ သာသနာစည်းရေး မြွက်တွေး မေးဖြေချက် ပြီးဆုံးလေပြီ။ သာသနာစည်းရေးနဲ့ ပတ်သက်၍ ဤ မြတ်စွာဘုရား မိန့်ကြားချက်သည် စင်စစ် ငြိမ်သက်၍ မှန်လေသည်။ သို့ဖြစ်စေသောကြောင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရဌာန အသီးသီး နှင့် ပြည်ထဲရေး သာသနာရေး ဝန်ကြီးဌာန တာဝန်ရှိ ပုဂ္ဂိုလ်များက စေတနာ သန့်သန့်ဖြင့် အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ နှင့် တိပိဋကဓရ ဆရာတော်ကြီးများ၊ သံဃာ့ဝန်ဆောင် ဆရာတော်များထံ ချဉ်းကပ်ပြီး သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီး ဖြစ်မြောက်ရေးအတွက် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း လိုအပ်ပါကြောင်း လျှောက်ထားကြသဖြင့် ဆရာတော်ကြီးများပါ ဗုဒ္ဓသာသနာတော်ကြီး၏အညစ်အကြေး အန္တရာယ်ဟူသမျှတို့ကို ကာကွယ်ရန် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို အကြိမ်ကြိမ် ဆွေးနွေးတိုင်ပင်ရေးဆွဲပြီး ချီးမြှင့်ကြသည့်အတွက် ထူးကဲလှစွာသော မိုးတိမ်တိုက် တိမ်လွှာကြားမှ ဖောက်ခွဲ၍ စန္ဒာလဝန်းကြီး ပေါ်ထွက်လာသလို ပြည်သူ လူထု မြော်လင့်တောင့်တနေတဲ့ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဤ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ပေါ်ပေါက်လာခြင်းက အလွန်ပင် သင့်မြတ် လျော်ကန်လှသည်လို့ တပည့်တော် ယူဆမိပါတယ် သံဃာတော် အရှင်မြတ်တို့ဘုရား။

သံဃာတော် အရှင်မြတ်တို့ဘုရား။ တပည့်တော် ဆွေးနွေးတင်ပြသွားတဲ့ ထို ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်း စာမျက်နှာ ၉၊ အခန်း (၁) စာပိုဒ်များ အချို့ကို ဖတ်ပြပါရစေဘုရား။

အပိုဒ် (၁) ဤ စည်းမျဉ်းကို "ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အဖွဲ့အစည်း အခြေခံ စည်းမျဉ်း" ဟု ခေါ်တွင်စေရမည်။

အပိုဒ် (၂) ဤစည်းမျဉ်းတွင် ပါဝင်သော အောက်ပါ ဝေါဟာရများသည် ဖော်ပြပါအတိုင်း အဓိပ္ပာယ် သက်ရောက်စေရမည်—

အပိုဒ် (၂) (က) "သာသနာ" ဆိုသည်မှာ ဗုဒ္ဓသာသနာတော်၏ အဆုံးအမ တော်ကို ဆိုသည်။ (ခ) "သံဃာ" ဆိုသည်မှာ ဥပသမ္ပဒ ဉတ္တိစတုတ္ထကမ္မဝါစာဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိသော အယူသီလ တူမျှသော သံဃာအပေါင်းကို ဆိုသည်။ (ဂ) "သံဃာ့အဖွဲ့အစည်း" ဆိုသည်မှာ

အခြေခံ စည်းမျဉ်းနှင့် အညီ ဖွဲ့စည်းသော သံဃာ့ အဖွဲ့အစည်းကို ဆိုသည်။
(ဿ) "ဂိုဏ်း" ဆိုသည်မှာ ၁၃၄၁ - ခု တပို့တွဲလပြည့်ကျော် (၁) ရက် (၁၉၈၀ - ခုနှစ် ဖေဖော်ဝါရီလ ၁ - ရက်) သောကြာနေ့ကို နောက်ဆုံးထား၍ သာသနာ့ရေး ဦးစီးဌာန၌ စာရင်းဝင်သော နောက်ဆက်တွဲ (က) တွင် ဖော်ပြထားသည့် ဂိုဏ်းသံဃာများကို ဆိုသည်။

နောက်ဆက်တွဲ (က) တွင် ဖော်ပြထားသော ဂိုဏ်းများမှာ—

၁။ သုဓမ္မာဂိုဏ်း
၂။ ရွှေကျင်ဂိုဏ်း
၃။ ဓမ္မာနုဓမ္မမဟာဒွါရနိကာယဂိုဏ်း
၄။ ဓမ္မဝိနယာနုလောမ မူလဒွါရနိကာယဂိုဏ်း
၅။ အနောက်ချောင်းဒွါရဂိုဏ်း
၆။ ဝေဠုဝန်နိကာယဂိုဏ်း
၇။ စတုဘုမ္မိက မဟာသတိပဋ္ဌာန် ငှက်တွင်းဂိုဏ်း
၈။ ဂဏဝိမုတ် ကူးတို့ဂိုဏ်း
၉။ ဓမ္မယုတ္တိနိကာယမဟာရင်ဂိုဏ်း

ဤ (၉) ဂိုဏ်းတို့ ဖြစ်ပါသည်ဘုရား။ တပည့်တော် အမြင်တွင် ကြိုက်နှစ်သက်ဆုံးဖြစ်သော စာသားများကို ထုတ်နုတ် ဖော်ပြပြီးနောက် ဤပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းမှ စကားရပ်များ အားလုံးသည် သာသနာတော် နှစ်ပေါင်း ၅၀၀၀-မက အဓွန့်ရှည်စွာ တည်စေရန် ရန်ကုန်မြို့ စတုဘုမ္မိကမဟာသတိပဋ္ဌာန်ငှက်တွင်းဂိုဏ်း နာယကဆရာတော် ဦးဉာဏဝံသက ငှက်တွင်းဂိုဏ်း သံဃာတော်တို့၏ကိုယ်စား ဘုရားတပည့်တော်က ဆွေးနွေးထောက်ခံပြီး ဝမ်းမြောက်ဝမ်းသာ သာဓု အနုမောဒနာ ပြုကြောင်း လျှောက်ထားပါသည် သံဃာတော် အရှင်မြတ်တို့ဘုရား။

ရင်းနောက် အခမ်းအနားမှူးဆရာတော် က ဆက်လက်၍ ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်း ကိုယ်စားလှယ် ဆရာတော် ထောက်ခံ ဆွေးနွေးရန် ကြွရောက်တော် မူပါဘုရားဟု ပင့်ခေါ်ရာ—

ဦးတိဿ (မဟာရင်ဂိုဏ်း) က အောက်ပါအတိုင်း ထောက်ခံဆွေးနွေးလေသည်။

ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့် ဂိုဏ်းပေါင်းစုံမှ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား—

ဘုရားတပည့်တော်သည် အခြေခံမူများ ဆွေးနွေး ထောက်ခံခြင်း မပြုမီ သုပ္ပဋိပန္နတာဒိဂုဏ်နှင့် ပြည့်စုံတော်မူသော ဆရာတော် သံဃာတော်မြတ် အပေါင်းကို ရိုသေလေးမြတ်စွာ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။ ဘုရားတပည့်တော်သည် မဟာရင်ဂိုဏ်း၊ ရန်ကုန်မြို့၊ ဗဟန်း ကျိုက်သိမ္ဗန်ကျောင်းမှ တိဿ ဖြစ်ပါသည်ဘုရား၊ ဘုရားတပည့်တော်က "ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်း"၏ ကိုယ်စား "ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အဖွဲ့ အစည်း အခြေခံ စည်းမျဉ်း"ကို ထောက်ခံ ဆွေးနွေး သွားမှာ ဖြစ်ပါတယ် ဘုရား။ ဒီလို ထောက်ခံ ဆွေးနွေးရာမှာ စာမျက်နှာ ( ၁၂ ) အခန်း ( ၂ )ကို မူတည်၍ အခြေခံမူများကို အဓိကထားပြီး ထောက်ခံ ဆွေးနွေးသွားမည်ဖြစ်ရာ ၄ - ခန်း ( ၂ ) တွင် အပိုဒ် ( ၃ ) ဤအခြေခံ စည်းမျဉ်းသည် သဗ္ဗညုတ ဘုရားရှင်၏ ဓမ္မဝိနယနှင့် အညီသာလျှင် ဖြစ်စေရမည်ဟု ပြဆိုထားပါသဖြင့် ဓမ္မဝိနယနှင့် ညီညွတ်သော စည်းမျဉ်း ဖြစ်သောကြောင့် ဤ အပိုဒ် ( ၃ ) အခြေခံစည်းမျဉ်းကို ရိုသေစွာ ဆွေးနွေး ထောက်ခံပါသည်ဘုရား။

နောက်ဆက်လက်၍ အပိုဒ် ( ၄ ) နှင့် စပ်လျဉ်း၍ သံဃာ့အဖွဲ့အစည်းတွေ များနေလျှင် စည်းလုံးညီညွတ်မှု အင်အားစု မကောင်းနိုင်ပါဘုရား။ ဂိုဏ်းပေါင်းစုံ ပါဝင်သော သံဃာ့အဖွဲ့အစည်း တခုတည်းရှိမှသာ စည်းလုံးညီညွတ်မှု အင်အားစု အကောင်းဆုံး ဖြစ်နိုင်ပါကြောင်း။ ဤအပိုဒ် ( ၄ ) အခြေခံ စည်းမျဉ်းကိုလည်း ဘုရားတပည့်တော် ဆွေးနွေး ထောက်ခံသွားပါမယ်ဘုရား။

အပိုဒ် ( ၅ ) တွင် ရဟန်းသံဃာတော်များသည် အစည်းမရှိသော ဝါးကဲ့သို့ ဖရိုဖရဲ ပြန့်နေပါက တဘက်ရန်သူများ လွယ်လင့်တကူ ဝင်ရောက် နှောက်ယှက် ဖျက်ဆီးနိုင်ပါသည်။ ယခုမူကား ထေရဝါဒ သံဃာ့ဂိုဏ်း အသီးသီးမှ ရဟန်းသံဃာတော် ဟူသမျှသည် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်းအတွင်း၌ အလိုအလျောက် ပါဝင်ပြီး ဖြစ်သည်ဟု ပြဆိုထားပါသဖြင့် ကြိုးဖြင့် မြဲမြံစွာ ဖွဲ့စည်းထားသော သစ်ဖောင် ဝါးဖေါင်များကဲ့သို့ ပေါင်းစုဖွဲ့စည်းထားသော သံဃာတော် အပေါင်းကို တဘက်ရန်သူများက ဝင်ရောက် နှောက်ယှက် ဖျက်ဆီးရန် မလွယ်ကူပါ၊ ဤသို့သော အကြောင်းကြောင့် ဤအပိုဒ် ( ၅ ) အခြေခံစည်းမျဉ်းကိုလည်း ဘုရားတပည့်တော် ဆွေးနွေးထောက်ခံပါသည်ဘုရား။

အပိုဒ် ( ၆ ) တွင် စုပေါင်း ဆောင်ရွက်ခြင်း၊ စုပေါင်း ဦးဆောင်ခြင်း၊ စုပေါင်းဆုံးဖြတ်ခြင်း၊ အများ၏သဘောထားနှင့် ဆန္ဒကို အနည်းစုက လိုက်နာခြင်း၊ အနည်းစု၏ဆန္ဒကို အများက လေးစားခြင်း၊ အထက် အဖွဲ့အစည်း၏ ဆုံးဖြတ်ချက် နှင့် ညွှန်ကြားချက်တို့ကို အောက်အဖွဲ့အစည်းက လိုက်န

ဆောင်ရွက်ခြင်း၊ အောက်အဖွဲ့အစည်း၏ တင်ပြချက်ကို အထက်အဖွဲ့အစည်းက အလေးဂရုပြု အရေးယူ ဆောင်ရွက်ခြင်းတို့ကို ဓမ္မဝိနယနှင့် အညီ ဆောင်ရွက်ရမည်ဟု ပြဆိုထားသော အချက်အလက်တွေကို ထောက်ရှုသော အားဖြင့် သံဃာတော်များ အချင်းချင်း ငဲ့ညှာမှု ဆန္ဒပြုမှု ကြင်နာမှုရှိပြီး ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ကြီးသည် အဓွန့်ကာလ ကြာမြင့်စွာ တည်ရှိနိုင်မည် ဖြစ်သောကြောင့် ဤအပိုဒ် ( ၆ ) အခြေခံ စည်းမျဉ်းကိုလည်း ဆွေးနွေး ထောက်ခံ သွားပါတယ်။ "အာယသ္မာမိ ဘိက္ခု ဝဒတု သဟဓမ္မေန၊ ဘိက္ခုပိ အာယသ္မန္တံ ဝက္ခန္တိ သဟဓမ္မေန၊ ဧဝံ သံဝဍ္ဎာဟိ တဿ ဘဂဝတော ပရိသာ ယဒိဒံ အညမည ဝစနေန အညမည ဝုဋ္ဌာပနေန" ဟူ၍ ဘုရား ဟောထားပါသည်ဘုရား။

နောက် ဆက်လက်၍ အပိုဒ် ( ၇ )တွင် "ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန၊ သာသနာရေး ဦးစီးဌာနတွင် စာရင်းဝင်ပြီးသော သံဃာ့ဂိုဏ်း အသီးသီး ဆိုသည်မှာ သုဓမ္မာဂိုဏ်း၊ ရွှေကျင်ဂိုဏ်း၊ ဓမ္မာနုဓမ္မမဟာဒွါရနိကာယ ဂိုဏ်း၊ ဓမ္မဝိနယာနုလောမ မူလဒွါရနိကာယဂိုဏ်း၊ အနောက်ချောင်းဒွါရဂိုဏ်း၊ ဝေဠုဝန်နိကာယဂိုဏ်း၊ စတုဘုမ္မိကမဟာသတိပဋ္ဌာန်ငှက်တွင်းဂိုဏ်း၊ ဂဏဝိမုတ် ကူးတို့ဂိုဏ်း၊ ဓမ္မယုတ္တိနိကာယမဟာရင်ဂိုဏ်းများ" ကို ဆိုလိုသည် ဟု ဖော်ပြထားပါသည်ဘုရား။

အပိုဒ် ( ၇ ) သည် လက်ရှိ သံဃာ့ဂိုဏ်းများ၏ ဆက်လက်၍ တည်ရှိခွင့်ကို အသိအမှတ်ပြုထားသဖြင့် ဂိုဏ်းများ၏ အလိုဆန္ဒကို လိုက်လျော ထားသော စည်းမျဉ်းဖြစ်ခြင်းကြောင့် ဤအပိုဒ် ( ၇ ) စည်းမျဉ်းကိုလည်း ထောက်ခံပါတယ် ဘုရား။

နောက် ဆက်လက်၍ အပိုဒ် ( ၈ )တွင် ဂိုဏ်းသစ်များ ခွဲခြား တည်ထောင်ခြင်းကို တားမြစ်ထားပါသည်၊ အကယ်၍ ဂိုဏ်းသစ်များ ခွဲခြား တည်ထောင်မှုကို ခွင့်ပြုထားပါက သံဃာ့ ညီညွတ်ရေးကို ကွဲပြားအောင် လုပ်ပေးသလို ဖြစ်နိုင်ပါသည်ဘုရား။ ယို့ပြင် သက်ဆိုင်ရာ ဆရာတော်ကြီးများ၏ အဆုံးအမကို မခံယူချင် မလိုက်နာချင်တိုင်း ဂိုဏ်းသစ်များ ခွဲခြား တည်ထောင်မှုများ ပြုလုပ်နေကြမည် ဖြစ်ပါသည်ဘုရား။ ထိုသို့ပြုလုပ်နေကြလျှင် ထေရ်စဉ်ဝါဆက် တည်ရှိခဲ့သော အဆုံးအမ ဩဝါဒများ ပျက်ပြားကုန်မည် ဖြစ်ပါသည်ဘုရား။ ထို့ကြောင့် ဂိုဏ်းသစ်များ ခွဲခြားတည်ထောင်မှုကို တားဆီးပိတ်ပင်ခြင်းသည် လွန်စွာသင့်လျော်သောကြောင့် ဤအပိုဒ်( ၈ ) အခြေခံစည်းမျဉ်းကို ဘုရား တပည့်တော် ထောက်ခံပါသည်ဘုရား။

နောက် ဆက်လက်၍ အပိုဒ် ( ၉ )တွင် အပိုဒ် ( ၇ )အရ၊ ဖော်ပြထားသော ဂိုဏ်းများသည် မိမိတို့ သဘောတူရာ ဂိုဏ်းအချင်းချင်း ပူးပေါင်းနိုင်ခွင့် ပြုခြင်းသည် သံဃာညီညွတ်ရေးကို ရရှိအောင် ဆောင်ရွက်ကြဖို့ လမ်းဖွင့်ပေးထားခြင်း ဖြစ်ပါသည်ဘုရား။

အပိုဒ် ( ၁၀ ) တွင် ဂိုဏ်းအသီးသီး၏ အခွင့်အရေးကို ခွင့်ပြုထားခြင်းသည် ရှိပြီးသော ဂိုဏ်းများကို အစဉ်အလာအတိုင်း ဆောင်ရွက် ခွင့်ပြုထားသည့်အတွက် ပကတိ အခြေအနေနှင့် အလွန်ပင် ကိုက်ညီ၍ တပည့်တော်တို့က နှစ်နှစ်ခြိုက်ခြိုက် ထောက်ခံပါသည် ဘုရား။

နောက် ဆက်လက်၍ အပိုဒ် ( ၁၁ ) တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် အတွင်း သီတင်းသုံးနေထိုင်သော သံဃာတော်ဟူသမျှသည် သံဃာ့အဖွဲ့အစည်း၏ ဘောင်အတွင်း စည်းဝိုင်းအတွင်း ဝင်ရှိနေပါမှ သံဃာတော်၏ စည်းလုံး ညီညွတ်မှုအင်အားစု ရှိမည်ဖြစ်သောကြောင့် ဤ အပိုဒ် (၁၁) အခြေခံစည်းမျဉ်း များကိုလည်း ဆွေးနွေး ထောက်ခံ ပါသည်ဘုရား။ အနှစ်သာရအားဖြင့် ရဟန်းတပါး ဂိုဏ်းတခုခု အဖွဲ့အစည်းတခုခုအတွင်းမှာ ပါဝင်နေယင် ယခုလို အစည်းအဝေးတောင် ခေါ်နေစရာ လိုမယ် မထင်ပါဘုရား။ စည်းမျဉ်း စည်းကမ်းတွေနဲ့ တားမြစ်ချက်တွေကို စနစ်တကျ လိုက်နာခြင်း မရှိသည့်အတွက် ယခု တပည့်တော်များ အစည်းအဝေးကြီး လုပ်နေရသည်ဟု ထင်ပါသည်ဘုရား။ စည်းကမ်းတကျ ကြီးကြပ်အုပ်ချုပ်မှုသာ ရှိပါက သိက္ခာမတင် သိမ်မဝင်သည့် ရဟန်းတု ရဟန်းယောင်များလည်း ပပျောက် သွားမည် ဖြစ်ပါသည်ဘုရား။

ဂိုဏ်းတခုခုရဲ့ အဆုံးအမ ရပ်ကွက်/ကျေးရွာအုပ်ကအစ မြို့နယ်၊ ပြည်နယ်/တိုင်း နာယကအဖွဲ့ တခုခုရဲ့ အဆုံးအမအောက်မှာ ရှိမယ်ဆိုရင် သံဃာနဲ့ မလျော်ဘာ လုပ်လို့မရဘူး၊ ဒါတွေ ယခင်ကမရှိခဲ့လို့ ယခုလို ငွေကုန် လူပမ်းခံပြီး အစည်းအဝေးပွဲကြီးတွေ လုပ်နေရတာပေါ့ဘုရား၊ အပိုဒ် ( ၁၁ ) နဲ့ ( ၁၂ ) တို့ရဲ့ ရည်ရွယ်ချက်လဲ အလွန်ကောင်းပါတယ် ဘုရား၊ ဆရာတော်ကြီးများ၏ အဆုံးအမ ကင်းလွတ်ပြီး ဘယ်လိုမှ နေလို့မရတော့ဘူး။ အုတ်အရောရော ကျောက်အရောရော မရှိတော့ဘူး၊ အကပ်အကဲ အထိန်းအကျောင်းရှိလာရင် ပရိယတ္တိ ပဋိပတ္တိ သာသနာတာဝန်ကို မဖြစ်မနေ ထမ်းဆောင်နိုင်ကြမည် ဖြစ်ပါတယ်ဘုရား။

ဒါကြောင့် အခြေခံစည်းမျဉ်းပါ အပိုဒ်များအတိုင်း မဖြစ်မနေ ဆောင်ရွက်ကြဖို့ သေးလေးနက်နက်တိုက်တွန်းယင်း ထောက်ခံပါကြောင်း ဓမ္မယုတ္တိနိကာယ

မဟာရင်ဂိုဏ်း ဘုရားတပည့်တော် တီဿသည် ရှိသေစွာ လျှောက်ထားပါသည် ဘုရား။

နိဂုံးချုပ်သောအနေနဲ့ ဗုဒ္ဓသမ္ဗုဒ္ဓဘုရားရှင်၏ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး အောင်ပါစေသတည်းလို့ ဆုတောင်းပတ္ထနာပြုရင်း နိဂုံးချုပ်လိုက်ရပါတယ်ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ဓမ္မဝိနယာနုလောမ မူလဒ္ဒါရနိကာယ ကိုယ်စားလှယ် ဆရာတော်ဘုရားက ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရားဟု ပင့်ခေါ်ရာ –

ဦးကောဝိဒ ဓမ္မဝိနယာနုလောမ မူလဒ္ဒါရနိကာယဂိုဏ်းက အောက်ပါအတိုင်း ထောက်ခံဆွေးနွေးလေသည်။

သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီး၏ သဘာပတိ ဆရာတော်ဘုရားကြီးနှင့်တကွ မြန်မာနိုင်ငံ တဝန်းလုံး ပြည်နယ်အသီးသီး တိုင်းအသီးသီး ဂိုဏ်းအသီးသီးမှ ကြွရောက်တော်မူလာကြသော သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်သခင်အရှင်သူမြတ်တို့အား ဓမ္မဝိနယာနုလောမ မူလဒ္ဒါရနိကာယ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တပါးဖြစ်သော ဘုရားတပည့်တော် မကွေးတိုင်း ကံမမြို့နယ် ထုံးကြီးတောင်ကျောင်း ကောဝိဒက ရှိသေလေးစားစွာဖြင့် ထောက်ခံဆွေးနွေးပါမည် ဘုရား။

ပြည်ထောင်စုဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းနှင့် ပတ်သက်၍ ဖြစ်ပါသည်ဘုရား။

ဤအခြေခံစည်းမျဉ်းပါ အခန်း (၁) နဲ့ပတ်သက်လို့ တင်ပြဆွေးနွေးပြီး အခြေခံစည်းမျဉ်းကို ထောက်ခံချက်ပေးလိုပါသည် ဘုရား။

ဒီအခန်း (၁) က ဘာလဲဆိုတော့ ဒီအခြေခံစည်းမျဉ်း စာအုပ်အဘွင်းမှာ ပါရှိလာတဲ့ ဝေါဟာရအမည် စကားလုံးတွေကို ကိုယ်လိုချင်ရာဆွဲပြီး အဓိပ္ပာယ် မကောက်နိုင်အောင် မယူနိုင်အောင် လိုအပ်တဲ့အဓိပ္ပာယ်ကို သတ်မှတ်ဖော်ပြခြင်း ဖြစ်ပါတယ်။ ဒါကြောင့် သူ့ခေါင်းစဉ်လေးက အမည်နှင့်အဓိပ္ပာယ် ဖော်ပြချက်ကို ဆိုထားပါတယ် ဘုရား။

အဲဒီလိုဆိုထားပြီးတော့ အောက်အပိုဒ် (၁) က ဤစည်းမျဉ်းကို ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းဟု ခေါ်တွင်စေရမယ်လို့ ဖော်ပြထားပါတယ်။ ဒါက သတ္တိသားငယ်၊ သမီးငယ် မွေးဖွားလာရင် အမည်သညာ ခေါ်စရာနာမကရဏ မင်္ဂလာပြုတာ

လို့ ကမ္ဘာရဲ့ဥပဒေပြု ထုံးတမ်းနဲ့အညီ ယခုအပေါ်ပေါက် မွေးဖွားလိုက်တဲ့ အခြေခံစည်းမျဉ်းရဲ့ အမည်သညာ ခေါ်စရာ နာမကရဏပြုပေးလိုက်ခြင်းပါ ဘုရား။

အပိုဒ် (၂) က ဒီအခြေခံစည်းမျဉ်း စာအုပ်ထဲမှာ ပါဝင်လာတဲ့ ဝေါဟာရတွေရဲ့ သက်ရောက်မယ့်အဓိပ္ပာယ်ကို ဖော်ပြခြင်း ဖြစ်ပါတယ်။ ဘယ်လို သက်ရောက်ရမလဲဆိုတာ ဒီအခြေခံစည်းမျဉ်းစာအုပ်မှာ ဖော်ပြထားခြင်းကို မူတည်ပြီး တပည့်တော် တင်ပြဆွေးနွေး ထောက်ခံချက် ပေးပါမယ်။ အပိုဒ် (၂) က- ပိုဒ်ခွဲ သာသနာဆိုသည်မှာ ဗုဒ္ဓမြတ်စွာဘုရား၏ အဆုံးအမပါပဲ၊ ဒီတော့ တခြားဘာသာရှင်တွေရဲ့ ခေါင်းဆောင်ကြီးတွေရဲ့ အဆုံးအမဟာလည်း သာသနာပါပဲလို့ ဆိုလာရင် ဒီသတ်မှတ်ချက်က ကန့်သတ်လိုက်ခြင်း ဖြစ်ပါတယ်။

အခြား ဘာသာရှင်တွေ ဘာသာ့ခေါင်းဆောင်တွေရဲ့ အဆုံးအမကို သာသနာလို့ ခေါ်ချင်ခေါ် မခေါ်ချင်နေ ဒီအခြေခံစည်းမျဉ်းထဲမှာ ပါလာတဲ့ သာသနာဆိုတဲ့ ဝေါဟာရရဲ့ သက်ရောက်ရမယ့် အဓိပ္ပာယ်ကတော့ ဗုဒ္ဓမြတ်စွာဘုရား၏ အဆုံးအမတော်သာ ဖြစ်ရမယ်။ ဒါကို ဆိုလိုတာလို့ တပည့်တော်တို့ ယူဆပါတယ်ဘုရား။ ဒီသတ်မှတ်ချက်ဟာ ဒီစည်းမျဉ်း ဥပဒေမှာ တကယ်လိုအပ်ပါတယ်။ အမှန် လိုအပ်ပါတယ်။ ဒီလို သတ်မှတ်ချက်သာ မပါလာရင် ဒီအခြေခံ စည်းမျဉ်းဟာ လိုရာ အဓိပ္ပာယ် ဆွဲထုတ်ပြီး ရှုပ်သွားနိုင်ပါတယ်။ ဒါ့ကြောင့် ဒီအခြေခံစည်းမျဉ်း အခန်း (၁) အပိုဒ် (၂) အပိုဒ်ငယ် (က) ဟာ အရေးကြီး လိုအပ်ကြောင်း တင်ပြဆွေးနွေး ထောက်ခံရခြင်း ဖြစ်ပါတယ် ဘုရား။

နောက် အပိုဒ်ငယ်တွေကို ဘုရားတပည့်တော် အကျဉ်းချုံးပြီး တင်ပြ ဆွေးနွေး ထောက်ခံသွားပါမယ်။ အပိုဒ် (ခ) သံဃာဆိုသည်မှာ ဥပသမ္ပဒ ဉတ္တိစတုတ္ထကမ္မဝါစာဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိ၍ အယူသီလ တူမျှသော ရဟန်းအပေါင်းကို ဆိုသည်။ သံဃာရဲ့ မူလအနက်က အပေါင်း ဖြစ်ပါတယ်။ ဘာအပေါင်းလဲဆိုရင် ရဟန်းအပေါင်း ဖြစ်ပါတယ်။ ရဟန်းရှစ်မျိုးမှာ ဘယ်ရဟန်းလဲ ဥပသမ္ပဒ ဉတ္တိစတုတ္ထကမ္မဝါစာဖြင့် ဖြစ်ပေါ်လာတဲ့ ရဟန်းပါပဲ၊ သိက္ခာမတင် သိမ်မပင်တဲ့ ပရိုဗိဇ် ရဟန်း ဆိုတာတွေကို ဆိုလိုတာ မဟုတ်ဘူး။ ပြီးတော့ သံဃာ့ပုဒ် ဝေါဟာရ ရင်းမြစ်အရကောက် တခုက ကိဒလသာ သက်ပြီးတဲ့ အရိယာကြီး ရှစ်ယောက်၊ ဒီရှစ်ယောက်ကိုသဲ ဆိုတာ မဟုတ်ဘူးသို့ ပြဆိုခြင်း ဖြစ်ပါတယ်။

အပိုဒ် ( ဂ ) သံဃာ့ အဖွဲ့အစည်း ဆိုသည်မှာ ဤအခြေခံ စည်းမျဉ်းနှင့် အညီ ဖွဲ့စည်းသော သံဃာ့အဖွဲ့အစည်းကို ဆိုသည်။ တခြား သံဃာ့ အဖွဲ့ အစည်းမျိုး ဥပမာ စာပြန်ပွဲလုပ်ဖို့ ဖွဲ့စည်းသော သာသနာရေးရာ တခုခုလုပ်ဖို့ ဖွဲ့စည်းသော သံဃာ့အဖွဲ့အစည်းမျိုးကို ဆိုလိုတာ မဟုတ်ဘူးလို့ ပြဆိုခြင်းပါ ဘုရား။

အပိုဒ်ခွဲ ( ဃ ) ဂိုဏ်းဆိုသည်မှာ ၁၃၄၁ - ခုနှစ်၊ တပို့တွဲလပြည့်ကျော် ( ၁ )ရက်၊ ၁၉၈၀ - ခုနှစ်၊ ဖေဖော်ဝါရီလ ၁ - ရက်၊ သောကြာနေ့ကို နောက်ဆုံးထား၍ သာသနာရေး ဦးစီးဌာနသို့ စာရင်းဝင်သော နောက်ဆက်တွဲ ( က ) တွင် ဖော်ပြထားသည့် သံဃာ့ဂိုဏ်းများကို ဆိုသည်။

နတ်ဂိုဏ်း၊ ဝိဇ္ဇာဂိုဏ်း၊ ဘိုးတော်ဂိုဏ်း စသည့် သာသနာ၌ အကျုံးမဝင်တဲ့ လောကီဂိုဏ်းများကို ဆိုလိုတာ မဟုတ်ဘူး ဆိုတာ ထင်ရှားပါတယ် ဘုရား။

အပိုဒ်ခွဲ ( င ) ထေရဝါဒ ဆိုသည်မှာ ပဌမ သင်္ဂါယနာမှ ဆဋ္ဌ သင်္ဂါယနာ အထိ သင်္ဂါယနာ ၆ - တန် တင်ထားသော ပါဠိတော် အဋ္ဌကထာ ဋီကာ အစရှိသော ပိဋကကို ဆိုသည်။

မဟာယာန နောက်ပိုင်းသာသနာက ပိဋကမျိုးတွေ၊ ဂူဠှပိဋက မျိုးတွေ မဟုတ်ဘူးဆိုတာ ထင်ရှားစေတဲ့ အပိုဒ်ပါဘုရား။

အပိုဒ်ခွဲ ( စ ) မှာ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးဆိုတဲ့ ဝေါဟာရရဲ့ အဓိပ္ပာယ် အရကောက်ကို ညွှန်ပြထားပါတယ်။

အပိုဒ်ခွဲ ( ဆ )မှာ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဇ ) မှာ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဈ ) မှာ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ (ည ) မှာ ပြည်နယ်၊ တိုင်း သံဃာ့ဝန်ဆောင် ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဋ ) မှာ မြို့နယ် သံဃာ့ဝန်ဆောင် ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဌ ) မှာ ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ့ဝန်ဆောင် ဆိုတဲ့ ဝေါ ဟာရ။

အပိုဒ်ခွဲ ( ဍ ) မှာ ပြည်နယ်၊ တိုင်း သံဃာ့နာယက အဖွဲ့ ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဎ ) မှာ မြို့နယ် သံဃာ့နာယကအဖွဲ့ ဆိုတဲ့ ဝေါဟာရ။

အပိုဒ်ခွဲ ( ဏ ) မှာ ရပ်ကွက်၊ ကျေးရွာ သံဃာ့နာယက အဖွဲ့ ဆိုတဲ့ ဝေါ ဟာရ။

ဒီဝေါဟာရတွေရဲ့ အဓိပ္ပာယ် အရကောက်တွေကို ညွှန်ပြထားပါတယ်။

နောက်ဆုံး အပိုဒ်ငယ် ( က ) မှာ နိုင်ငံတော် ဆိုတာက ဘယ်ရွေ့ ဘယ်မျှ ဒေသအရပ်တို့ဖြင့် သတ်မှတ် ပိုင်းခြားအပ်သော ဌာနဖြစ်တယ်။ ထိုနည်းတူ တိုင်းဆိုတာ၊ ပြည်နယ်ဆိုတာ၊ မြို့နယ်ဆိုတာ၊ ရပ်ကွက်ဆိုတာ၊ ကျေးရွာအုပ်စု ဆိုတာ ဘယ်ရွေ့ဘယ်မျှ ဒေသအရပ်တို့ဖြင့် သတ်မှတ် ပိုင်းခြားအပ်သော ဌာန ဖြစ်တယ်ဆိုတာကို ညွှန်ပြထားခြင်း ဖြစ်ပါတယ်။ ဘယ်လို ညွှန်ပြပါသလဲဆိုရင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံ အခြေခံ ဥပဒေ တွင် သတ်မှတ်ထားတဲ့အတိုင်း ဖြစ်ပါတယ်တဲ့ ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်း အဝေးကြီး၏ ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီး အမှူးရှိသော ပြည်နယ်အသီးသီး၊ တိုင်းအသီးသီး၊ ဂိုဏ်းအသီးသီးတို့မှ ကြွရောက်တော် မူလာကြတဲ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော်များ ဘုရား။ အခြေခံစည်းမျဉ်း ဆိုတာဟာ အလွန် တရာ အရေးကြီးပါတယ်။ ဒီစည်းမျဉ်းထဲမှာ အမှတ်မဲ့ သတိသမ္မောဟဖြစ်လို့ စကားတလုံး၊ ဝါကျတခုဟာ အဓိပ္ပာယ်နှစ်ခွ ထွက်တာမျိုး ဖြစ်နေလျှင်သော် လည်းကောင်း မတိမကျ မပီမသ ဖြစ်နေလျှင်သော်လည်းကောင်း လိုအပ်တဲ့ အခြေအနေ လိုအပ်သော အကျိုးတရားကို မရရှိပဲ မရောက်ရှိပဲ ဖြစ်နိုင်ပါတယ်။ လိုအပ်တဲ့ အခြေအနေ လိုအပ်သော အကျိုးတရားကို ရောက်ရှိအောင် ရရှိအောင် တခါပြန်ပြီး ပြင်ဆင်ရမယ်ဆိုလျှင်လည်း အင်မတန် ကြီးလေးတဲ့ အလုပ်နဲ့ ရင်ဆိုင်ကြရမှာ ဖြစ်ပါတယ်ဘုရား။ ယခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းမှာ အမည်နှင့် အဓိပ္ပာယ် ဖော်ပြချက်ဆိုတဲ့ အခန်း ( ၁ ) ဟာ အဓိပ္ပာယ် နှစ်ခွ မထွက်အောင် အဓိပ္ပာယ် တိတိကျကျ ပီပီသသ ဖြစ်အောင် ထုတ်ဖော်ဖွင့်ပြတာဖြစ်ပါတယ်။ ထုတ်ဖော်ပုံ၊ ဖွင့်ပြပုံတို့ဟာလည်း ပြည့်ပြည့်စုံစုံ မှန်မှန်ကန်ကန် ဖြစ်ပါတယ်။

ဒါ့ကြောင့် ယခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အခန်း ( ၁ ) အမည်နှင့် အဓိပ္ပာယ် ဖော်ပြ ချက် ဆိုတဲ့ ကဏ္ဍကို အဓိကထား၍ အခြေခံ စည်းမျဉ်းမူကြမ်း တခုလုံးကို တပည့်တော်များ မူလဒွါရ နိကာယက အပြည့်အဝအတိအကျ အဓိကရ တင်ပြ ဆွေးနွေး ထောက်ခံချက် ပေးပါတယ်ဘုရား။

၎င်းနောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ဓမ္မာနုဓမ္မမဟာ ဒွါရ နိကာယ ကိုယ်စားလှယ် ဆရာတော်ဘုရားက ထောက်ခံ ဆွေးနွေးရန် ကြွပါဘုရားဟု ပင့်ခေါ်သဖြင့်—

ဦးကုဏ္ဍလိယသာ ( ဓမ္မာနုဓမ္မမဟာဒွါရနိကာယဂိုဏ်း )က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော်မူသည်။

သဘာပတိဆရာတော်ဘုရားကြီး အမှူးရှိသော ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများ၊ သံဃာ့ဝန်ဆောင် ဆရာတော်များနှင့် တကွ တိုင်းနှင့်ပြည်နယ် အရပ်ရပ်မှ ကြီးမားသော ရုံ့လ ဥဿာဟဖြင့် ကြွရောက်တော်မူလာကြသည့် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် အရှင်သူမြတ်အပေါင်းတို့ဘုရား။ မဟာဒွါရနိကာယဂိုဏ်း၊ ဟင်္သာတမြို့၊ မဟိတာရာမကျောင်းတိုက် နာယက တပည့်တော် ဣန္ဒြိယသဘက ပြည့်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်းကို ထောက်ခံဆွေးနွေးရန် ခွင့်ပန်ပါသည်ဘုရား။

မြန်မာနိုင်ငံ ဗုဒ္ဓမြတ်စွာ သာသနာသည် အစဉ်အဆက်ဆက် ဦးဆောင်သယ်ယူခဲ့သော ထေရဝါဒ ဗုဒ္ဓသာသနာ ဖြစ်ပါသည်ဘုရား။ ယင်း ထေရဝါဒ ဗုဒ္ဓသာသနာသည် မြန်မာနိုင်ငံမှ အစပြု၍ ပေါ်ပေါက်ခဲ့သည် မဟုတ်ပါ။ မြတ်စွာဘုရား ပရိနိဗ္ဗာန် ဝင်စံတော်မူပြီးသည့်ကာလမှစ၍ အရှင်မဟာကဿပ အမှူးရှိသော ထေရ်တို့သည် ဆက်ကာဆက်ကာ ဆောင်ရွက်ထမ်းပိုး သယ်ဆောင်လာသည့် ဗုဒ္ဓမြတ်စွာ သာသနာ ဖြစ်ပါသည်ဘုရား။ မြန်မာနိုင်ငံတွင် သာသနာအစပျိုးခဲ့သည့် ရှင်အရဟံ နှင့် အနော်ရထာမင်းတို့သည် အရည်းကြီး ရဟန်းတို့ကို နှိပ်ကွပ်၍ သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွား လာအောင် ဆောင်ရွက်တော် မူကြသောအားဖြင့် သာသနာစစ်၊ သာသနာမှန်၏ အခြေခံအုတ်မြစ်ကို ချခဲ့ကြပါသည်ဘုရား။ ထိုမှတဖန် ဓမ္မစေတီနှင့် စဉ့်ကူမင်းတို့ လက်ထက်၌လည်း ထေရ်ရှင်မြတ်တို့သည် မင်းများနှင့် တွဲဖက်၍ အလဇ္ဇီရဟန်းဆိုး၊ ရဟန်းညစ်တို့၏ ဘေးအန္တရာယ်ကို တွန်းလှန် ကာကွယ်ကြခဲ့ကြပါသည်ဘုရား။ ဤသို့လျှင် အကြိမ်ကြိမ် အဖန်ဖန် သာသနာ့ သူပုန် ရောင်စုံ မာန်လှေး ညစ်ကြေးတို့ကို ထေရဝါဒ ဗုဒ္ဓမြတ်စွာ သာသနာ့ ထိပ်ခေါင် ဦးသျှောင်ဖြစ်တော်မူသော ထေရ်ရှင်အဆက်ဆက်တို့သည် ကိုယ်ပင်ပန်းမှု၊ စိတ်ပင်ပန်းမှုတို့ကို ပမာနမမူ လျစ်လျူရှုတော်မူကြလျက် ဖြေဆေးကြော သုတ်သင်ခုတ်ထွင်ဖယ်ရှား ခဲ့ကြပါကုန်သည်ဘုရား။ ဤသို့နှင့်နှင့် သာသနာတော်ကြီး သန့်စင်အောင် ထေရ်ကြီးတို့ ဆောင်ရွက်တော် မူကြရာ၌ မင်းကို အမှီပြု၍ အားထုတ် ဆောင်ရွက်တော်မူကြရပါသည်ဘုရား။ ယခု အချိန်အခါ၌မူလည်း ရှေ့နည်းနှင့် တမူ အလားတူပင် ဆောင်ရွက်တော် မူကြရမည့် ဖြစ်ပါသော ကြောင့် သာသနာတော်ကြီး ကောင်း သန့်ရှင်းရမည်၊ တည်တံ့ရမည်၊ ပြန့်ပွားရမည်ဟု မမိုတ်မသုန် ယုံကြည်ပါသည်ဘုရား။ ဤကဲ့သို့ ဆောင်ရွက်တော်မူကြရာ၌ သာသနာကို သာသနာ့ ဝန်ထမ်းများက အုပ်ချုပ် ထိန်းသိမ်း ကွပ်ကဲ စောင့်ရှောက်မှသာ သဘာဝလမ်း ဖြောင့်တန်းမည့်ပင် ဖြစ်ပါသည်။ ယင်း

ကဲ့သို့ ဖြင့်လျှင် မည်သို့မည်ပုံ ဖွဲ့စည်း၍ မည်သို့မည်ပုံ အုပ်ချုပ်ကြရန် သင့်ပါမည်နည်း ဟူသော တိုင်ပင်ညီညွတ်မှုကို အရင်းခံ၍ ဖြစ်ပေါ်လာသော သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း ဖြစ်ပါသည်။ ဤအခြေခံစည်းမျဉ်းသည် တိုင်းအသီးသီး၊ ပြည်နယ်အသီးသီး၊ ဂိုဏ်းအသီးသီးတို့မှ ကိုယ်စားလှယ် ဖြစ်တော်မူကြသည့် သံဃာ့ဝန်ဆောင် ဆရာတော်ကြီးများ အညီအညွတ် မျှမျှတတ ကြည့်ရှုဝေဖန်၍ ရေးသားခဲ့သော စည်းမျဉ်းဖြစ်ပါသည်ဘုရား၊ ဤသို့ ဒီဃဒဿီ ဖြစ်တော်မူကြသည့် ဝန်ဆောင် ဆရာတော်ဘုရားကြီးများ ရေးဆွဲထားသည့် စည်းမျဉ်းနှင့် ပတ်သက်၍ အနည်းငယ် တင်ပြပါရစေဘုရား။

အဖွဲ့အစည်းဟူသည်ကို စည်းမျဉ်းဖြင့် ချုပ်ကိုင်ရပါသည်။ စည်းမျဉ်းဖြင့် ချုပ်ကိုင်မှသာလျှင် ခိုင်မာတောင့်တင်းသော အဖွဲ့အစည်း ဖြစ်လာနိုင်ပါသည်။ ယင်း စည်းမျဉ်းကို ရေးဆွဲတော် မူကြရာ၌လည်း အဖွဲ့ကြီး ဖြစ်ပေါ်လာလျှင် ထိုအဖွဲ့ကြီး၏ လုပ်ကိုင်ဆောင်ရွက်မှုကြောင့် တွေ့ကြုံ ခံစားကြရမည့် အကျိုးကို ဦးတည်သော ရည်ရွယ်ချက် ထားရပါသည်။ သို့မှသာလျှင် အဖွဲ့ဝင်တိုင်း နှလုံးစိတ်ဝမ်း ချမ်းမြေ့ကြမည် ဖြစ်ပါသည်။ စည်းမျဉ်းကို ရေးဆွဲတော်မူကြကုန်သော သံဃာ့ဝန်ဆောင် ဆရာတော်ဘုရားကြီးများသည် အဖွဲ့ဝင်ဖြစ်လာကြမည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် တဝှမ်းလုံးရှိ သံဃာတော်တို့၏ အဇ္ဈာသယကို သိနိုင်တော် မူကြသည် မဟုတ်ပါ။ အကြောင်းဆိုသော် ပုထုဇ္ဇနော စေ ပရိယ ဉာဏ လာလီ ပုထုဇ္ဇနာနံ ယေဝ စိတ္တံ ဇာနာတိ နအရိယာနံ၊ အရိယေသု ပိဟေဋ္ဌိမော ဥပရိမာနံ စိတ္တံ နဇာနာတိ စသည်ဖြင့် အင်္ဂုတ္တိုရ်အဋ္ဌကထာ၌ လာရှိပါသည်။ စေတော ပရိယာဉာဏ်ကို ရခြင်း ရှိသော ပုထုဇဉ်ပုဂ္ဂိုလ်သည် ပုထုဇဉ်တို့၏သာလျှင် စိတ်ကို သိနိုင်သည်၊ အရိယာပုဂ္ဂိုလ်တို့၏ စိတ်ကို မသိနိုင်။ အောက်ဖြစ်သော အရိယာပုဂ္ဂိုလ်သည် အထက်ဖြစ်သော အရိယာပုဂ္ဂိုလ်တို့၏ စိတ်ကို မသိနိုင်ပါ။ မိန့်တော်မူသောကြောင့် စေတော ပရိယာဉာဏ်ကို မရရှိသော ပုထုဇဉ် ပုဂ္ဂိုလ်သည် အခြားသော ပုထုဇဉ်ပုဂ္ဂိုလ်တို့၏ စိတ်ကို သိနိုင်ရန် အလွန်လျှင် ခဲယဉ်းလှပါသည်ဘုရား။

ယင်းကဲ့သို့ သိကျွမ်းနိုင်သည့် ခဲယဉ်းလှသော ဉာဏ်ကို ရရှိတော် မမူကြကုန်သော်လည်း ပစ္စုပ္ပန်တိတ နာဂတနှင့် ကာလသုံးတန် ဝေဖန်ပိုင်းခြား အမြော်အမြင် ကြီးမားစွာသော ဝိစရဏာဉာဏ်အားဖြင့် ရည်ရွယ်ဦးတည်ချက်ဖြစ်သော သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားရေးတို့ကို ပဓာနထား၍ တဂိုဏ်းနှင့် တဂိုဏ်း တတိုင်း နှင့် တတိုင်း တပြည် နှင့် တပြည် ချယ်လှယ်လွှမ်းမိုး အုပ်စိုး တွန်းကန် ငြင်းဆန်ခြင်း မရှိ ပကတိမျှတသော စိတ်ဖြင့် သိပ်သည်းညီညာ စည်းရုံး၍ လာမိအောင် ရေးဆွဲ၍ ထားတော်မူကြသော လုပ်ဆောင်ချက်

များကို တွေ့ရပါသည်ဘုရား။ ဤဆရာတော်ကြီးများ၏ လိုပ်ဆောင်ချက်များသည် သံဃာ၏ ညီညွတ်မှုကြောင့် ရရှိခံစားရမည့် ချမ်းသာကို ဖန်တီးပေးနေသည်နှင့် တူလှပါသည်။

သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနဉ္စ အနုဂ္ဂဟော။
သမဂ္ဂရတော ဓမ္မဋ္ဌော၊ ယောဂက္ခေမာ န ဓံသတိ။
သံဃံ သမဂ္ဂံ ကတွာန၊ ကပ္ပံ သဂ္ဂမှိ မောဒတိ။ ၁

စူဠပန္ထိဘော်၊ သံဃာ၏ ညီညွတ်ခြင်းသည် ချမ်းသာ၏ဟု မိန့်ဆို၏။ အဘယ်သို့သော ချမ်းသာအထိ အထောက်အပံ့ ပြုပါသနည်းဟူမူ လူ့ပြည်၊ နတ်ပြည်တို့၌သာ ကပ်ကမ္ဘာပတ်လုံး ချမ်းသာသည်မဟုတ်သေး၊ ယောဂတရား၏ကုန်ရာတိုင်အောင် ချမ်းသာနိုင်သည့် အထောက်အပံ့ ဥပနိဿယဖြစ်သော ညီညွတ်မှု ချမ်းသာဖြစ်ပါသည်။ အနည်းငယ် လျှောက်ထားပါရစေဘုရား။ ကိုယ်၏ ညီညွတ်ခြင်း ကာယသမဂ္ဂီ၊ စိတ်၏ညီညွတ်ခြင်း စိတ္တသမဂ္ဂီ နှစ်မျိုးဖြစ်ကြပါက "သမဂ္ဂ သမ္မောဒမာန၊ အဝိဝဒမာန၊ ခီရောဒကီဘူတ ပိယစက္ခူ သမ္ပဿန္တ" စသည်တို့ ဖြစ်ကြရပါသော ချမ်းသာတို့ထက် တဖန် ကိုယ်အကျင့်၊ စိတ်အကျင့်၊ နှုတ်အကျင့်တို့ ညီမျှစွာ ကျင့်တော်မူကြသည့်အခါ ဓမ္မသာမဂ္ဂီ ဖြစ်ကြပါသော ချမ်းသာ ဤသို့ ကိုယ်နှုတ်နှလုံး သုံးပါးလုံးသော အကျင့်တို့ ညီမျှကြသော ကြောင့် ရရှိခံစားတော်မူကြရမည့် ဘဝသစ် တဖန် မဖြစ်ပြန်ကြရခြင်း တူမျှသော "အနတိ နိဗ္ဗတ္တိ သာမဂ္ဂီ"ဟု ဆိုအပ်သော ချမ်းသာတို့ကို မြိန်ယှက်စွာ ခံစားနိုင်သည့်တိုင်အောင် အခြေတည်ထားသည်နှင့် တူသော ဤ သံဃာ့အဖွဲ့ အစည်း အခြေခံစည်းမျဉ်း တခုလုံး၏ အဓိပ္ပာယ်သည် ပေါ်လွင်ထင်ရှားလှပါသည် ဘုရား။

ဂုဏ်းပြင် အခန်း (၁) မှ စ၍ ကြည့်လျှင်လည်း "သာသနာဆိုသည်မှာ" ဟူသော ပုဒ်တခု၏ အဓိပ္ပာယ်၊ ထေရဝါဒ ဆိုသည်မှာ၊ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ဆိုသည်မှာ စသည်ဖြင့် သိသင့် သိထိုက်သော ဝါကျ၊ ပုဒ်တို့၏ အဓိပ္ပာယ်တွေကို ပေါ်လွင်ထင်ရှားအောင် ရေးသား ဖွင့်ဆိုထားသည်ကို ဖတ်ရှုရပါသဖြင့် အလွန်လျှင် ကျေနပ် နှစ်သက်လှပါသည်ဘုရား။ သို့ရာတွင် သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဟူသော ပုဒ်၏ အဓိပ္ပာယ် ဖွင့်ဆိုချက် တခု လစ်ဟင်းကျန်ရှိနေသည်ဟု ထင်မြင်ယူဆမိပါသည်ဘုရား။ ယင်း သံဃာ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဟူသောပုဒ်၏ အဓိပ္ပာယ် ဖွင့်ဆိုချက်ကို သံဃာ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆိုသည်မှာ—

---

၁။ ဝိ၊ ၄။ ၃၅၉၊



ရွှေကျင်ဂိုဏ်း ကိုယ်စားလှယ် ဆရာတော် ဦးဉာဏိက
ထောက်ခံဆွေးနွေးစဉ်

( ဂ ) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တက်ရောက်ရန်အတွက် မြို့နယ်အလိုက် တိုင်း နှင့် ပြည်နယ်အလိုက် ဂိုဏ်းအလိုက် သံဃာ့ဆန္ဒဖြင့် ရွေးချယ်တင်မြှောက်ခြင်း ခံရသော ကိုယ်စားလှယ်တော်များ၊

( ဃ ) သံဃာ့အဖွဲ့အစည်းအခြေခံစည်းမျဉ်း၌ အထိုက်အလျောက် သံဃာ့သမ္မုတိရ၊ သံဃာ့ကိုယ်စားလှယ်အဖြစ် ခွင့်ပြုထားရှိပြီးဖြစ်သော ဆရာတော်များကို ဆိုလိုသည်ဟု ထည့်သွင်း သင့်ကြောင်း အကြံပြု ဆွေးနွေးပါသည် ဘုရား။ သို့ပါသောကြောင့် ယင်းပုဒ်၏ အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ဖြည့်စွက်၍ ဆွေးနွေးထောက်ခံပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရားဟု ထောက်ခံ ဆွေးနွေးတော်မူသည်။

၎င်းနောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ဒီနေ့အဖို့ နောက်ဆုံး ဖြစ်တဲ့ ထောက်ခံမယ့် ဆရာတော်ကတော့ ရွှေကျင်ဂိုဏ်း ကိုယ်စားလှယ် ဆရာတော်ဘုရားက ထောက်ခံဆွေးနွေးပါလိမ့်မယ်ဘုရား။ ရွှေကျင်ဂိုဏ်း ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရားဟု ပင့်ခေါ်လျှောက်ထားလေသည်။

ဦးဉာဏိက ( ရွှေကျင်ဂိုဏ်း ) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော် မူသည်။ ဘုရားတပည့်တော် ရွှေကျင်ဂိုဏ်း ကိုယ်စားလှယ် ရှိခိုးလျှောက်ထားပါသည် သဘာပတိ ဆရာတော်ကြီး အမှူးရှိသည့် တထောင်ကျော်သော သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ဘုရားတပည့်တော် ရွှေကျင်ဂိုဏ်း၊ အုတ်တွင်းမြို့၊ ကန်ကလေး တောရကျောင်းတိုက်မှ ဉာဏိက ဖြစ်ပါသည်ဘုရား။ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၌ အခြေခံမူများကို အဓိကထား၍ ထောက်ခံဆွေးနွေးသွားပါမည်ဘုရား။

"ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်းအတွင်း၌ ၁၃၄၁-ခုနှစ်၊ တပို့တွဲလပြည့်ကျော် ( ၁ ) ရက်နေ့၊ ၁၉၈၀-ပြည့်နှစ်၊ ဖေဖော်ဝါရီလ ( ၁ ) ရက် သောကြာနေ့မတိုင်မီ ပြည်ထဲရေးနှင့် သာသနာရေး ဦးစီးဌာန၊ သာသနာရေးဦးစီးဌာနတွင် စာရင်းဝင်ပြီးသော သံဃာ့ဂိုဏ်းအသီးသီးကို ဆက်လက်ဘည်ရှိခွင့်ပြုသည်" ဟူသောအပိုဒ် ( ၇ ) နှင့် "၁၃၄၁-ခုနှစ်၊ တပို့တွဲလပြည့်ကျော် ( ၂ ) ရက်နေ့၊ ၁၉၈၀-ပြည့်နှစ်

ဖေဖော်ဝါရီလ (၂) ရက်နေ့မှစ၍ ဂိုဏ်းသစ်များ ခွဲခြားတည်ထောင်မှုကို တားမြစ်သည်" ဟူသော အပိုဒ် (၈) အရ ဆိုပါလျှင် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းနောက်ဆက်တွဲ (က) ဇယားတွင် ဖော်ပြထားသည့်ဂိုဏ်း များ၏ တည်ရှိနေခွင့် အသိအမှတ်ပြုပြီး ဂိုဏ်းများ၏ တည်ရှိနေခြင်းကို အခွင့်အရေးယူ၍ အနာဂတ်ကာလတွင် ဂိုဏ်းသစ်များ တစတစ ပေါ်ပေါက် ပွားများလာခြင်းကို ပိတ်ပင်တားဆီးလိုက်ခြင်းပင် ဖြစ်ပါသည်ဘုရား။ သို့ဖြစ် ပါ၍ နောက်ဆက်တွဲ (က) ဇယားတွင် ဖော်ပြထားသည့် ဂိုဏ်းများ၏ စည်းလုံး ညီညွတ်မှုကို ရရှိလာခြင်း၊ အနာဂတ်ကာလတွင် ဂိုဏ်းသစ်များ တစ တစ တိုးပွားပေါက်မလာနိုင်ခြင်း ဟူသော အကျိုးနှစ်ပါးကို ရရှိလာမည် ဖြစ်ပါသည်ဘုရား။ ထို့ကြောင့် ယင်းအပိုဒ် (၇) နှင့် (၈) ကို ပူးတွဲပြီး ထောက်ခံပါသည် သံဃာသမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ဆရာတော် အရှင် သူမြတ်တို့ဘုရား။

ထို့နောက် အပိုဒ် (၉) နှင့် ပတ်သက်၍ ဆွေးနွေး ထောက်ခံပါမည် ဘုရား။

"အပိုဒ် (၇) အရ ဖော်ပြထားသော ဂိုဏ်းများသည် မိမိတို့သဘော တူရာ ဂိုဏ်းအချင်းချင်း ပူးပေါင်းနိုင်ခွင့်ရှိသည်" ဟူသော အပိုဒ် (၉) သဘောအရ သမ္ဘောဂသံဝါသ ချင်းတူသည့် ဂိုဏ်းများ၏ အချင်းချင်း ပူးပေါင်းသွားနိုင်ခွင့်ကို လမ်းဖွင့်ပေးထားပါသည်၊ သို့ဖြစ်ပါ၍ အနာဂတ် ကာလတွင် သဘာဝချင်းတူသည့် ဂိုဏ်းများသည် ညီညွတ်မှု တစည်း တလုံး တည်းဖြစ်လာမှုကို ရနိုင်ခွင့်ရှိလာပါသည်။ ထို့ကြောင့် အပိုဒ် (၉) ကို ထောက်ခံပါကြောင်း လျှောက်ထားပါသည် သံဃာ့သမ္မုတိရ သံဃာ့ ကိုယ် စားလှယ် ဆရာတော် အရှင်သူမြတ်တို့ဘုရား။

အပိုဒ် (၉) ကို ထောက်ခံပြီးနောက် အပိုဒ် (၁၀) ကို ထောက်ခံ ဆွေးနွေးပါမည်ဘုရား။

"အပိုဒ် (၇) အရ ဖွဲ့စည်းထားသော ဂိုဏ်းအသီးသီးသည် မိမိတို့ ဂိုဏ်း ဖွဲ့စည်းပြီးသည့်အတိုင်း တည်ရှိနိုင်၍ မိမိတို့ဂိုဏ်း စည်းကမ်းအတိုင်း လိုက်နာကျင့်သုံးခွင့်ရှိသည်" ဟူသော အပိုဒ် (၁၀) အရဖြင့် ဂိုဏ်း အသီးသီး ၏ မိမိတို့ဂိုဏ်း စည်းကမ်းအတိုင်း လိုက်နာကျင့်သုံးခွင့်ကို ပေးထားပါသည်။ ဤသို့ ပေးထားခြင်းအားဖြင့် ဂိုဏ်းအသီးသီးသည် သမိုင်းဦးဆရာတော်ဘုရား ကြီးများမှစ၍ အဆက်ဆက်သော ဂိုဏ်းဦးစီး ဆရာတော်များ၏ ဩဝါဒ များ၊ ဂိုဏ်း၏ဥပဒေသများ၊ ဂိုဏ်း၏စည်းကမ်းချက်များ၊ ဂိုဏ်း၏ ဆုံးဖြတ် ချက်များကို လိုက်နာကျင့်သုံးခွင့်ရှိပြီး ကိုယ့်ဂိုဏ်း ကိုယ့်အဖွဲ့အစည်း ပုံဖြင့်

ဖွဲ့စည်းပြီးသည့်အတိုင်း တည်ရှိနေနိုင်ခွင့် ရှိလာပါသည်။ ထို့ကြောင့် ဂိုဏ်းအသီးသီး ဂိုဏ်းပေါင်းစုံ သံဃာ့ အဖွဲ့အစည်းကြီးသို့ စည်းလုံး ညီညွတ်စွာ ဝင်ရောက်လာနိုင်ပါသည်ဘုရား။

ထို့ပြင် အပိုဒ် (၇) သည် အပိုဒ် (၆) ၌ ဖော်ပြထားသော အနည်းစု၏ ဆန္ဒကို အများက လေးစားခြင်း ဟူသော အခြေခံသဘောထား မူဝါဒကို လက်တွေ့ကျင့်သုံးပြရာ ရောက်ပါတယ်ဘုရား။ သာသနာတော် အတွင်းမှာ ပကတိ အတိုင်း တည်ရှိနေသော ဂိုဏ်းအသီးသီး၏ ညီညွတ်ရေးကို ရစေလိုတဲ့ ဆန္ဒပြင်းပြမှုကို ဖော်ပြသည့် အတွက် ကြည်နူးဝမ်းမြောက်မှု တွေ့ရပါတယ်ဘုရား။ မြန်မာနိုင်ငံတွင် သံဃာအင်အား အများဆုံးဖြစ်သည့် သုဓမ္မာ ဂိုဏ်းကြီး၏ သဘောထားကြီးမှုကို ဤအပိုဒ် (၁၀) က ဖော်ပြနေပါတယ်ဘုရား။

ထိုမှတပါး အပိုဒ် (၁၁) ကို ထောက်ခံရာ၌—

"ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း သီတင်းသုံးနေထိုင်သော သံဃာတော်ဟူသမျှသည် မိမိတို့နှင့် သက်ဆိုင်သော ဂိုဏ်းများတွင်သော်လည်းကောင်း ဤအခြေခံ စည်းမျဉ်း အရ ဖွဲ့စည်းသော နာယကအဖွဲ့ တဖွဲ့ဖွဲ့ နှင့် သော်လည်းကောင်း သက်ဆိုင် အကျုံးဝင်စေရမည်၊ သီးခြားကင်းလွတ်၍ သီတင်းသုံးနေခွင့်မရှိ" ဟူသော အပိုဒ် (၁၁) အရ မည်သည့်ပုဂ္ဂိုလ်မဆို တသီး တခြား ကင်းလွတ်၍ နေခွင့်မရတော့ပါ။ ဖွဲ့စည်းပြီးသည့် ဂိုဏ်းများ နှင့် သော်လည်းကောင်း ယခု ဖွဲ့စည်းမည့် နာယကအဖွဲ့ တဖွဲ့ဖွဲ့ နှင့် သော်လည်းကောင်း သက်ဆိုင် အကျုံးဝင်၍သာ နေရပါမည်။ ဩဝါဒကို ခံယူ၍သာ နေရပါမည်၊ ဩဝါဒကင်းလျက် မနေရတော့ပါ။ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင်ကပင် "သံဃာတော်များ၏ ဩဝါဒ နှင့် ကင်းလျက် နေသူကို ငါဘုရား၏ အဆုံးအမ သာသနာတော်၌ ဩဝါဒဖြင့် အသဘ်ခံရသူဖြစ်ကြောင်း" ကို "ဝဓော ဟေသောကေသီ အရိယဿဝိနယေ"[၁] စသည်ဖြင့် အင်္ဂုတ္တရနိကာယ် စတုက္ကနိပါတ် ကေသီသုတ်တွင် ဟောကြားတော်မူခဲ့ပါသည်။ ထို့ကြောင့် ဗုဒ္ဓရှင်တော်မြတ်၏ သာသနာတော်၌ အဆုံးအမ ဩဝါဒကင်းလျက် နေထိုင်မှုမျိုး မရှိသင့်ပါ။ သို့ဖြစ်ပါ၍ ဤအပိုဒ် (၁၁) ကို ထောက်ခံပါသည် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်မြတ်တို့ဘုရား။ ထို့မှနောက် အပိုဒ် (၁၂) ကို ထောက်ခံဆွေးနွေးပါမည် ဘုရား။ အပိုဒ် (၁၂) သံဃာ့ အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းမှု၏ ရည်ရွယ်ချက်မှာ—

၁။ အံ၊ ၁၊ ၄၂၀။

(က) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားစေရန်ဖြစ်သည်။

(ခ) သံဃာတော်များ ဝိနည်းတရားတော် နှင့် အညီ ကျင့်ကြံ သီတင်းသုံး နေထိုင်ရေးအတွက် သံဃာအချင်းချင်း ကြီးကြပ် ထိန်းသိမ်းသွားနိုင်ရန် ဖြစ်သည်။

(ဂ) ပရိယတ္တိသာသနာတော် တိုးတက်စည်ပင် ပြန့်ပွားရန် ကူညီ ထောက်ပံ့၍ ပိဋကတ်တော်နှင့် မညီသော ရေးသားခြင်း၊ ဟောပြောခြင်း၊ ပြုလုပ်ခြင်းများကို တားဆီးကာကွယ်ရန် ဖြစ်သည်။

(ဃ) ပရိယတ္တိနှင့် လျော်ညီသော ပဋိပတ္တိသာသနာတော်ကို တိုး တက်စည်ပင် ပြန့်ပွားစေရန်ဖြစ်သည်။

(င) သံဃာတော်များသည် ဂန္ထဓုရ နှင့် ဝိပဿနာဓုရ ၂-ပါးကို သော်လည်းကောင်း အနည်းဆုံး တပါးကို သော်လည်း ကောင်း ဆောင်ရွက်စေရန် ဖြစ်သည်။

(စ) သာသနာတော်အကျိုး သယ်ပိုးဆောင်ရွက်ရာ၌ သံဃာ့ ဂိုဏ်း များသည် ကြီးသည် ငယ်သည် မဟုတ် စည်းလုံး ညီညွတ်မှုကို ရှေးရှု၍ ဆောင်ရွက်ရန် ဖြစ်သည်။

ဤအချက်များသည် သံဃာအဖွဲ့ အစည်း အဆင့်ဆင့် ဖွဲ့စည်းရခြင်း၏ မျှော်မှန်းချက် အကျိုးများဖြစ်ကြပါသည်၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ သီတင်းသုံး နေထိုင်တော် မူကြကုန်သော အရှင် ကောင်း အရှင်မြတ်တို့သည် ထိုအကျိုးများကို လိုလားကြပြီး ဤသံဃာ့အဖွဲ့ အစည်း အဆင့်ဆင့်ကို ဖွဲ့စည်းကြရမည်သာ ဖြစ်ပါသည်ဘုရား။ ထို့ကြောင့် သံဃာတော်များ ဝိနည်းတရားတော်နှင့် အညီ နေထိုင်သွားနိုင်ရေး၊ ဂန္ထဓုရ ဝိပဿနာဓုရ ၂-ပါးတို့ဖြင့် နေထိုင်သွားနိုင်ရေး၊ ပိဋကတ်တော်နှင့် ညီသော ပဋိပတ္တိသာသနာ ထွန်းကားလာနိုင်ရေး၊ ပိဋကတ်တော်နှင့် မညီသော ရေး သားမှု၊ ဟောပြောမှု၊ လုပ်ကိုင်မှုများ ပပျောက်လာနိုင်ရေး၊ ဒုသီလစသော အညစ်အကြေးတို့မှ သာသနာတော် သန့်ရှင်းလာနိုင်ရေး စသော အကျိုး တရားများကို ရည်မှန်းကြလျက် အချင်းချင်း မေတ္တာစိတ်ဖြင့် သံဃာ့ အဖွဲ့ အစည်း အဆင့်ဆင့်ကို မဖြုံမနေ ဆောင်ရွက်ထိုက်ကြပါသည် ဘုရား။ သို့ဖြစ် ၍ အခန်း (၂) အခြေခံမူများ အပါအဝင် ဤအခြေခံ စည်းမျဉ်းအားလုံး ကို ထောက်ခံပါကြောင်း ရှိသေစွာ လျှောက်ထားပါသည် သဘာပတိဆရာ တော်ဘုရားကြီးများ အမှူးရှိသည့် သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်မြတ်တို့ ဘုရား။

## ပထမအကြိမ် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဒုတိယနေ့ အစည်းအဝေးကျင်းပရန် သတ်မှတ်ခြင်း

ထိုနောက် အခမ်းအနားမှူး ဆရာတော်က ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၁-ရက် စနေနေ့တွင် ကျင်းပသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမနေ့) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ပြီးဆုံးကြောင်း ကြေငြာအပ်ပါသည် ဘုရား။ ဒုတိယနေ့ အစည်းအဝေးကို ၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၂-ရက်၊ တနင်္ဂနွေနေ့ နံနက် (၈) နာရီတိတိ အချိန်တွင် စတင်ကျင်းပမည် ဖြစ်ကြောင်း လျှောက်ထားပါသည်ဘုရား။ ယခု အစည်းအဝေးကြီး ပြီးဆုံးပြီဖြစ်ပါ၍ ဩဝါဒါစရိယ ဆရာတော်ကြီးများ ကြွသွားပြီးမှ ကျန်ဆရာတော်များ ကြွတော်မူကြရန် လျှောက်ထားပါသည်ဘုရား။ အစည်းအဝေးကို ညနေ ၄-နာရီ ၅၀-မိနစ် အချိန်တွင် ရပ်နားပါသည်။

## ဒသမပိုင်း အပြီးသတ်ခြင်း

ဤသည်လျှင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီး ပဌမနေ့ ဆောင်ရွက်ချက်ကို ပြဆိုရာ ဒသမပိုင်း အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယစေ။
ရစိတေ ဣခ ဂန္ထမှိ၊ သမတ္တော ဒသမော ဟိ ခေါ။

—

# ကောဒသမပိုင်း

## သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး
## (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး
## ဒုတိယနေ့ အစည်းအဝေး မှတ်တမ်း

**သာသနာတော်နှစ် ၂၅၂၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၂-ရက် (၁၉၈၀-ပြည့်နှစ်၊ မေလ ၂၅-ရက်) (တနင်္ဂနွေနေ့)**

ရန်ကုန်မြို့၊ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးကို နံနက် (၈) နာရီ အချိန်တွင် စတင် ကျင်းပလေသည်။ အစည်းအဝေးပွဲကြီးတွင် သံဃာ့ဝန်ဆောင်အဖွဲ့၏ ဒုတိယ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ဖျာပုံတိုက်သစ် ဆရာတော်က ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်၍ သံဃာ့ဝန်ဆောင်အဖွဲ့၏ တွဲဖက် အကျိုးတော်ဆောင် ရန်ကုန်မြို့၊ ကြည့်မြင်တိုင် ဘုံပျံကျောင်းမှ ဦးပညာသာမိက အခမ်းအနားမှူးအဖြစ် ဆောင်ရွက်တော်မူသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ အစည်းအဝေးကြီး ကျင်းပရန် အချိန်နီးကပ်ပြီ ဖြစ်ပါ၍ လိုဏ်ဂူတော်ကြီးအတွင်း သတ်မှတ်ထားသော နေရာများသို့ ကြွရောက်တော်မူကြပါရန် ပင့်လျှောက်အပ်ပါသည် ဘုရား ဟု သုံးကြိမ်တိုင်တိုင် ပင့်လျှောက်လေသည်။

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ဒုတိယနေ့) ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီးတွင် သံဃာ့ဝန်ဆောင် အဖွဲ့၏ ဒုတိယဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ဖျာပုံတိုက်သစ် ဆရာတော်က ဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်ပြီး တပည့်တော် သံဃာ့ဝန်ဆောင်အဖွဲ့၏ တွဲဖက် အကျိုးတော်ဆောင် ရန်ကုန်မြို့ ကြည့်မြင်တိုင်၊ ဘုံပျံကျောင်းမှ ပညာသာမိက အခမ်းအနားမှူးအဖြစ် ဆောင်ရွက်မည် ဖြစ်ပါကြောင်းကို လျှောက်ထား အပ်ပါသည် ဘုရား ဟု ထပ်မံလျှောက်ထားတော်မူသည်။

## အစည်းအဝေးကြီး စတင်ဖွင့်လှစ်ကြောင်း ကြေငြာခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ဒုတိယနေ့) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေး ပွဲကြီးကို ဥက္ကဋ္ဌ ဖျာပုံတိုက်သစ် ဆရာတော်ကြီး၏ ခွင့်ပြုချက် အရ စတင်ဖွင့်လှစ်ကြောင်း ကြေငြာ လျှောက်ထားပါသည်ဘုရားဟု ထပ်မံ ကြေငြာ လျှောက်ထားတော်မူသည်။

### ဒုတိယနေ့ အစည်းအဝေး ထမြောက်ကြောင်း ကြေငြာခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။တပည့်တော်တို့ အစည်းအဝေးသို့ ကြွရောက်သာသော သံဃာအရေအတွက်မှာ (၁၂၂၆) ပါးဖြစ်၍ တက်ရောက်နိုင်သော သံဃာ့ ကိုယ်စားလှယ် အရေအတွက်မှာ (၁၂၃၅) ပါး ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်သော သံဃာတော်ပေါင်း ရာခိုင်နှုန်းမှာ (၉၉.၃) ဖြစ်ပါ၍ သတ်မှတ်ထားသော(၇၅) ရာခိုင်နှုန်းကျော်သည့် အတွက် အစည်းအဝေးကြီး အောင်မြင် ထမြောက်ကြောင်း လျှောက်ထားပါသည် ဘုရား။

ယနေ့ အစည်းအဝေး၏ အစီအစဉ်မှာ ဝေငှထားသည့် သတင်းစဉ်တွင် ပါရှိသည့်အတိုင်း ဖြစ်ပါတယ်ဘုရား။ တပည့်တော် ဖတ်ကြားလျှောက်ထားခြင်း မပြုတော့ပါဘုရားဟု လျှောက်ထားတော်မူသည်။

## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း) ကို ဆက်လက် ထောက်ခံဆွေးနွေးခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ယခု အစီအစဉ် အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း) ကို ထောက်ခံဆွေးနွေးခြင်းများ ဆက်လက်ဆောင်ရွက်မည် ဖြစ်ပါတယ်ဘုရား။

ဆွေးနွေးမည့် ပုဂ္ဂိုလ်များသည် သတ်မှတ်ထားသည့် အချိန် (၁၀) မိနစ်ထက် မကျော်လွန်စေပဲ ဆွေးနွေးကြဖို့ မေတ္တာရပ်ခံအပ်ပါသည် ဘုရား။

အစီအစဉ် အရ ဝေဠုဝန်နိကာယဂိုဏ်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးတော်မူရန် ကြွရောက်တော်မူပါဘုရားဟု ပင့်ခေါ်တော် မူရာ—

ဦးဣန္ဒဝံသ (ဝေဠုဝန်နိကာယဂိုဏ်း) က အောက်ပါအတိုင်း ထောက် ခံဆွေးနွေးတော်မူသည်။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ သာသနာတော် အရေးကို အလေးပေး၍ ကြွရောက်တော်မူကြသော ဩဝါဒါစရိယ ဆရာတော်ကြီးများ နှင့် ဥက္ကဋ္ဌ ဆရာတော်ဘုရား အမှူးပြုသော သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ယနေ့ သံဃာ့အစည်းအဝေးကြီး၌ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သံဃာ့ဝန်ဆောင်အဖွဲ့မှ ရေးဆွဲ၍ အတည်ပြုဆုံးဖြတ်တော်မူကြ ပါရန် တင်ပြအဆိုပြုလာသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံ တော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို ဝေဠုဝန် ဂိုဏ်းဝင် သံဃာ တော်များ၏ ကိုယ်စား၊ ရန်ကုန်တိုင်း စမ်းချောင်းမြို့နယ် ဝေဠုဝန်ကျောင်း တိုက်မှ သံဃာ့ သမ္မုတိရ တပည့်တော် ဣန္ဒဝံသက ထောက်ခံပါကြောင်းကို ရိုသေလေးစားစွာ လျှောက်ထားပါသည် သံဃာတော် အရှင် သူမြတ်တို့ ဘုရား။

ရရှိသည့် အချိန် အတောအတွင်း အခြေခံစည်းမျဉ်း စာအုပ်မှ အခန်း(၃) သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းသင့်ကြောင်းကို အဓိကထား၍ ထောက် ခံဆွေးနွေးပါမည်ဘုရား။

ဤကဲ့သို့ ထောက်ခံဆန္ဒပြုရခြင်း နှင့် ဆက်စပ်၍ အနည်းငယ်လျှောက်ထား ပါရစေဘုရား။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးလို့ ဆိုတဲ့ စကားရပ်ထဲမှာ သာသနာတော် သန့်ရှင်းရေးဟူသော စကားရပ်သည် မူလ ပဓာန အဓိကကျသော စကားရပ်ဖြစ်ပါသည်ဘုရား၊ သာသနာတော် သန့်ရှင်း ရေးကို ဦးစွာ ပထမ မဖြစ်မနေ ပြုလုပ်ရပါမည်ဟု ဆိုလိုပါသည် ဘုရား၊ "အပသန္နာနံ ပသာဒါယ ပသန္နာနံ ဘိယျော ဘာဝါယ" ဟု ဟောတော်မူခဲ့ သည့်အတိုင်း သာသနာတော်သည် အပြစ် အနာ ကင်းစင်၍ သန့်ရှင်းမှ သာသနာတော်ကို မကြည်ညိုသေးသောသူများ ကြည်ညိုသဒ္ဓါဖြစ်ပွားလာပြီး ကြည်ညိုရင်း ရှိသူများ ကြည်ညိုသဒ္ဓါတိုးပွားလာပါလိမ့်မည်ဘုရား၊ ထိုမှသာ သာသနာ့ဝန်ထမ်း ရှင်ရဟန်းတို့ ပစ္စည်းလေးပါးတို့ဖြင့် မပင် မပန်း သာသ နာ့ဝန်ဖြစ်တဲ့ ဂန္ထဓုရ, ဝိပဿနာဓုရ တို့ကို ချမ်းမြေ့စွာ ထမ်းဆောင်နိုင်ကြပါ မည်ဘုရား၊ ထိုမှသာ သာသနာတော် အရှည်ခန့်၍ တည်တံ့ ပြန့်ပွားပါမည်

ဘုရား၊ ထို့ကြောင့် သာသနာတော် သန့်ရှင်းရေးသည် အဓိကကျသော အချက်ဖြစ်ကြောင်း ထင်ရှားလှပါသည်ဘုရား။ သာသနာတော် သန့်ရှင်းရေးပြုလုပ်ရန်မှာ သန့်ရှင်း စင်ကြယ်သော ရွှေစင် ရွှေသားကို အလိုရှိသော ရွှေပန်းတိမ်သည်သည် ရွှေကိုညစ်နွမ်းစေတတ်သော "ငွေ၊ သံ၊ ကြေး၊ သလွဲ၊ ခဲပုပ်" ဤငါးမျိုးသော ရွှေ၏ အညစ်အကြေးတို့ကို ကုန်စင်အောင် ထုတ်ပစ်မှသာလျှင် သန့်ရှင်းစင်ကြယ်သော ရွှေစင် ရွှေသားကို ရရှိနိုင်သလို သာသနာတော်၏ ဂုဏ်သိရ်ကို မှေးမှိန်ညစ်နွမ်းစေတတ်သော ရှင်တော်မြတ် ဘုရား၏ အဆုံးအမ သာသနာတော်နှင့် ဆန့်ကျင်ဘက် အမှုကိစ္စ အပြုအမူ ပြောဆိုရေးသားချက် အညစ်အကြေးမှုန်သမျှကို စိုးစဉ်းမျှ အကြွင်းအကျန်မရှိ ပယ်ရှားထုတ်ပစ်ရမည် ဖြစ်ပါသည်ဘုရား၊ ယင်းသို့ ပယ်ရှား ထုတ်ပစ်ရန်မှာလည်း "ဝိနယောသံဝရတ္ထာယ ပညတ္တော" ဟူသော စကားတော်အရ ရှင်တော်မြတ်ဘုရားသည် မိမိ၏ တပည့်သား သာသနာ့ဝန်ထမ်း ရဟန်းသံဃာများ လိုက်နာပြုကျင့်မည့် ဝိနည်း ပညတ်တော်ကို ပညတ်တော် မူခဲ့ပါသည်။ ယင်းသို့ ပညတ်တော်မူအပ်သော ဝိနည်း ပညတ်တော် နှင့် လျော်ညီစွာ လိုက်နာကျင့်သုံးတော်မူကြ၍ ဝိနည်းပညတ်တော် နှင့် ဆန့်ကျင်သော အပြုအမူ ဟောပြောရေးသားချက်တို့ကို ရှောင်ကြဉ်ရန် ဖြစ်ပါသည် ဘုရား။

ထို့ပြင် မြတ်စွာဘုရားသခင်အား သာသနာတော် သန့်ရှင်း တည်တံ့ရေးအတွက် "ဒုမ္မင်္ကူနံ ပုဂ္ဂလာနံ နိဂ္ဂဟာယ ပေသလာနံ ဘိက္ခူနံ ဖာသု ဝိဟာရာယ ဝိနယော ပညတ္တော" ဟု ဟောဖော် ညွှန်ပြထားပါသည် ဘုရား။ အာဏာစက်ကိုဖီဆန် ပညတ်တော်ကို ပုန်ကန် ကုန်လျက် စိတ်ထင်တိုင်းပြုမူကြကုန်သော အလဇ္ဇီ ဒုဿီလတို့ကို နှိပ်ကွပ်သုတ်သင်ပစ်မှသာ အာဏာတော်စက် ပညတ်ချက်အတိုင်း လိုက်နာကျင့်ကြံကုန်သော သီလဝန္တ လဇ္ဇီပုဂ္ဂိုလ်တို့သည် ကိုယ်စိတ်နှစ်ဖြာ အေးချမ်းစွာ သာသနာ့စန်ကို ထမ်းဆောင်နိုင်ပါမည် ဟူ ဟောတော်မူလိုရင်း ဖြစ်ပါသည် ဘုရား။

ထိုသို့သော သာသနာတော်၏ အညစ်အကြေးဖြစ်တဲ့ အလဇ္ဇီ ဒုဿီလ ရဟန်းတု ရဟန်းယောင်၊ တရားတု တရားယောင် ဆန့်ကျင်ဘက် အယူဝါဒ ဟောပြော ရေးသားချက်များကို သုတ်သင်ဖယ်ရှားနိုင်ရေး အတွက် သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ် ဘက်စုံတော်င့်တင်းသော သံဃာ့အဖွဲ့အစည်း တခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အမှန်ပင် လိုအပ်နေပါပြီ ဘုရား၊ ယင်းသို့ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် ဖွဲ့စည်းရမည့် သံဃာ့အဖွဲ့အစည်းကို နိုင်ငံတော် တဝန်းလုံးရှိ သံဃာတော်တို့၏ အလိုဆန္ဒကို အရယူကာ ဖွဲ့စည်းရမည် ဖြစ်ပါသည်ဘုရား။

သို့အတွက် နိုင်ငံတော်တဝန်းလုံးရှိ သံဃာတော်တို့၏ ဆန္ဒကိုယူကာ သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များကို ရွေးကောက်တင်မြှောက်၍ ပင့်ဆောင်ခဲ့ကြပါသည်ဘုရား။ ထို သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များဖြင့် "နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၊ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့၊ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့" ဟု ဖွဲ့စည်းမည် ဖြစ်ပါသည် ဘုရား။ ဤကဲ့သို့ ညီညွတ်သည့် တမျိုးတစားတည်းသော သံဃာ့ အဖွဲ့အစည်းက သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ဆောင်ရွက်ပြုလုပ်နိုင်ပါမည်ဘုရား။

ရှင်တော်မြတ်ဘုရား လက်ထက်တော် အခါကပင် သာဝတ္ထိပြည် ကိဋာဂိရိဇနပုဒ်အရပ်၌ နေကြကုန်သော အဿဇိပုနဗ္ဗသုက အမည်ရှိကုန်သော ရဟန်းတို့သည် ဝိနည်း ပညတ်တော်နှင့် ဆန့်ကျင်ကာ သာသနာတော်နှင့် မသင့်မလျော်သော အမှုတို့ကို ပြုကြကုန်သဖြင့် ရှင်သာရိပုတြာ၊ ရှင်မောဂ္ဂလာန်ကြီးမှူးသော အဖွဲ့အစည်းက သုတ်သင်ရှင်းလင်း၍ သာသနာတော်သန့်ရှင်းရေးကို ပြုလုပ်ခဲ့ဘူးကြောင်း ဝိနည်းပိဋကတ်၌ အထင်အရှား လာရှိပါသည်ဘုရား။

ရှင်တော်မြတ်ဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးနောက် နှစ်ပေါင်း တစ်ရာလောက်မှာ ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် ဝိနည်း ပညတ်တော်ကို ပြောင်းပြန်လှန်မှောက် မလျောက်ပတ်သော အမှုတို့ကို ပြုကြကုန်သဖြင့် သာသနာတော် အရောင်မထွက် မှေးမှိန်လျက်ရှိရာ ရှင်မဟာယသကြီးမှူးသော သံဃာ့အဖွဲ့အစည်းက သာသနာတော်၏ အညစ်အကြေးတို့ကို ဆေးကြော သုတ်သင်ကာ သာသနာတော် သန့်ရှင်းရေးကို ပြုလုပ်တော်မူခဲ့ကြဘူးပါသည်ဘုရား။

ထို့နောက်တဖန် နှစ်ပေါင်း နှစ်ရာကျော်လောက်မှာ ပါဋလိပုတ်ပြည် အသောကမင်းတရားကြီးလက်ထက် သာသနာတော်တွင်းသို့ ရဟန်းတုရဟန်းယောင် တရားတု တရားယောင်များ ဝင်လာကုန်သဖြင့် သာသနာတော် မသန့်မရှင်း ညစ်နွမ်းခြင်း ဖြစ်လေရာ ရှင်မောဂ္ဂလိပုတ္တတိဿ မထေရ် ခေါင်းဆောင်သော သံဃာ့အဖွဲ့အစည်းက အသောကမင်းတရား၏ ကူညီ အားပေးမှုဖြင့် သာသနာတော် သန့်ရှင်းရေး ပြုလုပ်ခဲ့ဘူးပါသည်ဘုရား။ ထိုသို့သော ထုံးဟောင်း သာဓကများကို ထောက်ဆ၍ ယခုအခါ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် မျက်မှောက် အခြေအနေအရ သာသနာတော်၏ အညစ်အကြေး ဘေးရန်ဟူသမျှတို့ကို သန့်ရှင်းစင်ကြယ်အောင် ပြုလုပ်ပေးရန် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းထားသင့်ပါသည်ဘုရား။



အနောက်ချောင်းဒွါရဂိုဏ်းကိုယ်စားလှယ် ရေကြည်မြို့နယ်
ငါးသိုင်းချောင်း မြစ်ဘယ်အင်းလျားကျောင်း ဆရာတော် ဦးဓမ္မိဿရ
ဆွေးနွေးထောက်ခံစဉ်

ထိုသို့ သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်း၍ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို ဆောင်ရွက်ကြခြင်းသည် သတ္တကနိပါတ် အပရိ-ဟာနိယသုတ်၌ ရှင်တော်မြတ်ဘုရား ဟောကြားတော်မူအပ်သော သာသနာ တော် ဝန်ထမ်း ရဟန်းတို့သည် အမြဲမပြတ် စည်းဝေးတိုင်ပင်ကြခြင်း၊ အညီ အညွတ် စည်းဝေးတိုင်ပင်၍ သံဃာ့ကိစ္စ ဟူသမျှကို ပြုလုပ်ကြခြင်း၊ ပညတ် တော် မူထားသော ပညတ်တော်များကို မဖောက်ဖျက်ကြခြင်း၊ သံဃပိတု သံဃာ့ပရိနာယက ဖြစ်တော်မူကြကုန်သော မဟာထေရ်ကြီးတို့ကို လေးစား မြတ်နိုးခြင်း ဟူသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားကြောင်း တရားများနှင့်လည်း လိုက်လျောညီညွတ်လှပါသည်ဘုရား၊ ဤသို့ သာသနာ တော် ထုံးဟောင်းသာဓကများနှင့် လည်းကောင်း ဓမ္မဝိနယ ဒေသနာတော် များနှင့်လည်းကောင်း လျော်ကန်သင့်မြတ်သည်ဟု ယူဆပါသဖြင့် တပည့်တော် များ ဝေဠုဝန်ဂိုဏ်းဝင် သံဃာတော်များက ယခု သံဃာ့ အစည်းအဝေး ကြီးသို့ သံဃာ့ဝန်ဆောင် အဖွဲ့မှ ရေးဆွဲတင်ပြ အဆိုပြုလာသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ထောက်ခံပါကြောင်း ဆွေးနွေး တင်ပြ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်က** ဆက်လက်၍ အနောက်ချောင်းဒွါရ ဂိုဏ်း ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးတော်မူရန် ကြွပါဘုရား ဟု ပင့်ခေါ်လေရာ—

**ဦးဓမ္မိဿရ ( အနောက်ချောင်းဒွါရဂိုဏ်း )** က အောက်ပါအတိုင်း ဆွေး နွေးတော်မူသည်။ စိရံ တိဋ္ဌတု သဒ္ဓမ္မော၊ စိရံ တိဋ္ဌတု သဒ္ဓမ္မော၊ စိရံ တိဋ္ဌတု သဒ္ဓမ္မော၊ ရှင်တော်မြတ်ဘုရား၏ သဒ္ဓမ္မသုံးဖြာ သာသနာတော်ကြီးသည် ငါးထောင်ချိန်ခါ ရှည်မြင့်ကြာအောင် တည်လာတော်မူပါစေသတည်း။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သံဃာ့ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဩဝါဒါစရိယ ဆရာ တော်ကြီးများ အမှူးထား၍ ထေရ, နဝ, မဇ္ဈိမ ဖြစ်တော်မူကြသော သံဃာ့ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရား တပည့်တော်သည် အနောက်ချောင်း ဒွါရဂိုဏ်း၊ ရေဝတီတိုင်း၊ ရေကြည်မြို့ နယ် ငါးသိုင်းချောင်းမြို့၊ ဖြစ်ဆယ် အင်းလျားကျောင်းတိုက်မှ အနောက် ချောင်း ဒွါရ ဂိုဏ်း၏ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဓမ္မိဿရ ဖြစ်ပါသည် ဘုရား၊ ဘုရားတပည့်တော်သည် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံ တော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်းစာအုပ်၌ သံဃာ့ အဖွဲ့

အစည်း အဆင့်ဆင့် ဖွဲ့စည်းတည်ရှိပုံကို အဓိကအားဖြင့် လျှောက်ထားထောက်ခံလိုပါသည် ဘုရား။

ထိုမူကြမ်း အခြေခံစည်းမျဉ်း၌ အခန်း (၃)၊ အပိုဒ် ၁၅ (ခ) နှင့် ၁၆ (ခ) တို့ကို လျှောက်ထားလိုသည် ဖြစ်ပါတယ် ဘုရား။ အခန်း ၃၊ အပိုဒ် ၁၅ (ခ)တွင် ပြည်နယ် တိုင်း သံဃာ့ဝန်ဆောင်များ၊ မြို့နယ် သံဃာ့ဝန်ဆောင်များ၊ ရပ်ကွက် ကျေးရွာအုပ်စု သံဃာ့ဝန်ဆောင် အသီးသီး နှင့် အဆင့်တူသော သံဃာ့ဝန်ဆောင်များ ဂိုဏ်းအသီးသီးတွင် တည်ရှိနိုင်ပါသည် ဘုရား၊ အပိုဒ် ၁၆ (ခ)မှာလည်း ထိုနည်းတူစွာပင်လျှင် ပြည်နယ် တိုင်း သံဃာ့နာယကအဖွဲ့၊ မြို့နယ် သံဃာ့နာယကအဖွဲ့၊ ရပ်ကွက် ကျေးရွာ အုပ်စု သံဃာ့နာယကအဖွဲ့ အသီးသီးနှင့် အဆင့်တူသော သံဃာ့နာယကအဖွဲ့ များ ဂိုဏ်းအသီးသီး၌ တည်ရှိ ခွင့်ပြုထားသည်ကို တွေ့ရှိရပါသည်ဘုရား။

ဤစာပိုဒ်များ အရ ဘုရားတပည့်တော်တို့ ဂိုဏ်းအသီးသီးဟာ မူလဖွဲ့စည်း ပုံအတိုင်း ရှေးမူမပျက်စေပဲ ဆက်လက်တည်ရှိနိုင်ပါသည်ဘုရား။ ဂိုဏ်းအတွင်း ၌ "ဂဏပါလက၊ ဂဏာဓိပတိ၊ မဟာနာယက၊ အနုနာယက၊ ဂဏရက္ခိတ" စသည်ဖြင့် မူလရှိပြီးသော အခေါ်အဝေါ်များ၊ အနုနာယကနယ်၊ ဝိနည်း ပြန်ဌာန စသည်ဖြင့် မူလရှိပြီးသော ဂိုဏ်းတွင်း ဖွဲ့စည်းပုံများ၊ နာယက အဆင့်ဆင့်များကို ပြင်ဆင်ရန်မလိုပါပဲ မူလရှိပြီး အတိုင်း သံဃာ့ဂိုဏ်းများ အတွင်း အုပ်ချုပ်နိုင်ခွင့်ရှိမည် ဖြစ်ပါသည် ဘုရား။

သို့ရာတွင် ဂိုဏ်းအသီးသီးသည် "ဂဏပါလက၊ ဂဏာဓိပတိ၊ ဝန်ဆောင် နာယက မဟာနာယက၊ တပါးပါးကိုသော်လည်းကောင်း အခြား သင့် တော်သည့် ပုဂ္ဂိုလ် တပါး တပါးကိုသော်လည်းကောင်း မည်သည့် ပုဂ္ဂိုလ် သည် မည်သည့်ဝန်ဆောင် ဖြစ်သည်၊ မည်သည့်ပုဂ္ဂိုလ်သည် မည်သည့် မဟာ နာယကနှင့် အဆင့်တူသည်ဟု သတ်မှတ် ထားလိုပါက သတ်မှတ်ထားနိုင် ကြောင်းကို သိရှိရပါသည်ဘုရား။

အချုပ်အားဖြင့် လျှောက်ထားရပါလျှင် ဤ အခြေခံ စည်းမျဉ်း အခန်း ၃၊ အပိုဒ် ၁၅ (ခ) နှင့် ၁၆ (ခ)ဟူသော ၂-ပိုဒ်ကို ကြည့်ရှုလေ့လာ ခြင်းအားဖြင့် မျှမျှ တတ မှန်မှန် ကန်ကန် ရေးဆွဲထားသော အခြေခံ စည်း မျဉ်းဖြစ်ကြောင်း ထင်ရှားသိသာလှပါသည် ဘုရား။ ယခု လျှောက်ထားခဲ့ ပြီးသော အချက်အလက်များကို ထောက်ရှု၍ ဤ သံဃာ့အဖွဲ့အစည်း အခြေ ခံစည်းမျဉ်း မူကြမ်းသည် ပြည့်စုံ လုံလောက်နေပြီဟု ဘုရားတပည့်တော်၌ အယူရှိသည် ဖြစ်ပါ၍ အတည်ပြုရန် အနော်ကချောင်း ဒွါရဂိုဏ်းဝင် သံဃာ တော်များ၏ ကိုယ်စား ဘုရားတပည့်တော် ဓမ္မိဿရက ထောက်ခံကြောင်း

ရှိသေ့လေးစားစွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**ငင်းနောက် အခမ်းအနားမှူး ဆရာတော်က** ယခုဂိုဏ်းများမှ ထောက်ခံဆွေးနွေးပြီးနောက် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ် ဆရာတော်များ အက္ခရာစဉ်အတိုင်း ဆက်လက်၍ ထောက်ခံဆွေးနွေးသွားတော်မူကြရန် ဖြစ်ပါတယ် ဘုရား။

ရှေးဦးစွာ ကချင်ပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးတော်မူရန် ကြွပါဘုရား ဟု ပင့်လျှောက်လေရာ—

**ဦးဝိမလ ( ကချင်ပြည်နယ် )** က အောက်ပါအတိုင်း ထောက်ခံဆွေးနွေးတော်မူသည်။ ရှိသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ဘုရားတပည့်တော်သည် ကချင်ပြည်နယ် မြစ်ကြီးနားအခြေခံဒေသ မြစ်ကြီးနားမြို့နယ် သံဃာသမ္မုတိရ သံဃာ့ ကိုယ်စားလှယ် မန္တလေးကျောင်းက ဝိမလပါဘုရား။

ဘုရားတပည့်တော်သည် ယခု ကမ္ဘာ့အေးကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီးအတွင်း သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေး ပွဲကြီးသို့ မြန်မာနိုင်ငံတော် တဝန်းလုံးမှ ကြွရောက်တော်မူလာကြကုန်သော အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော် ဘုရားကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီးများ၊ သံဃာ့ဝန်ဆောင် ဆရာတော်ကြီးများ၊ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်ကြီးများအား ဖူးတွေ့ခွင့် ဖူးမြင်ခွင့်ရခြင်းကို အလှန်အမင်း နှစ်သက်ကြည်နူး ဝမ်းမြောက်မိပါသည် ဘုရား။

ယခုဘုရားတပည့်တော် ထောက်ခံဆွေးနွေးရန် တာဝန်ကျ၍ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းမူကြမ်း အခန်း ၃၊ အပိုဒ် ၁၇-မှ အခန်း ၂၀-အထိ အပိုဒ်များကို အဓိကထား၍ ထောက်ခံဆွေးနွေးပါမည်ဘုရား။ ရှေးဦးစွာ ထိုအဆို အပိုဒ်များကို မူရင်းအတိုင်း ဖတ်ကြားလျှောက်ထားပါသည် ဘုရား။

အပိုဒ် ၁၈ ( က ) အပိုဒ် ၁၆ ( က ) ( ၁ ) ( ၂ ) ( ၃ ) တို့ပါ ဆရာတော်များသည် သံဃနာယက အဖွဲ့များတွင် တဖွဲ့ဖွဲ့၌သာ ပါဝင်ခွင့်ရှိပါသည်။

( ၁ ) ရပ်ကွက် ကျေးရွာအုပ်စု သံဃနာယကအဖွဲ့ဝင် ဆရာတော်သည် မြို့နယ် သံဃနာယကအဖွဲ့ဝင် ဆရာတော်အဖြစ် ရွေးချယ် တင်မြှောက်ခြင်း

ခံရပါက ရပ်ကွက် ကျေးရွာ အုပ်စု သံဃနာယက အဖွဲ့ဝင်အဖြစ်မှ အလို အလျောက် နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရပါသည်ဘုရား။

(ဂ) မြို့နယ် သံဃနာယက အဖွဲ့ဝင်ဆရာတော်သည် ပြည်နယ် တိုင်း သံဃနာယကအဖွဲ့ဝင် ဆရာတော်အဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံရပါက မြို့နယ် သံဃနာယကအဖွဲ့ဝင် အဖြစ်မှ အလိုအလျောက် နုတ်ထွက်ပြီး ဖြစ်သည်ဟု မှတ်ယူရပါသည် ဘုရား။

အပိုဒ် ၁၉။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်း ပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ တက်ရောက်လာကြသည့် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ်များသည် မိမိတို့အထဲမှ နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင် အဖွဲ့ဝင်များကို ရွေးချယ်တင်မြှောက်ရပါသည်ဘုရား။

အပိုဒ် ၂၀။ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင်များသည် မိမိတို့ အထဲမှ နိုင်ငံတော် သံဃမဟာနာယက အဖွဲ့ဝင်များကို ရွေးချယ်တင်မြှောက် ရပါမည် ဘုရား။

အပိုဒ် ၂၁။ (က) ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သည် ဥက္ကဋ္ဌ ဆရာတော် တပါးကို ရွေးချယ်တင်မြှောက်ရပါမည် ဘုရား။

(ခ) အပိုဒ် ၂၁ (က) ပါ ဥက္ကဋ္ဌ ဆရာတော်သည် သတ်မှတ်ထား သောအရေအတွက်ရှိသည့် ဒုတိယ ဥက္ကဋ္ဌ ဆရာတော်များ၊ အကျိုးတော် ဆောင် ဆရာတော် နှင့် တွဲဖက် အကျိုးတော်ဆောင် ဆရာတော်များ၏ စာရင်း တစောင်ကို ပြုလုပ်၍ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်ပြ အတည်ပြုချက် ယူရပါသည် ဘုရား။

(ဂ) အပိုဒ် (၂၁) (က) နှင့် (ခ) တို့ပါ ဥက္ကဋ္ဌ၊ ဒုတိယ ဥက္ကဋ္ဌ များ၊ အကျိုးတော်ဆောင်နှင့် တွဲဖက် အကျိုးဆောင် ဆရာတော်များသည် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့နှင့် နိုင်ငံတော် သံဃမဟာနာယက အဖွဲ့၏ ဥက္ကဋ္ဌများ၊ အကျိုးဆောင်၊ တွဲဖက်အကျိုးဆောင် ဆရာတော်များလည်း ဖြစ် ပါသည် ဘုရား။

အပိုဒ် ၁ဂ (က) အရ ဆရာတော် တပါးသည် နာယက နှစ်နေရာ မယူနိုင်ခြင်း၊ (ခ) နှင့် (ဂ) တွင် တဆင့်မြင့် နာယက အဖြစ် ရယူပြီးသော် အောက်နာယက အဖြစ် မရှိခြင်းဖြင့် သံဃာတော်များ အဖွဲ့အစည်းတိုင်းတွင် တဦးတည်း အုပ်ချုပ်ခြင်း မဟုတ်ပဲ အဆင့်ဆင့် အုပ်ချုပ် ထိမ်းသိမ်းရာရောက် သောကြောင့် ပုဂ္ဂိုလ် တဦးတည်းက အုပ်ချုပ်မှု အာဏာအားလုံးကို သိမ်း ကျုံး ယူငင် ဆုပ်ကိုင်ထားရှိပြီး ချယ်လှယ် လွှမ်းမိုးမည်ကို တားဆည်းထားခြင်း ကြောင့်လည်းကောင်း။

အပိုဒ် ၁၉ အရ ဂိုဏ်းပေါင်းစုံမှ သံဃာတော်များကိုယ်စား၊ သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ်များထဲမှ တနိုင်ငံလုံးရှိ သံဃာတော်များ၏ သံဃာ့ကိစ္စ တာဝန်ကို ဆောင်ရွက်နိုင်ရန် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ရွေးချယ်ထားသောကြောင့် လည်းကောင်း။

အပိုဒ် ၂၀ - အရ မိမိတို့ ဗဟိုသံဃာ့ဝန်ဆောင် များထဲမှ သင့်တင့်လျောက်ပတ်၍ အုပ်ချုပ်မှု တာဝန်ကို ဆောင်ရွက်နိုင်သော ဆရာတော်များကို ရွေးချယ်၍ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်အဖြစ်ဖြင့် တင်မြှောက်သောကြောင့် လည်းကောင်း။

၂၁ (က) အရ ဦးဆောင်ဦးစီး ပြုလုပ်ရန် မိမိတို့အထဲမှ ဥက္ကဋ္ဌတင်ခြင်း၊ (ခ) အရ ဥက္ကဋ္ဌဆရာတော်က အရေးတကြီး တိုင်ပင်ညှိနှိုင်း ဆွေးနွေးရာဘွင် မိမိနှင့် တွဲဖက်နိုင်မည့် ဆရာတော်များကို စာရင်းပြု၍ တင်ပြသောကြောင့် လည်းကောင်း။ (ဂ) အရ အပိုဒ် (၂၁) (က) နှင့် (ခ) တို့ပါ ဥက္ကဋ္ဌများ၊ အကျိုးဆောင်များသည် နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၏ ဥက္ကဋ္ဌအကျိုးဆောင်များ ဖြစ်၍ ဗဟိုနာယက မဖြစ်နိုင်ခြင်းကြောင့် လည်းကောင်း။ သံဃာ့ဝန်ဆောင် ဥက္ကဋ္ဌဆရာတော်ကြီး နှင့် အကျိုးတော်ဆောင် ဆရာတော်၊ ဝန်ဆောင် ဆရာတော်များ တင်သွင်းသော သံဃာ့ဖွဲ့စည်းပုံ မူကြမ်းသည် အထက်ဖော်ပြပါ အကြောင်းများတို့ကြောင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို အောင်အောင်မြင်မြင် ဦးဆောင် ဆောင်ရွက်နိုင်လိမ့်မည်ဟု မျှော်လင့်ပါကြောင်း။ သို့ဖြစ်ပါ၍ အထက်ပါ စကားရပ်များကို တပည့်တော် အနေနဲ့ လေးလေးနက်နက် ထောက်ခံအပ်ပါသည် ဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော်က ဆက်လက်၍ ကယားပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရား ဟု ပင့်ခေါ်တော်မူရာ—

ဦးဝါသဝ (ကယားပြည်နယ်) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော် မူသည်။ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

သုပ္ပဋိပန္နတာ စသော ဂုဏ်တော်ကိုးပါးကို စိတ်မှာ မှန်းထား၍ ဆရာတော် သံဃာတော် အရှင်မြတ်တို့အား ရိုသေမြတ်နိုး ရှိခိုးလျက် ယခုလျှောက်ထားသူမှာ ကယားပြည်နယ်၊ လွိုင်ကော် အခြေခံဒေသ ဘော်လခဲမြို့နယ်

သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် နန်းဖဲ ပရဟိတကျောင်းမှ တပည့်တော် ဝါသဝ ဖြစ်ပါသည် ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို အဓိကဦးတည်ချက်ဖြင့် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ အမြို့မြို့အနယ်နယ်မှ ကြွရောက်တော်မူလာကြသော ဂဏာဓိပတိ၊ ဂဏပါမောက္ခ ဖြစ်တော်မူကြကုန်သော အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီးများ၊ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်များ၊ သံဃာ့သမ္မုတိရ ကိုယ်စားလှယ် ဆရာတော်များကို ကြုံတောင့်ကြုံခဲ ယခုလို မျက်ဝါးထင်ထင် ဖူးတွေ့ရခြင်းကို ယနေ့ပင် နိဗ္ဗာန်အမြတ် ပရမတ်ချမ်းသာကို ရတော့မလောက် တပည့်တော် ဝမ်းမြောက်မိပါသည်ဘုရား။

ဘုရားတပည့်တော်တို့ ကယားပြည်နယ် သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် အနေဖြင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း မူကြမ်းကို ထောက်ခံဆွေးနွေးခွင့် ရသဖြင့်လည်း ကယားပြည်နယ် သံဃာထုအနေဖြင့် အလွန်အကျူး ဝမ်းမြောက်မိပါသည် ဘုရား။

ယခု ဘုရားတပည့်တော်က သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းထဲမှ စာပိုဒ်အချို့ကို ထုတ်နုတ်တင်ပြပြီး ထောက်ခံဆွေးနွေးသွားမည် ဖြစ်ပါသည် ဘုရား။

စာမျက်နှာ ၁၀၊ စာပိုဒ် ၂၂၊ အပိုဒ် ၂၁ (က) (ခ) နှင့် (ဂ) တို့၌ ပါရှိသော ဥက္ကဋ္ဌ၊ ဒုတိယ ဥက္ကဋ္ဌ၊ အကျိုးတော်ဆောင် နှင့် တွဲဘက်အကျိုးတော်ဆောင် ဆရာတော်များတို့၏ အရေအတွက်ကို ချန်လှပ်၍ ကျန် သတ်မှတ်ထားသော နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်များကို ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က ရွေးချယ်ရမည်။

အပိုဒ် ၂၃။ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့သည် အခါအားလျော်စွာ ပေါ်ပေါက်လာသည့် သာသနာတော် တရပ်လုံးနှင့် ဆိုင်သော ကိစ္စရပ်များကို ဆောင်ရွက်ရန်အတွက်ဖြင့် လိုအပ်သော အဖွဲ့အစည်းများ ဖွဲ့စည်းပေးနိုင်သည်။

အပိုဒ် ၂၄။ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့သည် နိုင်ငံတော်ဩဝါဒါစရိယ အဖွဲ့ကို ဖွဲ့စည်းနိုင်ရန်အတွက် သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ်များထဲမှသော် လည်းကောင်း ပြင်ပ ဆရာတော်များထဲမှသော်

လည်းကောင်း သင့်လျော်သော ထေရ်ကြီး၊ ဝါကြီး ဆရာတော်ကြီးများ စာရင်းတစောင် ပြုစု၍ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်သွင်းပြီး အတည်ပြုချက် ရယူဖွဲ့စည်းနိုင်သည်ဟူသော မူကြမ်း ၃ - ပိုဒ်ကို အမိက ထား၍ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ထောက်ခံဆွေးနွေးမည် ဖြစ်ပါသည်ဘုရား။

ရှေးဦးစွာ အပိုဒ် ၂၂ - ကို ထောက်ခံဆွေးနွေးလိုသည်မှာ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့တွင် အမှုဆောင်များ မရှိပဲ ဥက္ကဋ္ဌအကျိုးဆောင်မှု ဖြင့် ထိုထို သာသနာရေးကိစ္စများကို ဆောင်ရွက် ပြီးစီးနိုင်မည် မဟုတ်သော ကြောင့် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်များထဲမှ အမှုဆောင် ဆရာတော် များ ရွေးချယ်ရမည်ဟု သတ်မှတ်ထားခြင်းသည် လွန်စွာ လျော်ကန်သင့်မြတ် လှပါသည် ဘုရား။

ထို့ပြင် အပိုဒ် ၂၃ - အရ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွား ရေး စသော သာသနာ့ ကိစ္စရပ်များတွင် သံဃာ့မဟာနာယက တဖွဲ့တည်း ဖြင့် ဆောင်ရွက်ပြီးစီးရန် ခဲယဉ်းမည် ဖြစ်သဖြင့် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ထဲမှ သင့်လျော်ရာ အရေအတွက်ဖြင့် လိုအပ်သော အဖွဲ့များ ဖွဲ့စည်းခွင့်ပြုခြင်း သည်လည်း လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရာ၌ လွယ်ကူချောမောစေမည် ဖြစ်ပါသည် ဘုရား။

ထို့နောက် အပိုဒ် ၂၄ - အရ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ကို သံဃာ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များထဲမှ ဖြစ်စေ၊ ပြင်ပ ဆရာ တော်များထဲမှ ဖြစ်စေ၊ ထေရ်ဝါကြီးများ၊ ဆရာတော်ကြီးများ ဩဝါဒါ စရိယအဖွဲ့ကို ရွေးချယ်ဖွဲ့စည်းခြင်းသည် လွန်စွာကောင်းမွန်သည့် အချက်ဖြစ် ပါသည်ဘုရား၊ ယခုဖွဲ့စည်းမည့် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်ကို လေ့လာ ကြည့်လျှင် သမ္မုတိရသံဃာ့ကိုယ်စားလှယ် ဆရာတော်များဖြင့်သာ ဖွဲ့စည်း ထားသည်ကို တွေ့နိုင်ပါသည်ဘုရား။ သို့ရာတွင် ဩဝါဒါစရိယ အဖွဲ့၌မူ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် မဟုတ်သည့် ပြင်ပမှ ဆရာတော်ကြီးများကို ထည့်သွင်း ထားရှိပါသည်ဘုရား၊ သက်တော်ကြီး ဝါတော်ကြီး မဟာထေရ် ကြီးများသည် ဤသံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်နိုင်ကြမည် မဟုတ် ပါဘုရား။ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်နိုင်မည် မဟုတ်သော်လည်း အဆိုပါ ဆရာတော်များအား ဂုဏ်ပြုပူဇော်သော အနေဖြင့် နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ထဲ၌ ထည့်သွင်း ပူဇော်ခြင်း ဖြစ်ပါသည် ဘုရား။

သက်တော်ရှည် ဆရာတော်ကြီးများ အနေဖြင့် ရန်ကုန်မြို့သို့ ကိုယ်တိုင် ကြွရောက်ရန်မလိုပဲ မိမိကျောင်း၌ သီတင်းသုံးလျက်ပင် သံဃနာယက အဖွဲ့ များသို့ လိုအပ်သလို စာဖြင့် ဩဝါဒပေးနိုင်ပါသည် ဘုရား။

ဤအချက် တခုတည်းဖြင့်ပင် ဤ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း တခုလုံးကို ကျေနပ် လက်ခံမိပါသည် ဘုရား။

အထက်ဖော်ပြပါ အကြောင်းများကြောင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း မူကြမ်း တခုလုံးသည် "ပရိယတ္တိ သာသနာတော်၊ ပဋိပတ္တိ သာသနာတော်၊ ပဋိဝေဓ သာသနာတော်" ဟု ဆိုအပ်သော သဒ္ဓမ္မသုံးဖြာ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွား ရေးကို ဦးတည်ဆက်နွယ်လျက် ရှိပါကြောင်း အလေး အနက် ထောက်ခံ ဆွေးနွေးအပ်ပါသည် ထေရ၊ နဝ၊ မဇ္ဈိမ ဆရာတော် သံဃာတော် အရှင် မြတ်တို့ ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ကရင်ပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား ဟု လျှောက်ထားပင့်ခေါ်တော်မူရာ–

ဦးကဝိန္ဒ (ကရင်ပြည်နယ်) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေး တော်မူသည်။ ကြွရောက်တော်မူလာကြကုန်သော ဆရာတော် သံဃာတော် အပေါင်းတို့၏ ဆရာတော်ကြီးများ၏ သီလ သမာဓိ ပညာဂုဏ်တို့ကို အာရုံပြုလျက် တပည့်တော် ရှိခိုး လျှောက်ထားပါ၏ ဘုရား။

တပည့်တော်သည် ကရင်ပြည်နယ် ဘားအံ အခြေခံဒေသ ဘားအံမြို့နယ် အတွင်းရှိ ထုံးအိုင်ကျေးရွာ ထုံးအိုင်အလယ်ကျောင်းမှ သံဃသမ္မုတိရ ကဝိန္ဒ ဖြစ်ပါသည်ဘုရား။ ဘုရားတပည့်တော်သည် ကျေးဇူးရှင် ဆရာတော်ဘုရား များ၏ နေထိုင်သီတင်းသုံးရာဌာနများသို့ ကိုယ်တိုင်လာရောက် မဖူးမျှော်နိုင် သော်လည်း ရန်ကုန် ကမ္ဘာအေး လိုဏ်ဂူတော်ကြီး အတွင်း သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေး ပွဲကြီးသို့ ကြွရောက်တော်မူလာကြသော အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီးများ၊ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဆရာ တော်ကြီးများ နှင့် သံဃာ့ဝန်ဆောင် ဥက္ကဋ္ဌ အကျိုးတော်ဆောင် အဖွဲ့ဝင် ဆရာတော်ကြီးတို့ကို အသီးသီးရှိခိုးခြင်းကို ဤနေရာ ဤ ပြည်နယ် သံဃာတော် များ၏ ကိုယ်စား အားရဝမ်းမြောက်စွာဖြင့် ရှိခိုးလျှောက်ထားပါသည် အရှင် ဘုရား။

ယခုဘုရားတပည့်တော်တို့ ကရင်ပြည်နယ်မှ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း ဥပဒေကြမ်းကို ထောက်ခံဆွေးနွေးရန် အခွင့်ရခြင်းကိုလည်း ကရင်ပြည်နယ် သံဃာ့ထုကိုယ်စား တပည့်တော် ဝမ်းမြောက်ကြောင်းကို လျှောက်ထားပါသည် ဘုရား။

သံဃာ့အစည်းအဝေးပွဲ အခြေခံ စည်းမျဉ်းဥပဒေစာအုပ်မှ ထောက်ခံစရာ၊ ကျေနပ်စရာ၊ အားရစရာ၊ နှစ်သက်စရာ ကောင်းလှသော အပိုဒ်များကိုသာလျှင် တပည့်တော် ရွေးချယ်ပြီးတော့ လျှောက်ထားပါရစေ ဘုရား။

အပိုဒ် ၂၅-ပြည်နယ်၊ တိုင်း အသီးသီးတွင် ပြည်နယ်၊ တိုင်း သံဃာ့ဝန်ဆောင် ဆရာတော်များကို မြို့နယ် သံဃာ့ဝန်ဆောင် ဆရာတော်များက လုပ်ထုံးလုပ်နည်းနှင့် အညီ မိမိတို့အထဲမှာ ရွေးချယ်ရပါမည် ဘုရား။

အပိုဒ် ၂၆-မြို့နယ် သံဃာ့ ဝန်ဆောင် ဆရာတော်များကို ရပ်ကွက်၊ ကျေးရွာအုပ်စု တခုအတွင်း၌ရှိသော ကျောင်း၊ ကျောင်းတိုက် သံဃာတော် အရေအတွက်ကို မူတည်၍ သံဃာတော်များ၏ ဆန္ဒဖြင့် သတ်မှတ်ရွေးချယ်ရပါမည် ဘုရား။

အပိုဒ် ၂၇-ရပ်ကွက်၊ ကျေးရွာ သံဃာအုပ်စု အတွင်း၌—

(က) ကျောင်းတကျောင်းသာရှိ၍ ကျောင်းထိုင် ဆရာတော် (၁) ပါးသာရှိလျှင် ယင်း ဆရာတော်သည် အလို အလျောက် ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ့နာယကဖြစ်သည့် အပြင် မြို့နယ် သံဃာ့ဝန်ဆောင်လည်း ဖြစ်ပါသည်။

ဤအပိုဒ်များသည် အလွန်တရာနှစ်သက်စရာ အားရကျေနပ် ထောက်ခံဘွယ် ကောင်းလှသော အချက်များဖြစ်ပါသည် ဘုရား။ ထို့နောက်—

(ခ) ကျောင်း ၂-ကျောင်း၊ ၃-ကျောင်းရှိ ကျောင်းထိုင်ဆရာတော် ၂-ပါး၊ ၃-ပါး ကျောင်းရှိ ကျောင်းထိုင် ဆရာတော် ၂-ပါး၊ ၃-ပါးသာလျှင် ရှိသည် ဖြစ်သော် ယင်း ဆရာတော်သည် ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ့ နာယကများဖြစ်၍ ၎င်းတို့အထဲမှ သိက္ခာကြီး၊ ဝါကြီးသော ပုဂ္ဂိုလ်သည် မြို့နယ် သံဃာ့ဝန်ဆောင် ဖြစ်သည်။

(ဂ) ၄-ကျောင်းနှင့် ၄-ကျောင်းအထက် ရှိလျှင် ရပ်ကွက် ကျေးရွာအုပ်စု သံဃာ့နာယကအဖွဲ့ လုပ်ထုံး လုပ်နည်းနှင့် အညီ ဖွဲ့စည်းရမည်။

အပိုဒ် ၂၀ - ပြည်နယ် တိုင်း သံဃာ့နာယက အဖွဲ့ကို လုပ်ထုံးလုပ်နည်းနှင့် အညီ ပြည်နယ် တိုင်း သံဃာ့ဝန်ဆောင် ဆရာတော်များဖြင့် ဖွဲ့စည်းရမည်။ အပိုဒ် ၂၉ - မြို့နယ် သံဃာ့နာယက အဖွဲ့ လုပ်ထုံး လုပ်နည်းနှင့် အညီ မြို့နယ် သံဃာ့ဝန်ဆောင် ဆရာတော်များဖြင့် ဖွဲ့စည်းရမည်။

အပိုဒ် ၂၅ - အရ ပြည်နယ် တိုင်း သံဃာ့ဝန်ဆောင်များကို ရွေးချယ်ရာတွင် ပြည်နယ် တိုင်း သံဃာ့ဝန်ဆောင် သံဃာ့ကိစ္စကို စွမ်းစွမ်းတမံ ဆောင်ရွက်နိုင်သော မြို့နယ် သံဃာ့ဝန်ဆောင်များထဲမှ ရွေးချယ် တင်မြှောက်ရမည်။

အပိုဒ် ၂၆ - မြို့နယ် သံဃာ့ဝန်ဆောင် များရာ၌ ကျောင်းတိုက် အရေအတွက် အချိုးကျအားဖြင့် သံဃာ့ဆန္ဒဖြင့် ရွေးချယ်တင်မြှောက်ရမည်။

အပိုဒ် ၂၇ (က) အရ ကျေးရွာအုပ်စု တခု၌ ကျောင်း တကျောင်းသာ ရှိ၍ ဆရာတော်တပါး ရှိရာ၌ ရပ်ကွက် ကျေးရွာအုပ်စု သံဃာ့နာယက ဖြစ်ရန် အခွင့်အရေး ပေးထားခြင်း ဖြစ်သည်။

အပိုဒ်ခွဲ (ခ) အရ သိက္ခာကြီး၊ ဝါကြီးသူကို အလေးအမြတ်ပြု၍ ဦးစားပေး ရွေးချယ်ထားခြင်း ပြုသည်။

ဤကဲ့သို့ ဥပဒေကြမ်း၌ နှစ်သက်စရာ၊ အားရစရာ သံဃာတော် အရှင်မြတ်တို့ ကြေနပ်စရာ ဖြစ်၍ သာသနာတော်ကြီး တခုလုံး အစဉ်သဖြင့် ဤဥပဒေ အပိုဒ်ကို လိုက်နာခြင်းအားဖြင့် သာသနာသုံးရပ် တည်တံ့ခိုင်မြဲရေးကို အလွန်တရာပင် အားပေးသော ဥပဒေဖြစ်ကြောင်းကို ဤနေရာက တပည့်တော် လျှောက်ထားပါသည်။

အပိုဒ်ခွဲ (ဂ) အရ ရပ်ကွက် ကျေးရွာအုပ်စု အတွင်းမှ သံဃာတော်များကို စုစည်း ညီညွတ် အုပ်ချုပ်သည့် စနစ်ကို ဖော်ပြထားခြင်း စသည်ဖြင့် အဖက်ဖက်မှ ကောင်းသော အချက်များကို လေ့လာ တွေ့ရှိ ရပါသည်ဘုရား။

ဤသံဃာ့ဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းနှင့်အညီ မိမိဖွဲ့စည်း တည်ထောင်ထားသော သံဃာ့အဖွဲ့အစည်းကြီးသည် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးကို အောင်မြင်စွာ ဆောင်ရွက်တော် မူနိုင်လိမ့်မည်ဖြစ်ကြောင်း ယခုတင်သွင်းသော သံဃာ့ဖွဲ့စည်းပုံ ဥပဒေစည်းမျဉ်းကြမ်းကို တပည့်တော်တို့ ကရင်ပြည်နယ် သံဃာထုအနေဖြင့် လှိုက်လှိုက်လှဲလှဲ ထောက်ခံ ဆွေးနွေးပါကြောင်းကို သံဃာ၏ ကိုယ်စား တပည့်တော် ထုံးအိုင်ရွာ အလယ်ကျောင်း သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ကဝိန္ဒာဘိဝံသက ရိုသေလေးမြတ်စွာ လျှောက်ထား အပ်ပါသည်ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ချင်းပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရားဟု ပင့်ခေါ်ရာ—

ဦးစိန္တိတ ( ချင်းပြည်နယ် ) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော်မူသည်။ ဘုရား တပည့်တော်သည် ချင်းပြည်နယ် မင်းတပ် အခြေခံဒေသ သာသနာပြု ဗဟိုကျောင်းမှ စိန္တိတ ဖြစ်ပါသည် ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ဆန္ဒပြင်းပြလွန်ကဲသော လုံ့လဝီရိယဖြင့် ကြွရောက်တော် မူလာကြကုန်သော သာသနမာမက သာသနဓာဇနည် ဂုဏ်ရည်တင့်လျှမ်း ဦးစိုက်ပန်း ဖြစ်တော်မူကြသည့် ဥက္ကဋ္ဌဆရာတော် အမှူးရှိသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အခန်း ( ၃ ) စာမျက်နှာ ( ၂၀ )နှင့် ( ၂၁ ) ၌ ပါသောအပိုဒ် ( ၃၀ )မှ ( ၃၃ ) အထိ ဖော်ပြထားသည့် စကားရပ်များကို အကျဉ်းချုပ် လိုက်လျှင် ရပ်ကွက် ကျေးရွာ သံဃာ့ဝန်ဆောင် ဆရာတော်မှ ရပ်ကွက် ကျေးရွာ အုပ်စု သံဃာ့နာယက အဖွဲ့များကို လုပ်ထုံးလုပ်နည်းနှင့် အညီ ဖွဲ့စည်းရမည်။ လုပ်ထုံးလုပ်နည်းနှင့် အညီ ဖွဲ့စည်းမရခဲ့သော် အထက် အဆင့်မြင့် သံဃနာယက အဖွဲ့က သက်ဆိုင်ရာ သံဃာ့နာယက အဖွဲ့များကို ယာယီ ဖွဲ့စည်းပေးရမည်ဟု ဆိုထားပါသည်ဘုရား။

ထိုသို့အတွက် သံဃနာယက အဖွဲ့က ဖွဲ့စည်းပေးသော သံဃနာယကအဖွဲ့၏ သက်တမ်းကို တနှစ်သာ သတ်မှတ်ထားခြင်းမှာ အလွန်သင့်မြတ်ပါသည် ဘုရား။ သို့မဟုတ်ပါက သံဃဆန္ဒဖြင့် ရွေးချယ်မှု ဖြစ်ပေါ် မလာတော့ပဲ ထိုပုဂ္ဂိုလ်များက မိမိတို့ ဆက်လက်အုပ်ချုပ်ခွင့်ရအောင် ကြိုးပမ်း လာနိုင်ပါသည်ဘုရား။ အမှန်စင်စစ် အထက် အဆင့်မြင့် သံဃနာယက အဖွဲ့က ရွေးချယ် ဖွဲ့စည်းပေးသော သံဃနာယက အဖွဲ့ဝင် ဆရာတော်များသည် သံဃဆန္ဒဖြင့် ရွေးချယ် ဖွဲ့စည်းမှုကို မရမနေ ကြိုးပန်းရန် တာဝန်ရှိကြောင်း သိစေရန် အတွက် အပိုဒ် ( ၃၂ ) ကို ထည့်သွင်းခြင်း ဖြစ်ကြောင်း ယူဆပါသည် ဘုရား။

ထိုသို့ သံဃနာယက အဖွဲ့များ ဖွဲ့စည်းထားရမည် ဆိုသော စကားသည် "အနာယကာဝိနဿန္တိ" ဟူသော နီတိစကားအရ—

( က ) အုပ်ချုပ်သူ ( မင်း ) မရှိသော တိုင်းပြည်၊

( ခ ) အကွပ် မရှိသော ကြမ်းတို့သည် ဖရိုဖရဲ ပြိုကွဲ ပျက်စီး

တတ်သကဲ့သို့ နာယက မရှိသော ဌာနဟူသည်လည်း ဖရိုဖရဲပြိုကွဲ ပျက်စီးတတ်လေရကား သာသနာ့ဝန်ထမ်း ရဟန်းတော်များ အနေဖြင့်လည်း ဖရိုဖရဲပြိုကွဲပျက်စီးမှု မရှိစေရန် သံဃနာယက အဖွဲ့များကို ဖွဲ့စည်းထားရန် လိုအပ်ပါသည် ဘုရား။ အဖွဲ့အစည်းမရှိချော ထိုသို့ ဖရိုဖရဲ ပြိုကွဲပျက်စီးတတ်ရုံသာ မဟုတ် အလွန်တရာပင် ခက်ခဲမှုများနှင့် ရင်ဆိုင်တတ်ရပြီး အဖွဲ့အစည်းများရှိခဲ့လျှင်မူ ထိုသို့ကိစ္စဟူသမျှတို့၌ တားမြစ်ပိတ်ပင်မှု ထိန်းသိမ်းစောင့်ရှောက်မှုတို့ကို ပြုလုပ်ကြရာဝယ် ချမ်းချမ်းသာသာ လွယ်ကူစွာဖြင့် ဆောင်ရွက်နိုင်ပါသည် ဘုရား။

ဆောင်ရွက်နိုင်ပုံအရေး သာဓကပေးခါ လျှောက်ထားရပါလျှင် မြတ်စွာဘုရားသခင် သက်တော်ထင်ရှား ရှိစဉ်အခါဝယ် ကိဋ္ဌာဂိရိဇနပုဒ်၊ အဿဇိ ပုနဗ္ဗသုက ရဟန်းတို့သည် သာသနာ့ဝန်ထမ်း ရဟန်းတော်များနှင့် မသင့်လျော်သော အလုပ်များကို ပြုလုပ်နေကြရာ အယုတ်ဆုံး ကုန်ကုန်လျှောက်ထားပါရစေ ဘုရား၊ မာတုဂါမများနှင့် တခနရာဘည်းမှာ အဘူခန တခင်းတည်းမှာ အဘူထိုင် တခွက်ဘည်းမှာ အတူစားသောက်၍သာမက ရဟန်္တာတို့၏ တံခွန်သဖွယ်ဖြစ်သော နှစ်ထပ်သင်္ကန်းကြီးပေါ်မှာပင် ကချေသည်မတို့ကို ကစေလျက် ဆလံအခါခါပေးသည့်အထိ မည်သူကိုမျှ ပမာဏမထား၊ ဖေါက်ပြန်မှုတွေကို ပြုချင်တိုင်း ပြုနေကြပါသည် ဘုရား။ ထိုအဿဇိပုနဗ္ဗသုက ရဟန်းတို့၏ ဖေါက်ပြန်မှု ဖြစ်ကြောင်းကုန်စင်ကို သဒ္ဓါတရားရှိသူဒါယကာ တဦး၏ တောင်းပန်လျှောက်ထားချက်ဖြင့် ရဟန်းတော် တပါးက မြတ်စွာဘုရားသခင်အား အကြောင်းတွေကို လျှောက်ထားသော အခါ အဿဇိနပုနဗ္ဗသုက ရဟန်းတော်များသည် တခြားသော ပုဂ္ဂိုလ်များ၏ တပည့်များမဟုတ်၊ အရှင်သာရိပုတ္တရာ နှင့် အရှင်မဟာ မောဂ္ဂလာန်တို့၏ တပည့်များဖြစ်နေကြောင်းကို မြတ်စွာဘုရား သခင်က ကောင်းကောင်းကြီး သိတော်မူသည့်အတွက် အရှင်သာရိပုတ္တရာ နှင့် အရှင်မဟာ မောဂ္ဂလာန် အရှင်မြတ်ကြီးနှစ်ပါးကို ခေါ်တော်မူ၍ အရှင်မြတ်ကြီး နှစ်ပါးတို့၏ တပည့်များဖြစ်သည့် အဿဇိနပုနဗ္ဗသုက ရဟန်းတို့ကို ဆုံးမရန် စေခိုင်းတော်မူသောအခါ အရှင်သာရိပုတ္တရာ နှင့် အရှင်မဟာမောဂ္ဂလာန်တို့က ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား— အဿဇိနပုနဗ္ဗသုက ရဟန်းများသည် ကြမ်းတမ်းခက်ထန် မျက်မာန် ကြီးထွား ကုန်သည်ဖြစ်၍ ဆုံးမရန် ခက်ခဲ ပါကြောင်း၊ တပည့်တော်များ နှစ်ပါးတည်းသာ ဆုံးမဘားမြစ်ရန်အတွက် သွားဘို့ရန်ခက်ခဲလှပါသည် ဘုရား ဟု လျှောက်ထားကြရာ မြတ်စွာဘုရား သခင်က နောက်လိုက်နောက်ပါ ရဟန်းတော်များ ခေါ်ဆောင်သွားပြီး ဆုံးမဘား

ဖြစ်ရန် စေခိုင်းတော်မူချက်အရ သံဃာ့ အဖွဲ့အစည်း နှင့် သွားရောက်၍ အဿဇိနပုနဗ္ဗသုက ရဟန်းဆိုးတို့ကို ကိဋာဂိရိဇနပုဒ်မှ ပဗ္ဗာဇနီယကံဖြင့် ဆုံးမနှင်ထုတ်နိုင်ခဲ့သည်ကို ဆရာတော်ဘုရားများ သိရှိပြီး ဖြစ်ပါသည် ဘုရား။

ဥက္ကဋ္ဌ ဆရာတော် အမှူးရှိသော သံဃာတော် အရှင်မြတ်တို့ ဘုရား— ပညာအရာ ဧတဒဂ်ရတော်မူပြီးသော လကျ်ာတော်ရံ အရှင် သာရိပုတ္တရာ မထေရ် တန်ခိုးအရာ ဧတဒဂ်ရတော်မူပြီးသော လက်ဝဲတော်ရံ အရှင်မဟာမောဂ္ဂလာန် မထေရ်ကြီးတို့သော်မှ နှစ်ပါးဘည်းအားနှင့် အဿဇိပုနဗ္ဗသုက ရဟန်းဆိုးတို့ကို ဆုံးမနှိပ်ကွပ်ရန်အတွက် အောက်အခဲ ဂျနေတော်မူကြပါသေးလျှင် ယခုခေတ်ကာလ သာမညအနေဖြစ်ပါပေသော ရဟန်းတော်များအတွက် ရဟန်းဆိုး ရဟန်းယုတ်တို့ကို ဆုံးမနှိပ်ကွပ်ရန် အရေးမှာ တွေးဝံ့စရာ မရှိအောင်ပင် ဝန်လေးကြပါလိမ့်မည်ဘုရား။ ဤဖြစ်ရပ်ဝယ် အဖွဲ့အစည်းအသင်းအပင်း မရှိခဲ့သော် ရဟန်းဆိုး ရဟန်းယုတ်တို့အား ဆုံးမနှိပ်ကွပ်ဖို့ရာ အလွန်ခက်ခဲလှပါ၍ စည်းလုံးညီညွတ် ဖွဲ့စည်းထားအပ်ပါသော အသင်းအပင်းရှိခဲ့ပါလျှင် ဆုံးမနှိပ်ကွပ်ဘားမြစ်ချန် အတွက် လွန်စွာလွယ်ကူလှသည့် အချက်ကို ထောက်ထားစာနာသောအားဖြင့် ရှေးခေတ်ကာလ သာသနာ့ဝန်ထမ်း ရဟန်းတို့မှာ သီလသမာဓိ ပညာဂုဏ် ထေရဂုဏ် အစရှိသည်တို့ကို ဦးစားပေးခါ ဆက်ဆံသာခဲ့ပါကုန်သော်လည်း ယခုမျက်မှောက်ခေတ် သာသနာ့ဝန်ထမ်း ရဟန်းတော်အချို့တို့မှာ ငါ့ကျောင်း ငါ့ကန် ငါ့အာရာမ်နေပြီး ငါ့ဒါယကာ ငါ့ဒါယိကာမများကျွေးသည့် ဆွမ်းဘုဉ်းပေးနေကြရာ ဘယ်သူ့ကိုမျှ ဂရုစိုက်စရာလိုအံ့နည်းဟု အဘိမာန ဆောင်လွှားကြ၍သာမက တပါးနှင့်တပါး ဆက်ဆံရာ၌လည်း "လာဘေန လာဘံဇိဂိသတိ" နှင့် အညီ အသွားရှိမှ အပြန်ရှိမည် သူ့လက်၌မှ ကိုယ့်လက်သာမယ် စနစ်ဆိုးတို့ဖြင့် ပေါင်းသင်းဆက်ဆံကာ နေထိုင်ကြသော ရဟန်းဆိုးများကို နှိပ်ကွပ်ရန် အတွက် အဖွဲ့အစည်း အသင်းအပင်း မရှိခဲ့ပါလျှင် မည်သည့်နည်းနှင့်မျှ ဆုံးမနှိပ်ကွပ်ရန် မလွယ်ကူ၍ အဖွဲ့အစည်းရှိမှသာ လွယ်ကူမည်ဖြစ်ပါသောကြောင့် ရပ်ကွက် ကျေးရွာအုပ်စုများ၌ သံဃနာယက အဖွဲ့အစည်းများကို မလွဲမသွေ ဖွဲ့စည်းတိုက်သည်သာ ဖြစ်ပါကြောင်း လျှောက်ထားတင်ပြအပ်ပါသည်ဘုရား။

ဥက္ကဋ္ဌ ဆရာတော်နှင့် သံဃာတော် အရှင်မြတ်တို့ ဘုရား— အဖွဲ့အစည်း အသင်းအပင်းရှိခဲ့လျှင် ဆုံးမနှိပ်ကွပ်ရာ၌သာ လွယ်ကူမှု၍သည် မဟုတ်သေးပါဘုရား။ ဘေးရန်အန္တရာယ်နှင့် ကြုံကြိုက်လာသောအခါ၌လည်း ရန်သူအပေါင်းတို့၏ အနှောက်အယှက်မှ ကာကွယ်ဘန့်တားနိုင်မှု ဘေးအန္တရာယ်မှ အလွယ်တကူ လွတ်ကင်းနိုင်မှုများ ရှိသည်ကို ဝဋ္ဋကဇာတ် ဝဋ္ဋကီသူဏခဇာတ်တို့က

အထင်အရှား သက်သေပြနေပါသောကြောင့် ကျရောက်လာမည့် အနှောက် အယှက်တို့ကို ကာကွယ်ဟန့်တားနိုင်မှု တွေ့ကြုံဆဲ ဘေးအန္တရာယ်တို့မှ အလွယ် တကူ လွတ်ကင်းနိုင်မှုတို့ကို ရှေ့ရှု ထောက်ထားသောအားဖြင့် လည်းကောင်း ကမ္ဘာတဝန်းလုံးအတွင်း နိုင်ငံအသီးသီးရှိဌာနပေါင်းစုံဟူသမျှတို့၌ သူ့ဌာနနှင့် သူ့အဖွဲ့ သူ့အလှည့်နှင့် သူ့အသင်း ကျောချင်းကပ် ရင်ချင်းအပ်ကာ ဆောင် ရွက်နေပါသောကြောင့် အစစအရာရာ တိုးတက်ကြီးပွားလာမှုတွေ ဖြစ်ပေါ် နေသော အခြေကို ဝေဖန်သုံးသပ် သတိချပ်သောအားဖြင့် လည်းကောင်း ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ့နာယက အဖွဲ့အစည်းများကို စင်စစ် ဧကန် ဖွဲ့စည်းရန် သင့်လှပါသည် ဘုရား။

ဆရာတော် သံဃာတော်အရှင်မြတ်တို့ဘုရား။ လောက ဝေါဟာရ အနေ ဖြင့် အစဉ်အလာတရပ် သတ်မှတ်ပိုင်းခြား ခေါ်ဝေါ်သုံးစွဲနေပုံများမှာ (က) ကျေးရွာ၊ ရပ်ကွက်များ အပေါင်းအစုကို မြို့နယ်၊ (ခ)မြို့နယ်အဖွဲ့အစည်းကို အခြေခံဒေသ (ဂ) အခြေခံဒေသများ အစုအရုံးကို တိုင်းနှင့် ပြည်နယ်၊ (ဃ) တိုင်းနှင့် ပြည်နယ်အားလုံးစုရုံးထားသည်ကို နိုင်ငံတော်ဟု သတ်မှတ် ချက်ထားလေရာ အခြေခံဖြစ်သော ရပ်ကွက်၊ ကျေးရွာအုပ်စုရှိ ရဟန်းတော် များကို သံဃာ့နာယကအဖွဲ့က ခမာဇာဂရိယ အစရှိသော နာယကဂုဏ်များ အပေါ်တွင် မေတ္တာတရား တည်းဟူသော ရေအေး ရေစင်ဖြင့် ပက်ဖြန်းကာ ထိန်းသိမ်းစောင့်ရှောက် ကွပ်ကဲသွားမည်ဆိုပါလျှင်အရင်းစစ်တော့အမြစ်မြေက ဆိုသည့်အတိုင်း တနိုင်ငံလုံးရှိ ရပ်ကွက်၊ ကျေးရွာရှိ သာသနာတော် သန့်ရှင်း လေပါမူ မြို့နယ်မှ အစ တိုင်း နှင့် ပြည်နယ်ပါမကျန် နိုင်ငံတော်တဝှမ်းလုံး အတွင်း သာသနာတော် သန့်ရှင်းပြီး ဖြစ်နေရုံသာမက တိုးတက်ဖွံ့ဖြိုး ဆထက်တိုးကာ တည်ရှိမည် ဧကန်ဖြစ်ပါသောကြောင့် ရပ်ကွက်၊ ကျေးရွာမှ စ၍ သံဃနာယက အဖွဲ့အသီးသီးကို လုပ်ထုံး လုပ်နည်း နှင့် အညီ မုချမသွေ ဖွဲ့စည်းသင့်ပါကြောင်း နိဂုံးချုပ်ကာ ဆွေးနွေး ထောက်ခံအပ်ပါသည် ဆရာ တော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ထို့နောက်-

**အခမ်းအနားမှူးဆရာတော်က** ဆက်လက်၍ စစ်ကိုင်းတိုင်းမှ ကိုယ်စား လှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွဘော်မူပါဘုရားဟု ပင့်ခေါ် တော်မူရာ—

ဦးမင်္ဂလ (စစ်ကိုင်းတိုင်း) က အောက်ပါအတိုင်း ထောက်ခံဆွေးနွေး တော်မူသည်။

သာသနာတော်သန့်ရှင်း တည်တံ့ပြန့်ပွားရေးအတွက် ရန်ကုန်မြို့ကမ္ဘာအေး ကုန်းမြေ ဤမဟာပါသာဏ လိုဏ်ဂူတော်ကြီးအတွင်း၌ ကျင်းပပြုလုပ်သော



မန္တလေးတိုင်း မန္တလေးအရှေ့တောင်မြို့နယ်မှ သံဃာ့ကိုယ်စားလှယ်
ဦးဥက္ကံသာဘိဝံသ ထောက်ခံဆွေးနွေးစဉ်

ဂိုဏ်းပေါင်းစုံ ဤသံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်စည်းဝေးလျက်ရှိကြ ပါသော အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာ တော်များ၊ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်များ၊ အစည်းအဝေး သဘာပတိ ဆရာတော်နှင့် တကွ သံဃာ့ဝန်ဆောင် ဆရာတော် သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် အရှင်သူမြတ်တို့ဘုရား။ ဘုရား တပည့်တော်သည် စစ်ကိုင်းတိုင်း ရွှေဘိုမြို့ မဟာဗောဓိကျောင်းမှ မဏ္ဍလဖြစ်ပါသည် ဘုရား။ သာသနာတော် သန့်ရှင်းရေး၊ တည်တံ့ရေး၊ ပြန့်ပွားရေးအတွက် မရှိလျှင် မဖြစ် အမှန်တကယ်ရှိအပ်လိုအပ်သော အချက် ၃-ချက်ကို သံဃာ့ဝန်ဆောင် ဆရာတော်များက အစည်းအဝေးပွဲကြီးသို့ အသီးသီး တင်သွင်းလျှောက်ထား အပ်ပြီး ဖြစ်ပါသည် ဘုရား။

ယင်းအချက် ၃-ချက်တွင် ပဌမဆုံး အချက်ဖြစ်သည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းရှိ ထေရဝါဒ သာသနာဝင် ဂိုဏ်း အသီးသီး နှင့် ကချင်၊ ကယား၊ ကရင်၊ ချင်းပြည်နယ် ၄-ခုမှ သံဃာ့ကိုယ် စားလှယ်ဆရာတော်များက သတ်မှတ်ထားသော အချိန်အတွင်းမှာ အချိန် ရသလောက် သဘောတူညီကြောင်း ထောက်ခံဆွေးနွေးလျှောက်ထား သွား ကြပြီးဖြစ်ပါသည် ဘုရား။ ဘုရားတပည့်တော်များ၏ စစ်ကိုင်းတိုင်းမှ သမ္မု တိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် ၁၃၀-ကျော်တို့၏ ကိုယ်စား ဘုရား တပည့်တော် ရွှေဘိုအခြေခံဒေသ၊ ရွှေဘိုမြို့ မဟာဗောဓိ ကျောင်းတိုက် မဏ္ဍလက သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၏ ထောက်ခံစဉ်အားဖြင့် ရောက်ရှိလာသော အခန်း ၄-ပါ စာပိုဒ်များဖြင့် ဖော်ပြအပ်သော အခြေခံ စည်းမျဉ်းများကို ထောက်ခံဆွေးနွေး လျှောက်ထားလိုပါသည် ဘုရား။

သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အခန်း ၄-၌ ပါဝင်သော အပိုဒ် ၃၄-မှ ၄၃-အထိ စာပိုဒ် ၁၀-ပိုဒ်တို့ဖြင့် ဖော်ပြအပ်သော လိုရင်းချုပ် အခြေခံစည်းမျဉ်း၏ အနှစ်သာရများမှာ (၁) သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အခန်း ၁-(စ) နှင့် အခန်း ၃ ၌ ဖော်ပြခဲ့သော ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီး သက်တမ်း (၂) အခန်း ၃-၌ ဖော်ပြအပ်ခဲ့ပြီး အတိုင်း ဖွဲ့စည်းထားသော သံဃာ့အဖွဲ့အစည်းကြီးများတွင် သက်တမ်းသတ် မှတ်ထိုက်သော သံဃာ့အဖွဲ့အစည်းများ၏ သက်တမ်းကို သတ်မှတ်လိုက်ခြင်း နှင့် (၃) သက်တမ်း မသတ်မှတ်ထိုက်သော သံဃာ့အဖွဲ့အစည်း၏ သက်တမ်း ကို မသတ်မှတ်ခြင်းတို့ပင် ဖြစ်ပါသည် ဘုရား။ ရဟန်းတို့ အကြိမ်များစွာ စည်းဝေးခြင်းပြုနေကြသမျှ ကိုယ်စိတ်ညီညာ စည်းဝေးကာ စည်းဝေးရာမှ

ညီညွတ်စွာ ပြန်ကြပြီးလျှင် သံဃာတို့ပြုဘွယ် သာသနာရေးကိစ္စ အသွယ်သွယ်တို့ကို တကယ်ညီညွတ်စွာပြုနေကြသမျှ သင်ချစ်သားတို့မှာ ကြီးပွားမှုသာ ဖြစ်နိုင်သည်၊ ဆုတ်ယုတ်ပျက်စီးမှု မဖြစ်နိုင်ဟု ရှင်တော်ဘုရား မိန့်ကြားအပ်ခဲ့သည်နှင့် အညီ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ၅-နှစ်တကြိမ် ပြုလုပ်နိုင်ရန် ယင်းအစည်းအဝေးပွဲကြီး၏ သက်တမ်းကို ၅-နှစ်ဟု သတ်မှတ်ထားခြင်းဖြင့် ၅-နှစ်မှာ တကြိမ် ဂိုဏ်းပေါင်းစုံ သံဃာတော်များ မုချစည်းဝေးကြရတော့မည်ဖြစ်သောကြောင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် တဝန်းလုံးရှိ ထေရဝါဒ သာသနာဝင် ရဟန်းတော်များ အချင်းချင်း ၅-နှစ်တကြိမ် တွေ့ကြုံဆုံတွေ့ စည်းဝေးကြရခြင်းဖြင့် သံဃာ အချင်းချင်း ပိုမိုရင်းနှီးလျက် ညီညွတ်မှု ပိုမိုရရှိနိုင်မြဲခြင်း၊ သာသနာတော် ပိုမိုသန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် ကောင်းမွန်သော အကြံသစ် ဉာဏ်သစ်တို့ကို ပေါင်းစုကြကာ သာသနာ့ဝန်ထမ်း ရှင်ရဟန်းတို့ လိုက်နာဆောင်ရွက်နိုင်သော ခေတ်ကာလအားလျော်သည့် စည်းကမ်း နည်းလမ်းများကို ထုတ်ဖော်သတ်မှတ် ပြဋ္ဌာန်းလိုက်နာ ဆောင်ရွက်ခြင်းဖြင့် လဆန်းရက်ပိုင်း လပိုင်းပမာ သာသနာတော်ကြီး ပို၍ ကြည်လင်ဂုဏ်အင် ပြည့်ဝနိုင်သောကြောင့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး၏ သက်တမ်းကို မလှမ်းလွန်း၊ မနှမ်းလွန်း ရှေ့အကြိမ် နောက်အကြိမ် မဝေးလွန်း မနီးလွန်း ၅-နှစ် သတ်မှတ်လိုက်ခြင်းသည် လွန်စွာ သင့်လျော် လှပါသည် ဘုရား။ သံဃာ့အဖွဲ့ အစည်းဝင် ပုဂ္ဂိုလ်အဖြစ်ဖြင့် သာသနာရေး ကိစ္စများကို ဆောင်ရွက်တော်မူကြရသော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် နိုင်ငံတော် သံဃာ့မဟာနာယကအစရှိသော ဆရာတော် သံဃာတော် အရှင်မြတ်တို့၌ လုပ်ငန်းခွင်ဝယ် စိတ်ကို အမြဲချထားကြလျက် တာဝန်သိသိ စည်းကမ်းမိမိဖြင့် ဆိုင်ရာသာသနာရေးကိစ္စများကို လပိုင်းများစွာ နှစ်ပိုင်းရှည်ကြာ ဆောင်ရွက်လာခဲ့ကြရသောကြောင့် ရုပ်ကိုပင်ပမ်း နွမ်းနယ်ရုံသာမက၊ ဒုလာပါဒရက်၊ လေပျက်သွက်ချာ ရောဂါတစုံတရာ ဝင်ရောက်ကပ်ငြိခြင်း ဝင်ရောက်ကပ်ငြိနိုင်ခြင်း ဖြစ်တတ်လေရာ ယင်းသို့သော ရောဂါဝေဒနာတို့ကို ပယ်ဖျောက်နိုင်ခွင့် ကာကွယ်နိုင်ခွင့်ကို ရစေခြင်း၊ ယင်းသို့ ပယ်ဖျောက်ကာကွယ်နိုင်ခြင်းဖြင့် သက်တမ်းရှည်ကြာ တည်နေနိုင်ကာ အတ္တပရ သာသနာ့အကျိုး နှစ်မျိုးလုံးကို သယ်ပိုးစေနိုင်ခြင်း၊ သာသနာ့ဝန်ထမ်းရန် အားသန်သန်ဖြင့် အရံသင့် ရောက်ရှိလာကြသော ဝန်ထမ်းသစ်တို့အား ပခုံးပြောင်း၍ ထမ်းစေခြင်းဆိုင်ရာ နာယကဂုဏ် နာမကြောင့် အာဂင္ဂပေါ်င် စိတ်အထင်ဝင့် ဘဝင်မြင့်လျက် မသင့်တာမှ အာဏာပြကြွား၊ နာယက အစားစားတို့ကို ဖယ်ရှားနိုင်ခြင်း အကျိုးငှာ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ပြည်နယ် တိုင်း သံဃာ့ဝန်ဆောင် မြို့နယ်

သံဃာ့ဝန်ဆောင် နိုင်ငံတော် သံဃာ့မဟာနာယက၊ ပြည်နယ်၊ တိုင်း သံဃာ့နာယက၊ မြို့နယ် သံဃာ့နာယက၊ ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ့နာယကတို့၏ သက်တမ်းကို ၅-နှစ် ပြဋ္ဌာန်းလိုက်ခြင်းသည်လည်း သင့်လျော်လှပါသည် ဘုရား။ ကျောင်းထိုင်ဆရာတော်ဟူသမျှသည် ရပ်ကွက်အတွင်း ကျေးရွာအုပ်စုအတွင်းရှိ မိမိတို့သည် သက်ဆိုင်ရာကျောင်းတိုက်တာ၌ ခန္ဓာပျက်သုဉ်းအသက်ဆုံးအောင် နေသွားကြရမည့် ပုဂ္ဂိုလ်များဖြစ်သည့်ပြင် အဖွဲ့အစည်း၏အသွင် ပြင်၍ပြင်ဆင်ပါသော်လည်း ပါဝင်မြဲ ပါဝင်ကြရမည့် ပုဂ္ဂိုလ်များ ဖြစ်ကြသောကြောင့် ရပ်ကွက် ကျေးရွာအုပ်စု သံဃာ့ဝန်ဆောင်များ၏ သက်တမ်းကို မခန့်မှန်းပဲ ထာဝရ ထမ်းစေခြင်းသည်လည်း မှန်ကန်သည့် နည်းလမ်းပင်ဖြစ်ပါသည် ဘုရား။

သက်တော်အားဖြင့် ၇၀-၈၀-ကျော် အရွယ်တော်အားဖြင့် နောက်ဆုံးဖြစ်နေသည့် ထေရ်ကြီးများကို ယေဘုယျထည့်သုံးလျက် အဆုံးအမကိုပေးစေသည့်ပြင် မိမိတို့နှင့် သင့်လျော်ရာ သခ်မ်းမှာ ရှင်လန်း သီတင်းသုံးစေကာ ပြုံးဝေစွာ မမောလှပဲ ဓမ္မောသဓ အထွေးပိုင်စွာဖြင့် ဩဝါဒပေးနိုင်သည်ဖြစ်သောကြောင့် နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ၏ သက်တမ်းကို ထုတ်မပြခြင်းသည်လည်း ယုတ္တိတရပင် ဖြစ်ပါသည် ဘုရား။

သို့ဖြစ်ပါသောကြောင့် သမုဒ္ဒေါမယာဒိဋ္ဌော သမုဒ္ဒရာ၏ တစိတ်မျှသောရေကိုသာ မြင်ရပါသော်လည်း၊ (အမြင်ကိုဖမ်းရသဖြင့် မမြင်ရာလိုလည်း မှန်းဆနိုင်ပြီးဖြစ်၍) သမုဒ္ဒရာ တခုလုံးကို ငါမြင်ပြီဟု ပြောဆိုနိုင်သကဲ့သို့ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းနှင့်အညီ ဖွဲ့စည်းအပ်သော နိုင်ငံတော်ပိုင်း ဒေသပိုင်းဆိုင်ရာ သံဃာ့အဖွဲ့ဝင်တို့၏ သက်တမ်းကို သတ်မှတ်ပြဋ္ဌာန်းရာ သံဃာ့အဖွဲ့အစည်းအခြေခံစည်းမျဉ်း အခန်း ၄-၏ ယုတ္တိတရ သင့်လျော်လှသည်ကို ထောက်ကွက်ဆ၍ အခြေခံ စည်းမျဉ်းတခုလုံး၏ ပရိပုဏ္ဏယုတ္တိသရ ဂိုဏ်းကိုလည်း ကောက်ချက်ချနိုင်သည်ပင် ဖြစ်ပါတော့သည် ဘုရား။

သို့ဖြစ်ပါသောကြောင့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် မြန်မာနိုင်ငံတော် တဝှမ်းလုံးရှိ ထေရဝါဒ ဗုဒ္ဓသာသနာတော်ဝင် သာသနာ့ဝန်ထမ်း ရဟန်းဟူသမျှတို့ မပြုမနေအမှန်မသွေ ဖွဲ့စည်း ပြုလုပ်ရမည့် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းပုံကို ဖော်ပြရာ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် ဆရာတော်များ တင်သွင်းလျှောက်ထားအပ်သော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းအားလုံးကို စစ်ကိုင်းတိုင်း သံဃာတော်များ၏ကိုယ်စား ဘုရားတပည့်တော်က အဟောဝတ ကောင်းချီး

မလျက် ဒွိဟာလွတ်ကင်း ထောက်ခံခြင်း ပြုပါကြောင်း လျှောက်ထားပါသည် ဩဝါဒါစရိယ သဘာပတိ ဆရာတော် အမှူးပြုသော သက်တော်ရှည် သံဃာတော်အရှင်မြတ်တို့ ဘုရား။

**ထိုနောက် အခမ်းအနားမှူး ဆရာတော်က** ဆက်လက်၍ တနင်္သာရီတိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရားဟု ပင့်ခေါ်ရာ—

**ဦးဃောသိတာဘိဝံသ (တနင်္သာရီတိုင်း)** က အောက်ပါအတိုင်းထောက်ခံဆွေးနွေးတော်မူသည်။

**သာသနာတော်** သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ **သံဃာ့** အဖွဲ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြတဲ့ သဘာပတိဆရာတော် ဘုရားကြီးနှင့် တကွ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်၊ သံဃာတော် အရှင်မြတ်တို့ဘုရား။ တနင်္သာရီတိုင်း ထားဝယ်အခြေခံဒေသ ထားဝယ်မြို့နယ်မှ ဘုရားတပည့်တော် ဃောသိတာဘိဝံသက သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းမှ ထောက်ခံဆွေးနွေးလိုသည့် အချက်များမှာ သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်းစာအုပ် စာမျက်နှာ( ၂၄ ) ( ၂၅ ) ( ၂၆ )ပါ စည်းမျဉ်းများ ဖြစ်ပါသည်ဘုရား၊ ရှေးဦးစွာ အခြေခံစည်းမျဉ်းများကို မူရင်းအတိုင်း တပည့်တော်ဖတ်ကြား လျှောက်ထားပါမည် ဘုရား။

အခန်း ( ၅ ) နုတ်ထွက်ခွင့်ပြုခြင်း။ အပိုဒ် ၄၄-နာယကအဖွဲ့ဝင် ဆရာတော် တပါးပါးသည် နာယကအဖွဲ့မှ နုတ်ထွက်လိုပါက သက်ဆိုင်ရာ နာယကအဖွဲ့သို့ ကျိုးကြောင်း ဖော်ပြလျက် လျှောက်ထားနိုင်သည်။

အပိုဒ် ၄၅·နာယကအဖွဲ့သည် အပိုဒ် ၄၄·အရ နုတ်ထွက်ခွင့် လျှောက်ထားခြင်းကို လုပ်တုံးလုပ်နည်း နှင့် အညီ ဆောင်ရွက်ရမည်။

အခန်း ( ၆ ) အရေးယူခြင်း။ အပိုဒ် ၄၆ - နာယကအဖွဲ့ဝင် အရာတော်တော် တပါး ပါးသည် ဂုဏ်အင်္ဂါအရည်အချင်း ပျက်ကွက်မှု တခုခုနှင့် ငြိစွန်းသည်ဟု အစွပ်စွဲခံရလျှင်သော်လည်းကောင်း နာယကအဖွဲ့၏ လုပ်ငန်းတာဝန်များကို ကျေပြွန်စွာ မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း တဆင့်မြင့် သံဃာ့နာယကအဖွဲ့က လုပ်ထုံးလုပ်နည်းနှင့် အညီ အရေးယူရမည်။

အပိုဒ် ၄၇။ သံဃာ့နာယကအဖွဲ့ တဖွဲ့ဖွဲ့သည် အဂတိ လိုက်စားခဲ့လျှင်သော်လည်းကောင်း၊ နာယကအဖွဲ့၏ တာဝန်များကို ကျေပြွန်စွာ မဆောင်ရွက်နိုင်လျှင် သော်လည်းကောင်း၊ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့သည်

လုပ်ထုံးလုပ်နည်းနှင့် အညီ ထိုသံဃာ့နာယကအဖွဲ့ကို ဖျက်သိမ်း၍ ကြားဖြတ်ရွေးချယ်တင်မြှောက်ပွဲကို လုပ်ထုံးလုပ်နည်းနှင့် အညီ ပြုလုပ်ပေးရမည်။

အပိုဒ် ၄၈ - နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော် တပါးပါးသည် ဂုဏ်အင်္ဂါ အရည်အချင်း ပျက်ယွင်းမှု တခုခု နှင့် ငြိစွန်းသည်ဟု အစွပ်အစွဲခံရလျှင် သော်လည်းကောင်း အဖွဲ့၏လုပ်ငန်းတာဝန်များကို ကျေပြွန်စွာ မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း လုပ်ထုံးလုပ်နည်းနှင့်အညီ အရေးယူရမည်။

အခန်း ( ၇ ) အစားထိုးရွေးချယ်ခြင်း။ အပုဒ် ၄၉ - အရည်အချင်း ပျက်ယွင်း၍ လစ်လပ်သွားသော သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော်အဆင့် အသီးသီးမှ သံဃာ့ဝန်ဆောင် ဆရာတော်နှင့် သံဃာ့နာယက အဖွဲ့ဝင်ဆရာတော်တို့၏ နေရာများကို လုပ်ထုံးလုပ်နည်းနှင့် အညီ အစားထိုးရွေးချယ်ရမည်ဟူသော စည်းမျဉ်းအချက်အလက်များ ဖြစ်ပါသည်ဘုရား။

၎င်းစည်းမျဉ်းများမှာ သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဟူသောအကျိုးများကို ရေရှည်ရနိုင်မည်ဖြစ်တဲ့ အတွက် ဘုရားတပည့်တော် ထောက်ခံပါသည်ဘုရား။ ၎င်းစည်းမျဉ်းနှင့် ပတ်သက်၍ ရည်ရွယ်ချက် အကျိုးများကို ရေရှည်ရနိုင်ပုံကို ဘုရားတပည့်တော်အနေနှင့် တပိုဒ်စီ မခွဲခြားတော့ပဲ အားလုံးခြုံငုံ၍ပင် တင်ပြလိုပါသည် ဘုရား။ အရာဝတ္ထုတခုခုကို အကောင်အထည်ဖော်လုပ်ဆောင်ရန်အတွက် အစီအစဉ်တခုခုကို ချမှတ်ရာ၌ ထိုအရာဝတ္ထုနှင့် ဆက်စပ်သက်ဆိုင်သမျှ ပါဝင်ထိုက် ရှိသင့် ရှိထိုက်သော အချက်အလက်များ စုံစုံလင်လင် ပါဝင်မှသာလျှင် ဆိုင်ရာကိစ္စကို ဆောင်ရွက်ရာ၌ လွယ်ကူမှုရှိ၍ ဦးတည်ချက် ရည်ရွယ်ချက် အကျိုးအပြည့်အဝ ရရှိနိုင်မည်ဖြစ်ပါသည် ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတဝှမ်းလုံးမှ ကြွရောက်တော်မူလာကြသော သံဃာ့သမ္မုတိရ သံဃာ့ကိုယ်စားလှယ်တော်များ ပါဝင်တော်မူ၍ ယခုပြုလုပ်ကျင်းပနေသော ဤအစည်းအဝေးကြီးမှာလည်း သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကို အကောင် အထည်ဖော် လုပ်ဆောင်ရန်အတွက် အစီအစဉ်ချ မှတ်သော အစည်းအဝေးပွဲကြီးပင် ဖြစ်ပါသည်ဘုရား။ ထိုသို့ အစီအစဉ်ချမှတ်ရာ၌ ဘုရားတပည့်တော် လျှောက်ထားတင်ပြခဲ့သည့်အတိုင်း ဆိုင်ရာကိစ္စကို ဆောင်ရွက်ရာ၌ လွယ်ကူချောမောမှုရှိ၍ ရည်ရွယ်ဦးတည်သည့် အကျိုးများကို ရရှိနိုင်အောင် အစီအစဉ်၌ ပါဝင်သင့် ပါဝင်ထိုက် ရှိသင့် ရှိထိုက်သည့် သက်ဆိုင်ရာ အချက်အလက်ဟူသမျှ ပြည့်ပြည့်စုံစုံ ပါရှိအောင် ပြုလုပ်ဆောင်ရွက်ကြရန် လိုအပ်ပါသည် ဘုရား။

တပည့်တော်တင်ပြခဲ့သည့် နုတ်ထွက်ခွင့်ပြုခြင်း၊ အစားထိုးရွေးချယ်ခြင်း၊ အရေးယူခြင်းတို့သည် အဖွဲ့အစည်းတခုအတွက် မရှိလျှင် မဖြစ် မပါလျှင်မပြီး သည့် အရေးကြီးသော စည်းကမ်းအချက်အလက်များ ဖြစ်ပါသည်ဘုရား။ ထိုကဲ့သို့ မရှိမဖြစ် မပါမပြီးသောအကြောင်း အချက်များပင် ဖြစ်သဖြင့် ၎င်း တို့နှင့် စပ်၍ ရည်ရွယ်ဦးတည်သော သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားခြင်းဟူသော အကျိုးထူးများကို အမှန်ပင် ရရှိနိုင်မည် ဖြစ်ပါသည် ဘုရား။ ထို့ပြင် စည်းမျဉ်းအပိုဒ်များနှင့် ပတ်သက်၍ ရည်ရွယ်ချက်အကျိုး များကို ရေရှည်ရရှိစေနိုင်ပုံကို အနည်းငယ် ဆက်လက် လျှောက်ထားလိုပါ သည် ဘုရား။

အကောင်အထည်ဖော် လုပ်ဆောင်ထားသော အကြောင်းအရာ အရာ ဝတ္ထုတခုခုကိုလည်း ပေါ့ပေါ့ဆဆ သဘောဖြင့် မပြုမပြင်ပဲ ထားလိုက်ပါက ထိုအရာဝတ္ထုသည် အရှည်ခန့်၍ တည်တံ့နိုင်မည်မဟုတ်ပါ။ ထိုသို့ မတည်တံ့ ပါက ရသင့်ရထိုက်သည့် အကျိုးများကိုလည်း ရနိုင်မည် မဟုတ်ပါဘုရား။ အခါအခွင့်သင့်သည်အားလျော်စွာ အခြေအနေအရ မသင့်သည်ကိုပယ်ဖျက်၊ သင့်လျော်သည်ကို ဖြည့်စွက်၍ ပြုပြင်မွမ်းမံထားမှသာလျှင် အရှည်ခန့်၍ တည် တံ့နိုင်မည်ဖြစ်ပြီး ရရှိသည့် ရရှိထိုက်သည့် အကျိုးများကို ကေန် ရေရှည် ရရှိ နိုင်မည်ဖြစ်ပါသည်ဘုရား။

ဘုရားတပည့်တော် တင်ပြလျှောက်ထားခဲ့သည့် အထက်ပါ အပိုဒ်များ၌ ပါရှိသော အရေးယူခြင်း၊ အစားထိုးရွေးချယ်ခြင်း၊ ပြန်လည်ဖွဲ့စည်းပေးခြင်း စသော စကားရပ်များကိုလည်း လိုရင်းအနေဖြင့် ကောက်ချက်ချကြည့်မည် ဆိုပါက ဖြစ်သလို သဘောမထားပဲ မသင့်တာကို ပယ်ဖျက် သင့်လျော်တာ ကို ဖြည့်စွက်၍ လိုအပ်သလို ပြင်ဆင်ခြင်းမျိုးပင် ဖြစ်ပါသည် ဘုရား။ ထိုသို့ ပြင်ဆင်မွမ်းမံထားလျှင်လည်း အရှည်ခန့်၍ တည်တံ့ပြီး ရည်ရွယ်ဦးတည်သော သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားခြင်းဟူသော အကျိုးများကို ကေန် အရှည်သဖြင့် ရရှိနိုင်မည်ဖြစ်ပါသည် အရှင်ဘုရား။ ထိုသို့ အလုပ်ကိစ္စကို ဆောင်ရွက်ရာ၌ လွယ်ကူမှုရှိခြင်း၊ ရည်ရွယ်ချက်အကျိုးများကို အပြည့်အဝ အရှည်သဖြင့် ကေန်အမှန် ရရှိနိုင်ခြင်း စသော အကျိုးထူးများကို ရရှိစေနိုင် သဖြင့် တပည့်တော် တင်ပြခဲ့သော အပိုဒ် ၄၄၊ ၄၆၊ အပါအဝင် ဤအခြေခံ စည်းမျဉ်းတခုလုံးကို အတည်ပြုပါရန် တနင်္သာရီတိုင်းကိုယ်စား တပည့်တော်က ထောက်ခံပါကြောင်း ရိုသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာ တော် အရှင်သူမြတ်တို့ဘုရား။



ပဲခူးတိုင်း တောင်ငူအခြေခံဒေသမှ ဆရာတော် ဦးခန္တီသာ၏
ထောက်ခံဆွေးနွေးစဉ်

**ထိုနောက်အစမ်းအနား မှူးဆရာတော်က** ဆက်လက်၍ ပဲခူးတိုင်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးတော်မူရန် ကြွပါဘုရားဟု ပင့်ခေါ်ရာ—

**ဦးခန္တီသာရ (ပဲခူးတိုင်း)** က အောက်ပါအတိုင်း ဆွေးနွေးတော်မူသည်။

ရှိခိုးအပ်၊ ရှိခိုးထိုက်၊ မြတ်နိုးအပ်၊ မြတ်နိုးထိုက်၊ ရိုသေအပ်၊ ရိုသေထိုက် လေးစားအပ်၊ လေးစားထိုက်တော်မူကြကုန်သော ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများနှင့်တကွ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသည့် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား—ပဲခူးတိုင်း၊ တောင်ငူအခြေခံဒေသမှ သမ္မုတိရသံဃာ့ကိုယ်စားလှယ် တပည့်တော် ခန္တီသာရ ဖြစ်ပါသည်ဘုရား။

ဘုရားတပည့်တော် ထောက်ခံဆွေးနွေး လျှောက်ထားလိုသည်မှာ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်သံဃာ့အဖွဲ့ အစည်းအဝေးကြီး၏ အခြေခံစည်းမျဉ်းကို ဆွေးနွေးထောက်ခံလိုပါသည်ဘုရား။

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့က ပထမခန့် အစည်းအဝေးတွင် ဖတ်ကြားတင်သွင်းသွားသည့် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အခန်း (ဂ) တွင် ဤသံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းအရ ပေါ်ပေါက်လာမည့် နံပါတ် (၁) နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၊ နံပါတ် (၂) နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၊ နံပါတ် (၃) ပြည်နယ်/တိုင်း သံဃာ့ဝန်ဆောင်နှင့် သံဃာ့နာယကအဖွဲ့၊ နံပါတ် (၄) မြို့နယ်သံဃာ့ဝန်ဆောင်နှင့် သံဃာ့နာယကအဖွဲ့၊ နံပါတ် (၅) ရပ်ကွက်/ကျေးရွာအုပ်စု သံဃာ့ဝန်ဆောင်နှင့် သံဃာ့နာယကအဖွဲ့တို့ ကျင်းပပြုလုပ်ရမည့် အစည်းအဝေးများကို—

(က) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး၊

(ခ) ဝန်ဆောင်အစည်းအဝေး၊

(ဂ) နာယကအဖွဲ့များ အစည်းအဝေး

ဟု သုံးမျိုးသုံးစား ခွဲခြားသတ်မှတ်ပြီး ရေးဆွဲတင်ပြသွားသည်ကို တပည့်တော်များ လေ့လာသိရှိရပါသည်ဘုရား။

ဖော်ပြပါ အစည်းအဝေးများ၌ အကြိမ်အားဖြင့် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးကို (၅) နှစ်တကြိမ်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်

အဖွဲ့ အစည်းအဝေးကို အနည်းဆုံး ( ၁ ) နှစ်လျှင်တကြိမ်၊ နိုင်ငံတော် သံဃာ့ မဟာနာယကအဖွဲ့ အစည်းအဝေးကို အနည်းဆုံး ( ၄ )လလျှင်တကြိမ် ကျင်းပ ရမည်ဟု သက်ဆိုင်ရာအဖွဲ့များ၏ ကျင်းပပြုလုပ်ရမည့် အစည်းအဝေး အကြိမ် များကိုလည်း ပိုင်းခြားသတ်မှတ် ပြဋ္ဌာန်းထားပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ မပြတ်မလပ် အထပ်ထပ် စည်းဝေး တိုင်ပင် ကြခြင်းသည် သာသနာတော် တိုးပွား တည်တံ့ ခြင်း၏ အကြောင်း ကောင်းမြတ်သော အလုပ်ကိစ္စမှန်သော်လည်း "တန်လျှင်ဆေး, လွန်လျှင်ဘေး" ဆိုသကဲ့သို့ လိုအပ်သည်ထက်ပိုပြီး ပြုလုပ်သျှင် ရည်မှန်းချက် အကျိုးများ ရနိုင်မည်မဟုတ်ပဲ အပြစ်သာ ဖြစ်နိုင်ပါသည်ဘုရား။

ပုံစံအားဖြင့် တင်ပြလျှောက်ထားရပါလျှင် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးပွဲကြီးကို ဤအခန်း၌ သတ်မှတ်ထားသည့်အတိုင်း ( ၅ ) နှစ်တကြိမ် မဟုတ်ပဲ ( ၂ ) နှစ်တကြိမ် ( ၃ )နှစ်တကြိမ် ပြုလုပ်မည်ဆိုပါက တပည့်တော် တို့ သံဃာတော်များဘက်မှာလည်း လက်ရှိသာသနာရေး လုပ်ငန်းတွေပျက်၊ အပိုတာဝန်တွေတက်၍ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး တကြိမ် ကျင်းပလျှင် ဘဏ္ဍာငွေ သိန်းပေါင်းများစွာ ကုန်ကျသဖြင့် နိုင်ငံတော်အစိုးရ နှင့်တကွ ဒကာ ဒကာမများဘက်မှလည်း အလွန်ပင် တာဝန်တွေ ကြီးမားပြီး နိုင်ငံတော်၏ ဘဏ္ဍာငွေများလည်း အပိုကုန်ကျခြင်းဟု ဆိုအပ်သော မလိုအပ် သော အကျိုးများ ဖြစ်ပွားလာနိုင်ပါသည်ဘုရား။

အပိုဒ် ( ၆၄ )တွင် နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့သည် အနည်းဆုံး ( ၄ ) လတကြိမ် အစည်းအဝေးကျင်းပရမည်ဟု ဖော်ပြထားပါသည်ဘုရား။ ဤသို့ ဖော်ပြထားပါ၍ အပိုဒ် ( ၉၂ ) တွင် ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒီပ ကျောင်းဆောင်ကို နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့ကြီး၏တည်ရာ ဗဟို ဌာနချုပ်ဖြစ်သည်ဟု ဖော်ပြထားပြန်ပါသည်ဘုရား။

နိုင်ငံတော် သံဃာ့မဟာနာယက ဆရာတော်များသည် ဇမ္ဗူဒီပ ကျောင်း ဆောင်မှာ သီတင်းသုံးနေထိုင်ကြပါလျက် အဘယ့်ကြောင့် နေ့စဉ် အစည်း အဝေး၊ လစဉ် အစည်းအဝေးများ မကျင်းပသည်ကို တပည့်တော် နားမလည် ပါဘုရား။ ထို့ပြင် နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့က နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ကိုယ်စား နေ့စဉ်လုပ်ငန်းများကို ဖြေရှင်းဆောင်ရွက်ကြ ရမည် ဖြစ်ပါ၍ ( ၄ ) လမှ တကြိမ်သာ အစည်းအဝေး ကျင်းပရခြင်းကို တပည့်တော်များ နားမလည်ကြောင်း လျှောက်ထားလိုပါသည်ဘုရား။

ပြည်နယ်/တိုင်းဝန်ဆောင်နှင့် မြို့နယ်ဝန်ဆောင် ဆရာတော်များ အစည်းအဝေးကိုမူ တနှစ် တကြိမ်တကြိမ် သတ်မှတ်ခြင်းမှာ သင့်မြတ်ပါသည်ဘုရား၊ ပြည်နယ်/တိုင်း သံဃာ့နာယကနှင့် မြို့နယ် သံဃာ့နာယက အဖွဲ့ကြီး၏ ဆောင်ရွက်ချက်များကို ဝေဖန်ဆွေးနွေး လမ်းညွှန် ပေးနိုင်ရန်အတွက် တနှစ်တကြိမ် စည်းဝေးသင့်ပါသည်ဘုရား၊ မကြာခဏ စည်းဝေးနေပါကလည်း သာသနာရေးလုပ်ငန်းများ ပျက်ကွက်၍ လုံးဝ အစည်း အဝေး မလုပ်ပဲ နေပါကလည်း အချင်းချင်း သံသယဝင်၍ ညီညွတ်မှု ပျက်ပြားနိုင်ပါသည်ဘုရား၊ သို့ဖြစ်ပါ၍ တနှစ်တကြိမ် စည်းဝေးရန် သတ်မှတ်ခြင်းမှာ လွန်စွာ သင့်လျော်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ရပ်ကွက်/ကျေးရွာ အုပ်စု သံဃာ့ဝန်ဆောင် အစည်းအဝေးကို သတ်မှတ်ချက် မထားခြင်းမှာ ရပ်ကွက်/ကျေးရွာ အုပ်စုအတွင်းဖြစ်၍ သွားရေးလာရေး လွယ်ကူပြီး တွေ့ဆုံဆွေးနွေးရန် လွယ်ကူပါသည်ဘုရား၊ ပြဿနာပေါ်လာတဲ့အခါ အစည်းအဝေး ပြုလုပ်ပြီး ဖြေရှင်းဆောင်ရွက်နိုင်ရန် သတ်မှတ် ကန့်သတ်ချက် မထားခြင်းဖြစ်သည် ဟု တပည့်တော်များ ယူဆပါသည် ဆရာတော် အရှင် သူမြတ် တို့ ဘုရား၊ ထိုသို့ ဖြစ်ပါသောကြောင့် အားလုံးခြုံ၍ ဆိုရပါက အားလုံးခြုံ၍ လျှောက်ထားရပါက ဤအခြေခံစည်းမျဉ်းကို အပိုအလိုမရှိ အဖက်ဖက်က ပြည့်စုံအောင် ရေးဆွဲထားကြောင်း တပည့်တော်များ တွေ့ရှိရပါသဖြင့် ပြည့်ပြည့်ဝဝ တပည့်တော်များ ပဲခူးတိုင်း တောင်ငူအခြေခံဒေသမှ တပည့်တော် ခန္တီသာရ ထောက်ခံပါကြောင်းကို လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**ထို့နောက် အခမ်းအနားမှူး ဆရာတော်က** ဆက်လက်၍ မကွေးတိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရားဟုပင့်ခေါ်တော်မူရာ—

**ဦးကေသရ မကွေးတိုင်း က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော်မူသည်။**

ဘုရားတပည့်တော် ရှိသေမြတ်နိုး ရှိခိုးကန်တော့ပါသည်ဘုရား၊ ရှိသေ လေးစားအပ်သော ဩဝါဒါစရိယဆရာတော်ဘုရားကြီးအမှူးထားသည့် သဘာပတိ ဆရာတော်ကြီးများနှင့်တကွ နိုင်ငံတော်တဝန်းလုံးမှ ကိုယ်စားပြု ကြွရောက်တော်မူလာကြသော သမ္မုတိရသံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ရန်ကုန်တိုင်း ဟံသာဝတီ အခြေခံဒေသမှ သန်လျင်မင်းကျောင်း ဆရာတော် ဦးဝဏ္ဏသီရိက သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား အဆိုပြု တင်သွင်းထားသည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း) ကို မကွေးတိုင်း သရက် အခြေခံဒေသ သရက်မြို့ အောင်မင်္ဂလာကျောင်းတိုက်မှ သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဘုရားတပည့်တော် ကေသရက မကွေးတိုင်း သံဃာတော်များ ကိုယ်စား ထောက်ခံဆွေးနွေးပါမည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဤကဲ့သို့ ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများ အမှူးထားသည့် မြန်မာနိုင်ငံတဝန်းလုံးမှ ကိုယ်စား ပြု ကြွရောက်တော် မူလာကြသော သံဃ သမ္မုတိရ သံဃာ့ ကိုယ် စား လှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်များကို တနေရာတည်းမှာ တပြိုင်နက်တည်း ပူဇော်ဖူးမြော်ခွင့် ရရှိခြင်းသည် တပည့်တော်များအဖို့ တသက်တာတွင် လွန်စွာမှပင် ကြုံကြိုက်ခဲလှသည့် နှစ်ခြိုက်ဘွယ် ကောင်းလှသော အခွင့်အခါ ကာလ သမယကြီး ဖြစ်ပါသည်ဘုရား၊ ဤအချိန်အခါသည် ဘုရားမြတ်စွာ သာသနာတော်နှင့် နိုင်ငံတော်၏ သမိုင်းကြောင်းအစဉ်မှာ ဥဒါန်းတွင် ကျန်နေရစ်မည့် တနည်း အား ဖြင့် မော်ကွန်း တင် ထား ရ မည့် အ ချိန် အ ခါ ကောင်းကြီးဖြစ်သည်ကို ကြွရောက်တော် မူလာကြသော ဆရာတော် သံဃာတော်အရှင်မြတ်တို့ အားလုံး သဘောတူမျှ သမ္မာဆန္ဒ ရှိနေကြသည်ကို ဘုရားတပည့်တော်များ အနေဖြင့် ရိုသေစွာ ယုံကြည်လျက် ရှိပါသည်ဘုရား။

ဆရာတော်သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတော်များ ယနေ့ ကြုံတွေ့နေရသည့် ပစ္စက္ခသာသနာတော်၏ အခြေအနေမှန်ကို အရှင်မြတ်တို့ အားလုံး ထိုက်သင့်သလို ကြုံတွေ့ကြားသိတော်မူပြီး ဖြစ် လေ သော ကြောင့် ဘုရားတပည့်တော်များ အထူး လျှောက်ဖွယ် မလိုတော့ပါဘုရား၊ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သံဃသမ္မုတိရ သံဃာ့ ကိုယ် စား လှယ် အရှင်မြတ်တို့နှင့်တကွ မြန်မာနိုင်ငံတဝန်းလုံးရှိ သံဃာတော်များသည် လွန်စွာမှ ကြုံကြိုက်ခဲသည့် ဗုဒ္ဓမြတ်စွာ သာသနာတော် မြတ်ကြီး၏ အနှစ် သာရကို ထိုက်ထိုက်တန်တန် သိရှိတော်မူကြသည့်အလျောက် ယင်းအနှစ်သာရနှင့် ပြည့်စုံလှသော မြတ်စွာဘုရား၏ သာသနာတော် မြတ်ကြီးကို ကမ္ဘာ ချင်းအောင် သန့်ရှင်းတည်တံ့ ပြန့်ပွားစေလိုသော အာသာဆန္ဒလွန်စွာမှ ဖြင်းပြတော်မူကြ လိမ့်မည်ဟု လက်ဦးမဆွ အစကပင် သံသယကင်းရှင်းစွာ ယုံကြည်နေပါသည် ဘုရား၊ ဗုဒ္ဓမြတ်စွာ သာသနာတော် မြတ်ကြီး၏ အနှစ်သာရကို လေးလေး စားစား တန်ဖိုးထားကြသည့် သူတော်စဉ်များတို့သည် ကမ္ဘာဦးသား လူ

အများတို့ နေလနှစ်ပါးကို စောင့်ကြိုအားထားကြသလို အမှန်မြတ်ဆုံးဖြစ်၍ လွန်စွာမှကြုံကြိုက်ခဲလှသည့် မြတ်စွာဘုရားသာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကို ဦးထိပ်ပန်ဆင်ပြီး အလေးအနက်ဆောင်ရွက်မည့် နေ့တော်ကောင်း အခါကောင်းကို အာသီသပြင်းပြစွာဖြင့် အကြိမ်ကြိမ်အခါခါ မျှော်လင့်စောင့်ကြိုခဲ့ကြရပါသည်ဘုရား၊ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား၊ တပည့်တော်များ အကြိမ်ကြိမ်အခါခါ မျှော်လင့်စောင့်ကြို မျှော်လင့်ခဲ့ကြရသည့် အခါကောင်းကြီးကို နိုင်ငံတော်က အမြင့်အမြင့်ကြီးမားစွာ ထောက်ပံ့ကူညီ နေပါသောကြောင့် ယနေ့ ဘုရားတပည့်တော်တို့မှာ လက်ဝယ်မိမိ ကောင်းမွန်စွာ ရခဲ့ကြရပါပြီဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သံဃာ့ဝန်ဆောင် အဖွဲ့က အဖန်ဖန်အထပ်ထပ် ပြန်လှန် သုံးသပ် ပြင်ဆင်ထားသော ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း) သည် ယခုဘုယျအနေဖြင့်မူ မြန်မာနိုင်ငံတဝန်းလုံးမှ ရဟန်းပညာရှိ လူပညာရှိ အများစုတို့၏ ဆန္ဒပြုအကြံပေးလွှာ ကောင်းနိုးရာရာတို့ဖြင့် အမှန်းတင် အထွဋ်ရောက်တပ်ထားသည် ဖြစ်ပါသောကြောင့် အနာဂတ် သာသနာရေးကို မြော်တွေး လျက် စိတ်ချမ်းအေးဖွယ် ကောင်းစွာ့တကားဟု ဝမ်းမြောက်ကြည်နူး ဥဒါန်း ကျူးထိုက်တောင် ကောင်းမွန် နေပါသည်ဘုရား၊ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ အခြေခံစည်းမျဉ်းပါ အချို့အပိုဒ်များနှင့် စပ်လျဉ်းပြီး ဆွေးနွေးတင်ပြ လျှောက်ထားခွင့် ပြုတော်မူကြပါရန် တောင်းပန်ပါသည် ဘုရား၊ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းအခန်း(ဂ) စာမျက်နှာ (၂၉)၌ ရှိသော အပိုဒ်( ၆၄ - ၆၅ - ၆၇ )တို့၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ စည်းများ ပုံမှန်အစည်းအဝေး ကျင်းပရမည့် အချိန်ကာလကို အတိအကျ သတ်မှတ်ထားပါသည်ဘုရား၊ စာမျက်နှာ(၂၉ - ၃၀)တို့၌ရှိသော အပိုဒ်(၆၈- ၆၉ - ၇၀ - ၇၁ - ၇၂)တို့၌ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး စည်းများ အရေးပေါ် ကျင်းပရန် လိုအပ်လာလျှင် နိုင်ငံတော်၏ သက်ဆိုင်ရာ ဌာနများနှင့် ညှိနှိုင်းရမည်ဟု လမ်းညွှန်ပြုထားပါသည် ဘုရား။

စာမျက်နှာ (၃၀)၌ရှိသော အပိုဒ် (၇၃-၇၄-၇၅-၇၆) တို့၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ စည်းများအရေးပေါ် အစည်းအဝေး ကျင်းပမိ ကြိုတင်အကြောင်းကြားရမည့်အချိန်ကာလကိုလည်း အတိအကျသတ်မှတ်ထား ပါသည်ဘုရား၊ စာမျက်နှာ (၃၀) ၌ပင် ရှိနေသော အပိုဒ် (၇၇-၇၈-၇၉) တို့၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၊ပြည်နယ်/တိုင်း သံဃာ့နာယကအဖွဲ့ မြို့နယ် သံဃာ့နာယကအဖွဲ့များ တာဝန်ခံဖွဲ့စည်းရမည့် (က) ကြီးကြပ်ရေးအဖွဲ့

များနှင့်(ခ)ငင်းကြီးကြပ်ရေးအဖွဲ့များ၏ တာဝန်တို့ကိုလည်း တိတိကျကျ သတ်မှတ်ထားပါသည်ဘုရား၊ ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ ဘုရား၊ အခြေခံစည်းမျဉ်းမှ ဖော်ပြပါ အချက်အလက်တို့ကို ထပ်ဆင့်ပြီး ရှင်းလင်း တင်ပြ လျှောက်ထား ခွင့်ပြုတော်မူကြပါဦးဘုရား၊ အခန်း (၈) စာမျက်နှာ (၂၉)အပိုဒ်(၆၄)မှ အပိုဒ်(၇၉)အထိ ဆိုလိုရင်းကို ခြုံကြည့်လျှင် အနာဂတ် သာသနာတော်မှာ ခိုင်မာကျစ်လစ်၍ သိပ်သည်းလှပသော 'သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်' သည် မုချကေန် အမှန်ပင် ပေါ်လာတော့မည် ဟု သိနိုင်ပါသည် ဘုရား၊ ယခု ပစ္စက္ခ သာသနာတော်မှာ ဗျတ္တပဋိဗလဂုဏ်အင်နှင့် စုံလင်ပြည့်ဝ တော်မူကြသည့် ရဟန်းကောင်းရဟန်းမြတ်များ လွန်မင်းစွာ များသော်ငြား လည်း၊ အစည်းပြေသည့်ဝါးပမာ စုစည်းညီညွတ်မှုမရှိကြပါသဖြင့် အရှိန်အဝါ မှေးမှိန်ပြီး ရေနည်းငါးပမာ ကြုံခဲ့ကြရပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သာသနာ့ဝန်ထမ်း ရဟန်း တော်များ အားလုံးသည် ယခု အတည်ပြုပြဋ္ဌာန်းတော့မည့် 'အခြေခံ စည်းမျဉ်း နှင့်လျော်ညီစွာ' နိုင်ငံတော်အဆင့်ဆင့်မှအခြေခံအဆင့်အထိ တစုံတရာ သာ အဖွဲ့ အစည်း၏ နယ်ပယ်အတွင်း၌ အကျုံးဝင်ပြီးဖြစ်၍ အဖွဲ့စည်းမျဉ်း အလျောက် အချင်းချင်း ညှိနှိုင်းတိုင်ပင် စည်းဝေးကြရပါတော့မည်ဘုရား၊ အခြေခံစည်း မျဉ်းပါ ယင်းအချက်များသည် မြတ်စွာဘုရား ဟောကြားတော်မူထားသည့် မကြာခဏ တိုင်ပင်နှီးနှော စည်းဝေးခြင်း သဘောသည် ကြီးပွား တိုးတက် ကြောင်း တရားဖြစ်သည်ဟူသော ဒေသနာတော်နှင့် လိုက်လျောညီထွေ ရှိနေ ရုံမျှမက ယနေ့ ကမ္ဘာသူကမ္ဘာသား လူအများတို့၏ အကျိုးစီးပွားအတွက် လက်တွေ့ကျ၍ ကမ္ဘာ့စစ်ကိုတားမြစ်နိုင်သည့် ငြိမ်းချမ်းရေးတမန်လည်းဖြစ်နေ ကြပါသည်ဘုရား၊ ဆရာတော်သံဃာတော်အရှင်သူမြတ်တို့ဘုရား၊နိုင်ငံတော်၏ သက်ဆိုင်ရာဌာနများမှ လိုအပ်သော ကူညီဆောင်ရွက်မှုကို ရမှသာ ပီပြင်သော သံဃာ့အဖွဲ့အစည်းကြီး ပေါ်ပေါက်လာနိုင်မည်ကို ပထမအကြိမ်နှင့် ဒုတိယ အကြိမ်ရှင်းလင်းပွဲများ၊ အတွေ့အကြုံအရ သိရှိရ၍ ရှေးအစဉ်အလာ သာသနာ ပြု မင်းကောင်း မင်းမြတ်များနည်းတူ နိုင်ငံတော်မှ လိုအပ်သော ကူညီဆောင် ရွက်မှုကို ပြုပေးရမည်ကို အခြေခံစည်းမျဉ်းပါ အပိုဒ်(၆၈) စသည် တို့၌ တိကျ စွာ ဆိုထားသဖြင့် လွန်စွာ ကြေနပ် အားရ ဝမ်းမြောက်ဖွယ် ကောင်းလှပါ သည်ဘုရား၊ ဆက်လက်၍ လျှောက်ထားခွင့် ပြုတော်မူကြပါဦးဘုရား၊

အဖွဲ့အစည်းများ ပေါ်ပေါက်လာခြင်း လက္ခဏာတရပ်သည် အရာရာမှာ တဦးကောင်း တယောက်ကောင်း သဘောဖြင့် အတ္တစွဲ လွန်ကဲပြီး မပြုမူနိုင် ရန်အတွက်လည်း ဖြစ်သည်ဟု သိသာ ထင်ရှား လှပါသည်ဘုရား၊ နာယကအဖွဲ့

**အသီးသီး အစည်းအဝေးမပြုမီ** ကြိုတင်သိစေရန် အချိန်ကာလကို **တိကျစွာ သတ်မှတ်ထားသဖြင့်** အဖွဲ့ဝင်ဆရာတော်များ စုံညီကြွရောက်နိုင်၍ အများနှင့် သက်ဆိုင်သည့် အရာတို့၌ အကောင်းဆုံး စီမံဆောင်ရွက်နိုင်မည် ဖြစ်သော ကြောင့် ကြေနပ်အားရပ်ဖွယ် ကောင်းလှပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ အခြေခံ စည်းမျဉ်းပါ **အပိုဒ် (၇၇)** စသည်တို့၌ တဆင့်မြင့် သံဃနာယကအဖွဲ့ အစည်းများ၏ အဆင့်အလျောက် ကြီးကြပ် ကွပ်ကဲ ထိန်းသိမ်းရန် အခွင့်အာဏာ တာဝန်များ ကို သတ်မှတ်ထားသဖြင့် ပုထုဇဉ်တို့၏ စရိုက်သဘောနှင့် လိုက်လျောညီထွေ ရှိနေပါသည်ဘုရား၊ ပုထုဇဉ်တို့၏ စရိုက်သဘောမှာ ထိုက်သင့်သော အခွင့် အာဏာရှိမှသာ အလုပ်သဘော အရ ပြီးမြောက်အောင်မြင်နိုင်သည်ကို ဆရာ တော်များအားလုံး သိရှိတော်မူကြပြီး ဖြစ်ပါသည်ဘုရား၊ ဆရာတော် သံဃာ တော် အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်လျှောက်ထားခဲ့သည်နှင့် လျော်ညီ စွာ လာမည့် အနာဂတ်ကာလမှာ မြန်မာနိုင်ငံတွင်သာမက ကမ္ဘာ၌ပင် စံတင် ထိုက်သော "ကျစ်လစ်သိပ်သည်း ညီညွတ်ပေါင်းစည်းသည့် သံဃာ့အဖွဲ့အစည်း ကြီး" သည် မုချကေန်အမှန်ပင် ပေါ်ပေါက်လာတော့မည်ဖြစ်၍ ယင်းအနာ- ဂတ် သာသနာ့ အဆောက်အအုံကြီး ပုံစံကျနစ္ဈ လှပခိုင်ခန့်ရန် အခြေခံပဓာန အုတ်မြစ်နှင့် တူလှသည့် ရန်ကုန်တိုင်း ဟံသာဝတီ အခြေခံဒေသမှ သံလျင် မင်းကျောင်းဆရာတော် ဦးဝဏ္ဏသိရိက သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား တင်သွင်းထားသော ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်းများကို မကွေးတိုင်း အခြေခံဒေသ သရက်မြို့ အောင်မင်္ဂလာကျောင်းတိုက်မှ သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဘုရား တပည့်တော် ကေသရက မကွေးတိုင်း အံဃာတော်များ၏ ကိုယ်စား ဝမ်းမြောက်လှစွာဖြင့် လေးလေးနက်နက် ဆွေးနွေး လျှောက်ထားကာ ထောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ဗုဒ္ဓမြတ်သာသနာတော်မြတ်ကြီး သန့်ရှင်း ကြည်လင်စွာ တည်တံ့ နိုင်မြဲ၍ ပြန့်ပွား စည်ပင်ပါစေသတည်း။

**ထို့နောက်** အခမ်းအနားမှူးဆရာတော်က လက်ဆက်၍ မန္တလေးတိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံ ဆွေးနွေးဘော်မူရန် ကြွပါဘုရားဟု ပင့်ခေါ်ရာ—

**ဦးဇဋိလ** (မန္တလေးတိုင်း) က အောက်ပါအတိုင်း ထောက်ခံဆွေးနွေး တော်မူခဲ့လေသည်။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြကုန်သော သမ္မုတ်ရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ မန္တလေးတိုင်းအခြေခံဒေသမှ တပည့်တော် ဇဋိလအား သံဃာ့အဖွဲ့ အစည်းအဝေး အခြေခံစည်းမျဉ်းကို ထောက်ခံ ဆွေးနွေးခွင့်ပြုပါရန် ပန်ကြားလျှောက်ထားပါသည် ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို မလျှောက်ထားမီ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဖြစ်ပေါ်လာပုံကို ရှေးဦးစွာလျှောက်ထားပါရစေ ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ "သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးကိုရဟန်းတော်များ မသေမလွဲ အားကြိုးမာန်တက် ဆောင်ရွက်ရမည့် အရေးကို" ဆရာတော်များ ယုံကြည်ချက်အပြည့်အဝဖြင့် စိတ်တူကိုယ်မျှ ကြွရောက်တော်မူလာကြသည်ကို တပည့်တော်များ မျက်ဝါးထင်ထင် ဖူးမြင်ရပါ၍ အတိုင်းမသိဝမ်းမြောက်လှပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ရဟန်းတော်ချည်းသက်သက် ဆောင်ရွက်၍ မရနိုင်၊ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားစေရန် မည်မျှ စိတ်အားထက်သန်စေကာမူ နိုင်ငံတော်အစိုးရ၏ အကူအညီအထောက်အပံ့ကို မရပါလျှင် ဆောင်ရွက်ဖို့ရန် အလွန်ပင် ခဲယဉ်းကြပါလိမ့်မည်ဘုရား။

တာဝန်ရှိ တာဝန်သိ၊ ယခုအခါ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်၏ သာသနာတော် သန့်ရှင်းရေး တည်တံ့ ပြန့်ပွားရေးကို တာဝန်ရှိ တာဝန်သိဖြစ်သည့်အလျောက် ဆရာ တကာလက်တွဲလျက် ဓမ္မစက်အာဏာစက် သူ့တာ ကိုယ်ဖက် နှစ်ချက်တာဝန် ကြေပြွန်စွာ ဆောင်ရွက်တော်မူကြပါရန် လျှောက်ထားတောင်းပန်ချက်အရ သာသနာတော် တည်တံ့ ပြန့်ပွားရေးသည် ဆရာတော် သံဃာတော်တို့၏ ရှေတော်မှောက်၌ အကောင်အထည်ပေါ်ပေါက်လာပါပြီဘုရား။

ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး၏ အချက်အချာပဓာန အကျဆုံးဖြစ်တဲ့ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အဘည်ပြု ထောက်ခံသင့်ကြောင်းကို ထိုအခြေခံစည်းမျဉ်းစာအုပ်မှ နမူနာပုံစံ အနည်းငယ် ထုတ်၍ ရှင်းပြခွင့်ပြုရန် တောင်းပန်လျှောက်ထားပါသည်ဘုရား။

အခြေခံစည်းမျဉ်း အခန်း ၂ ပုဒ်မ ၄-၌ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ ဤစည်းမျဉ်းအရသတ်မှတ်ထားသည့် ဂိုဏ်းပေါင်းစုံ

ပါဝင်သော သံဃာ့အဖွဲ့အစည်း တခုတည်းသာ တည်ရှိရမည်ဟု ဆိုထားပါသည်ဘုရား၊ ဘာကြောင့် သံဃာ့အဖွဲ့အစည်း တခုတည်းသာ တည်ရှိရမည်ဟု ဆိုရပါသနည်းဟုမေးလျှင် ရဟန်းတော် သံဃာအချင်းချင်း စိတ်ဝမ်းကွဲပြားမှု ငြင်းခုံမှု ပုဂ္ဂိုလ်စွဲ၊ ဂိုဏ်းစွဲ၊ ပြင်းထန်မှု စသော အယူမှား အစွဲလမ်းများ ကင်းပပျောက်၍ သီတင်းသုံးဖော် အချင်းချင်း ညီအကိုရင်းကဲ့သို့ ချစ်ခင်ကြင်နာစွာ ပေါင်းသင်း ဆက်ဆံနိုင်ရန် ရည်ရွယ်၍ သံဃာ့အဖွဲ့အစည်း တခုတည်းသာ ရှိရမည် ဆိုပါသည်ဘုရား။

တနည်း ပေါ်လွင်အောင် လျှောက်ထားရပါလျှင် အချင်းချင်း စိတ်ဝမ်းကွဲမှု၊ ငြင်းခုံမှု၊ ပုဂ္ဂိုလ်စွဲ ပြင်းထန်မှု စသော အယူမှား အစွဲအလမ်းမှား အကုသိုလ်တရားများကို ပယ်ရှားသုတ်သင်နိုင်မှသာ "သုပ္ပဋိပန္နတာ" စသော ဂုဏ်နှင့်ပြည့်စုံသော ရဟန်းကောင်း ရဟန်းမြတ်ဖြစ်နိုင်လေရာ အဆိုပါပုဂ္ဂိုလ်စွဲ ဂိုဏ်းစွဲ ပြင်းထန်သော အယူမှား အစွဲအလမ်းမှား အကုသိုလ်တရားများကို ပယ်ရှား၍ သုပ္ပဋိပန္နစသော ဂုဏ်နှင့်ပြည့်စုံသော ရဟန်းကောင်း ရဟန်းမြတ် ဖြစ်ကြစေရန် ရည်သန်လျက် သံဃာ့အဖွဲ့အစည်း တခုတည်းသာ ရှိရမည်ဟု ဆိုခြင်းကြောင့် ဓမ္မဝိနယညီညွတ်သော သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို ဘုရားတပည့်တော် ကြိုဆို ထောက်ခံပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အပိုဒ် ( ၅ ) ၌ "ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် တဝန်းလုံးရှိ ထေရဝါဒ ဂိုဏ်းအသီးသီးမှ ရဟန်း သံဃာ ဟူသမျှသည် ပြည်ထောင်စုဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အတွင်း၌ အလိုအလျောက်ပါဝင်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်" ဟု ဆိုထားပါသည်ဘုရား၊ ၎င်းအပိုဒ် ၅-၏ အဓိပ္ပာယ် ဆိုလိုရင်းမှာ ရဟန်းတော်များသည် အခြေခံ စည်းမျဉ်း၌ သတ်မှတ်ထားသော သံဃာ့အဖွဲ့အစည်းတခုတွင် ပါဝင်ရမည်ဟု ဆိုလိုပါသည်။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ လူတွေမှာ အဖွဲ့ အစည်း တခုတွင် မပါဝင်ပဲ နေနိုင်ပါလျက် ရဟန်းတော်များမှာ သံဃာ့အဖွဲ့အစည်း တခုတည်းတွင် ပါဝင်ရမည်ဟု ဆိုထားရုံတွင် မက အပိုဒ် ၁၁-မှာ သံဃာတော် အဖွဲ့အစည်းနှင့် ကင်းလွတ်၍ နေခွင့်မရှိဟု အဆို့အပိတ် အန္တယ ဗျတိရိတ်တို့ဖြင့် သံဃာ့ အဖွဲ့အစည်း တခုတည်းတွင် မပါဝင်လျှင် မဖြစ်နိုင်အောင် ဘာကြောင့် ထည့်သွင်း ရေးသားထားရပါသလဲလို့ မေးစရာ ဖြစ်လာပါသည်ဘုရား။

ရည်ရွယ်ရင်း အကျဉ်းချုပ်ကတော့ ဝိနည်း သိက္ခာပုဒ်၌ ကျွမ်းကျင်လိမ္မာမှု မရှိသော ရဟန်းများကို နိဿယည်းဆရာနှင့် ကင်း၍ နေထိုင်ခွင့် မပြုသော ဝိနည်း စည်းကမ်းနှင့် အညီ ရဟန်းတော်တိုင်း သံဃာ့ အဖွဲ့အစည်း တခုတွင် ပါဝင်ရမည်ဟု ဆိုထားပါသည်ဘုရား၊ ထပ်မံ၍ ရှင်းလင်းပြခွင့်ပြုရန် ပန်ကြား လျှောက်ထား အပ်ပါသည် ဆရာတော်တို့ဘုရား၊ ရဟန်းတော်တိုင်း သံဃာ့ အဖွဲ့အစည်း တခုတည်းတွင် ပါဝင်ရမည်၊ ကင်းလွတ်၍ နေထိုင်ခွင့် မရှိဟု ဆိုထားရခြင်းမှာ ရဟန်းတော်တိုင်း သံဃာ့ အဖွဲ့အစည်း တခုခုတွင် ပါဝင်မှ အချင်းချင်း ဆိုဆုံးမနိုင်ပါမည်ဘုရား၊ သံဃာ့အဖွဲ့အစည်း တခုတွင် မပါဝင်ပဲ နေထိုင်ခွင့်ပြုထားပါက ဆိုဆုံးမ၍ ရနိုင်မည် မဟုတ်ပါဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ " ဧဝံ သံဝဍ္ဍာဟိ တဿ ဘဂဝတော ပရိသာ ယဒိဒံ အညမညဝစနေန = အချင်းချင်း ဆိုဆုံးမခြင်း သည် သာသနာတော် စည်ပင် ပြန့်ပွားခြင်း၏ အကြောင်း ဖြစ်၏ " ဟု ဟောတော်မူခြင်း၊ ဗုဒ္ဓရှင်တော်မြတ် ဟောကြား တော်မူအပ်သော ဝိနည်း စည်းကမ်း အဘိဓမ္မာ နည်းလမ်းတို့ဖြင့် အချင်းချင်း ဆိုဆုံးမနိုင်မှ သာလျှင် သမဂ္ဂဖြစ်ခြင်း အစ နိဗ္ဗာန်တိုင်အောင်သော အကျိုးတရားများကို ရရှိနိုင်ခြင်း တို့ကြောင့် ရဟန်းတော် အချင်းချင်း ဆိုဆုံးမနိုင်ရန် ရည်သန်လျက် ရဟန်း တော်တိုင်း သံဃာ့ အဖွဲ့အစည်းတခုတွင် ပါဝင်ရမည်၊ ကင်းလွတ်၍ နေထိုင် ခွင့်မရှိ စသည်ဖြင့် ဓမ္မဝိနယနှင့် ညီညွတ်သော အချက်များကိုသာ ဖော်ပြ ထားသော ဤသံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို အတည်ပြု ပြဋ္ဌာန်း သင့်ပါကြောင်း ဘုရားတပည့်တော် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ် ဝါချင်း ကုန်း ဇဋ္ဌိလ ဆွေးနွေး တင်ပြ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော် က ဆရာတော် သံဃာတော် အရှင် မြတ်တို့ဘုရား၊ တပည့်တော်တို့ရဲ့ နံနက်ပိုင်း အစည်းအဝေးကို ရပ်နားရန် ဖြစ်ပါတယ်၊ နေ့လည်ပိုင်း အစည်းအဝေးကို မွန်းလွဲ ၁-နာရီ တိတိတွင် ကျင်းပမည် ဖြစ်ကြောင်း လျှောက်ထားပါတယ်ဘုရား၊ ယခု အစည်းအဝေး ကို ရပ်နားပါမည်ဘုရား၊ သြဝါဒါစရိယ ဆရာတော်များ ကြွတော်မူပြီး ကျန်ဆရာတော်များ ကြွတော်မူရန် လျှောက်ထားပါသည်ဘုရားဟု လျှောက် ထား၍ နံနက်ပိုင်း အစည်းအဝေးကို ရပ်သိမ်းလေသည်၊ နံနက်ပိုင်း အစည်း အဝေးကို နံနက် ၁၀-နာရီ အချိန်တွင် ရပ်နား၍ နေ့လည်ပိုင်း အစည်း အဝေးကို မွန်းလွဲ ၁-နာရီ အချိန်တွင် ပြန်လည် ကျင်းပပါသည်။

**တဖန် နေ့လည် မွန်းလွဲပိုင်း ၁-နာရီ ထိုးခါနီးတွင် အခမ်းအနားမှူး ဆရာတော်က**-ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ နေ့လည်ပိုင်း **အစည်းအဝေးကြီး** ကျင်းပရန် အချိန်နီးကပ်လာပြီ ဖြစ်ပါ၍ **သတ်မှတ်ထားသည့်** နေရာများသို့ ကြွရောက် သီတင်းသုံးတော်မူပါရန် ပင့်လျှောက်ပါသည်ဘုရားဟု သုံးကြိမ်တိုင်တိုင် လျှောက်ထားလေသည်။

အခမ်းအနားမှူးဆရာတော်က ဆက်လက်၍ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်တို့ ဒုတိယနေ့ **နေ့လည်ပိုင်း** အစည်းအဝေးကို **အစီအစဉ်အရ** ဆက်လက်၍ ကျင်းပမည်ဖြစ်ကြောင်း လျှောက်ထားအပ်ပါသည်ဘုရားဟု လျှောက်ထားတော်မူသည်။

**ဘင်္ဂလားဒေ့ရှ်နိုင်ငံ၊ ရခိုင်-မြန်မာ သံဃာ့ကောင်စီ အဖွဲ့ချုပ် ဥက္ကဋ္ဌ ဆရာတော်ထံမှ သဝဏ်လွှာကို ဆက်ကပ်ခြင်း**

**အခမ်းအနားမှူးဆရာတော် က** အစည်းအဝေး **အစီအစဉ်**မလျှောက်ထားမီ သီးခြားလျှောက်ထားရန်ရှိပါသည်ဘုရား၊ **သီးခြားလျှောက်ထားရန်** နားဆင်တော်မူကြပါဘုရားဟု **လျှောက်ထားတော်မူသည်။**

ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်တို့၏ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီး ကျင်းပနေခြင်းသည် ဗုဒ္ဓသာသနာတော် ကြီးပွား တိုးတက်ရန် အတွက် အသွန်ပင် သာ်မြတ်လှကြောင်းဖြင့် ဘင်္ဂလားဒေ့ရှ် ရခိုင်-မြန်မာ သံဃာ့ကောင်စီ အဖွဲ့ချုပ် ဖလောင်စေမြို့ စစ်တကောင်း - ဘင်္ဂလားဒေ့ရှ် ဥက္ကဋ္ဌဆရာတော် ဦးပဏ္ဍိတ ထံမှ သဝဏ်လွှာကို ဘင်္ဂလားဒေ့ရှ်နိုင်ငံ မြန်မာ သံအမတ်ကြီးမှ တဆင့် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးထံသို့ ပေးပို့ခဲ့ပါသည်ဘုရား၊ ဝန်ကြီးက တပည့်တော်များ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ထိုသဝဏ်လွှာကို ဆက်ကပ်ပါကြောင်း လျှောက်အပ် ပါသည်ဘုရား။

**ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း (မူကြမ်း) ကို ဆက်လက် ထောက်ခံ ဆွေးနွေးခြင်း**

**ထို့နောက် အခမ်းအနားမှူး ဆရာတော် က** ဆက်လက်၍ အစီအစဉ် အရ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ

စည်းမျဉ်း (မူကြမ်း) ကို ထောက်ခံ ဆွေးနွေးခြင်း ဆက်လက်၍ ဆောင်ရွက်သွားမည် ဖြစ်ပါတယ်ဘုရား၊ ဆက်လက်၍ မွန်ပြည်နယ် ကိုယ်စားလှယ်ဆရာတော် ထောက်ခံ ဆွေးနွေးရန် ကြွတော်မူပါဘုရားဟု ပင့်ခေါ်တော်မူရာ—

**ဦးကုမာရ** (မွန်ပြည်နယ်) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော်မူသည်၊ ရှိသေလေးစား အပ်ပါသော ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများနှင့်တကွ ဂိုဏ်းပေါင်းစုံမှ ကြွလာတော်မူကြပါသော သံဃာတော် အရှင်မြတ်တို့ဘုရား၊ မွန်ပြည်နယ် သံဃာတော်များရဲ့ ကိုယ်စား ယခုအဆိုကို ထောက်ခံခြင်းပြုနေတဲ့ တပည့်တော်ဟာ မော်လမြိုင်မြို့ အခြေခံဒေသမော်လမြိုင် ရွှေပရိယတ္တိ စာသင်တိုက်က ကုမာရ ဖြစ်ပါသည်ဘုရား၊ ယခုတင်သွင်းထားတဲ့ သံဃာ့ အဖွဲ့အစည်း အုပ်ချုပ်ပုံ အခြေခံ စည်းမျဉ်းကိုတပည့်တော် အထူး ဂရုစိုက်ပြီးတော့ လေ့လာ ကြည့်မိ ပါတယ်ဘုရား၊ ဒီလိုလေ့လာ ကြည့်ရှုတဲ့အခါမှာ အပိုင်း ၂-ပိုင်းရှိတာကို တွေ့မြင်ရပါတယ်ဘုရား၊ တပိုင်းက မူ ဝါဒ လမ်းညွှန်ချက် ချမှတ်ပေးတဲ့ အပိုင်း ဖြစ်ပြီးတော့ကျန်တပိုင်းကတော့ အကောင်အထည်ဖော် လုပ်ဆောင်ရမယ့် အပိုင်း ဖြစ်ပါတယ်ဘုရား၊ ဒီအပိုင်း ၂-ပိုင်းမှာ မူဝါဒလမ်းညွှန်ချက် ချမှတ်ပေးတဲ့အပိုင်းမှာ နိုင်ငံတော် သံဃာ့ဝန်ဆောင်အဖွဲ့၊ နိုင်ငံတော် ဩဝါဒါစရိယအဖွဲ့၊ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့တို့ ရှိကြပါတယ်ဘုရား၊ ဒီအဖွဲ့အစည်း ၃-ရပ်မှာ ဂိုဏ်းအသီးသီး ခွဲခြားမှု မပြုပဲနဲ့ တလုံးတည်း တစည်းတည်း စုပေါင်းထားတာကိုလည်း တွေ့မြင် ရပါတယ်ဘုရား၊ စုပေါင်း ထားပုံကတော့မြတ်စွာဘုရားရဲ့ သာသနာတော်များပီပီ သာသနာတော် တာဝန်ကို အားသွန်ထမ်းဆောင်ခဲ့ကြမယ့် သံဃာတော်များ အဖြစ်နဲ့ စုစည်းထားတာကို တွေ့မြင်ရပါတယ်၊ ဒီလို တစုဘည်း တပေါင်းတည်း စုစည်းထားတာ ဖြစ်ခြင်းကြောင့်ဒီအဖွဲ့ အစည်းကြီး ၃-ရပ်က ချမှတ်ပေးလိုက်တဲ့ ဓမ္မဝိနယ ပြန်တမ်းများ၊ လမ်းညွှန်ချက်များ၊ ဩဝါဒကထာ စကားများကို ဂိုဏ်းအသီးသီးမှာ ရှိကြတဲ့သံဃာတော်များ အားလုံးဟာ လေးလေးစားနဲ့ လိုက်နာ ကျင့်သုံးကြဖို့တာဝန်ကိုယ်စီ အပြည့် ရှိနေကြပါတယ် ဆိုတဲ့ အကြောင်းကိုလည်း ထင်ထင်ရှားရှားဖြစ်လာအောင် မီးမောင်း ထိုးပြထားပါတယ်ဘုရား။

လက်တွေ့ လုပ်ဆောင်ရမယ့် အပိုင်းမှာ ပြည်နယ်/တိုင်း သံဃာ့ ဝန်ဆောင်အဖွဲ့၊ မြို့နယ် သံဃာအဖွဲ့၊ ရပ်ကွက်၊ ကျေးရွာအုပ်စု သံဃာ အဖွဲ့လို့ အဖွဲ့ငယ်အသီးသီး ဖွဲ့စည်းထားပြီးတော့ ဒီအဖွဲ့ အစည်း အသီးသီးမှာ မိမိတို့ ဂိုဏ်းအသီးသီးက ပါဝင် ဆောင်ရွက်ခွင့် ပြုထားတာကိုလည်း တွေ့မြင်ရပါတယ်

ဘုရား၊ ဒီလို ဂိုဏ်းအသီးသီး ရပ်တည်ခွင့်၊ စင်ပြိုင် တည်ရှိခွင့် ပြုပြီးတော့ အသီးသီး ဆောင်ရွက်ခွင့်ပြုထားတဲ့ အပိုင်းပဲ သံဃာ အင်အားများတဲ့ သုဓမ္မာ သံဃာတော်များကတော့ ဒီအဖွဲ့ အစည်းကြီးက ချမှတ် ပေးလိုက်တဲ့ စည်းမျဉ်းနဲ့ အညီ သံဃာ့ နာယကအဖွဲ့ အသီးသီးကို ဖွဲ့စည်း ဆောင်ရွက်ကြမှာ ဖြစ်ပါတယ်ဘုရား၊ သုဓမ္မာဂိုဏ်းမှ အခြား သံဃာတော် များကတော့ သုဓမ္မာဂိုဏ်းနှင့် လက်တွဲပါဝင်ကြရာ ဒီသံဃာ့အဖွဲ့ အစည်း အသီးသီးမှာ ပါဝင်ဆောင်ရွက်လိုချင်လဲပဲ ပါဝင် ဆောင်ရွက်နိုင်ခွင့် ရှိကြပါတယ်ဘုရား၊ ဒီသံဃာ့ အဖွဲ့ အသီးသီးမှာ ပါဝင် ဆောင်ရွက်လိုခြင်း မရှိလျှင်လဲပဲ မိမိတို့ဂိုဏ်း အသီးသီး အလိုက် သံဃာ့နာယက အဖွဲ့များကို အဆင့်ဘူ အဖြစ်နဲ့ သတ်မှတ်ပြီးတော့ မိမိတို့ ဆောင်ရွက်လိုတဲ့ အတိုင်း ဆောင်ရွက်ခွင့်လည်း ပြုထားပါတယ်ဘုရား။

ဒီသံဃာ့ အဖွဲ့အစည်း အသီးသီး ဖွဲ့စည်းပုံကို ကြည့်ရယင် ယနေ့ နိုင်ငံတော်မှ၊ ကျင့်သုံးနေတဲ့ မူဝါဒနဲ့ တထပ်တည်း တူညီနေတာကိုလည်း တွေ့ရပါတယ်ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ပါတီရဲ့ လက်အောက်မှာ သက်ဆိုင်ရာဖြစ်တဲ့ သဘာဝချင်းလည်း မတူညီကြတဲ့ အလုပ်သမားအဖွဲ့၊ လယ်သမားအဖွဲ့၊ စာပေလုပ်သားအဖွဲ့၊ ရှေ့ဆောင် လူငယ်အဖွဲ့၊ လမ်းစဉ်လူငယ် အဖွဲ့စသည်ဖြင့် အဖွဲ့အစည်း အသီးသီး တည်ရှိနေကြသလို ဘုရားတပည့်တော်များရဲ့ သံဃာ့ ဂိုဏ်းပေါင်းစုံ အဖွဲ့ကြီးရဲ့ လက်အောက်မှာလဲပဲ တိုင်းနယ်၊ ပြည်နယ် သံဃာ့အဖွဲ့၊ မြို့နယ် သံဃာ့အဖွဲ့၊ ရပ်ကွက် ကျေးရွာ အုပ်စု သံဃာ့ အဖွဲ့ရယ်လို့ အဖွဲ့ငယ် အသီးသီး ဖွဲ့စည်း ထားပေးပြီးတဲ့နောက် ဒီအဖွဲ့အစည်း အသီးသီးမှာ မတူညီကြတဲ့ ဂိုဏ်းသံဃာတော်များကို သီးခြားရပ်တည်ခွင့်လဲပဲ ပြုထားပါတယ်ဘုရား၊ ဒီလိုစီမံ ပြုလုပ်ထားသည့် အတွက် နိုင်ငံတော်အရပ်ရပ်မှာ ရှိကြတဲ့ ဂိုဏ်းအသီးသီးက သံဃာတော် အရှင်မြတ်များ အားလုံးဟာ သဘောတူ ကျေနပ်စွာနဲ့ လက်ခံ ကြတာကိုလည်း တပည့်တော်များ တွေ့မြင် ကြရပါတယ်ဘုရား။

ယခု တပည့်တော် သာသနာ့အလံတော်နှင့် ပတ်သက်ပြီးတော့ ဆွေးနွေးပါ့မယ်ဘုရား။

၄၅-၀ ါဟ်လုံး ထုတ်ဆောင်ဟောအပ် ပိဋကတ်သုံးသွယ်-နိကာယ်ငါးဖြာ-အင်္ဂါကိုးတန် - ဓမ္မက္ခန္ဓာ ရှစ်သောင်း လေးထောင် များမြောင် လှစွာသော မြတ်ဗုဒ္ဓ၏ ဒေသနာတော်မြတ်ဟာ နတ်လူ ဗြဟ္မာ သတ္တဝါတွေ မကောင်းကျိုး ကင်းပ ကောင်းကျိုးတွေ ဖြစ်ထွန်းရအောင် ဆုံးမကြောင်း ဖြစ်တာကြောင့် သာသနာ မည်ပါတယ်ဘုရား။

မြတ်ဗုဒ္ဓရဲ့ အနန္တဉာဏ်တော်ကြောင့်သာ ဖြစ်ပေါ်လာတာကြောင့် အရှင်သာရိပုတ္တရာ အစရှိတဲ့ တေဒင်္ဂဘွဲ့ထူးရ တပည့်သာဝကကြီးတွေသော်မှ မပိုင်-မြတ်ဗုဒ္ဓရဲ့ ကိုယ်ပိုင်ဥစ္စာ သက်သက်သာ ဖြစ်တဲ့ ဒီသာသနာတော် မြတ်ကြီးရဲ့ သင်္ကေတမူ အမှတ်အသားကို ယူပြီးတော့ အောင်လံတော် လွှင့်ထူကြမယ်ဆိုယင် မြတ်ဗုဒ္ဓရဲ့ ဘုန်းတော်အနန္တ ကံတော်အနန္တကြောင့် ဖြစ်ပေါ်လာပြီး အခြားသူတွေ မရနိုင် - မပိုင် - မြတ်ဗုဒ္ဓရဲ့ ကိုယ်ပိုင် ဥစ္စာ သက်သက်သာ ဖြစ်တဲ့ စတင် ပေါ်ထွန်းလာတဲ့ နေ့က စပြီးတော့ ကြည်ညိုဘွယ်ရာ ရောင်ခြည်တော် အဖြာဖြာ ကွန့်မြူးနေတဲ့ ခြောက်သွယ်သော ရောင်ခြည်တော်များကို မြတ်ဗုဒ္ဓရဲ့ ကိုယ်စားတော်ပြုကာ သာသနာတော်ကြီးရဲ့ သင်္ကေတမူ အမှတ်အသားယူပြီး အောင်လံတော်အဖြစ် လွှင့်ထူကြပါတယ်ဘုရား။

မြတ်ဗုဒ္ဓရဲ့ ညစ်ကြေးမတင် သန့်ရှင်းစင်တဲ့ ရောင်ခြည်တော် များရဲ့ အသွင်ကို ဆောင်နေတဲ့ ဒီသာသနာ့ အောင်လံတော်ဟာ သာသနာတော် သန့်ရှင်းစင်ကြယ်ရေးရဲ့ ကောင်းမွန်လှတဲ့ ရှေ့ပြေး နိမိတ် အရိပ်အရောင် ဖြစ်ပါတယ်ဘုရား၊ ညစ်ကြေး မတင် သန့်ရှင်း စင်လှတဲ့ မြတ်ဗုဒ္ဓ၏ ကိုယ်တော်မှ ထွက်ပေါ်လာတဲ့ ခြောက်သွယ်သော ရောင်ခြည်တော် များဟာ အနန္တ စကြဝဠာတိုင်အောင် ပြေးသွားနေကြတာ စတင် ထွက်ပေါ်လာတဲ့ နေ့က စပြီးယနေ့အထိ တည်တံ့ နေတာ ဖြစ်တာကြောင့် ဒီတည်တံ့ နေတဲ့ မြတ်ဗုဒ္ဓရဲ့ ရောင်ခြည်တော် အသွင် တန်းဆာဆင်ထားတဲ့ ဒီသာသနာ့ အောင်လံတော်လဲပဲ မြတ်ဗုဒ္ဓ သာသနာတော် တည်တံ့ရေးရဲ့ ကောင်းလှတဲ့ အတိတ် နိမိတ်ရှေ့ပြေး အရိပ်အရောင်ပဲ ဖြစ်ပါတယ်ဘုရား။

မြတ်ဗုဒ္ဓရဲ့ ကိုယ်တော်က ထွက်ပေါ် ကွန့်မြူးလာတဲ့ ခြောက်သွယ်သော ရောင်ခြည်တော်တွေဟာ စကြဝဠာ အနန္တတိုင်အောင် ပြေးသွားတဲ့ ပျံ့နှံ့တဲ့ သဘော ရှိတာကြောင့် စကြဝဠာ အနန္တတိုင်အောင် ပျံ့နှံ့တဲ့ ရောင်ခြည်တော် ခြောက်သွယ်ရဲ့ အသွင်ကို ဆောင်ထားတဲ့ ဒီသာသနာ့အောင်လံတော်ဟာ သာသနာတော် ပြန့်ပွားရေးရဲ့ အတိတ် နိမိတ် ရှေ့ပြေး အရိပ်အရောင်ပဲ ဖြစ်ပါတယ်ဘုရား။

ဘုရားတပည့်တော် လျှောက်ထားခဲ့တဲ့ အတိုင်း သန့်ရှင်းခြင်း သဘော-တည်တံ့ခြင်း သဘော—ပြန့်ပွားခြင်း သဘောရှိတဲ့ ရောင်ခြည်တော် ခြောက်သွယ်ရဲ့ အသွင်ကို ဆောင်နေတဲ့ ဒီသာသနာ့ အောင်လံတော်ကို အတည်ပြုကြပါလျှင် ဘုရားတပည့်တော် တို့ရဲ့ ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီး အလဇ္ဇီ ဒုဿီလ မကောင်း ညစ်ကြေး အပြစ်ဘေးတွေမှ စင်ကြယ် သန့်ရှင်း အပြစ်ကင်း

ပြီး နှစ်ပေါင်း ငါးထောင်မက ကြာအောင် တည်တံ့ နိုင်မြဲကာ ဣမ္မာအနှံ့ တိုးတက် ပြန့်ပွား ပိုမိုစည်ကားအောင် ဒီသာသနာ့ အောင်လံတော်ဟာ အဘိတ်ကောဝိး နိမိတ်ကောင်း ဆောင်နေမှာ အမှန်ပင် ဖြစ်ပါတယ်ဘုရား။

ဘုရားတပည့်တော် တင်ပြ လျှောက်ထားခဲ့တဲ့ အကြောင်းတွေကြောင့် မြတ်ဗုဒ္ဓရဲ့ ခြောက်သွယ် ရောင်ခြည်တော် အသွင် ခြောက်သွယ်ခြောက်မျိုး ချယ်ထားတဲ့ ဒီသာသနာ့ အောင်လံတော်ဟာ ဒီသာသနာ့ အောင်လံကို သာသနာရေး ဘာသာရေး ကိစ္စ မှန်သမျှတွေမှာ သုံးစွဲ လွှင့်ထူကြဖို့ စီမံ ပြုလုပ် ခြင်းဟာ လွန်စွာပင် သင့်လျော်ပါကြောင်း ဘုရားတပည့်တော် ဆွေးနွေး ထောက်ခံအပ်ပါတယ်ဘုရား။

ဒါကြောင့် မြတ်ဗုဒ္ဓရဲ့ ခြောက်သွယ် ရောင်ခြည်အသွင် တန်းဆာဆင်ထားတဲ့ ဒီသာသနာ အောင်လံတော်ကို မြတ်ဗုဒ္ဓရဲ့ သာသနာနှင့် ပတ်သက်တဲ့ အခမ်းအနား စသည်တို့မှာ ငွါးငွါးစွင့်စွင့် ရဲမာန်ဝင့်ပြီးတော့ နေရအောင် လွှင့်ထူ အသုံးပြုကြပါစို့လို့ မွန်ပြည်နယ် သံဃာဘော်များရဲ့ ကိုယ်စား ဘုရားတပည့်တော် ကုမာရက လေးစားစွာ နိုးဆော် တိုက်တွန်းစကား လျှောက်ထားအပ်ပါသည်ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ရခိုင်ပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံ ဆွေးနွေးတော်မူရန် ကြွပါဘုရားဟု ပင့်ခေါ်တော်မူရာ—

ဦးကဝိန္ဒ (ရခိုင်ပြည်နယ်) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေးတော်မူသည်။

သက်တော်ရာကျော် ရှည်လတံ့ ဖြစ်ကြတဲ့ ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့်တကွ ဘုရားတပည့်တော်ထက် သိက္ခာ ဝါတော်အားဖြင့် ကြီးမားမြင့်မြတ်တော်မူကြတဲ့ ဆရာတော် သံဃာတော် အရှင်မြတ်များကို ဘုရားတပည့်တော် ဤနေရာက နေပြီးတော့ ဂါရဝ ပြုပါတယ်ဘုရား။

ဥက္ကဋ္ဌဆရာဘော် ဩဝါဒါစရိယ သက်တော်ရှည် ဆရာတော် ဘုရာကြီးများနှင့်တကွ သံဃာ့ သမ္မုတိရ သံဃာတော် အရှင်မြတ်တို့ဘုရား။

ရခိုင်ပြည်နယ် စစ်တွေ အခြေခံ ဒေသ သံဃာ့သမ္မုတိရ သံဃာ့ ကိုယ်စားလှယ်ဖြစ်တဲ့ ဘုရားတပည့်တော် ကဝိန္ဒက ထောက်ခံ ဆွေးနွေး လျှောက်ထားပါသည်ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း အခြေခံ စည်းမျဉ်း စာမျက်နှာ ၃၄၊ အခန်း (၁၁) အပိုဒ် ၈၃၊

(က)၊ (ခ) ပါ နိုင်ငံတော် သံဃာ့ မဟာနာယကအဖွဲ့ တံဆိပ်တုံးသည် ကျက်သရေ မင်္ဂလာ ဒဲဖြာဖြာ အပေါင်းနှင့် ပြည့်စုံတော်မူ၍ သင့်လျော် လျောက်ပတ်ကြောင်းကို တင်ပြလျှောက်ထား ရပါသည်ဘုရား။

အဆိုပါ တံဆိပ်တုံး၌ ကြာပွင့် (၄) ပွင့်နှင့် ကြာငုံတငုံ ပါရှိ နေခြင်း သည် အလွန်လေးနက်သော အမှတ်တံဆိပ် ဖြစ်ပါသည်ဘုရား၊ ဤအကြောင်း ကို အနည်းငယ် အကျယ်ချဲ့၍ လျှောက်ထားရမည် ဆိုသော် ယခု ဘုရား တပည့်တော်များ သီတင်းသုံး နေထိုင်လျက်ရှိသော ကမ္ဘာကြီးကို ဘုရားငါးဆူ ပွင့်တော်မူသော ဘဒ္ဒကမ္ဘာဟု ခေါ်ဆိုကြကြောင်းကို အရှင်ဘုရားများ အသိ ပင် ဖြစ်ပါသည်ဘုရား၊ ဘဒ္ဒကမ္ဘာဝယ် "ဗုဒ္ဓုပ္ပါဒေါ ဒုလ္လဘော" ဟူသော ဒေသနာအရ အလွန်တရာ ကြုံကြိုက်ခဲလှသော သဗ္ဗညုတ ဘုရားငါးဆူ ပွင့်တော်မူမည့် အတိတ်ကောင်း နိမိတ်ကောင်း တရပ်ကို ကမ္ဘာဦးအခါက သုဒ္ဓါဝါသ ဗြဟ္မာကြီးတို့ ကိုယ်တိုင် အစဦး တွေ့မြင်ရကြောင်းဖြင့် "ဣမသ္မိံ ဘဒ္ဒကပ္ပေ ပဥ္စပဒုမာနိ ဥပ္ပဇ္ဇိံသု၊ တေသံ နိမိတ္တာနံ အာနုဘာဝေန စတ္တာရော ဗုဒ္ဓါ ဥပ္ပန္နာ ပဥ္စမော ဥပ္ပဇ္ဇိဿတိ သုဒ္ဓါဝါသာ ဗြဟ္မာ နေဝပိတာနိ ပဒုမာနိ ဒိသွာ ဣမမတ္ထံ ဇာနိံသု" ဟူ၍ ဒီဃနိကာယ မဟာဝဂ္ဂဋ္ဌကထာ၊ မဟာပဒါန သုတ် ဆင့်မှူး စာမျက်နှာ (၆) ၌ အရှင်မဟာဗုဒ္ဓဃောသ မဟာထေရ်မြတ် ကြီးသည် သေချာကျန ဖွင့်ဆိုပြတော် မူခဲ့ပါသည်ဘုရား။

ယင်းအဋ္ဌကထာ၏ ဆိုလိုရင်း အဓိပ္ပာယ်မှာ ဤ ဘဒ္ဒကမ္ဘာ၏ လက်မှန်အစ တွေ့မြင်ရသော ဤ ကြာငါးငုံသည် ယင်းကမ္ဘာ၏ အထွဋ်မြတ်ဆုံး ဖြစ်တော် မူသော သဗ္ဗညုဘုရားရှင် ငါးဆူတိတိ ပွင့်တော်မူမည့် အတိတ်ကောင်း နိမိတ် ကောင်းတရပ်ဟူ၍ ထင်ရှားပြသ သိရှိရသော ကောင်းမြတ်သည့် အမှတ်တံဆိပ် လက္ခဏာပင်ဖြစ်ပါတော့သည်ဘုရား။

ယခု ဘုရားတပည့်တော်များ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံ တော်အစိုးရ၏ ထောက်ပံ့ကူညီမှုဖြင့် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွား စေရန် အလို့ငှာ ဖွဲ့စည်းမည့် သံဃာ့အဖွဲ့အစည်း အရပ်ရပ်တို့တွင် နောင် ပေါ် ပေါက်ဖွဲ့စည်းမည့် နိုင်ငံတော်သံဃာ့မဟာနာယကအဖွဲ့ကြီးသည်လည်း အထွတ် အထိပ် အခွင့်အာဏာကျယ်ဝန်းသော အဖွဲ့အစည်းတရပ်ပင် ဖြစ်ပါသည်ဘုရား၊ ထိုကဲ့သို့ ကမ္ဘာဦးတွင် ပေါ်ပေါက်လာသည့် မှန်မြတ်လှသည့် အမှတ်တံဆိပ်ကို ပင်လျှင် နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၏ အမှတ်တံဆိပ်အဖြစ်ဖြင့် အသိ အမှတ်အတည်ပြု ပြဋ္ဌာန်းခြင်းသည် အလွန့်အလွန် ရှေ့နောက် ညီညွတ်သော ကျိုးကြောင်း လျော်ညီသော အစီအမံ စည်းမျဉ်းတရပ်ပင် ဖြစ်ပါတော့သည် ဘုရား။

ငှင်းအပြင် အဆိုပါ အမှတ်တံဆိပ်၌ ကြာ (၄)ခိုင် ကားကား စွင့်စွင့် ဝေဖြာစွာ ပွင့်လျက်ရှိခြင်းသည်လည်း ဤ ဘဒ္ဒကမ္ဘာဝယ် ကကုသံ၊ ကောဏာဂုံ၊ ကဿပ နှင့် ဂေါတမ ဟူ၍ သဗ္ဗညု ရှင်တော်မြတ်ဘုရား လေးဆူ ပွင့်တော်မူပြီးဖြစ်ခြင်း၏ အမှတ်အသား လက္ခဏာပင် ဖြစ်ပါတော့သည်ဘုရား၊ တဖန် အလယ်ဗဟို တည့်တည့်၌ ကြာငုံတခု မားမားမြင့်မြင့် ပေါ်ထွက် ပါရှိနေခြင်း သည်လည်း နောင် အနာဂတ်ကာလဝယ် ပွင့်တော်မူလတ္တံ့ဖြစ်သည့် မေတ္တေယျ သဗ္ဗညုဘုရားရှင်၏ အမှတ်တံဆိပ် လက္ခဏာကြီးတရပ်ပင် ဖြစ်ပါသည်ဘုရား။

ထို့ပြင်တဝ ဤ ဘဒ္ဒကမ္ဘာ ဝယ် ပန်းပေါင်း စုံလင်စွာ ရှိပါလျက် ဤ ပဒုမ္မာကြာပန်းဖြင့် သာလျှင် နှိုင်းယှဉ်စံပြ၍ တံဆိပ်တုံး သတ်မှတ် ထားရှိခြင်း သည် ကန်တောင်ကန်ရိုးနှင့်တူသော ပရိယတ္တိသာသနာ၊ ရေကြည်ရေကောင်း နှင့်တူသော ပဋိပတ္တိ သာသနာ၊ ကြာပန်းနှင့် တူသော ပဋိဝေဓ သာသနာ၊ ဤ သာသနာသုံးရပ်နှင့် ဥပမာ ဥပမေယျနှိုင်းယှဉ်၍ နိုင်ငံတော် သံဃာ့မဟာ နာယကအဖွဲ့တံဆိပ်အဖြစ် သတ်မှတ်ထားရှိခြင်းမှာ ဘုရားရှင် သာသနာတော် သုံးရပ်လုံး သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအတွက် အောင်ခြင်းမင်္ဂလာ တရပ် လည်းဖြစ်ပါသည်ဘုရား။

ထို့ကြောင့် ယခုလျှောက်ထားခဲ့သော အကြောင်းအချက် အရပ်ရပ်တို့နှင့် လည်းကောင်း၊ ကမ္ဘာ့သမိုင်း ဗုဒ္ဓသမိုင်းနှင့် သာသနာ့သမိုင်း အရပ်ရပ် တို့နှင့် လိုက်လျောညီထွေ ကျက်သရေမင်္ဂလာ အပေါင်းတို့နှင့် ပြည့်စုံသော ဤသံဃာ့ မဟာနာယကအဖွဲ့ တံဆိပ် အပါအဝင် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း တခုလုံးကို ဤယနေ့ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးမှ တညီတညွတ် တည်း အတည်ပြု ပေးတော်မူကြပါမည့် အကြောင်း၊ မူလအဆိုကို ရခိုင် ပြည် နယ်အတွင်းရှိ သံဃာတော် သုံးထောင်ကျော်တို့၏ ကိုယ်စား စစ်တွေ အခြေခံ ဒေသ သံဃသမ္မုတိရကိုယ်စားလှယ် ဘုရားတပည့်တော် လရောင်ဝင်းဆရာတော် ကဝိန္ဒ က ထောက်ခံအပ်ပါသည်ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော်က ဆက်လက်၍ ရန်ကုန်တိုင်း ကိုယ် စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရား ဟု ပင့် လျှောက် လေရာ—

**ဦးဥတ္တမသာရ(ရန်ကုန်တိုင်း) က အောက်ပါအတိုင်း ထောက်ခံ ဆွေးနွေး တော်မူသည်။**

သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံအစည်းအဝေး ကြီးသို့ ကြွရောက်တော် မူလာကြသော သီလဝန္တ သိက္ခာကာမ ဂဏာဓိပတိ

စသည်ဖုံဖုံ ဂိုဏ်ပေါင်းစုံနှင့် ပြည့်စုံ ကြွယ်ဝတော်မူကြသည့် အဘိဓဇမဟာရဋ္ဌဂုရု၊ အဂ္ဂမဟာပဏ္ဍိတ၊ တိပိဋကဓရ သံဃာ့ဝန်ဆောင်ဆရာတော် ၆၆ ပါးနှင့် ပြည်နယ် / တိုင်း အသီးသီးမှ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် သက်တော်ရှည် အရှင်ကောင်း အရှင်မြတ်တို့ဘုရား။

ဘုရားတပည့်တော် ရန်ကုန် မှော်ဘီအခြေခံဒေသ တိုက်ကြီးမြို့နယ် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဥတ္တမသာရက အခြေခံစည်းမျဉ်းကို ထောက်ခံဆွေးနွေးမည်ဖြစ်ပါသည်ဘုရား။

သံဃတော်အရှင်မြတ်တို့ဘုရား၊ ယခု သံဃာ့အစည်းအဝေးကြီးတွင် သံဃာ့ဝန်ဆောင်ဆရာတော်များ အဓိက တင်သွင်းသော သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၌ အခန်း ၁၂၊ ၁၃-ပါအပိုဒ်များမှာ သာသနာတော် အရှည်ခန့်၍ တည်တံ့ရန် ရည်သန်ထားသော အကြောင်းအရာများကို ကောင်းစွာ တွေ့ရှိရပါသည်ဘုရား၊ ဤနေရာ၌ သာသနာတော်၏ ဂုဏ်ကျေးဇူးကို အနည်းငယ် လျှောက်ထားခွင့်ပြုတော်မူပါဘုရား၊ သာသနာဟူသော စကားသည် ကြားရသူ ကဏ္ဏသုခဖြစ်၍ သုဘိမုဂ်လာပြည့်ဝသည့်အပြင် သတ္တဝါအများတို့အား အလွန် ကျေးဇူးများ၍ ထိုသာသနာတော်၏ ပိုင်ရှင်မှာလည်း သုံးလူ့ထွတ်တင် ဘုရားရှင်ပင် ဖြစ်ပါသည်ဘုရား။

သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ ထိုသာသနာတော်ကို တည်ထောင်သော ရှင်တော်ဘုရား ပွင့်ထွန်းလာခြင်းကြောင့် ကျေးဇူးများပုံကို "ဗုဒ္ဓစန္ဒေအနုပ္ပန္နေ" စသည်ဖြင့် ပရိဝါပါဠိတော် သမုဋ္ဌာနသီသ သခေပ ၁ လာ စကားတော်မြတ်နှင့် အညီ နေမင်း လမင်းတို့၏ အရောင်အလင်းသည် သတ္တဝါတို့အား ကျေးဇူးများသည်ထက် ဘုရားတည်းဟူသော နေမင်း လမင်းကြီး၏ အရောင် ထွန်းပြောင်ခြင်းသည် သတ္တဝါများတို့၏ ပစ္စုပ္ပန် သံသရာ နှစ်ဖြာပွားတိုး အကျိုးများစေကြောင်း သိကောင်းသမျှ တရားဓမ္မ အဝဝတို့ကို ဟောညွှန်ပြတော် မူခဲ့သဖြင့် သံသရာဝဋ် လွတ်မြောက်လိုငြား သူတော်စဥ်အများက လုံ့လပြုကာ ကု-အကု အဗျာ-သိက္ခာ သုံးဝ မြတ်ဓမ္မတို့ကို သိကြကျင့်ကြံ ရင့်သန်သမျှ ရကြပြီးလျှင် လူ့နတ်နိဗ္ဗာန် သုံးတန်သောချမ်းသာကို အသာ အလွယ်တကူရယူသွားကြသော များဗိုလ်လူတို့မှာ အသင်္ချေအနန္တ မရေမတွက်နိုင်အောင် အကျိုးများလှသော သာသနာတော်ကြီး ဖြစ်ပါကြောင်း သိရှိတော်မူပြီး ဖြစ်ပါလိမ့်မည် ဘုရား။

သံဃာတော် အရှင်မြတ်တို့ဘုရား၊- ဤမျှ ကျေးဇူးများလှသော သာသနာတော်မြတ်ကြီး၏ အရှည်ခန့်၍ တည်တံ့သန့်ရှင်း ပြန့်ပွားရန်မှာ အသိဉာဏ်ကြီးထွား သဒ္ဓါများသူတိုင်း၏ တာဝန်သာ ဖြ(စ်)ပါတော့သည် ဘုရား၊

---
၁။ ပိ၊ ၅။ ၁၅၇။

ထို့ကြောင့်ဗုဒ္ဓမြတ်စွာသာသနာတော်ကို ကျေးဇူးတို့ပြန်သောအားဖြင့် အရှည်ခန့်၍ တည်တံ့ရန်အတွက် အဇာတသတ်စသော မင်းကောင်းမင်းမြတ်များ၊ အနာထပိဏ်စသော သဒ္ဒေး သူကြွယ်များနှင့်တကွ ကုန်သည်လယ်လုပ်ပါမကျန် သာသနာ့ဒါယကာများနှင့် အရှင်မဟာကဿပ စသည် သောင်းသောင်း ထေရ်ရှင်အပေါင်းတို့ စုပေါင်းညီညာ ဆရာဒကာ အညော အညာ နိဿိတအနေအားဖြင့် မိမိတို့အပေါ် ကျရောက်လာသော သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးတာဝန်ကို အားသွန်ခွန်စိုက် ကျေပွန်အောင် ထမ်းဆောင်အထူး ကျေးဇူးပြုခဲ့ကြပါသည်ဘုရား။

သံဃတော် အရှင်သူမြတ်တို့ဘုရား၊ ထိုနည်းတူစွာ ဤ ယခု အချိန်အခါတွင်လည်း ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန၏ မွန်မြတ်လှသော စေတနာဖြင့် တိုင်းနယ်ပြည်နယ် အသွယ်သွယ်တို့၌ သီတင်းသုံး နေထိုင်ကြသော ရဟန်းတော် အရှင်မြတ်တို့အား လျှောက်ထား ပန်ကြားချက်အရ တိုင်းနယ်ပြည်နယ် အသွယ်သွယ်တို့၏ မထေရ်ကြီးတို့က ယခု ပစ္စက္ခသာသနာတွင်းရှိ ရဟန်းတော် အချို့မှာ ဂိဟိကမ္မလူ့ကိစ္စ အဝဝတို့ကို အသုံးပြုလျက် "ငါ့လှေ ငါထိုး ပဲခူးရောက်ရောက်" သဘောပေါက်ကာ အဖွဲ့အစည်း ကင်းပျောက်၍ ဂဏာဓိပတိ ဂဏနာယက မရှိသလောက် ဖြစ်နေခြင်း၊ သိက္ခာမတင် သိမ်မဝင်ခြင်း ဖြစ်နေချိန် အခါဝယ် "တဿ ဘဂဝတော ပရိသာ ယဒိဒံ အညမညဝစနေန" အစရှိသော မိန့်မှာတော်မူချက် အရ အချင်းချင်း ပြောဆိုဆုံးမခွင့်ရမှ ဆိုခဲ့ပြီးသော အညစ်အကြေး ကင်းပ ကောင်းမြတ်သော ရဟန်းတော်ပရိသတ် တိုးပွားပြီး သာသနာ သန့်ရှင်းမှု စသည် ရနိုင်လောက်အောင် ရည်ရွယ်ချက် ချလျက် အရေးတယူ ရွေးချယ်တော်မူလိုက်သော သံဃာ့ဝန်ဆောင်အဖွဲ့က အကြိမ်ကြိမ် စည်းဝေး ဆွေးနွေး ညှိနှိုင်း၍ တိုင်းပြည်၌ နေထိုင်ကြသော ရဟန်း ရှင်လူ ပညာရှိများထံ အကြံဉာဏ် ရယူလျက် အထပ်ထပ် သုတ်သင်ပြင်ဆင် တည်းဖြတ်ခြင်း စသော ပြုလုပ် အားထုတ်မှုကြောင့် သံဃာ့စည်းမျဉ်း မူကြမ်း ပေါ်ထွက်ခဲ့ပါသည်ဘုရား။

သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ယင်းအခြေခံ စည်းမျဉ်း တအုပ်လုံးကို စီစစ်၍ ကြည့်ရှုသည့်အခါ အခန်းအားဖြင့် ၁၄-ခန်း တွေ့ရှိရပါသည်ဘုရား၊ ၎င်း ၁၄-ခန်းတွင် အခန်း ၁၂-နှင့် ၁၃-ပါ အပိုဒ် အသီးသီးတို့၏ လိုရင်းမှာ "သံဃဂရုတေန ဘဝိတဗ္ဗံ နော ပုဂ္ဂလဂရုတေန" ဟု ပရိဝါပါဠိတော် လာရှိသည့်အတိုင်း မည်သည့်အရာတွင်မျှ ပုဂ္ဂိုလ်တဦး တယောက်ကို ဦးစားမပေးပဲ အများသံဃာကို သာလျှင် အလေးဂရုပြု၍ ဦးစားပေး

ထားသည်ကို တွေ့ရှိရပါသည်ဘုရား၊ ဤသို့ သံဃာတော်အား ဦးစားပေး ထားသည့်အရာတွင် အခန်း ၁၂-နှင့် ၁၃-ပါ အခြေခံ စည်းမျဉ်း တအုပ်လုံး၏ သည်းချေပမာ အလွန် အရေးပါ လှသည်ကို တွေ့ရ ပြန်ပါသည်ဘုရား၊ အဘယ်ကြောင့် ဆိုသော် သာသနာတော် တရပ်လုံးနှင့် သက်ဆိုင်သော ဤ အခြေခံ စည်းမျဉ်းပါ အပိုဒ်ငယ်တခုကို ပြင်ဆင်မှု ပြုလိုလျှင်ပင် မည်သည့် ပုဂ္ဂိုလ် တဦးတယောက်ကိုမျှ အာဏာ အပ်နှင်းထားခြင်း မရှိ၊ ဂိုဏ်းပေါင်းစုံ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် တထောင့်နှစ်ရာကျော် မျှသော သံဃာတော် များကသာလျှင် ပြင်ဆင်ခွင့် ရှိသည်ကို တွေ့ရှိရသဖြင့် လည်းကောင်း၊ ယင်း ကိစ္စရပ်များ အရေးကြီးမကြီး သတ်မှတ်ရမည်ကိုပင် ပုဂ္ဂိုလ် တဦး တယောက် သဘောမျှဖြင့် ဆုံးဖြတ်ခွင့် မရှိ သုံးရာတိတိ ဖွဲ့စည်းထားသည့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အစည်းအဝေးကသာ သဘောတူ ဆုံးဖြတ်ပေးရခြင်း၊ အရေးကြီးသည့် ကိစ္စများတွင် တထောင့်နှစ်ရာကျော် အနက်မှ ကိုးရာကျော် သံဃာတော်များ၏ ဆန္ဒဖြင့်သာ ပြင်ဆင်နိုင်ခွင့်ရှိခြင်း၊ အရေးမကြီးသည့် ကိစ္စကိုပင် ခြောက်ရာကျော် သံဃာတော်များ၏ ဆန္ဒဖြင့်သာ ပြင်ဆင်နိုင်ခွင့် ရှိခြင်းတို့ကို တွေ့ရှိရသဖြင့် လည်းကောင်း၊ ဤစည်းမျဉ်းအရ လုပ်ကိုင် ဆောင်ရွက်ရမည့် လုပ်ထုံး လုပ်နည်းများ ရေးဆွဲခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့် စွက်ခြင်း များကိုလည်း သုံးရာတိတိ ဖွဲ့စည်းထားသော နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင် အဖွဲ့ကသာလျှင် ပြုရမည်ဟု သတ်မှတ်ထားသည်ကို တွေ့ရသဖြင့် လည်းကောင်း၊ သာသနာတော်နှင့် ဆိုင်သော ကိစ္စရပ်များအတွက် ညွှန်ကြား ချက်များ ထုတ်ပြန်ရာ၌လည်း မြန်မာနိုင်ငံတော် တဝန်းလုံးရှိ တသိန်းကျော် သော သံဃာတော်များက သမ္မုတိရ အဆင့်ဆင့်ပေး၍ ရွေးချယ်တင်မြှောက် အပ်သော သုံးကျိပ်သုံးပါးသော နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ အဖွဲ့ အစည်းကြီး ကသာ ထုတ်ပြန် ညွှန်ကြား နိုင်ခွင့် ရှိသည်ကို တွေ့ရ သဖြင့် လည်းကောင်း၊ ဤစည်းမျဉ်းအရ အရေးကြီးသည့် ကိစ္စရပ်များတွင် ပုဂ္ဂိုလ်အား အလေးဂရုမပြုပဲ သံဃာတော်အား အလေးဂရု ပြုထားကြောင်း အလွန် ထင်ရှားပါသည်ဘုရား၊ သို့ဖြစ်ပါ၍လည်း အခန်း ၁၂-နှင့် ၁၃-မှာ စည်းမျဉ်းတခုလုံး၏ သည်းချေဖြစ်ပါသည်ဟု ဘုရားတပည့်တော် ဆိုခဲ့ခြင်း ဖြစ်ပါသည်ဘုရား။

သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဤသို့ အရာရာတွင် သံဃာတော် အား အလေးဂရုပြုထားသဖြင့် သံဃာတော်များ စည်းဝေး တိုင်ပင်မှု များ လာခြင်း ဖြစ်ရကား ငါ၏ သာသနာတော်၌ ရဟန်းတို့ စည်းဝေးတိုင်ပင်ခြင်း များခြင်းသည် ဆုတ်ယုတ်ခြင်း၏ အကြောင်း မဟုတ်၊ ကြီးပွားခြင်း၏

အကြောင်းသာတည်းဟု မိန့်မှာတော်မူချက်အရ ဤသံဃာ့ဝန်ဆောင် အဖွဲ့ကြီးက တင်သွင်းထားသော အခန်း ၁၂-နှင့် ၁၃-ပါ အခြေခံ စည်းမျဉ်းများသည် သာသနာတော် ကြီးပွားခြင်း၏ အကြောင်းဖြစ်သည်ဟု ဘုရားတပည့်တော်များ ဒွိဟ မရှိ အပြည့်အဝ ယုံကြည်ပါသည်ဘုရား။

ဤသို့ ယုံကြည်သည့် အလျောက် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး သံဃာ့ အဖွဲ့အစည်း ဤအခြေခံ စည်းမျဉ်းကို ရန်ကုန်တိုင်း မှော်ဘီ အခြေခံဒေသ တိုက်ကြီးမြို့နယ်၊ ကမ်းနားကျောင်း ဥတ္တမသာရက ရန်ကုန်တိုင်း သံဃာတော်များကိုယ်စား ချွင်းချက်မရှိ အတည်ပြု ပေးပါရန် ထောက်ခံအပ်ပါသည် သက်တော်ရှည် သံဃာတော် ဆရာတော် အရှင်ကောင်း အရှင်မြတ် အပေါင်းတို့ဘုရား။

ထို့နောက် အခမ်းအနားမှူး ဆရာတော်က ဆက်လက်၍ ရှမ်းပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံ ဆွေးနွေးရန် ကြွတော်မူပါဘုရား ဟု လျှောက်ထား ပင့်ခေါ်ရာ—

ဦးတေဇဝန္တ ( ရှမ်းပြည်နယ် ) က အောက်ပါအတိုင်း ထောက်ခံဆွေးနွေး တော်မူသည်။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

ဘုရားတပည့်တော်သည် ရှမ်းပြည်၊ ကျောက်မဲ အခြေခံဒေသမှ သမ္ဗုတိရ မိုးမိတ်မြို့ ပုဗ္ဗာရုံကျောင်းမှ တေဇဝန္တ ဖြစ်ပါတယ်ဘုရား၊ ဘုရားတပည့်တော် ကပင် ရှမ်းပြည်နယ် သံဃာတော်များ၏ ကိုယ်စား ပြည်ထောင်စု ဆိုရှယ် လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို ထောက်ခံ ဆွေးနွေးရာတွင် အခန်း (၂) အခြေခံမူများထဲမှ အပိုဒ်-၄ “ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ ဤစည်းမျဉ်း အရ သတ်မှတ်ထားသည့် ဂိုဏ်းပေါင်းစုံ ပါဝင်သော သံဃာ့ အဖွဲ့အစည်း တခုတည်းသာ ရှိရမည် ” ဆိုသော အပိုဒ်နှင့် အခန်း (၁၄) အထွေထွေ ပိုင်းမှ အပိုဒ် (၉၀) “ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် အတွင်း မှီတင်း သီတင်းသုံး နေထိုင်ကြသော ရှင်သာမဏေများနှင့် ရဟန်း တော်များအားလုံးသည် သတ်မှတ်ထားသော သာသနာဝင် မှတ်တမ်းကို

ကိုင်ဆောင်ကြရမည်'' ဆိုသော အပိုဒ်တို့ကို အဓိကထားပြီး ထောက်ခံဆွေးနွေးသွားပါမည်ဘုရား။

တပည့်တော်တို့ နိုင်ငံတွင် ပြည်နယ်နှင့် တိုင်း စုစုပေါင်း (၁၄) ခု ခွဲခြားထားပြီး တိုင်းရင်းသား လူမျိုးပေါင်းစုံတို့ ချစ်ကြည် ရင်းနှီးစွာ အေးအတူ ပူအမျှ၊ မရှိအတူ၊ ရှိအတူ၊ နေထိုင်လျက် ရှိနေကြ ပါသည်၊ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အတွင်း မှီတင်း သီတင်း သုံးလျက်ရှိသော ရဟန်း သံဃာတော်များသည်လည်း ညီညွတ်စွာဖြင့် ဂိုဏ်းပေါင်းစုံ ပါဝင်သော သံဃာ့ အဖွဲ့အစည်း တခုတည်းသာ တည်ရှိမည် ဆိုခြင်းမှာ အလွန်ပင် ကောင်းမွန်သော အချက်ဖြစ်သည့် အလျောက် အခြေခံမူတွင် ဖော်ပြထားခြင်းကို အလေးအနက် ထောက်ခံပါသည်ဘုရား။

ထို့ပြင် သာသနာဝင်မှတ်တမ်းကို ရဟန်းသံဃာတော်များ ကိုင်ဆောင်ကြခြင်းအားဖြင့် သာသနာတော်ကို ညစ်နွမ်းစေသည့် ရဟန်းတုရဟန်းယောင်များ၏ အန္တရာယ်ကို ကာကွယ် ပေးနိုင်မည်ဟု တပည့်တော် ယုံကြည်ပါသည် ဘုရား၊ သာသနာဝင်မှတ်တမ်း ရှိခြင်းအားဖြင့် သာမဏေသာရုပ္ပ မဖြစ်သော အချို့ကိစ္စများတွင် သံဃာတော်များ ကိုယ်တိုင် ကြွရောက်ရန်မလိုပဲ ကိစ္စပြီး မြောက်နိုင်ခြင်း အကျိုးကိုလည်း ရရှိနိုင်ပါသည်၊ ဥပမာအားဖြင့် မီးရထား လက်မှတ်ရရှိရေးအတွက် ကိုယ်တိုင်တန်းစီနေရန်မလိုတော့ပဲ တကာတယောက် ကို သာသနာဝင် မှတ်တမ်းပေး၍ စေခိုင်းလျှင် လိုအပ်သောကိစ္စ ပြီးမြောက် နိုင်ပါသည်ဘုရား၊ ထို့ကြောင့် ရဟန်းသာမဏေတိုင်း သာသနာဝင်မှတ်တမ်း ကို ကိုင်ဆောင်ကြရမည် ဟူသော အပိုဒ် (၉၀)ကို အဓိကထားပြီး သံဃာ့အဖွဲ့ အစည်း အခြေခံစည်းမျဉ်းကို အတည်ပြုရန် ရှမ်းပြည်နယ် သံဃာတော်များ၏ ကိုယ်စား တပည့်တော် တေဇဝန္တက ထောက်ခံပါကြောင်း လျှောက်ထား ပါသည် သံဃာတော် ဆရာတော် အရှင်သူမြတ်တို့ဘုရား။

**ထို့နောက် အခမ်းအနားမှူး ဆရာတော်က** ဆက်လက်၍ ဧရာဝတီတိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံ ဆွေးနွေးရန် ကြွတော်မူပါဘုရား ဟု ပင့်လျှောက်ရာ—

**ဦးဝိဇယ(ဧရာဝတီတိုင်း)က** အောက်ပါအတိုင်း ထောက်ခံဆွေးနွေးတော် မူသည်။

ရှိသေလေးစားအပ်ပါသော နာယက ဆရာတော်များ၊ ဥက္ကဋ္ဌဆရာတော် များနှင့် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံသံဃာ့

အစည်းအဝေးကြီးသို့ ပြည်နယ်/ပြည်မ တိုင်းအသီးသီးတို့မှ ကြွရောက်တော်မူလာကြကုန်သော သံဃသမ္မုတိရသံဃာ့ကိုယ်စားလှယ် အရှင်သူမြတ်တို့ဘုရား။

ဘုရားတပည့်တော် ရေဝတီတိုင်း သုဓမ္မာဂိုဏ်းဝင် သံဃာတော်ပေါင်း တစ်ထောင်ခန့်တို့ကို ကိုယ်စားပြု၍ မြောင်းမြ အခြေခံဒေသ ဝါးခယ်မမြို့နယ် ကိုယ်စားလှယ်၊ ဝါးခယ်မမြို့၊ ကွမ်းခြံကုန်းကျောင်း ဝိဇယက ရှိသေစွာလျှောက်ထားဝံ့ပါသည် အရှင်သူမြတ်တို့ဘုရား။

ဘုရားတပည့်တော်သည် ပထမနေ့က သံဃာ့ဝန်ဆောင်ဆရာတော်ဖြစ်တော်မူသော သန်လျင် ဦးဝဏ္ဏသိရီမှ သံဃာ့ဝန်ဆောင် ဆရာတော်တို့မှ ရေးဆွဲတင်သွင်းအပ်သော အခြေခံ သံဃာ့ဖွဲ့စည်းပုံ စည်းမျဉ်းကို ထောက်ခံ ဆွေးနွေးသွားမည် ဖြစ်ပါသည်ဘုရား။

ဆရာတော်သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ အရှင်အာနန္ဒာ မထေရ်မြတ်သည် တရား ဟောကြား နေသည်ကို မြင်သည့် ပရိသတ်များက နှစ်သက်၏၊ တရားဟောကြားပြီးသော အရှင်အာနန္ဒာ မထေရ်မြတ်ကိုမြင်ရသည့် ပရိသတ်များက နှစ်သက်၏ စသည်ဖြင့် သုတ်မဟာဝါပါဠိတော်လာ အရှင်အာနန္ဒာ မထေရ်မြတ်၏ ဂုဏ်ပုဒ်များကဲ့သို့ ဤအခြေခံစည်းမျဉ်း၌လည်း နှစ်သက်ဖွယ်ရာ စ-လယ်-ဆုံး ကောင်းခြင်းသုံးဖြာ ဂုဏ်ပုဒ်များနှင့် ထူးခြားစွာ ပါဝင်နေသည်ကို တွေ့မြင်ရပါသည်ဘုရား။

ဤအခြေခံစည်းမျဉ်း စာမျက်နှာ ( ၃၉ )နောက်ဆက်တွဲ(က)နှင့် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းပုံဇယားတို့ကို ထောက်ခံဆွေးနွေး တင်ပြသွားလိုပါသည်ဘုရား။

နောက်ဆက်တွဲ(က)၌ သုဓမ္မာဂိုဏ်း ရွှေကျင်ဂိုဏ်းစသော ဂိုဏ်း( ၉ )ဂိုဏ်းတို့ကို ဖော်ပြထားပါသည်ဘုရား၊ ယင်း ( ၉ ) ဂိုဏ်းလုံးပင် အခြေခံ စည်းမျဉ်း အပိုဒ်-၂ (ဃ) နှင့် အပိုဒ် ၇-တို့အရ ၁၃၄၁-ခုနှစ်၊ တပို့တွဲ လပြည့်ကျော် ( ၁ ) ရက်၊ ၁၉၈၀-ပြည့်နှစ်၊ ဖေဖော်ဝါရီလ ( ၁ ) ရက်နေ့ကို နောက်ဆုံးထား၍ ပြည်ထဲရေး နှင့် သာသနာရေး ဝန်ကြီးဌာန၊ သာသနာရေး ဦးစီးဌာနတွင် စာရင်းဝင်ပြီးသော ဆက်လက်တည်ရှိခွင့်ရသည့် ဂိုဏ်းအသီးသီးတို့ ဖြစ်ကြပါသည်ဘုရား၊ ထို ဂိုဏ်းအသီးသီးတို့တွင် သုဓမ္မာဂိုဏ်း၌ ရဟန်းသံဃာတော်ပေါင်း တစ်သိန်းခန့်ရှိ၍ အနောက်ချောင်း ဒွါရဂိုဏ်း၌ ရဟန်းတော်ပေါင်း တစ်ရာကျော် ခန့် သာ ရှိပါသည်ဘုရား၊ အနောက်ချောင်း ဒွါရဂိုဏ်းထက် ရဟန်းတော် ဦးရေ ပိုမိုများပြားသော ငှက်တွင်းဂိုဏ်း၊ ဂဏဝိမုတ်ကူးတို့ဂိုဏ်း၊ မဟာရင်ဂိုဏ်းတို့လည်း ရှိကြပါသည်ဘုရား၊ ထို ဂိုဏ်းဝင်များသည် ဂိုဏ်းကွဲမှု

ကြောင့် မည်သည့် အနှောက်အယှက်မျှ မရှိပဲ နှစ်ပေါင်းများစွာ ရပ်တည်နေနိုင်ခဲ့ကြ ပါသည်ဘုရား၊ အင်အား ကြီးမားသော ဂိုဏ်းကြီးများ ရှိပါလျက် အင်အား သေးငယ်သော ဂိုဏ်းငယ်များကြာရှည်စွာ ရပ်တည်နေနိုင်မှုမှာလည်း ကမ္ဘာ့ သာသနာဝင်နှင့် နှိုင်းယှဉ်ကြည့်ပါက ကြီးနိုင်ငယ်ညှင်း မရှိတာကို တွေ့ရ၍ များစွာဂုဏ်ယူထိုက်ပါသည် အရှင်မြတ်တို့ဘုရား၊ ကမ္ဘာ့သာသနာဝင်ကို လေ့လာကြည့်ရှုပါက ဘာသာတိုင်းလိုလို အင်အားကြီးမားသည့် ဂိုဏ်းများက အင်အားကြီးမားမှုကို အခွင့်အရေးယူ၍ အဓမ္မနည်းအသုံးပြုကာ အင်အားသေး ဂိုဏ်းငယ်များကို နှိမ်နင်းခဲ့ကြသည်ကို တွေ့ရပါလိမ့်မည်ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်၌ ဤကဲ့သို့ မလိုလားအပ်သော ကြီးနိုင် ငယ်ညှင်း အဖြစ်ဆိုးများကို တွေ့ဖို့ရာ ခဲယဉ်းမည် ဖြစ်ပါသည်ဘုရား၊ ယခု တပည့်တော်တို့ အခြေခံ စည်းမျဉ်းကို အတည်ပြု လိုက်လျှင်သော်၍ပင် ခဲယဉ်းမည် ဖြစ်ပါသည်ဘုရား၊ ကြီးနိုင် ငယ်ညှင်း မဖြစ်နိုင်အောင် အာမခံချက် ပေးထားသော အခြေခံ စည်းမျဉ်း ဖြစ်ပါသည်ဘုရား။

မြန်မာနိုင်ငံတော်၌ တည်ရှိသော "ကြီးသူက ငယ်သူအား ညှာတာမှု၊ ငယ်သူက ကြီးသူအား အရိုအသေပြုမှု" ဟူသော ဂုဏ်ယူထိုက်သော အချက်များ အကြောင်းကြောင်းကြောင့် မှေးမှိန်သလို ရှိခဲ့ပါသည်ဘုရား၊ ဤအခြေခံ စည်းမျဉ်း နောက်ဆက်တွဲ (က) ပါ ဂိုဏ်းကြီး ဂိုဏ်းငယ်တို့သည် သီးခြားနေထိုင်လိုက နေထိုင်ခွင့်၊ အခြေအနေအရ ပူးပေါင်းလိုပါက ပူးပေါင်းနိုင်ခွင့် ဟူသော မိမိ သဘောအလျှ ပြုမှုနေထိုင်ခွင့်များကို လွတ်လပ်စွာ ရရှိ၍ လေးလေးနက်နက် ထောက်ခံ ဆွေးနွေးခြင်း ဖြစ်ပါသည်ဘုရား။

လေးစားအပ်သော သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ဖွဲ့စည်း အုပ်ချုပ်ပုံ ဇယားကို လေ့လာ ကြည့်ရှုပါက နိုင်ငံတော်ပိုင်း၊ အောက်အခြေခံပိုင်း ဟူ၍ အပိုင်းကြီး (၂) ပိုင်း ရှိသည်ကို တွေ့မြင်ရပါသည်ဘုရား၊ နိုင်ငံတော်ပိုင်း၌ တဂိုဏ်းတဖွဲ့ အနေအားဖြင့် ပါဝင်ခွင့် မရသည့် ထူးခြားချက် နှင့် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနနှင့် ဆက်သွယ်ခွင့် ရပုံကိုလည်းကောင်း၊ အောက်အခြေခံပိုင်း (၃) ဖွဲ့၌ အဆင့်စုဂိုဏ်းအလိုက် သံဃာ့နာယက ဖွဲ့စည်းခွင့်နှင့် လိုအပ်သည့် အခါ ကောင်စီ အဆင့်ဆင့်နှင့် ဆက်သွယ်ခွင့် ရပုံကို လည်းကောင်း၊ အဆင့်ဆင့် ဆက်သွယ်ရာ၌ သံဃာ့နာယက အဖွဲ့က ဓမ္မစကားကို အကောင်အထည် ဖော်လိုသည့် အခါ ကောင်စီ အဆင့်ဆင့်က အာဏာစက် အကူအညီဖြင့် ကူညီနိုင်ပုံကို လည်းကောင်း တွေ့မြင်ရပါသည်ဘုရား။

သံဃာ့နာယကများကို အထိန်းအကွပ်အဖြစ် လမ်းညွှန်ပေးနိုင်ရန် သံဃာ့အဖွဲ့အစည်း အဆင့်ဆင့်တို့မှာ သံဃာ့ဝန်ဆောင် ဆရာတော်များ ရှိနေကာကို တွေ့မြင်နိုင်ပါသည်ဘုရား၊ ဒါကိုကြည့်ယင် ဓမ္မစက်နှင့် အာဏာစက် ပူးပေါင်းဆက်သွယ် ဆောင်ရွက်မှုကို ဖော်ပြ နေပါသည်ဘုရား။

ဤသို့ ဓမ္မစက်အရာ အာဏာစက် အကူအညီကို အကြောင်းပြု၍ မြတ်ဘုရား၏ သာသနာတော်ကြီးသည် တကယ်ပင် သန့်ရှင်း တည်တံ့ ပြန့်ပွားမည့် အရိပ်အာယောင် ရောင်ခြည်ဦးတို့ကို တွေ့မြင်ပြီ ဖြစ်ပါ၍ တပည့်တော် ဝါးခယ်မ မြို့နယ် ကိုယ်စားလှယ်၊ ဝါးမယ်မမြို့ ကွမ်းခြံကုန်း ကျောင်း ဝိဇယ က လေးလေးနက်နက် ဆွေးနွေး ထောက်ခံယင်း နိဂုံးချုပ်အပ်ပါဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော် က ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ အစီအစဉ်အရ တပည့်တော်တို့ နေ့လည်ပိုင်း အစည်းအဝေးကို အဖျော်ယမကာ ဆက်ကပ်နိုင်ရန်အတွက် မိနစ် ၂၀ ခန့် ရပ်နားမည် ဖြစ်ပါတယ်ဘုရား၊ အစည်းအဝေးကို မွန်းလွဲ ၂–နာရီ ၁၀–မိနစ်တွင် ပြန်လည်စပါမည်ဘုရား၊ အဖျော်ယမကာများကို လိုဏ်ဂူတော်ကြီး အတွင်းမှာပင် ဆက်ကပ်ရန် စီစဉ်ထားပါကြောင်း ရှိသေစွာ လျှောက်ထား အပ်ပါသည်ဘုရားဟု လျှောက်ထားရာ–

အစည်းအဝေးကို မိနစ် ၂၀–ရပ်နား၍ မွန်းလွဲ ၂–နာရီ ၁၀–မိနစ်တွင် ပြန်လည် ကျင်းပသည်။

ခေတ္တ အနားယူပြီးနောက် အခမ်းအနားမှူးဆရာတော် က ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ နေ့လည်ပိုင်း အစည်းအဝေး ဆက်လက်ကျင်းပမည်ဖြစ်ပါ၍ သတ်မှတ်ထားသော နေရာများသို့ ကြွရောက် သီတင်းသုံးတော်မူကြပါရန် ပင့်လျှောက် ပါသည်ဘုရား ဟု သုံးကြိမ် တိုင်တိုင် ပင့်လျှောက်ပါသည်။

**ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း (မူကြမ်း) နှင့် ပတ်သက်၍ ဂိုဏ်း အသီးသီးနှင့် ပြည်နယ်/တိုင်း/အသီးသီးတို့မှ ကိုယ်စားလှယ်များ ထောက်ခံ ဆွေးနွေးချက်များအပေါ် သံဃာ့ဝန်ဆောင် အဖွဲ့က ပြန်ကြား လျှောက်ထားခြင်း နှင့် အတည်ပြုခြင်း**

တဖန် အခမ်းအနားမှူးဆရာတော် က မွန်းလွဲပိုင်း အစည်းဝေး ဆက်လက်ကျင်းပပါမည်ဘုရား၊ ယခုအခါတွင် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာ

နိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း (မူကြမ်း) ကို ဂိုဏ်း အသီးသီးနှင့် ပြည်နယ်/တိုင်း သီးသီးမှ ကိုယ်စားလှယ်များက ထောက်ခံ ဆွေးနွေးခြင်းများ ပြီးဆုံးသွားပါပြီဘုရား၊ ထိုကဲ့သို့ ထောက်ခံ ဆွေးနွေး ချက်များအပေါ်တွင် သံဃာ့ ဝန်ဆောင်အဖွဲ့က ပြန်ကြား လျှောက်ထား မည် ဖြစ်ပါသည်ဘုရား၊ သံဃာ့ဝန်ဆောင်အဖွဲ့ ကိုယ်စား ပြန်ကြားလျှောက် ထားမည့် သန်လျင် အခြေခံဒေသမှ ဆရာတော် ဦးဝဏ္ဏသိရီ ကြွပါဘုရားဟု ပင့်လျှောက်လေရာ—

**ဦးဝဏ္ဏသိရီ** က အောက်ပါ အတိုင်း ပြန်ကြား လျှောက်ထား တော်မူ သည်။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း အခြေခံ စည်းမျဉ်းနှင့် ပတ်သက်၍ သံဃာ့ဝန်ဆောင် အဖွဲ့၏ ပြန်ကြား ချက်ပါဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ယခုအခါမှာ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း နှင့်ပတ်သက်၍ ဂိုဏ်းအသီးသီးနှင့် ပြည်နယ်/တိုင်းအသီးသီးတို့က ထောက်ခံ ဆွေးနွေးသွားခြင်းများ ပြီးဆုံးသွားပါပြီဘုရား၊ ဘုရားတပည့်တော် သန်လျင် အခြေခံဒေသမှ ဝဏ္ဏသိရီက သံဃာ့ဝန်ဆောင် အဖွဲ့၏ ကိုယ်စား ပြန်ကြား ချက်ကို လျှောက်ထားမည် ဖြစ်ပါသည်ဘုရား။

သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို အစည်းအဝေးပွဲကြီး၏ ပထမနေ့ က (၁) ဂဏဝိမုတ် ကူးတို့ဂိုဏ်းကိုယ်စားလှယ်၊ (၂) စတုဘုမ္မိက မဟာ သတိပဋ္ဌာန်ဂိုဏ်း ကိုယ်စားလှယ်၊ (၃) ဓမ္မယုတ္တိ နိကာယ မဟာရင်ဂိုဏ်း ကိုယ်စားလှယ်၊ (၄) ဓမ္မဝိနယာနုလောမ မူလဒွါရ နိကာယ ကိုယ်စား လှယ်၊ (၅) ဓမ္မာနုဓမ္မ မဟာဒွါရ နိကာယ ကိုယ်စားလှယ်၊ (၆) ရွှေကျင် ဂိုဏ်း ကိုယ်စားလှယ် ဆရာတော်များက ထောက်ခံ ဆွေးနွေးသွားကြပါ တယ်ဘုရား၊ ယနေ့ ဒုတိယနေ့မှာ (၇) ဝေဠုဝန် နိကာယ ဂိုဏ်းကိုယ်စား လှယ်၊ (၈) အနောက်ချောင်း ဒွါရဂိုဏ်း ကိုယ်စားလှယ်၊ (၉) ကချင် ပြည် နယ်ကိုယ်စားလှယ်၊ (၁၀) ကယားပြည်နယ် ကိုယ်စားလှယ်၊ (၁၁) ချင်းပြည်နယ် ကိုယ်စားလှယ်၊ (၁၂) ကရင်ပြည်နယ် ကိုယ်စားလှယ် (၁၃) စစ်ကိုင်းတိုင်း ကိုယ်စားလှယ်၊ (၁၄) တနင်္သာရီတိုင်း ကိုယ်စားလှယ်၊ (၁၅) ပဲခူးတိုင်း ကိုယ်စားလှယ်၊ (၁၆) မကွေးတိုင်း ကိုယ်စားလှယ်၊ (၁၇) မန္တလေးတိုင်း ကိုယ်စားလှယ်၊ (၁၈) မွန်ပြည်နယ် ကိုယ်စားလှယ်၊

( ၁၉ ) ရခိုင်ပြည်နယ် ကိုယ်စားလှယ်၊ ( ၂၀ ) ရန်ကုန်တိုင်း ကိုယ်စားလှယ်၊ ( ၂၁ ) ရှမ်းပြည်နယ် ကိုယ်စားလှယ်၊ ( ၂၂ ) ဧရာဝတီတိုင်း ကိုယ်စားလှယ် အသီးသီးတို့က ဆွေးနွေးထောက်ခံ သွားကြပါသည်ဘုရား၊ ယင်းဆွေးနွေး ထောက်ခံ သွားချက်တို့ကို တူညီသည့်အချက်များကို စုပေါင်း၍ ပြန်ကြားပါ မည်ဘုရား၊ကိုယ်စားလှယ် ဆရာတော် ( ၂၂ ) ပါးတို့၏ ဆွေးနွေး ထောက်ခံ သွားချက်များမှာ ဤအခြေခံ စည်းမျဉ်းသည် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၏ လက်ရှိ သာသနာတော် အခြေအနေ အရ အမှန်ပင် လို အပ်နေ၍ အတည်ပြုပြဋ္ဌာန်း သင့်ကြောင်း ဆွေးနွေး သွားကြသည်ဟု သံဃာ့ ဝန်ဆောင်အဖွဲ့က သုံးသပ်မိပါသည်ဘုရား၊ ဤသံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းသည် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် အတွင်းရှိ သံဃာ့ဂိုဏ်း အသီးသီး တို့၏ ညီညွတ်ရေးကို ရှေးရှု၍ ရေးဆွဲထား သည်ဖြစ်ရာ အားလုံးသော ဂိုဏ်းအသီးသီးက လက်ခံနိုင်သောကြောင့် ကျေနပ် နှစ်သိမ့်ကြသည်ဟု ဆွေးနွေး ထောက်ခံသွားသည်ကို သံဃာ့ဝန်ဆောင် အဖွဲ့ က သုံးသပ်မိပါသည်ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး အတွက် သာသနာတော် အတွင်းမှ ရဟန်းတု ရဟန်းယောင်များသည် ယခုလို စနစ်တကျ နေထိုင်ရေးကို ရှေးရှု၍ ရေးဆွဲထားသည့် အခြေခံ စည်းမျဉ်းဖြင့် အဆင့်ဆင့် အုပ်ချုပ်ရေးကို အကောင်အထည် ဖော်လိုက်ပါက ပပျောက် နိုင်ကြောင်း၊ ရှေးကလည်း ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားခဲ့ကြောင်း သာဓက စုံလင်စွာဖြင့် တင်ပြ ဆွေးနွေး ထောက်ခံ သွားသည်ကိုလည်း သံဃာ့ ဝန်ဆောင် အဖွဲ့က သိရပါသည်ဘုရား။

ဂိုဏ်းအကြီးက ဂိုဏ်းအငယ်ကို "ကြီးနိုင် ငယ်ညှဉ်း" မဖြစ်ရအောင် ကာကွယ်ပေးထားသည်ကို တွေ့ရ၍ တရားမျှမှု ရှိသည့်အတွက် ထောက်ခံ ပါကြောင်း ဆွေးနွေးသွားသည် ကိုလည်း တွေ့ရပါသည်ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ "ဂိုဏ်း ကွဲသလောက် သံဃာကွဲပြားနိုင်သည်၊ သံဃာကွဲပြားလျှင် သံဃာ့သုဋ္ဌု သံဃာ့ ဖာသု မဖြစ်နိုင်"ဟု ခံယူချက် ပြည့်ဝသော ကိုယ်စားလှယ် ဆရာတော် ( ၂၂ ) ပါးတို့က လက်ရှိ ဂိုဏ်း ( ၉ ) ဂိုဏ်းကိုသာ အသိအမှတ် ပြုသည်၊ နောက်ထပ် ဂိုဏ်းသစ်များ ခွဲခြားတည်ထောင်မှုကို မပြုရဟု တားမြစ်ချက် ပါသောကြောင့် ဤအခြေခံ စည်းမျဉ်းသည် သံဃာ့ သုဋ္ဌု သံဃာ့ဖာသု ဖြစ်ရေးကို ရှေးရှုသောကြောင့် လက်ခံပါကြောင်း ထောက်ခံ ဆွေးနွေးသွား သည်ကိုလည်း တွေ့ရပါသည်ဘုရား။

ရဟန်းစစ် ရဟန်းကောင်းများသည် သာသနာဝင် မှတ်တမ်းကို ကိုင်ဆောင်ကြရမည်ဟု သတ်မှတ်ချက် ပါရှိသည်ကို တွေ့ရ၍ ရဟန်းဆိုးပျား၏ ရန်ကို ကာကွယ်ပေးပြီး ရဟန်းစစ်—ရဟန်းကောင်းများကို ဂုဏ်တက်စေသည့် အတွက် များစွာ ကျေနပ်နှစ်သိမ့်မိပါကြောင်း ဆွေးနွေး ထောက်ခံသွားသည်ကိုလည်း တွေ့ရပါသည်ဘုရား။

ဤသံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း၌ အထက်ပိုင်း အဖွဲ့အစည်း (၃) ဖွဲ့၊ အောက်ပိုင်း အဖွဲ့အစည်း (၃) ဖွဲ့ဟု ပါရှိရာ သံဃာအများစုနှင့် လက်တွေ့ ထိတွေ့ အုပ်ချုပ် သွားနိုင်သော အောက် အဖွဲ့အစည်း (၃) ခု၊ ယင်းအဖွဲ့အစည်း (၃) ခုတို့က အုပ်ချုပ်ရေး၊ တရားရေး၊ သာသနာဝင် မှတ်တမ်း ကိစ္စတို့ကို လက်တွေ့ အကောင် အထည် စနစ်တကျ ဖော်သည့်အခါ ညွှန်ပြနိုင်- လုပ်ငန်းစဉ် ချပြနိုင်သော အထက် အဖွဲ့အစည်း (၃) ခု ပါရှိသည်ဖြစ်၍ အထက်အောက် ဆက်စပ်မှု ရှိသောကြောင့် လှိုက်လှိုက်လှဲလှဲ ဆွေးနွေး ထောက်ခံ သွားသည်ကိုလည်း သုံးသပ်မိပါသည်ဘုရား။

မဟာဒွါရဂိုဏ်း ဟင်္သာတမြို့၊ မဟိကာရုံကျောင်း နာယကဆရာတော် ဦးဣန္ဒာသဘ ထောက်ခံ ဆွေးနွေးသွားရာမှာ အကြံပြုလွှာတခု ပါရှိပါတယ် ဘုရား၊ ဆရာတော်ဘုရားရဲ့ လျှောက်ထားလိုတာကတော့ အရှင်ဘုရားတို့ရဲ့ အခန်း ၁ အမည်နှင့် အဓိပ္ပာယ် ညွှန်ပြချက်ထဲမှာ သံဃာ့သမ္မုတိရ ဆိုသည်မှာ ဆိုတဲ့ အဓိပ္ပာယ် ဆိုချက်ကလေး မပါပါဘုရား၊ ဒါကြောင့်မို့လို့ သံဃာ့ သမ္မုတိရ သံဃာ့ ဆိုသည်မှာ ဆိုတဲ့ အဓိပ္ပာယ် ဖွင့်ဆိုချက်ကလေးကို ထည့်သွင်းဖို့ အဆိုပြုလွှာထဲမှာ ပါရှိပါတယ်ဘုရား၊ ဒါကြောင့် အင်မတန်လည်း ကျေးဇူးတင်စရာကောင်းတဲ့ အကြံပြုချက် ဖြစ်၍ သံဃာ့ဝန်ဆောင် အဖွဲ့က သံဃာ့သမ္မုတိရ ဆိုသည်မှာ ဆိုတဲ့ အပိုဒ်ကလေးကို ထည့်သွင်းဖို့ လက်ခံကြောင်း ဆုံးဖြတ်ပါတယ် အကြောင်းကို ပြန်ကြားပါတယ်ဘုရား၊ ဤကဲ့သို့ ထည့်သွင်းရတဲ့ အတွက်ကြောင့် ဤအခြေခံ စည်းမျဉ်း အခန်း ၁—မှာ ပါတဲ့ (က) (ခ) (ဂ) စသည် တို့ကိုလည်း အနည်းငယ် ပြောင်းလဲသွားမည်ကိုလည်း လျှောက်ထား လိုပါတယ်ဘုရား။

သံဃာ့ သမ္မုတိရ သည်ဆိုသည်မှာ သတ်မှတ်ထားသော သံဃာအရေ အတွက်အရ ဂိုဏ်းအလိုက်၊ ပြည်နယ်/တိုင်းအလိုက် သံဃဆန္ဒဖြင့် ရွေးချယ်တင် မြှောက်သော သံဃာတော်များကို ဆိုလိုသည့်အပြင် နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့က ထူးခြားစွာ အလေးအမြတ်ပြုရမည့် အဘိဓဇ မဟာရဋ္ဌဂုရု၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့ရ ဆရာတော်များ အစရှိသဖြင့် သီးခြား ပင့်ဖိတ်အပ်သော

သံဃာတော်များကိုလည်း ဆိုလိုသည်တဲ့၊ တပည့်တော်တို့ အကြံပြုတဲ့အတိုင်း အခြေခံ စည်းမျဉ်းမှာ ထည့်သွင်းတဲ့ အကြောင်းကို ပြန်ကြားပါတယ်ဘုရား၊ အထူးသဖြင့် ပဲခူးတိုင်း၊ တောင်ငူ အခြေခံဒေသမှ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ဆရာတော် ဦးခန္တိသာရက "ဒီကနေ့ ထောက်ခံဆွေးနွေးသွားရာမှာ နိုင်ငံတော် သံဃာ့ မဟာနာယက ဆရာတော်များသည် ဇမ္ဗူဒီပကျောင်းဆောင်မှာ သီတင်းသုံး နေထိုင်ကြပါလျက် အဘယ့်ကြောင့် နေ့စဉ် အစည်းအဝေး၊ လစဉ်အစည်းအဝေးများ မကျင်းပသည်ကို တပည့်တော် နားမလည်ပါဘုရား၊ ထို့ပြင် နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့သည် နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့၏ ကိုယ်စား နေ့စဉ် လုပ်ငန်းများကို ဖြေရှင်းဆောင်ရွက်ရမည် ဖြစ်ပါ၍ လေးလမှ တကြိမ်သာ အစည်းအဝေး ကျင်းပရခြင်းကို တပည့်တော်များ နားမလည်ကြောင်း လျှောက်ထားလိုပါသည်ဘုရား" ဟု ထောက်ခံဆွေးနွေး သွားရာတွင် ဖော်ပြသွားပါသည်ဘုရား။

တပည့်တော်များ ဤအခြေခံ စည်းမျဉ်း အခန်း ၁၃- အပိုဒ် (၇၆) တွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သည် အခြေခံ စည်းမျဉ်းနှင့် အညီ အကောင် အထည်ဖော် ဆောင်ရွက်နိုင်ရန် အတွက် လိုအပ်သော လုပ်ထုံး လုပ်နည်းများကို ရေးဆွဲပြဋ္ဌာန်းနိုင်သည်ဟု ပါရှိ ပါသည်ဘုရား၊ ဆရာတော် ဦးခန္တိသာရ၏ မရှင်းလင်းသော အချက်အလက်များသည် အဆိုပါ လုပ်ထုံးလုပ်နည်း အကောင် အထည်ပေါ်လာသည့်အခါတွင် ရှင်းလင်းသွားမည် ဖြစ်ကြောင်း လျှောက်ထားလိုပါသည်ဘုရား။

ယခု တပည့်တော်တို့ ဤအခြေခံ စည်းမျဉ်းကို သံဃာ့ အစည်းအဝေးပွဲကြီးက အတည်ပြုရန် ရှိနေပါ၍ ဤအခြေခံ စည်းမျဉ်းအရ ပေါက်ပွားအကောင် အထည် ပေါ်လာမည့် လုပ်ထုံး လုပ်နည်းများ သည်လည်း နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က အတည်ပြုရန် ကျန်နေပါသေးသည်ဘုရား၊ ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့က အတည်ပြုပြီးသော အခါ လုပ်ထုံး လုပ်နည်းများကို အစည်းအဝေးကြီး၏ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ်များ အားလုံးတို့ကို ဆက်ကပ်မည် ဖြစ်ပါသည်ဘုရား၊ ကြိုတင်၍ ဆရာတော် ဦးခန္တိသာရ ရှင်းလင်းသွားအောင် တပည့်တော် လျှောက်ထားလိုပါသည်ဘုရား၊ လုပ်ထုံး လုပ်နည်း အခန်း ၁၆- "နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့၏ လုပ်ငန်း တာဝန်များ" အပိုဒ် ၁၃၂၊ ၁၃၃၊ ၁၃၄၊ ၁၃၅-တို့တွင် (၄) လလျှင် တကြိမ်ကျ သာသနာ့ တာဝန်များကို အချိန်ပြည့် ထမ်းဆောင်နိုင်ရန်အတွက် အဖွဲ့ချုပ် တည်ရှိရာ ဇမ္ဗူဒီပကျောင်းဆောင်တွင် သီတင်းသုံး နေထိုင်ကြမည် ဖြစ်ကြောင်း ပါရှိပါတယ်ဘုရား။

အဖွဲ့ (၃) ဖွဲ့ တွင် ပထမအဖွဲ့ကို ဥက္ကဋ္ဌ နှင့် အကျိုးတော်ဆောင် ဆရာတော်တို့က ဦးဆောင် ပါဝင်စေလျက် ဖွဲ့စည်းမည် ဖြစ်ပါသည်ဘုရား၊ ဒုတိယ အဖွဲ့ကို ဒုတိယ ဥက္ကဋ္ဌဆရာတော်နှင့် တွဲဘက် အကျိုးတော်ဆောင် ဆရာတော် တပါးတို့ ပါဝင်စေလျက် ဖွဲ့စည်းမည် ဖြစ်ပါသည်ဘုရား၊ တတိယအဖွဲ့ကို ကျန် ဒုတိယ ဥက္ကဋ္ဌဆရာတော်နှင့် ကျန်တွဲဘက် အကျိုးတော်ဆောင် ဆရာတော်တို့ ပါဝင်စေလျက် ဖွဲ့စည်းမည် ဖြစ်ပါသည်ဘုရား။

ဤသို့ကဲ့ အဖွဲ့ခွဲများ ဖွဲ့ပြီး သာသနာ့တာဝန်ကို ထမ်းဆောင် နိုင်ရန် အတွက် စီစဉ်ရခြင်းမှာ (၃၃) ပါးသော ဆရာတော်များ အားလုံး ဇမ္ဗူဒီပ ကျောင်းဆောင်သို့ အမြဲတမ်း ကြွရောက်ပြီး သီတင်းသုံးရာတွင် အခက် အခဲ ရှိမည်စိုး၍ ဖြစ်ပါသည်ဘုရား၊ အဖွဲ့များက ဆောင်ရွက်ရာတွင် ၎င်းတို့၏ ဆောင်ရွက်ချက်များကို (၄) လလျှင် တကြိမ် ကျင်းပမည့် (၃၃) ပါး စုံညီ အစည်းအဝေးသို့ ထပ်မံ တင်ပြပြီး အတည်ပြုချက် ရယူရမှာ ဖြစ်ပါ သည်ဘုရား၊ ထို့အပြင် ဥက္ကဋ္ဌ မပါသည့်အဖွဲ့ဆိုလျှင် ဥက္ကဋ္ဌရှိရာ နေရာသို့ သွားရောက်တင်ပြပြီးမှ ဆောင်ရွက်မည် ဖြစ်ပါသည်ဘုရား၊ သို့မဟုတ် ဥက္ကဋ္ဌ ကိုယ်တိုင်က ပင့်လျှောက်လို့ ကြွရောက်နိုင်မည် ဆိုယင်လဲ ကြွရောက်ပြီးမှ ဆောင်ရွက်မည် ဖြစ်ပါသည်ဘုရား၊ ထို့အပြင် သိပ်အရေးကြီးသော ကိစ္စများ ပေါ်ပေါက်လာမည် ဆိုပါကလည်း (၄) လပြည့်အောင် စောင့်မနေတော့ပဲ အချိန်မရွေး ခေါ်နိုင်ခွင့်လည်း ရှိပါသည်ဘုရား။

အဆိုတင် ဆရာတော်အနေဖြင့် တပည့်တော် ဒီမျှလောက် ရှင်းလင်း လျှောက်ထားလျှင် သဘောပေါက် ကျေနပ်ပြီဟု ယူဆ ပါသည်ဘုရား၊ လုပ်ထုံး လုပ်နည်းများ ဆရာတော်တို့ လက်ထဲ ရောက်သည့်အခါ ဖတ်ကြည့် ပါလျှင် ပိုမို ရှင်းလင်းသွားပါလိမ့်မည်ဘုရား။

အခြေခံ စည်းမျဉ်းနှင့် ပတ်သက်၍ သံဃာ့ဝန်ဆောင် အဖွဲ့၏ ကိုယ်စား တပည့်တော် တင်ပြလိုသည်မှာ စကားအသုံးအနှုန်း၊ ဝါကျ အရေးအသား စသည်အားဖြင့် ချို့ယွင်းချက်ကလေးများ ပါရှိနိုင်ပါသည်ဘုရား၊ ၎င်းချို့ ယွင်းချက် ကလေးများကို မူလအဓိပ္ပာယ် မချို့ယွင်းစေပဲ ပြင်ဆင်သွားမည် ဖြစ်ကြောင်းကို လျှောက်ထားပါသည်ဘုရား။

နောက်ဆုံးအနေဖြင့် လျှောက်ထားလိုသည်မှာ သံဃာတော် အားလုံး တို့က ဆွေးနွေး ထောက်ခံသွားပြီး ဖြစ်၍ သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူ လာကြသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့က ပြည်ထောင်စု

ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း ဤအခြေခံ စည်းမျဉ်းကို တညီတညွတ်၊ အတည်ပြု ပေးတော်မူကြပါရန် သံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ ကိုယ်စား ဟံသာဝတီ သံလျင် အခြေခံဒေသ တပည့်တော် ဝဏ္ဏသိရီက အလေးအနက် လျှောက်ထား တောင်းပန်ပါသည်ဘုရား။

ဤသံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်းနှင့် ပတ်သက်၍ ကိုယ်စားလှယ် ဆရာတော် အသီးသီးတို့က အားကြိုး မာန်တက် ဝမ်းသာ အားရ လှိုက်လှိုက်လှဲလှဲ ဆွေးနွေး ထောက်ခံသွားသည်တို့ကို ကျေးဇူးတင်ပါကြောင်း မှတ်တမ်းတင်၍ သံဃာ့ ဝန်ဆောင်အဖွဲ့ရဲ့ ကိုယ်စား ဟံသာဝတီ သံလျင် အခြေခံဒေသက တပည့်တော် ဝဏ္ဏသိရီက လေးစားစွာ ပြန်ကြားမှု ပြုရပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော်က အစီအစဉ် အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းမူကြမ်းကို ဤစည်းအဝေးကြီး၏ အတည်ပြုချက် ရယူရန် ဖြစ်ပါတယ်၊ ဥက္ကဋ္ဌဆရာတော် ဘုရားကြီးအား အတည်ပြုချက် ရယူပေးတော်မူရန် အတွက် လျှောက်ထားပါသည်ဘုရားဟု လျှောက်ထားရာ—

ဥက္ကဋ္ဌဆရာတော်က ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်းအခြေခံ စည်းမျဉ်းမူကြမ်းကို သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် ဦးဝဏ္ဏသိရီက အဆိုတင်သွင်းခဲ့ပါသည်ဘုရား၊ ၎င်းအဆိုကို ဂိုဏ်းအသီးသီးမှ ဆရာတော် ၈-ပါး ပြည်နယ်/တိုင်း အသီးသီးမှ ဆရာတော် ၁၄–ပါးတို့က အသီးသီး ထောက်ခံ ဆွေးနွေး သွားကြပါသည်ဘုရား၊ အဆိုပါ ဆွေးနွေးချက်များ အပေါ်တွင် သံဃာ့ဝန်ဆောင် အဖွဲ့က ပြန်လည်ဖြေကြားပြီးလည်း ဖြစ်ပါသည်ဘုရား၊ ယခု ဦးဝဏ္ဏသိရီ တင်သွင်းသည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း မူကြမ်းကို ဤအစည်းအဝေးကြီးက အတည်ပြုရန် သဘောတူကြပါသလားဘုရား၊ သဘောတူလျှင် ဆိတ်ဆိတ် နေတော်မူကြပါရန် လျှောက်ထား ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ သဘောတူပါက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်တော်မူကြရန် လျှောက်ထား ပါသည်ဘုရားဟု လျှောက်ထားရာ ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

## ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးက ရွေးချယ် ဖွဲ့စည်းရမည့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ၏ အချိုးအစားကို ဂိုဏ်းအလိုက် ပြည်နယ်/တိုင်း အလိုက် သတ်မှတ် ထားခြင်းကို လျှောက်ထားခြင်း

ရှင်းနောက် အခမ်းအနားမှူးဆရာတော် က ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ယခုပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း အခြေခံ စည်းမျဉ်း မူကြမ်းကို ဤအစည်းအဝေးကြီးက အတည် ပြုလိုက်ပြီး ဖြစ်ပါ၍ အခြေခံ စည်းမျဉ်း အပိုဒ် ၁၄ (က) (ခ) နှင့် အပိုဒ် ၁၉—တို့အရ အစည်းအဝေးကြီးက နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ရွေးချယ် တင်မြှောက်ပေးရမည် ဖြစ်ပါတယ်၊ ပထမအကြိမ် အစည်းအဝေးကြီးက ရွေးချယ် တင်မြှောက်မည့် နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်များ၏ အရေအတွက်ကို အစည်း အဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့က ဆုံးဖြတ်သတ်မှတ် ထားပြီး ဖြစ်ပါတယ်ဘုရား၊ ထိုသတ်မှတ်ချက်ကို ဘုရားတပည့်တော်က ဂိုဏ်းအလိုက် ပြည်နယ်/တိုင်းအလိုက် ဖတ်ကြား လျှောက်ထား ပါမည်ဘုရား။

| | |
|---|---|
| ဂဏဝိမုတ် ကူးတို့ဂိုဏ်း | ၁—ပါး |
| စတုဘုမ္မိက မဟာသတိပဋ္ဌာန် ငှက်တွင်းဂိုဏ်း | ၁—ပါး |
| ဓမ္မယုတ္တိ နိကာယ မဟာရင်ဂိုဏ်း | ၁—ပါး |
| ဓမ္မဝိနယာ နုလောမ မူလဒွါရ နိကာယ | ၂—ပါး |
| ဓမ္မာနုဓမ္မ မဟာဒွါရနိကာယ | ၅—ပါး |
| ရွှေကျင်ဂိုဏ်း | ၂၂—ပါး |
| ဝေဠုဝန် နိကာယဂိုဏ်း | ၃—ပါး |
| အနောက်ချောင်း ဒွါရဂိုဏ်း | ၁—ပါး |
| ကချင်ပြည်နယ်မှ | ၅—ပါး |
| ကယားပြည်နယ်မှ | ၁—ပါး |
| ကရင်ပြည်နယ်မှ | ၆—ပါး |
| ချင်းပြည်နယ်မှ | ၂—ပါး |
| စစ်ကိုင်းတိုင်းမှ | ၃၄—ပါး |
| တနင်္သာရီတိုင်းမှ | ၆—ပါး |
| ပဲခူးတိုင်းမှ | ၂၆—ပါး |
| မကွေးတိုင်းမှ | ၂၆—ပါး |

မန္တလေးတိုင်းမှ ၅၀–ပါး
မွန်ပြည်နယ်မှ ၁၇–ပါး
ရခိုင်ပြည်နယ်မှ ၉–ပါး
ရန်ကုန်တိုင်းမှ ၃၈–ပါး
ရှမ်းပြည်နယ်မှ ၁၉–ပါး
ဧရာဝတီတိုင်းမှ ၂၅–ပါး

စုစုပေါင်း ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်ပေါင်း (၃၀၀) တိတိ ဖြစ်ပါတယ်ဘုရားဟု လျှောက်ထားတော်မူသည်။

**နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ရွေးချယ်ပေးတော်မူကြပါရန် နှင့် ရွေးချယ်ပြီး စာရင်း ပေးပို့ပါရန် လျှောက်ထားခြင်း**

**ဆက်လက်၍ အခမ်းအနားမှူးဆရာတော် က** ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ ဘုရားတပည့်တော် လျှောက်ထားရန် အချက် (၃) ချက် ရှိပါသည် ဘုရား၊ (၁) အချက်မှာ ယခု ဘုရားတပည့်တော် လျှောက်ထားခဲ့သည့်အတိုင်း ဂိုဏ်းအလိုက်၊ ပြည်နယ်/တိုင်းအလိုက် သတ်မှတ် ထားသည့် ဗဟိုသံဃာ့ ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို ယခု အစည်းအဝေး ပွဲကြီးသို့ ကြွရောက်တော် မူလာကြသည့် ဂိုဏ်းအသီးသီးနှင့် တိုင်းအသီးသီးတို့မှ ဆရာ တော်များက ရွေးချယ်ပေးတော်မူကြရန် ဖြစ်ပါတယ်၊ ထိုကဲ့သို့ ရွေးချယ် နိုင်ရန်အတွက် ဆရာတော်များသည် မိမိတို့ ဂိုဏ်းအလိုက် ပြည်နယ်/တိုင်း အလိုက် သတ်မှတ်ထားသော အစည်းအဝေး ခန်းမများသို့ ကြွရောက်တော်မူ ကြ၍ ရွေးချယ်ပေးတော်မူ ကြရန် ဖြစ်ပါတယ်ဘုရား၊ (၂) အချက်မှာ အစည်းအဝေးကြီး၏ ဩဝါဒါစရိယ ဆရာတော်ကြီးများ သည်လည်း မိမိတို့ နှင့် သက်ဆိုင်ရာ ဂိုဏ်းအလိုက်၊ ပြည်နယ်/တိုင်း အလိုက် ကြွရောက်တော်မူ ကြ၍ ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ ရွေးချယ်ခြင်းကို အမှူးဘုရားများ ကိုယ်တိုင် ပါဝင်၍ ကြီးကြပ် ဆောင်ရွက် ပေးတော်မူကြ ပါရန် ဖြစ်ပါတယ်ဘုရား၊ (၃) အချက်မှာ ဂိုဏ်းအသီးသီးနှင့် ပြည်နယ်/ တိုင်းအသီးသီးတို့မှ သတ်မှတ်ထားသော နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များကို ရွေးချယ်ပြီးသည့်အခါ ရွေးချယ်ခံရသည့် ဆရာ တော်များ၏ စာရင်းကို ပုံစံများတွင် ဖြည့်စွက်၍ ဘုရားတပည့်တော် နေထိုင်ရာ ဇမ္ဗူဒီပကျောင်းဆောင် အခန်း (၃၂) သို့ ယနေ့ ည အရောက် ပေးပို့ တော်မူကြပါရန် ဖြစ်ပါတယ်ဘုရားဟု လျှောက်ထားတော်မူသည်။

**သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမအကြိမ်)**
**ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး တတိယနေ့**
**အစည်းအဝေး ကျင်းပရန် သတ်မှတ်ခြင်း**

**ထို့နောက်** အခမ်းအနားမှူးဆရာတော်က ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၂-ရက် (တနင်္ဂနွေနေ့) တွင် ကျင်းပသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ဒုတိယ နေ့) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး ပြီးဆုံးကြောင်း ကြေငြာ အပ်ပါသည်ဘုရား၊ တတိယနေ့ အစည်းအဝေးပွဲကြီးကို ၁၃၄၂-ခုနှစ် နယုန် လဆန်း ၁၃-ရက်၊ (တနင်းလာနေ့) နံနက် (၈) နာရီ တိတိ အချိန်တွင် စတင် ကျင်းပမည် ဖြစ်ပါကြောင်း လျှောက်ထား အပ်ပါသည်ဘုရား၊ ယခု အစည်းအဝေးကြီး ပြီးဆုံးပြီ ဖြစ်ပါ၍ ဩဝါဒါစရိယ ဆရာတော်ကြီးများ ကြွသွားတော်မူပြီးမှ ကျန်ဆရာတော်များ ကြွတော်မူကြရန် ဖြစ်ပါသည် ဘုရားဟု လျှောက်ထားရာ— အစည်းအဝေးကို ညနေ ၃-နာရီ ၁၅-မိနစ် အချိန်တွင် ရပ်နားသည်။

**ကောဒသမပိုင်း အပြီးသတ်ခြင်း**

ဤသည်လျှင် သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီး၏ ဒုတိယနေ့ သမိုင်းမှတ်တမ်းကို ဖော်ပြရာဖြစ်သော ကော ဒသမပိုင်း အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာဓူနံ ပသာဒါယ စ။
ရစိ တေ ဣဓ ဂန္ထမှိ၊ သမတ္တော ကောဒသမော။

# ဥါဒသမပိုင်း

## သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်း အဝေးပွဲကြီး

### တတိယနေ့ အစည်းအဝေး မှတ်တမ်း

သာသနာတော်နှစ် ၂၅၂၄ ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂ ခုနှစ်၊
နယုန်လဆန်း ၁၃ ရက်
( ၁၉၈၀ ပြည့်နှစ်၊ မေလ ၂၆ ရက် )
( တနင်းလာနေ့ )

ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ သာသနာ တော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်း ပေါင်းစုံ သံဃာ့အစည်း အဝေးပွဲကြီးကို နံနက် ၈ နာရီအချိန်တွင် စတင် ကျင်းပသည်၊ အစည်းအဝေးပွဲကြီးတွင် သံဃာ့ ဝန်ဆောင်အဖွဲ့၏ ဒုတိယ ဥက္ကဋ္ဌ အဂ္ဂမဟာ ပဏ္ဍိတ ရွှေကျင်ဂိုဏ်း ဥပဥက္ကဋ္ဌ မန္တလေး မဟာဝိသုဒ္ဓါရုံတိုက် ပိုက်ကျုံး ဆရာတော်က ဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်တော်မူ၍ သံဃာ့ ဝန်ဆောင်အဖွဲ့၏ တွဲဖက်အကျိုးတော်ဆောင် ဓမ္မာနု ဓမ္မ မဟာဒွါရဂိုဏ်း ဂဏဝါစကာ ဦးခေမာဝုဓ က အခမ်းအနားမှူး အဖြစ် ဆောင်ရွက်တော်မူသည်။

အခမ်းအနားမှူးဆရာတော် က အရှိအသေ အလေးအမြတ် ပြုအပ်ပါ သော သံဃာတော် ဆရာတော် အရှင်မြတ်တို့ဘုရား၊ အစည်း အဝေးကြီး ကျင်းပရန် အချိန်နီးကပ်ပြီ ဖြစ်ပါသောကြောင့် ဤမဟာ ပါသာဏလိုဏ်ဂူ တော်ကြီး အတွင်းသို့ ကြွရောက်တော်မူကြကာ သတ်မှတ်၍ ထားသော နေရာ အသီးသီးတို့တွင် မိမိတို့ နေရာများကို ယူတော်မူကြပါရန် ရှိသေစွာလျှောက် ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရားဟု နှစ်ကြိမ် တိုင် တိုင် ပင့်လျှောက်ပါသည်။

တဖန် အခမ်းအနားမှူးဆရာတော် က ဆရာတော် သံဃာတော် အရှင် မြတ်တို့ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ

မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီး (ဒုတိယနေ့) အစည်းအဝေးကြီးတွင် သံဃာ့ဝန်ဆောင် အဖွဲ့၏ ဒုတိယ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ရွှေကျင်ဂိုဏ်း ဥပ ဥက္ကဋ္ဌ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံ ကျောင်းတိုက် ပိုက်ကျုံးဆရာတော်က အစည်းအဝေးကြီး၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်တော်မူပြီး ဘုရားတပည့်တော် သံဃာ့ဝန်ဆောင် အဖွဲ့၏ တွဲဖက် အကျိုးတော်ဆောင် ဓမ္မာနုဓမ္မ မဟာဒွါရနိကာယဂိုဏ်း ဂဏဝါစကပဏ္ဍိတ ခမာဝုဓကေ အခမ်းအနားမှူး အဖြစ် ဆောင်ရွက်မည့် အကြောင်းကို ရှိသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရားဟု လျှောက်ထားသည်။

**ဒုတိယနေ့ အစည်းအဝေး အထမြောက်ကြောင်း ကြေငြာခြင်း**

**အခမ်းအနားမှူးဆရာတော်** က ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ဒုတိယနေ့) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးကို ဥက္ကဋ္ဌ ပိုက်ကျုံးဆရာတော်ကြီး၏ ခွင့်ပြုတော်မူချက်အရ စတင် ဖွင့်လှစ်ကြောင်း ကြေငြာလျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

ဘုရားတပည့်တော်တို့၏ အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော သံဃာတော် အရေအတွက်မှာ (၁၂၁၈) ပါး ဖြစ်၍ တက်ရောက်နိုင်သော သံဃာ့ ကိုယ်စားလှယ် အရေအတွက်မှာ (၁၂၃၅) ပါး ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်သော သံဃာတော်များ၏ ရာခိုင်နှုန်းမှာ (၉၈.၆) ရာခိုင်နှုန်း ဖြစ်ပါ၍ သတ်မှတ်ထားသော (၇၅) ရာခိုင်နှုန်းကို ကျော်သည့်အတွက် အစည်းအဝေးကြီး အောင်မြင်ထမြောက်ကြောင်း လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ယနေ့ အစည်းအဝေး အစီအစဉ်မှာ ဝေငှထားသည့် သတင်းစဉ်တွင် ပါရှိသည့်အတိုင်းပင် ဖြစ်ပါသည်ဘုရား၊ တပည့်တော် ဖတ်ကြားလျှောက်ထားခြင်း မပြုတော့ပါဘုရား။

**ဂိုဏ်းအလိုက်၊ ပြည်နယ်/တိုင်းအလိုက် ရွေးချယ် တင်မြှောက်ခဲ့ကြသော နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များကို အတည်ပြုခြင်း**

**ဆက်လက်၍ အခမ်းအနားမှူးဆရာတော်** က ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဂိုဏ်းအလိုက်၊ ပြည်နယ်အလိုက်၊ တိုင်းအလိုက် ရွေး

ချယ် တင်မြှောက်ခဲ့ကြပါသော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ၏ စာရင်းကို ဘုရားတပည့်တော်က အစီအစဉ်အတိုင်း ဖတ်ကြားလျှောက်ထားပါမည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ အချိန်နည်းနည်းရအောင်လို့ ကျောင်းတိုက်တွေ ဘာတွေ မထည့်ပဲနဲ့ ဂိုဏ်းဖြစ်ခဲ့လို့ရှိယင်လည်း ဂိုဏ်းနဲ့ ဘွဲ့တော်နဲ့ ဘုရားတပည့်တော်ကို ဒါပဲ ဖတ်ဘို့ ခွင့်ပြုတော်ကြပါဘုရား။[၁]

**အခမ်းအနားမှူးဆရာတော်**—ဆရာတော်များမှာ စုစုပေါင်း ( ၂၉၉ ) ပါး ဖြစ်ပါတယ်ဘုရား။

အစီအစဉ်အရ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် ဆရာတော်များ၏ စာရင်းကို ဤအစည်းအဝေးကြီးက အတည်ပြုချက် ရယူရန် ဖြစ်ပါတယ်။ ဥက္ကဋ္ဌ ဆရာတော် ဘုရားကြီးအား အတည်ပြုချက် ရယူ ပေးတော်မူပါရန် အတွက် လျှောက်ထားပါသည်ဘုရားဟု တိုက်တွန်း လျှောက်ထားတော်မူသည်။

ထိုအခါ **ဥက္ကဋ္ဌဆရာတော်** က ဆရာတော် အရှင်မြတ်တို့ဘုရား၊ ခုနက အခမ်းအနားမှူးဆရာတော် ဖတ်ကြားလျှောက်ထား သွားသော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ စာရင်းကို ဤအစည်းအဝေးကြီးက လက်ခံအတည်ပြုရန်အတွက် သဘော တူတော် မူကြပါသလားဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ်နေရန် ဖြစ်ပါတယ်ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ သဘောတူပါလျှင် သာဓု အနုမောဒနာ ( သုံးကြိမ် ) ခေါ်တော်မူကြရန် ဖြစ်ပါသည်ဘုရား—လျှောက်ထားရာ ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ်ခေါ်တော်မူကြပါသည်။

**သာလနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ( ပထမအကြိမ် ) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်း အဝေး ပွဲကြီး စတုတ္ထနေ့ အစည်း အဝေး ကျင်းပရန် သတ်မှတ်ခြင်း**

**ထို့နောက် အခမ်းအနားမှူး ဆရာတော်** က ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ နိုင်ငံတော် ဗဟို သံဃာ့ ဝန်ဆောင် ဆရာတော်များ အစည်းအဝေး ကျင်းပရန် ရှိပါ၍ တပည့်တော်များက ယနေ့ ၁၃၄၂ ခုနှစ်၊ နယုန်လဆန်း ၁၃ ရက် (တနင်းလာနေ့) တွင် ကျင်းပသော သာသနာ

၁။ နောက်ဆက်တွဲကွင် ကြည့်။

တော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (တတိယနေ့) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ပြီးဆုံးကြောင်း ကြေငြာအပ်ပါသည်ဘုရား၊ (စတုတ္ထနေ့) အစည်းအဝေး ပွဲကြီးကို ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (အင်္ဂါနေ့) နံနက် (၈) နာရီ တိတိ တွင် စတင် ကျင်းပမည် ဖြစ်ပါကြောင်း လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ယနေ့ အစည်းအဝေးကြီး ပြီးဆုံးပြီ ဖြစ်ပါ၍ ဩဝါဒါစရိယ ဆရာတော်ကြီးများက ကြွသွားတော်မူပြီးမှ ကျန်ဆရာတော်များ ကြွတော်မူပါရန် ဖြစ်ပါသည်ဘုရားဟု လျှောက်ထားလေသည်၊ အစည်း အဝေးကို နံနက် ၈- နာရီ ၂၂- မိနစ် အချိန်တွင် ရပ်နားသည်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်များ ဆက်လက် စည်းဝေး တော်မူကြသည်။

## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် သံဃာ့ အဖွဲ့အစည်း နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင် အဖွဲ့ ပထမအကြိမ် အစည်း အဝေး မှတ်တမ်း

၁၃၄၂ ခုနှစ်၊ နယုန်လဆန်း (၁၃) ရက်

(၁၉၈၀ ပြည့်နှစ်၊ မေလ ၂၆-ရက်)

(တနင်းလာနေ့)

ရန်ကုန်မြို့၊ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့၊ ပထမအကြိမ် အစည်းအဝေး ကြီးကို နံနက် ၉-နာရီ အချိန်တွင် စတင် ကျင်းပသည်၊ အစည်းအဝေး ကြီးတွင် အဘိဇ မဟာရဋ္ဌဂုရု စစ်ကိုင်းမြို့ ရွှေဟင်္သာ ဆရာတော် ဘုရားကြီးက သဘာပတိ ဥက္ကဋ္ဌဆရာတော် အဖြစ် ဆောင်ရွက်တော်မူပြီး၊ မန္တလေးမြို့ ဆင်တဲတိုက်သစ် ဆရာတော် ဦးဉာဏ က အခမ်းအနားမှူး ဆရာတော် အဖြစ် ဆောင်ရွက်လေသည်။

အခမ်းအနားမှူးဆရာတော် က ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ပထမ အကြိမ် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အစည်းအဝေးကြီးတွင် အဘိဇ မဟာရဋ္ဌဂုရု စစ်ကိုင်းမြို့ ရွှေဟင်္သာဆရာတော် ဘုရားကြီးက သဘာပတိ ဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်တော်ပြီး ရန်ကုန်မြို့ ဧမ်းချောင်း၊ စံဝတီတိုက်ကျောင်း

ဆရာတော် ဦးသုဇာတာလင်္ကာရ ( အဂ္ဂမဟာပဏ္ဍိတ )၊ ရေနံ့သာမြို့ တောင်ပေါ် ကျောင်းတိုက် ဆရာတော် ဦးစန္ဒိမာ (အဂ္ဂမဟာပဏ္ဍိတ)၊ တောင်ကြီး အောင်မြေသာစည် ဆရာတော် ဦးနန္ဒိယ (အဂ္ဂမဟာပဏ္ဍိတ)၊ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် ဆရာတော် ဦးဉာဏိန္ဒ (အဂ္ဂမဟာပဏ္ဍိတ) တို့က သဘာပတိအဖွဲ့ဝင် ဩဝါဒါစရိယ ဆရာတော်များ အဖြစ် ဆောင်ရွက်မည် ဖြစ်ပြီး တပည့်တော် မန္တလေးမြို့ ဆင်တဲတိုက်သစ် ဉာဏက ယာယီအခမ်းအနား မှူးအဖြစ် ဆောင်ရွက်တော်မူမည် ဖြစ်ပါကြောင်းကို လျှောက်ထားပါသည် ဘုရား။

**အစည်းအဝေးကြီး စတင်ဖွင့်လှစ်ကြောင်း ကြေငြာခြင်း**

**ထိုနောက် အခမ်းအနားမှူး ဆရာတော်** က ဆရာတော် အရှင်မြတ်တို့ ဘုရား၊ ယခုအချိန်မှစ၍ သဘာပတိ အဖွဲ့ဝင် ဥက္ကဋ္ဌ ဆရာတော်၏ ခွင့်ပြု တော်မူချက်အရ ပထမအကြိမ် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ အစည်း အဝေးကြီး ဖွင့်လှစ်ပြီး ဖြစ်ပါကြောင်း ကြေငြာ လျှောက်ထား ပါသည် ဘုရား။

**အစည်းအဝေး အထမြောက်ကြောင်း ကြေငြာခြင်း**

**ဆက်လက်၍ အခမ်းအနားမှူးဆရာတော်** က ဆရာတော် အရှင်သူမြတ် တို့ဘုရား၊ ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် အရေအတွက်မှာ ၂၉၉ - ပါးဖြစ် ပါ၍ ယခု အစည်းအဝေး တက်ရောက်လာတော်မူကြသော ဆရာတော် အပေါင်းမှာ ၂၉၉ - ပါး ဖြစ်ပါတယ်ဘုရား၊ သို့ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်သော သံဃာတော် ရာနှုန်းမှာ ရာနှုန်းပြည့် ဖြစ်ပါသည် အရှင်ဘုရား၊ ထိုကဲ့သို့ ရာနှုန်းပြည့် ဖြစ်ပါသဖြင့် အစည်းအဝေးကြီး အောင်မြင်ထမြောက်ကြောင်း ကြေငြာလျှောက်ထားပါသည် ဆရာတော် အရှင်သူ မြတ်တို့ဘုရား။

**သဘာပတိအဖွဲ့ ဥက္ကဋ္ဌ အဘိဓဇ မဟာရဋ္ဌဂုရု ရွှေဟင်္သာဆရာတော် ဘုရားကြီးက ဩဝါဒကထာ မြွက်ကြားခြင်း**

**တဖန် အခမ်းအနားမှူးဆရာတော်** က အစည်းအဝေးကြီး အစီအစဉ်အရ သဘာပတိအဖွဲ့ ဥက္ကဋ္ဌ အဘိဓဇ မဟာရဋ္ဌဂုရု ရွှေဟင်္သာဆရာတော် ဘုရားကြီး က မိန့်ခွန်း မြွက်ကြားရန် ဖြစ်ပါတယ်၊ စစ်ကိုင်း ရွှေဟင်္သာဆရာတော်ဘုရား ကြီးအား မိန့်ခွန်း မြွက်ကြားတော်မူပါရန် လျှောက်ထားပါသည်ဘုရားဟု လျှောက်ထားရာ—

**သဘာပတိဆရာတော်ဘုရားကြီး** က ယနေ့ ယခု အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြကုန်သော ဆရာတော် အရှင်သူမြတ်တို့သည် စကာတင် လက်ရွေးစင် ဆိုသကဲ့သို့ အဆင့်ဆင့် ရွေးချယ်တင်မြှောက် အပ်သော ဆရာတော်များ ဖြစ်ပါသည်၊ သာသနာတော် သန့်ရှင်း တည်တံ့ စည်ပင်ရေးတို့ကို လက်တွေ့ ဆောင်ရွက်ကြမည် ဖြစ်ပါသည်၊ သာသနာတော် သန့်ရှင်း စင်ကြယ်ရေးသည် သာသနာတော်ကို ဆောင်ရွက်တော်မူကြကုန်သော သံဃာတော်တို့၌ တည်သည် ဖြစ်၍ သာသနာ့ ဝန်ဆောင် သံဃာတော် တို့သည် သန့်ရှင်း စင်ကြယ်သော သံဃာတော်များဖြစ်ရန် လိုပါသည်။

သို့ဖြစ်၍ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်တို့သည် ဤအချက်ကို သတိပြုတော်မူပြီး ဖြစ်တော်မူလိမ့်မည်ဟု ယုံကြည်ပါသည်၊ ဆရာတော်များ သိရှိတော်မူပြီး ဖြစ်သည့်အတိုင်း မြတ်စွာဘုရား သာသနာတော်သည်ကား မည်သူကမျှ ညစ်ထေးအောင် ပျက်ပြားအောင် ပြုလုပ်၍ရသည်မဟုတ်ပါ၊ ပကတိအားဖြင့် အာဒိကလျာဏ, မဇ္ဈေကလျာဏ, ပရိယောသာန ကလျာဏ, ပရိသုဒ္ဓပြဟ္မစရိယ ဖြစ်တော်မူသော တရားဖြစ်ပါသည်၊ သို့ရာတွင် ဤသာသနာတော်ကို ဆောင်ရွက်ကြကုန်သော အချို့သော ပုဂ္ဂိုလ်များက ရှိသေစွာ တန်ဖိုးထား၍ ဆောင်ရွက်ခြင်း မပြုကြသဖြင့် ထိုအချို့သော ပုဂ္ဂိုလ်များကို ကြည့်၍ သာသနာတော်ကို အထင်အမြင် ခံနေရခြင်း ဖြစ်ပါသည်၊ သို့ကြောင့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များသည် အရှင်မဟာကဿပ အစရှိသော သာသနာပြုအရှင်မြတ်ကြီးတို့ကဲ့သို့ သာသနာတော် သမိုင်း၌ အချိန်အခါ အားလျော်စွာ ကဏ္ဍတခု အနေဖြင့် ဆိုရှယ်လစ် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၌ စင်ကြယ်သန့်ရှင်းသော သာသနာတော်ကို အရှည်ရှည်စွာ တည်ရှိအောင် ကိုယ်ကျိုးစီးပွားနှင့်တကွ ပင်ပန်း နွမ်းနယ်ခြင်းတို့ကို လစ်လျူရှုတော်မူကြ၍ သာသနာတော်အကျိုးကို ဆောင်ရွက်တော်မူကြပါရန် လေးလေးစားစား တိုက်တွန်းတောင်းပန်အပ်ပါသည် အရှင်မြတ်တို့ဘုရားဟု မြွက်ကြားတော်မူသည်။

**နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့၏ ဥက္ကဋ္ဌဆရာတော်၊ ဒုတိယဥက္ကဋ္ဌ ဆရာတော်များ၊ အကျိုးဆောင်ဆရာတော်နှင့် တွဲဖက် အကျိုးဆောင် ဆရာတော်များ ရွေးချယ် တင်မြှောက်ခြင်း**

**ထိုနောက် အခမ်းအနားမှူးဆရာတော်** က ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း အခြေခံ စည်းမျဉ်းအပိုဒ် ၂၁ (က) အရ နိုင်ငံတော် ဗဟိုသံဃာ့

**ဝန်ဆောင်အဖွဲ့** ဥက္ကဋ္ဌ ဆရာတော်တပါး ရွေးချယ်တင်မြှောက်ရန် ဖြစ်ပါသည် ဘုရား၊ သို့ပါ၍ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌဆရာတော်၏ ဘွဲ့အမည် စာရင်းကို တင်သွင်းမည့် ပုဂ္ဂိုလ်ရှိပါက တင်သွင်းရန် လျှောက် **ထား**ပါသည်ဘုရားဟု လျှောက်ထားရာ—

**ဦးကုမာရဓဇာဘိဝံသ (မန္တလေးတိုင်း)** က ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော် မန္တလေးအခြေခံဒေသ မန္တလေးအနောက် **တောင်**မြို့နယ်၊ တောင်သမန်တိုက်၊ ကုမာရဓဇာဘိဝံသက ပဲခူးတိုင်း၊ **ပဲခူး** အခြေခံဒေသ ပဲခူးမြို့ အဂ္ဂမဟာပဏ္ဍိတ မြို့မ ဆရာတော်ဘုရားကြီး **ဦးဣန္ဒ**ာစာရအား နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌဆရာတော် အဖြစ် တင်သွင်းပါသည်ဘုရားဟု တင်သွင်းရာ—

**အခမ်းအနားမှူးဆရာတော်** က ယခု တင်သွင်းသော ဆရာတော်၏ အဆို **ကို** ထောက်ခံမည့်ပုဂ္ဂိုလ်ရှိပါက ထောက်ခံရန် လျှောက်ထားပါသည်ဘုရား ဟု ပင့်ခေါ်လေရာ—

**ဦးဩဘာသာဘိဝံသ** (ရန်ကုန်တိုင်း) က ဥက္ကဋ္ဌဆရာတော်အမူးရှိသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ပဲခူးမြို့မ ဆရာတော်ဘုရားကြီး သည် တပည့်တော်များ ဥက္ကဋ္ဌဆရာတော် အဖြစ်ဖြင့် ထိုက်တန်သော ဆရာ တော်ဘုရားကြီး ဖြစ်၍ တပည့်တော် ရန်ကုန်မြို့ သရက်တောတိုက် ဖျာပုံတိုက် **သစ်** ဘုန်းကြီး ဦးဩဘာသက ရိုသေစွာ ထောက်ခံ ပါသည်ဘုရားဟု လျှောက်ထား ထောက်ခံတော်မူသည်။

**အခမ်းအနားမှူးဆရာတော်က ဆက်လက်၍** ယခု နိုင်ငံတော် ဗဟိုသံဃာ့ **ဝန်ဆောင်အဖွဲ့**၏ ဥက္ကဋ္ဌအဖြစ် အဆိုကို ထောက်ခံထားသည့် ဆရာတော် ဘဒ္ဒန္တဣန္ဒာစာရ (အဂ္ဂမဟာပဏ္ဍိတ) ကို အစည်းအစည်းသဘာပတိ ဥက္ကဋ္ဌ ဆရာတော်ကြီးမှတဆင့် အတည်ပြုပေးပါရန် လေးစားစွာ လျှောက်ထားပါ သည်ဘုရားဟု လျှောက်ထားရာ—

**သဘာပတိဆရာတော်** က နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌ **အဖြစ်** ပဲခူးမြို့ မြို့မစာသင်တိုက်ဆရာတော် ဘဒ္ဒန္တဣန္ဒာစာရ (အဂ္ဂမဟာ-ပဏ္ဍိတ)ကို အဆိုတင်သွင်းခြင်း၊ ထောက်ခံခြင်းများ ပြုလုပ်သွားရာ ဤ **အစည်းအဝေးကြီး**က သဘောတူကြပါသလား အရှင်ဘုရား၊ သဘောတူကြ ပါလျှင် ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါတယ်ဘုရား၊ ဆရာတော် အရှင် မြတ်တို့ဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်တော်မူ

ကြရန် ဖြစ်ပါတယ်ဘုရားဟု တိုက်တွန်းတော်မူရာ ဆရာတော် သံဃာတော် အရှင်မြတ်များက သာဓုသုံးကြိမ် ခေါ်တော်မူကြသည်။

တဖန်အခမ်းအနားမှူးဆရာတော် က သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အပိုဒ် ၂၁ (ခ) အရ နိုင်ငံတော် သံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ ဆရာတော် က မိမိနှင့် တွဲဖက်ဆောင်ရွက်ရမည့် ဒုတိယ ဥက္ကဋ္ဌဆရာတော် ၂-ပါးတို့ကို စာရင်းပြုစုပြီး ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့သို့ တင်ပြရမည်ဖြစ်ပါ၍ စာရင်း တစောင်ကို ပြုစုပေးတော်မူပါရန် လေးစားစွာ လျှောက်ထားပါသည်ဘုရား ဟု လျှောက်ထားရာ—

ဥက္ကဋ္ဌဆရာတော် က နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့၏ ဒုတိယ ဥက္ကဋ္ဌဆရာတော်များအဖြစ် ဖော်ပြပါ ဆရာတော် ၂-ပါးတို့ကို တင်သွင်း ပါမည်ဘုရား၊ (၁) ညောင်တုန်း ရွှေဟင်္သာတိုက်ဆရာတော် ဦးဝိမလ (အဂ္ဂမဟာပဏ္ဍိတ) ရွှေကျင်ဂိုဏ်း၊ (၂) မန္တလေး တောင်သမန်တိုက် ပုသိမ်ကျောင်းဆရာတော် ဦးရေဝတတို့ ဖြစ်ပါသည်ဘုရား။

ထို့နောက် အခမ်းအနားမှူးဆရာတော် က ယခု သံဃာ့ဝန်ဆောင် အဖွဲ့ ဥက္ကဋ္ဌဆရာတော်က ပြုစုတင်သွင်းသည့် ဒုတိယ ဥက္ကဋ္ဌဆရာတော် ၂-ပါးတို့၏ စာရင်းကို ထောက်ခံမည့် ပုဂ္ဂိုလ်ရှိပါက ထောက်ခံရန် ကြွတော်မူပါဘုရား ဟု ပင့်လျှောက်လေရာ—

ဦးဝိလာသာဘိဝံသ က ဥက္ကဋ္ဌဆရာတော်ဘုရားကြီး တင်ပြထားတဲ့ ဒုတိယ ဥက္ကဋ္ဌဆရာတော် ရွှေဟင်္သာ၊ ညောင်တုန်း ရွှေဟင်္သာတောရ ဆရာတော် ဦးဝိမလ၊ ပုသိမ်ကျောင်းဆရာတော် ဦးရေဝတတို့အား တင်ပြသည်ကို ဘုရား တပည့်တော် ညောင်ရွှေ ဝိလာသက ရွှေကျင်ဂိုဏ်းရဲ့ကိုယ်စား ဘုရားတပည့် တော် ထောက်ခံပါတယ်ဟု ထောက်ခံတော်မူသည်။

အခမ်းအနားမှူးဆရာတော် က ထပ်မံပြီး ထောက်ခံမည့် ပုဂ္ဂိုလ်ရှိပါကလည်း ထောက်ခံရန် ကြွတော်မူပါဦးဘုရား။

ဦးဉာဏဝံသ (စတုဘုမ္မိကငှက်တွင်းဂိုဏ်း) က ဆရာတော်ကြီးနှင့် တွဲဖက် ပြီးတော့ ဆောင်ရွက်ရမယ့် ဒုတိယ ဥက္ကဋ္ဌ ရွှေဟင်္သာတောရ ဆရာတော်နှင့် မန္တလေး တောင်သမန်တိုက် ပုသိမ်ကျောင်း ဆရာတော်တို့ကို စတုဘုမ္မိက ငှက်တွင်းဂိုဏ်းအနေနဲ့ ထောက်ခံပါတယ်။

အခမ်းအနားမှူးဆရာတော် က သံဃာ့အဖွဲ့၏ အခြေခံစည်းမျဉ်း အပိုဒ် ၂၁ · (ခ) အရ နိုင်ငံတော် သံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌဆရာတော် က

မိမိနှင့်တွဲဖက်၍ ဆောင်ရွက်ရမည့် အကျိုးတော်ဆောင် ဆရာတော်တပါး၊ တွဲဖက်အကျိုးတော်ဆောင် ဆရာတော် ၂-ပါးတို့ကို စာရင်းပြုစုပြီးလျှင် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်ပြရမည် ဖြစ်ပါသည်။ သို့ပါ၍ စာရင်း တစောင်ပြုစုပေးတော်မူပါရန် လျှောက်ထားပါသည်ဘုရား။

**ဥက္ကဋ္ဌဆရာတော်** က နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့၏ အကျိုးတော်ဆောင်နှင့် တွဲဖက်အကျိုးတော်ဆောင် ဆရာတော်များကို တင်သွင်းပါမည်ဘုရား၊ (၁) အကျိုးတော်ဆောင် ဆရာတော်ကြီးအဖြစ် ဦးဝိစိတ္တ-သာရာဘိဝံသ (တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက) အဂ္ဂမဟာပဏ္ဍိတ) မင်းကွန်း ဓမ္မနာဒတိုက်၊ (၂) တွဲဖက်အကျိုးတော်ဆောင် ဆရာတော်အဖြစ် ဦးခမာဝုဓ လယ်တီကျောင်းတိုက်၊ ဟသ်ာတ၊ ဓမ္မာနု ဓမ္မ မဟာဒွါရ နိကာယ (၃) တွဲဖက် အကျိုးတော်ဆောင် ဆရာတော်အဖြစ် ဦးဝဏ္ဏသိရီ၊ မင်းကျောင်း ပထမပြန် စာသင်တိုက် သန်လျင်တို့ ဖြစ်ကြပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်** က ယခု သံဃာ့ဝန်ဆောင် အဖွဲ့ ဥက္ကဋ္ဌ ဆရာတော်က ပြုစုတင်သွင်းသည့် အကျိုးတော်ဆောင် ဆရာတော် ၁-ပါး၊ တွဲဖက်အကျိုးတော်ဆောင် ဆရာတော် ၂-ပါးတို့၏ စာရင်းကို ထောက်ခံမည့် ပုဂ္ဂိုလ်ရှိပါက ထောက်ခံရန် ကြွတော်မူပါဘုရား။

**ဦးဓမ္မာဘိဝရ (မူလဒွါရဂိုဏ်း)**။ ။လေးစားအပ်ပါသော ဩဝါဒါစရိယ ဆရာတော်ကြီးဘုရားများနှင့် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ယခု ဥက္ကဋ္ဌဆရာတော် ဘုရားကြီး၏ ရွေးချယ်တော်မူအပ်သော အကျိုးတော်ဆောင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာ-ပဏ္ဍိတ ဦးဝိစိတ္တသာရာဘိဝံသ နှင့် တွဲဖက် အကျိုးတော်ဆောင် အဖြစ်ဖြင့် မဟာဒွါရ နိကာယမှ ဓမ္မရက္ခိတ ဆရာတော် ဦးခမာဝုဓ ဟသ်ာတမြို့ လယ်တီတိုက်ဆရာတော်တို့မှနောက် တွဲဖက်အကျိုးတော်ဆောင် အဖြစ်ဖြင့် ဦးဝဏ္ဏ-သိရီ ပထမပြန် စာသင်တိုက် သန်လျင်မြို့ ဆရာတော်များကို ရွေးချယ် တင်မြှောက်ခြင်းကို ဘုရားတပည့်တော် မူလဒွါရနိကာယ ဓမ္မာဘိဝရ ပြည်မြို့ကတွင်း ဆုတောင်းပြည့်တိုက်က လေးလေးမြတ်မြတ် ထောက်ခံ အပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ယခု တဖန် ထပ်မံပြီး ထောက်ခံမည့် ပုဂ္ဂိုလ်ရှိပါက ထောက်ခံရန် ကြွတော်မူပါဘုရား။

**ဦးတိဿ (မဟာရင်ဂိုဏ်း)**။ ။ဩဝါဒါစရိယ ဆရာတော်များ နှင့် ဆရာတော်သံဃာတော်အရှင်သူမြတ်များဘုရား၊ဘုရားတပည့်တော်သည် မဟာ

ရင်ဂိုဏ်း ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်း၏ ကိုယ်စား ကျိုက်သိမ့်နှန်ကျောင်း ဗဟန်း ရန်ကုန်မြို့ တိဿဖြစ်ပါတယ်ဘုရား၊ ဘုရားတပည့်တော်သည် ခုနတုန်းက ဆရာတော်ပေးထားတဲ့ အဆိုကို ထောက်ခံရာ၌ ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ ( တိပိဋကဓမ္မဘဏ္ဍာဂါရိက ) နှင့် တွဲဖက်အကျိုးတော်ဆောင် ဓမ္မာနုဓမ္မ မဟာဒွါရနိကာယ ဆရာတော် ဦးခမာဝုဓ နှင့် ဆရာတော် ဦးဝဏ္ဏသိရိတို့ တွဲဖက်အကျိုးတော်ဆောင် အဖြစ်ဖြင့် ဆောင်ရွက်သွားခြင်းကို ဘုရားတပည့်တော် လေးလေးနက်နက် ထောက်ခံပါတယ်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ဥက္ကဋ္ဌတော် အမည် စာရင်းသွင်းထားသော ဒုတိယဥက္ကဋ္ဌဆရာတော် ၂-ပါးနှင့် အကျိုးတော်ဆောင် ဆရာတော် ၃-ပါးတို့၏ စာရင်းကို အစည်းအဝေး သဘာပတိ ဥက္ကဋ္ဌဆရာတော်မှတဆင့် အတည်ပြုပေးပါရန် ရိုသေစွာ လျှောက်ထားပါသည်ဘုရား။

**သဘာပတိဆရာတော်။** ။နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင် အဖွဲ့၏ ဒုတိယ ဥက္ကဋ္ဌဆရာတော်များအဖြစ် (၁) ညောင်တုန်း ရွှေဟင်္သာ တောရတိုက် ဆရာတော် ဦးဝိမလ ( အဂ္ဂမဟာပဏ္ဍိတ )၊ (၂) မန္တလေး တောင်သမန့်တိုက် ပုသိမ် ကျောင်း ဆရာတော် ဦးရေဝတ တို့ကို လည်းကောင်း၊ အကျိုးတော်ဆောင် ဆရာတော်အဖြစ် ဦးဝိစိတ္တသာရာဘိဝံသ ( တိပိဋကဓမ္မဘဏ္ဍာဂါရိက ) နှင့် (၁) တွဲဖက်အကျိုးတော်ဆောင် ဆရာတော်များအဖြစ် ဦးခမာဝုဓ၊ လယ်တီကျောင်းတိုက်၊ ဟင်္သာတ၊ ဓမ္မာနုဓမ္မ မဟာဒွါရနိကာယ၊ (၂) ဦးဝဏ္ဏသိရိ၊ မင်းကျောင်း ပထမပြန်စာသင်တိုက် သန်လျင်တို့ကိုလည်းကောင်း၊ ဤအစည်းအဝေးက သဘောတူ ကြပါသလားဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ် နေတော်မူကြပါရန် ဖြစ်ပါသည်ဘုရား၊ ဆရာတော် အရှင်မြတ်တို့ဘုရား သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်ကြရန် ဖြစ်ပါသည်ဘုရား၊ ဆရာတော် သံဃာတော် အရှင်သူမြတ်က သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

**အခမ်းအနားမှူးဆရာတော်။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းအပိုဒ် ၂၁ (ဂ) အရ ယခုရွေးချယ်အတည်ပြုခဲ့သည့် ဥက္ကဋ္ဌဆရာတော် ၁-ပါး၊ ဒုတိယ ဥက္ကဋ္ဌဆရာတော် ၂-ပါး၊ အကျိုးတော်ဆောင်ဆရာတော် ၁-ပါး၊ တွဲဖက် အကျိုးတော်ဆောင် ဆရာတော် ၂-ပါးတို့သည် နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၏ ဥက္ကဋ္ဌဆရာတော်၊ ဒုတိယဥက္ကဋ္ဌဆရာတော်၊ အကျိုးတော်ဆောင် ဆရာတော်၊ တွဲဖက်အကျိုးတော်ဆောင်ဆရာတော်များလည်း ဖြစ်ကြပါကြောင်း လေးစားစွာ လျှောက်ထားပါသည်ဘုရား။

## နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်များ ရွေးချယ်တင်မြှောက်ခြင်း

**အခမ်းအနားမှူးဆရာတော်။** ။ယခု နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်ဆရာတော် ၂၇-ပါးတို့ကို ဆက်လက်ရွေးချယ်တော်မူကြပါရန် ဖြစ်ပါတယ်ဘုရား၊ တပါးချင်း ရွေးချယ်သွားမည်ဖြစ်ရာ တပါးက အဆိုကို တင်သွင်း၍ တပါးက ထောက်ခံကြပါရန် လေးစားစွာ လျှောက်ထားပါသည်ဘုရား။

**ဦးသေဋ္ဌိလ (ရေဝတီတိုင်း)။** ။သဘာပတိအဖွဲ့ဝင် ဆရာတော်ဘုရားကြီးများနှင့်တကွ ဗဟိုသံဃာ့အဖွဲ့ဝင် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော်သည် ရေဝတီတိုင်း၊ ဟသ်ာတ အခြေခံဒေသ၊ ဓမ္မီဘုရားကြီးကျောင်းတိုက်မှ သေဋ္ဌိလဖြစ်ပါသည်ဘုရား၊ ဘုရားတပည့်တော်တို့ ရေဝတီတိုင်းမှ ဗဟိုသံဃာ့မဟာနာယက အဖွဲ့ဝင်ဆရာတော်အဖြစ် ၂-ပါး ရရှိသည့်အနက်မှ ဘုရားတပည့်တော်တို့ ရေဝတီတိုင်း အခြေခံဒေသမှ ပိုးစာတောကျောင်း၊ တိုက်အုပ်ဆရာတော် ဦးတိက္ခဓမ္မာလင်္ကာရသည်[၁] နာယကဂုဏ် ၆-ပါးနှင့် ပြည့်စုံပါသဖြင့် ဘုရားတပည့်တော် သေဋ္ဌိလက အဆိုတင်သွင်းအပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံမည့်သူ ကြွတော်မူပါဘုရား။

**ဦးပဏ္ဍိစ္စဝံသ (ရေဝတီတိုင်း)။** ။ရေဝတီတိုင်း၊ ဟသ်ာတမြို့ ပိုးစာတောကျောင်းဆရာတော် ဦးတိက္ခဓမ္မာလင်္ကာရအား သံဃာ့မဟာနာယကအဖြစ် တင်သွင်းသော ဦးသေဋ္ဌိလ၏ အဆိုကို ရေဝတီတိုင်း၊ ဓနုဖြူမြို့နယ် ဗဟိုသံဃာ့ဝန်ဆောင်ဖြစ်သော တပည့်တော် ပဏ္ဍိစ္စဝံသက ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းဆရာတော် ၂၇-ပါးမှ ပထမတပါး ပြီးဆုံးသွားပါပြီဘုရား၊ နောက်ကျန် ဆရာတော်များအတွက် ဆက်လက်ပြီးတော့ အဆိုတင်သွင်းပြီးလျှင် ဆက်လက်ပြီးတော့ ထောက်ခံတော်မူကြပါရန် လျှောက်ထားပါသည်ဘုရား။

**ဦးကေဘုမာလာ (စစ်ကိုင်းတိုင်း)။** ။လေးစားရိုသေ ထိုက်သော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ စစ်ကိုင်းတိုင်းမှ အခြေခံဒေသ

---

၁။ ၎င်းဆရာတော်သည် ၁၃၄၂-ခုနှစ် ဝါခေါင်လဆုတ် ၈-ရက်နေ့တွင် ပျံလွန်တော်မူသည်။

ရွှေဘိုမြို့နယ် ဝေဠုဝန်ပါဠိတက္ကသိုလ်ကျောင်းတိုက် ဆရာတော် ဦးဉာဏိန္ဒအား နိုင်ငံတော်သံဃာ့မဟာနာယကတပါးအဖြစ် ရွေးချယ်တင်မြှောက်သင့်ကြောင်းအဆိုကို ရွှေဘိုအခြေခံဒေသ ကျွန်းလှမြို့ ရတနာဂီရိကမ္မဋ္ဌာန်းကျောင်း ဘုရားတပည့်တော် ကေတုမာလာက ရိုသေ လေးမြတ်စွာ တင်သွင်းလျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် ထေရ်ရှင် မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းအဆိုကို ထောက်ခံမည့်ဆရာတော်ကြွတော်မူပါဘုရား။

**ဦးသာဂရ (စစ်ကိုင်းတိုင်း)။** ။စစ်ကိုင်းတိုင်း ရွှေဘိုအခြေခံဒေသ ရွှေဘိုမြို့ ဝေဠုဝန်တိုက်သစ် ပါဠိတက္ကသိုလ်ကျောင်းတိုက် ဆရာတော် ဦးဉာဏိန္ဒအား ပွင့်လှမြို့ ရတနာဂီရိကမ္မဋ္ဌာန်းကျောင်းမှ ဆရာတော် ဦးကေတုမာလာက နိုင်ငံတော်သံဃာ့မဟာနာယက အဖြစ် အဆိုတင်သွင်းသည်ကို ဘုရားတပည့်တော် စစ်ကိုင်းတိုင်း လေးကျွန်းမြေ အုတ်ကျောင်း သာဂရက လေးလေးနက်နက် ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။အဆိုရှင်တပါး ကြွရောက်၍ အဆိုတင်သွင်းတော်မူပါဘုရား။

**ဦးဝိမလ (စစ်ကိုင်းတိုင်း)။** ။ကြွရောက်တော်မူလာကြသည့် ကျောက်ထီးတန္တုအလေးပြုအပ်သော သက်တော်ရှည် ဆရာတော်ကြီးများနှင့် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်အရှင်မြတ်တို့ဘုရား၊ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်အဖြစ်ဖြင့် ရွေးချယ်တင်မြှောက်ရန် မုံရွာမြို့ သထုံဝံသကျောင်းတိုက် ဆရာတော် ဦးပညာဝံသအား တင်မြှောက်သင့်ကြောင်းကို ဘုရားတပည့်တော် မုံရွာမြို့ မဟာလယ်တီတိုက် ဝိမလက အဆိုတင်သွင်းပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းအဆိုကို ထောက်ခံမည့် ဆရာတော် ကြွရောက်၍ ထောက်ခံတော်မူပါဘုရား။

**ဦးဓမ္မသီရိ(စစ်ကိုင်းတိုင်း)။** ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊ ယခု အဆိုဘင်သွင်းသွားသော မုံရွာဆရာတော် ဦးပညာဝံသအား ဗဟိုသံဃာ့နာယကအဖြစ် တင်သွင်းခြင်းကို တပည့်တော် စစ်ကိုင်းမြို့နယ် ဘုရားကြီးကျောင်းတိုက် ဓမ္မသီရိက အရိုအသေအလေးအနက် ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ကျန်တပါးအတွက် ဆက်လက်၍ အဆိုတင်သွင်းတော်မူပါဘုရား။

**ဦးအရိယဝံသ (ရေဝတီတိုင်း)။** ။ဆရာတော်သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ် ဘုရားတပည့်တော် ရေဝတီတိုင်းမှ ၂-ပါး ရွေးချယ်ခွင့်ရရှိရာ ဖျာပုံမြို့ တိုက်သစ်ကျောင်း အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဓမ္မစက္ကကို နိုင်ငံတော် သံဃာ့မဟာနာယက အဖြစ် ဆောင်ရွက်တော်မူရန် ရေဝတီတိုင်း ဖျာပုံအခြေခံဒေသ အောင်မြေဘုံသာကျောင်းတိုက်မှ အရိယဝံသက အဆိုတင်သွင်းပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းအဆိုကို ထောက်ခံမည့် ဆရာတော်ကြွတော်မူပါဘုရား။

**ဦးပညာသီဟ ( ရေဝတီတိုင်း )။** ။ကြွရောက်တော်မူလာကြ ကုန်သောသြဝါဒါစရိယဆရာတော်များနှင့် အားလုံး ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်များကို လေးလေးစားစားနှင့် အခုတင်သွင်းသွားတဲ့အဆိုကို ဘုရားတပည့်တော် ထောက်ခံပါတယ်ဘုရား၊ ခုနက ဖျာပုံမြို့ ဦးအရိယဝံသ တင်သွင်းသွားတဲ့ ဖျာပုံတိုက်သစ်ဆရာတော် ဘုရားကြီးဟာ ဂုဏ်ကျေးဇူးကို ဘုရားတပည့်တော်များ အထူးလျှောက်ထားရန် လိုအပ်မယ် မထင်ပါဘူးဘုရား၊ ဘာဖြစ်လို့လဲဆိုတော့ အဂ္ဂမဟာပဏ္ဍိတဘွဲ့ထူး တံဆိပ်ထူးတွေကို ရထားတဲ့ ဆရာတော်ကြီး ဖြစ်သည့်အပြင် လဇ္ဇီပေသလ သိက္ခာကာမ ဝိနယဂရုက ဖြစ်တော်မူတဲ့အတွက် ဖျာပုံတိုက်သစ်ဆရာတော် ဘုရားကြီးအား ဗဟိုသံဃာ့နာယကအဖြစ်နဲ့ တင်မြှောက်တော်မူသော ဖျာပုံ ဦးအရိယဝံသရဲ့အဆိုကို ဘုရားတပည့်တော် ရေဝတီတိုင်း ပုသိမ်အခြေခံဒေသ ဓမ္မာလင်္ကာရကျောင်း ပညာသီဟက လေးစားစွာ ထောက်ခံအပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ကျွန်ဆရာတော် အတွက် အဆိုတင်သွင်းရန် ကြွတော်မူပါဘုရား။

**ဦးသုမင်္ဂလ (ပဲခူးတိုင်း)။** ။သာယာဝတီ အခြေခံဒေသ ကြို့ပင်ကောက်မြို့နယ် ပါဋ္ဌိတက္ကသိုလ် တိုက်ကျောင်း တိုက်အုပ်ဆရာတော် ဦးဥတ္တရာဘိဇေအား နိုင်ငံတော်သံဃာ့နာယက အဖွဲ့ဝင် ဆရာတော်အဖြစ်ကို တပည့်တော်လက်ပံတန်းမြို့ ဘုရာကြီးကျောင်းတိုက် သုမင်္ဂလက အဆိုတင်သွင်း ပါသည် အရှင်ကောင်း အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းအဆိုကို ထောက်ခံမယ့် ဆရာတော်ကြွတော်မူပါဘုရား။

**ဦးပဏ္ဍိတ (ပဲခူးတိုင်း)။** ။သာသနာတော် သန့်ရှင်းစည်ပင် ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးသို့ ကြွလာတော်မူကြသော ဆရာတော်

သံဃာတော် အရှင်မြတ်တို့ဘုရား၊ သာသနာတော်ကြီး အတွင်း၌ ရောက်ဆဲ ရောက်လတံ့ဖြစ်သော အန္တရာယ်ဟူသမျှတို့ကို ကာကွယ် စောင့်ရှောက်ရန် အကျိုးငှာ လက်ပံတန်းမြို့ ဘုရားကြီးကျောင်းတိုက် ဆရာတော် ဦးသုမင်္ဂလ အဆိုကို ဇီးကုန်းမြို့ ဇောတိကာရုံကျောင်းတိုက် ဘုရားတပည့်တော် ပဏ္ဍိတက လေးလေးနက်နက် ထောက်ခံအပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထပ်မံ၍ အဆိုရှင်တပါး ကြွတော်မူပါ ဘုရား။

**ဦးကုဏ္ဍလ (ပဲခူးတိုင်း)။** ။သာသနာ့မာမက ဖြစ်တော်မူကြကုန်သော သဘာပတိ ဆရာတော်ကြီးများ အမှူးရှိသည့် နိုင်ငံတော် သံဃာ့ဝန်ဆောင် ဆရာတော်သံဃာတော် အရှင်မြတ်များဘုရား၊ နိုင်ငံတော် သံဃာ့မဟာနာယက အဖြစ် ဘုရားတပည့်တော်များ ပဲခူးတိုင်း ပေါင်းတည်မြို့ ရွှေကျောင်းကြီး ဆရာတော် ဦးတေဇောဘာသသည် နိုင်ငံတော် သံဃာ့မဟာနာယက ဆရာ တော်များ ပြည့်စုံရမည့် ဂုဏ်အင်္ဂါအရည်အချင်းများနှင့် ရာခိုင်နှုန်း အပြည့် အဝ ပြည့်စုံတော်မူပါသောကြောင့် နိုင်ငံတော် သံဃာ့နာယကအဖြစ် ဆရာ တော် ဦးတေဇောဘာသအား ဘုရားတပည့်တော် ပဲခူးတိုင်း ပြည်မြို့ ဇောတိ-ကာရုံ ပါဠိတက္ကသိုလ်ကျောင်းတိုက် ကုဏ္ဍလက အဆိုတင်သွင်းပါသည် ဆရာ တော် သံဃာတော် အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။၎င်းအဆိုကို ထောက်ခံမည့် ဆရာတော် ကြွတော်မူပါဘုရား။

**ဦးအဂ္ဂဝံသ (ပဲခူးတိုင်း)။** ။ရိုသေလေးမြတ်စွာ ခြေတော် ဦးခိုက် လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ပဲခူးတိုင်း ပြည်အခြေခံဒေသ ပြည်မြို့ ဇောတိကာရုံ ပါဠိတက္ကသိုလ်ကျောင်း တိုက် ဆရာတော် ဦးကုဏ္ဍလ အရှင်သူမြတ်က ပဲခူးတိုင်း ပြည်အခြေခံဒေသ ပေါင်းတည်မြို့ ကျောင်းကြီးတိုက်ဆရာတော် ဦးတေဇောဘာသ အရှင်မြတ် အား နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့ဝင်တို့၏ ရှိသင့်ရှိထိုက်သော ဂုဏ် အင်္ဂါနှင့်ပြည့်စုံသဖြင့် နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့ဝင် ဆရာတော် အဖြစ် ရွေးချယ်တင်မြှောက်ကြောင်း အဆိုတင်သွင်းသွားပါသည်ဘုရား၊ ၎င်း အဆိုကို ဘုရားတပည့်တော် ပဲခူးတိုင်း ပြည်အခြေခံဒေသ ရွှေတောင်မြို့ ဂန္ဓာရုံ ကျောင်းတိုက်မှ အဂ္ဂဝံသက လေးနက်စွာ ထောက်ခံပါကြောင်း ရိုသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ဆက်လက်၍ အဆိုတင်သွင်းရန် အဆိုရှင်ကြွတော်မူပါဘုရား။

**ဦးဇာဂရ (ဝေဠုဝန်နိကာယဂိုဏ်း)**။ ။ရှိသေစွာလျှောက်ထားပါသည် ဥက္ကဋ္ဌဆရာတော် အမှူးပြုသော သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ တပည့်များ၏ ဝေဠုဝန်နိကာယ မဟာနာယက ဖြစ်တော်မူသော ရေဝတီတိုင်း ကြံခင်းမြို့ ဓမ္မစကြာဆရာတော် ဦးကုမုဒသည် ပြဋ္ဌာန်းသောဂုဏ်အင်္ဂါတို့ဖြင့် ညီညွတ်သင့်မြတ်သည်ဖြစ်ပါ၍ နိုင်ငံတော် သံဃာ့ဗဟိုနာယကကြီး အဖြစ်ဖြင့် တပည့်တော် ပြည်မြို့ ကန်ဦးကျောင်းတိုက် ဇာဂရက အဆိုတင်သွင်းပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။၎င်းအဆိုကို ထောက်ခံမယ့် ဆရာတော် ကြွရောက် ထောက်ခံတော်မူပါဘုရား။

**ဦးသုန္ဒရာဘိဝံသ (ဝေဠုဝန်နိကာယဂိုဏ်း)**။ ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ပြည်မြို့ ကန်ဦးကျောင်းတိုက် ဆရာတော် ဦးဇာဂရက နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ် အဆိုပြုတင်သွင်းသွားသော ရေဝတီတိုင်း ကြံခင်းမြို့ ဓမ္မစကြာကျောင်းတိုက် ဆရာတော် ဦးကုမုဒသည် လုပ်ထုံးလုပ်နည်းအရ ရှိသင့်ရှိထိုက်သော ဂုဏ်အင်္ဂါအရည်အချင်းတို့ဖြင့် ပြည့်စုံတော်မူသည့်အပြင်—

ဝိယော ဂရုဘာဝနိယော၊ ဝတ္တာစ ဝစနက္ခမော။
ဂမ္ဘီရဉ္စ ကထံ ကတ္တာ၊ နောစ ဌာနေ နိယောဇယေ။

ဟူသော နာယကဂုဏ်အင် စုံလင်ပါသဖြင့် နိုင်ငံတော်သံဃာ့မဟာနာယကအဖြစ် အဆိုတင်သွင်းခြင်းကို ရန်ကုန်တိုင်း ရန်ကုန်မြို့ စမ်းချောင်းမြို့နယ် ဝေဠုဝန်ကျောင်းတိုက်မှ ဘုရားတပည့်တော် သုန္ဒရက လေးလေးနက်နက် ထောက်ခံပါကြောင်း လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။အဆိုရှင်တပါးကြွရောက်ပါရန် လျှောက်ထားပါသည်ဘုရား။

**ဦးအာသဘ (မန္တလေးတိုင်း)**။ ။လေးစားတော်မူအပ်တဲ့ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော် မန္တလေးမြို့ အခြေခံဒေသ အနောက်တောင်မြို့နယ် အနောက်ခပ်မကန်တိုက် ပြဖုန္တန်မှိတာရုံကျောင်းမှ တပည့်တော် အာသဘက မန္တလေးအနောက်တောင် မြို့နယ် မိုးကောင်းတိုက် ညောင်ရမ်း ပါဠိတက္ကသိုလ် ဝါးတန်း စာချကျောင်း ဆရာတော်

ဦးဉာဏာဘိဝံသ ဆရာတော်အား နိုင်ငံတော်မဟာသံဃာ့နာယက အဖွဲ့ဝင် အဖြစ်ဖြင့် ဘုရားတပည့်တော်က လေးစားစွာတင်သွင်း အပ်ခဲ့ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံမည့်ဆရာတော် ကြွရောက် ထောက်ခံတော်မူပါဘုရား။

**ဦးတိက္ခာစာရ (မန္တလေးတိုင်း)။** ။မိုးကောင်းတိုက် ဦးဉာဏာဘိဝံသ အား နိုင်ငံတော်မဟာသံဃာ့နာယကအဖြစ် အဆိုတင်သွင်းသွားသော အဆို ကို တပည့်တော် မန္တလေးမြို့ ဘုရားကြီးတိုက် ဒေါနခြံအုတ်ကျောင်း တိက္ခာ- စာရက ရိုသေစွာထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။အဆိုရှင်တပါး ကြွရောက်တော်မူပါ ဘုရား၊ အချိန်ကလဲ နီးကပ်နေပြီဖြစ်ပါ၍ တိုတိုတုတ်တုတ်နဲ့ သွက်သွက်လက် လက် တင်ပြ ထောက်ခံကြပါရန် လျှောက်ထားပါသည်ဘုရား။

**ဦးနာယကာဘိဝံသ (မန္တလေးတိုင်း)။** ။ဆရာတော် သံဃာတော်အရှင် မြတ်တို့ဘုရား၊ မန္တလေးမြို့ မစိုးရိမ်ကိုက်သစ်ဆရာတော် ဦးသိရိန္ဒာဘိဝံသအား နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ်အဆိုကို ဘုရားတပည့်တော် မစိုးရိမ် တိုက်သစ် ဓမ္မဒီပကကျောင်း နာယကာဘိဝံသက အဆိုတင် လျှောက်ထားပါ သည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံမယ့် ဆရာတော် ကြွရောက် ထောက်ခံတော်မူပါဘုရား။

**ဦးဇဋိလ (မန္တလေးတိုင်း)။** ။မန္တလေးမြို့ မစိုးရိမ်တိုက်သစ်မှ ဦးသိရိန္ဒ ဆရာတော်အား နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ် ဦးနာယကာဘိဝံသ တင်သွင်းသွားသောအဆိုကို ဘုရားတပည့်တော် မန္တလေးတိုင်း ပုသိမ်ကြီးမြို့ နယ် ဝါခင်းကုန်း ဇဋိလက လေးလေးစားစား ထောက်ခံပါသည်။

**အခမ်းအနားမှူးဆရာတော်။** ။အဆိုရှင်တပါး ကြွရောက်တော်မူပါ ဘုရား။

**ဦးတေဇဝန္တ (ရှမ်းပြည်နယ်)။** ။လေးစားအပ်ပါသော ဥက္ကဋ္ဌဆရာတော် နှင့် သံဃာ့ဝန်ဆောင်ဆရာတော် အရှင်သူမြတ်များဘုရား၊ တပည့်တော်များ ရှမ်းပြည်မြောက်ပိုင်း ကျောက်မဲ အခြေခံဒေသအတွက် သံဃာ့မဟာနာယက ဆရာတော် အဖြစ် လိုအပ်သော ဂုဏ်အင်္ဂါ အရည်အချင်းများနှင့် ပြည့်စုံသည့် တပည့်တော်များ ကျောက်မဲ အခြေခံဒေသအတွက် မိုးမိတ်မြို့ ရွှေကျောင်းဆရာ တော် ဦးဓမ္မာနန္ဒအား သံဃာ့မဟာနာယကအဖြစ် တင်မြှောက်ကြောင်းအဆိုကို

ဘုရားတပည့်တော် နောင်ချိုမြို့နယ် နောင်တောကျောင်း တေဇဝန္တက အဆိုတင်သွင်း လျှောက်ထားပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံမည့် ဆရာတော် ကြွရောက် ထောက်ခံတော်မူပါဘုရား။

**ဦးဓမ္မနန္ဒ(ရှမ်းပြည်နယ်)**။ ။ကြွရောက်တော်မူလာကြကုန်သော သံဃာတော် အရှင်မြတ်တို့ဘုရား၊ ဘုရားတပည့်တော် ရှမ်းပြည်နယ် မြောက်ပိုင်း သံဃာ့နာယကအဖြစ်တင်သွင်းသွားသော နောင်တောကျောင်းဆရာတော်၏ အဆိုကို ဘုရားတပည့်တော်က မိုးမိတ်မြို့ ရွှေကျောင်းဆရာတော် ဦးဓမ္မာနန္ဒ အား ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။နောက်ထပ် အဆိုရှင်တပါး ကြွရောက် တော်မူပါဘုရား။

**ဦးဃောသိတာဘိဝံသ (တနင်္သာရီတိုင်း)**။ ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်တို့ တနင်္သာရီတိုင်း ထားဝယ်မြို့ အခြေခံ ဒေသမှ ထားဝယ်မြို့ ရွှေကူကျောင်းဆရာတော် ဦးအာစိဏ္ဏာဘိဝံသအား သံဃာ့မဟာနာယကအဖွဲ့ဝင်အဖြစ် ဆောင်ရွက်ရန် တပည့်တော် ထားဝယ်မြို့ ဃောသိတာရာမတိုက် ဃောသိတက အဆိုတင်သွင်းပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံမည့်ဆရာတော် ကြွရောက်တော် မူပါ ဘုရား။

**ဦးခေမာစာရာဘိဝံသ(တနင်္သာရီတိုင်း)**။ ။သြဝါဒါစရိယ ဆရာတော် ကြီးနှင့်တကွ ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်ကြီးများဘုရား၊ တနင်္သာရီ တိုင်း ထားဝယ်မြို့ အခြေခံဒေသမှ ဆရာတော် ဦးဃောသိတာဘိဝံသ တင် သွင်းသွားတဲ့ ဦးအာစိဏ္ဏာဘိဝံသအား တပည့်တော် တနင်္သာရီတိုင်း မြိတ် အခြေခံဒေသ ပုလောမြို့မှ ခေမာစာရာဘိဝံသက လေးလေးနက်နက်ထောက်ခံ ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထပ်မံ အဆိုရှင် ကြွတော်မူပါဘုရား။

**ဦးဥတ္တမ (မန္တလေးတိုင်း)**။ ။ဥက္ကဋ္ဌကြီးနှင့်တကွ လေးစားအပ်သော သံဃာတော်အရှင်မြတ်တို့ဘုရား၊ မန္တလေးတိုင်း မြင်းခြံအခြေခံဒေသ မြင်းခြံ မြို့ ကိုးဆောင်တိုက် အဂ္ဂမဟာပဏ္ဍိတ ဖြစ်တော်မူသော ဆရာတော် ဦးသော ဘိတအား နိုင်ငံတော် ဗဟိုသံဃာ့မဟာနာယက အဖွဲ့ဝင်ကာပါးအဖြစ်ဖြင့် မြင်းခြံမြို့ ပါဠိတက္ကသိုလ် သုဓမ္မာကျောင်းတိုက် တပည့်တော်ဥတ္တမ အဆို တင်သွင်းအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံရန် ကြွတော်မူပါဘုရား။

**ဦးစန္ဒိမာ(မန္တလေးတိုင်း)**။ ။မြင်းခြံမြို့ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားအတွက် ၎င်းမြင်းခြံမြို့ သုဓမ္မာတိုက်ကျောင်းဆရာတော် တင်သွင်းသွားသော အဆိုကို ဘုရားတပည့်တော် လေးလေးနက်နက် ထောက်ခံပါတယ် ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။အဆိုရှင်တပါး ကြွရောက်တော် မူပါဘုရား။

**ဦးစိန္တာသာရ(မကွေးတိုင်း)**။ ။နာယကကြီးဖြစ်တော်မူသော ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးနှင့်တကွ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်သံဃာတော် အရှင်သူမြတ်တို့ဘုရား။ မကွေးတိုင်း၊ မကွေးအခြေခံဒေသ မကွေးမြို့မှ မဟာဓမ္မိကာရာမ စာသင်တိုက် စာချဆရာတော် ဦးကုမာရာဘိဝံသကို ဘုရားတပည့်တော် မကွေးမြို့ ရဘနာရာမ စာသင်တိုက်မှ စိန္တာသာရက နိုင်ငံတော်ဗဟိုသံဃာ့မဟာနာယက အဖွဲ့ဝင် ဆရာတော်တပါးအဖြစ် ဝမ်းပန်းတသာ အဆိုဘင်သွင်းအပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံမည့်ပုဂ္ဂိုလ် ကြွရောက်တော်မူပါဘုရား။

**ဦးသုမင်္ဂလ(မကွေးတိုင်း)**။ ။ရှိသေလေးမြတ်လှပါသော သဘာပတိ ဆရာတော်ကြီးများနှင့်တကွ ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော် အရှင်သူမြတ်များဘုရား။ မကွေးတိုင်း မကွေးအခြေခံဒေသ မဟာဓမ္မိကာရာမကျောင်းတိုက်ဆရာတော် ဦးကုမာရာဘိဝံသအား ဗဟိုနာယက အဖွဲ့ဝင်အဖြစ် တင်သွင်းသော မကွေးမြို့ ရတနာရာမတိုက်ဆရာတော် ဦးစိန္တာသာရ၏ အဆိုကို မကွေးတိုင်း မင်းဘူးအခြေခံဒေသ ဖေါမြို့နယ် ကန်လယ်မင်းကျောင်းမှ ဘုရားတပည့်တော် သုမင်္ဂလာ လေးမြတ်စွာ ထောက်ခံအပ်ပါတယ် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူး ဆရာတော်**။ ။အဆိုရှင် တပါး ကြွရောက် အဆို တင်သွင်းတော်မူပါ ဘုရား။

**ဦးဆန္ဒာဓိက (ရှမ်းပြည်နယ်)**။ ။ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့်တကွ သံဃာ့ဝန်ဆောင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်ဖြစ်တော်မူသော သံဃာတော် အရှင်မြတ်တို့ ဘုရား။ ဘုရား တပည့်တော်တို့ ရှမ်းပြည်နယ်မှ ရှမ်းတောင်ကြီး အခြေခံ ဒေသ ညောင်ရွှေမြို့နယ် သာသနာ့ဝိပုလ ရွှေဂူ

စာသင်တိုက်နာယကဆရာတော်ဖြစ်သော အရှင် ဝိလာသာဘိဝံသအား နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင် အဖြစ် ဆောင်ရွက်ပါရန် ဘုရားတပည့်တော်ကို ရှမ်းပြည်နယ်မှ တောင်ကြီးမြို့ အခြေခံဒေသ သိမ်တောင် ကျောင်းတိုက် ဆန္ဒာဓိက က အဆိုသွင်းအပ်ပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။၎င်း အဆို ထောက်ခံမည့် ပုဂ္ဂိုလ်ကြွတော်မူပါ ဘုရား။

**ဦးပဏ္ဍိတ (ရှမ်းပြည်နယ်)။** ။ရှမ်းပြည်နယ် သာသနာဝိပုလ ပရိယတ္တိ စာသင်တိုက် ညောင်ရွှေမြို့ ဦးဝိလာသာဘိဝံသအား သံဃာ့မဟာနာယကအဖွဲ့ဝင် ဆရာတော်အဖြစ်ဖြင့် တောင်ကြီးမြို့ ဦးဆန္ဒာဓိက ဆရာတော်ကြီး အဆိုသွင်း၍ ဘုရားတပည့်တော် ပဏ္ဍိတ ကမ္မဋ္ဌာန်းကျောင်း မိုင်းနောင်က လေးလေးနက်နက် ထောက်ခံပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။နောက်ထပ် အဆိုရှင် ကြွတော်မူပါ ဘုရား။

**ဦးဝဏ္ဏောဘာသ (မန္တလေးတိုင်း)။** ။ရှိသေလေးစားမှု ပြုအပ်သော သဘာပတိ ဆရာတော်၊ အကျိုးတော်ဆောင် ဆရာတော်နှင့်တကွ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော် အရှင်သူမြတ်တို့ဘုရား။ မန္တလေးတိုင်း ရမည်းသင်း အခြေခံဒေသ ရမည်းသင်းမြို့ ဆင်ကျုံးတောရ ဆရာတော် ဦးကောသလ္လ သည် နိုင်ငံတော် မဟာ သံဃာ့နာယက အဖွဲ့ဝင်များ ရှိသင့်ရှိထိုက်သော ဂုဏ်အင်္ဂါ အရည်အချင်းနှင့် ပြည့်စုံတော်မူပါသဖြင့် နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့ဝင်အဖြစ်ဖြင့် တင်မြှောက်ပါရန်ဟူသော အဆိုကို မန္တလေးတိုင်း ရမည်းသင်း အခြေခံဒေသ၊ ရမည်းသင်း မြို့နယ် ရွှေဒါး ရွှေမင်းဝံတောရ တိုက်သစ်နေ ဗဟို သံဃာ့ဝန်ဆောင် ဖြစ်သော ဘုရား တပည့်တော် ဝဏ္ဏောဘာသက အဆိုပြု တင်သွင်းအပ်ပါသည်ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။ထောက်ခံမည့် ပုဂ္ဂိုလ် ကြွတော်မူပါ ဘုရား။

**ဦးကေလာသာဘိဝံသ (မန္တလေးတိုင်း)။** ။မန္တလေးတိုင်း ရမည်းသင်း အခြေခံဒေသ၊ ရမည်းသင်းမြို့ ဆင်ကျုံးတောရ ဆရာတော် ဦးကောသလ္လအား နိုင်ငံတော် သံဃာ့မဟာနာယက အဖြစ် ရမည်းသင်း အခြေခံ ဒေသ ရမည်းသင်းမြို့ ရွှေဒါး ရွှေမင်းဝံတောရတိုက် ဦးဝဏ္ဏောဘာသ က အဆိုပြုသည်ကို ဘုရား တပည့်တော် မိတ္ထီလာ အခြေခံဒေသ မိတ္ထီလာမြို့ သာသနာ့ဝေပုလ္လကျောင်းတိုက် ကေလာသ က ထောက်ခံပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။အဆိုရှင် တပါး ကြွရောက်တော် မူပါ ဘုရား။

ဦးနေမိန္ဒ ( မကွေးတိုင်း )။ ။လေးစားအပ်ပါသော သံဃာတော် ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရား တပည့်တော်များ မကွေးတိုင်း ပခုက္ကူ အခြေခံဒေသမှ ဆရာတော် ဦးဝေပုလ္လသာမိအား သတ်မှတ်ထား သော ဂုဏ်အင်္ဂါများနှင့် ပြည့်စုံပါ၍ နိုင်ငံတော် သံဃာ့နာယက နိုင်ငံတော် မဟာနာယက အဖြစ် တင်မြှောက် ရွေးချယ်တော် မူပါရန် ဘုရားတပည့်တော် မကွေးတိုင်း ပခုက္ကူအခြေခံဒေသ မဟာဝိဇယာရာမတိုက် ဦးနေမိန္ဒ က အဆို တင်သွင်းပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။၎င်း အဆိုကို ထောက်ခံတော် မူပါ ဘုရား။

ဦးဝိစိတ္တ (မကွေးတိုင်း)။ ။သံဃာတော် အရှင်မြတ်တို့ ဘုရား။ မကွေး တိုင်း ပခုက္ကူ အခြေခံ ဒေသ ပခုက္ကူမြို့ မဟာ ဝိဇယာရာမတိုက် ဆရာတော် ဦးနေမိန္ဒ အဆို ပြုသွားသော မကွေးတိုင်း၊ ပခုက္ကူအခြေခံဒေသ ပခုက္ကူမြို့ ရွှေပေါက်ပင်ကျောင်းတိုက် ဆရာတော် ဦးဝေပုလ္လသာမိ အား နိုင်ငံတော် သံဃာ့ မဟာနာယက အဖြစ် ရွေးကောက် တင်မြှောက်ခြင်းကို မကွေးတိုင်း မကွေး အခြေခံဒေသ တောင်တွင်းကြီးမြို့၊ ရွှေဈောင်တော်ဘုရားကြီးကျောင်း တပည့်တော် ဝိစိတ္တ က လေးလေးနက်နက် ထောက်ခံပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။နောက်ထပ် တပါးအတွက် အဆို ပြု တော်မူပါ ဘုရား။

ဦးကဝိန္ဒ(ရခိုင်ပြည်နယ် )။ ။သံဃာတော်အရှင်မြတ်များဘုရား။ ဘုရား တပည့်တော်တို့ ရခိုင်ပြည်နယ် စစ်တွေ အခြေခံဒေသ တောင်တန်းဆရာတော် ဦးနရသီဟ အား မဟာနာယက အဖွဲ့ဝင်အဖြစ် ဘုရား တပည့်တော် စစ်တွေ အခြေခံဒေသ ကဝိန္ဒက တင်သွင်းပါတယ် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။ထောက်ခံချက် ပေးတော်မူပါဘုရား။

ဦးဣန္ဒာစာရ ( ရခိုင်ပြည်နယ် )။ ။ရခိုင်ပြည်နယ် စစ်တွေ အခြေခံ ဒေသမှ ဆရာတော် ဦးနရသီဟသည် သံဃာ့မဟာနာယက ပြုလုပ်ထိုက်သော ဂုဏ်အင်္ဂါတို့နှင့် ပြည့်စုံသောကြောင့် ဘုရားတပည့်တော် သံတွဲမြို့မ ဝေဠုဝန် ကျောင်းတိုက်နေ ဘုရားတပည့်တော် ဣန္ဒာစာရ က စစ်တွေမြို့ တောင်တန်း သာသနာပြု ဘုရားကြီး စာသင်တိုက်ဆရာတော် ဦးနရသီဟအား သံဃာ့မဟာ

နာယက အဖွဲ့ဝင် အဖြစ်ဖြင့်ဆောင်ရွက်ရန် လေးလေး နက်နက် ထောက်ခံပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။အဆိုရှင် ကြွတော်မူပါဘုရား။

**ဦးကလျာဏ (ကံချင်ပြည်နယ်)။** ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ကချင်ပြည်နယ် ဗန်းမော် အခြေခံ ဒေသ မြို့မကျောင်း ဆရာတော် ဦးဇဝနအား နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ဝင် ဆရာတော် အဖြစ် ကချင်ပြည်နယ် ဗန်းမော် အခြေခံဒေသ ဘုရားတပည့်တော် ကလျာဏ က အဆိုတင်သွင်းပါသည်ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။ထောက်ခံတော်မူပါဘုရား။

**ဦးသီလဝံသ (ကချင်ပြည်နယ်)။** ။ဘုရား တပည့်တော် မြစ်ကြီးနား အခြေခံ ဒေသ ဝန်းသိုကျောင်း သီလဝံသ က ဗန်းမော် အခြေခံဒေသ ရွှေကူမြို့၊ မြို့မကျောင်းဆရာတော် ဦးဇဝနအား နိုင်ငံတော် သံဃာ့နာယကအဖွဲ့ဝင် အဖြစ် တင်သွင်းခြင်းကို ထောက်ခံပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။နောက်ထပ် တင်သွင်းမည့် ဆရာတော် ကြွတော်မူပါဘုရား။

**ဦးသိရိန္ဒာဘိဝံသ (ရန်ကုန်တိုင်း)။** ။လေးစားအပ်ပါသော အဘိဓဇ မဟာရဋ္ဌဂုရု ရွှေဟင်္သာ သဘာပတိ ဆရာတော် ဘုရားကြီးနှင့် တကွ ဗဟိုဝန်ဆောင်အဖွဲ့ဝင် သံဃာတော် အရှင်မြတ်တို့ဘုရား။ ရန်ကုန်တိုင်း မှော်ဘီ အခြေခံဒေသ တိုက်ကြီး မြို့နယ်မှ ပြည် ဇောတိကာရုံကျောင်း ဆရာတော် အရှင်ဉာဏဝံသသည် နိုင်ငံတော် သံဃာ့ မဟာနာယက လုပ်ဆောင်နိုင်မည့် ဂုဏ်အင်္ဂါများနှင့် ပြည့်စုံတဲ့ အတွက် ဘုရား တပည့်တော် မှော်ဘီအခြေခံ ဒေသ လှည်းကူးမြို့နယ် လှည်းကူးမြို့ ရတနာဗိမာန်ကျောင်း ဆရာတော် သိရိန္ဒာဘိဝံသ က ထို ဆရာတော်အား နိုင်ငံတော် မဟာ သံဃာ့နာယက အဖွဲ့ဝင်အဖြစ် အဆို တင်သွင်းပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။ထောက်ခံချက် ပေးတော်မူပါဘုရား။

**ဦးကုသလ (ရန်ကုန်တိုင်း)။** ။ရန်ကုန်တိုင်း မှော်ဘီ အခြေခံဒေသ တိုက်ကြီးမြို့ ပြည် ဇောတိကာရုံကျောင်း ဆရာတော် အရှင် ဉာဏဝံသကို နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင်အဖြစ် တင်သွင်းသော လှည်းကူးမြို့ ရတနာဗိမာန်ကျောင်း ဆရာတော် အရှင်သိရိန္ဒာဘိဝံသ၏ အဆိုကို တပည့်တော် ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်၊ လှည်းဆိပ်ကျောင်း ဦးကုသလ က

ထောက်ခံပါကြောင်းကို ရှိသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။အဆိုရှင် ကြွရောက် အဆိုတင်သွင်းတော်မူပါဘုရား။

**ဦးသုမန (မကွေးတိုင်း)။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ မကွေးတိုင်း၊ မင်းဘူးအခြေခံဒေသမှ နိုင်ငံတော်သံဃာ့မဟာနာယကအဖြစ် သက်တော် ၆၇-နှစ်၊ သိက္ခာတော် ၄၇-ဝါရ ဆရာတော် ဦးကိတ္တိ မဟာ ဝိသုတာရာမ တိုက်သစ်၊ စလင်း ဆရာတော်အား ပွင့်ဖြူမြို့ ယော့စု ပါဠိဝါစကကျောင်း ဘုရားတပည့်တော် သုမနက အဆိုပြု တင်သွင်းပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။ထောက်ခံမည့် ဆရာတော် ကြွတော်မူပါ ဘုရား။

**ဦးတေဇနိယ (မကွေးတိုင်း)။** ။ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား။ နိုင်ငံတော် သံဃာ့ မဟာနာယက အဖြစ် မကွေးတိုင်း၊ မင်းဘူး အခြေခံဒေသ၊ စလင်းမြို့ မဟာဝိသုတာမတိုက်သစ် ဆရာတော်ကြီး ဦးကိတ္တိကို မကွေးတိုင်း၊ မင်းဘူး အခြေခံ ဒေသ၊ ပွင့်ဖြူမြို့၊ ဦးသုမန တင်သွင်းထားသော အဆိုကို ဘုရားတပည့်တော် မကွေးတိုင်း မကွေး အခြေခံဒေသ ရေနံချောင်းမြို့ ရွှေတောင် ပါဠိတက္ကသိုလ် ကျောင်းတိုက်မှ တေဇနိယက လေးလေးနက်နက် ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။အဆိုရှင်တပါး ကြွရောက်တော်မူပါဘုရား။

**ဦးဥတ္တရ (မွန်ပြည်နယ်)။** ။လေးစားအပ်သော ဆရာတော် သံဃာတော်များတို့ဘုရား။ တပည့်တော်တို့ မွန်ပြည်နယ် သထုံအခြေခံဒေသ ပေါင်မြို့နယ်မှ ကဒိုစီးကျောင်း ဆရာတော် ဦးရဝိန္ဒအား နိုင်ငံတော် သံဃာ့နာယကအဖြစ် ဘုရားတပည့်တော် သထုံမြို့ ဟိတကာရီကျောင်းတိုက် ဦးဥတ္တရက အဆိုပြုပါသည် ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံရန် ကြွတော်မူပါဘုရား။

ဦးကုမာရ(မွန်ပြည်နယ်)။ ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ယခု သထုံမြို့မ အခြေခံဒေသ ဦးဥတ္တရ တင်သွင်းသွားတဲ့အဆိုကို မော်လမြိုင်အခြေခံဒေသ ရွှေပရိယတ္တိစာသင်တိုက်မှ ကုမာရက ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။တပါးအဆိုပြုတော်မူပါဘုရား။

**ဦးဇောတိက(မွန်ပြည်နယ်)**။ ။ဆရာတော်အရှင်မြတ်တို့ဘုရား။ မွန်ပြည်နယ် မော်လမြိုင်အခြေခံဒေသ၊ အရှေ့ကံတော်ပရိယတ္တိစာသင်တိုက် ဆရာတော် ဦး၀ါယမအား နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ်ဖြင့် အဆိုတင်သွင်းမည်ဖြစ်ပါ၍ ဘုရားတပည့်တော် ရေးမြို့ သာသနပါလ ရန်ကင်းကျောင်းတိုက် ဘုရားတပည့်တော် ဇောတိက အဆိုဘင်သွင်းပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံမည့်ပုဂ္ဂိုလ် ကြွရောက်ထောက်ခံတော်မူပါဘုရား။

**ဦးကုသလ (မွန်ပြည်နယ်)**။ ။ဆရာတော် အရှင်မြတ်တို့ဘုရား။ ယခု အဆိုတင်သွင်းသော ဆရာတော် ဦးဇောတိက တင်သွင်းသွားသောအဆိုကို ဂုဏ်အင်္ဂါနှင့်ညီညွတ်သဖြင့် တပည့်တော် မွန်ပြည်နယ် သထုံအခြေခံဒေသ ပေါင်မြို့ ကုသလက လေးလေးနက်နက် ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။အဆိုရှင်တပါး ကြွရောက်တော် မူပါဘုရား။

**ဦးသောဘဏ(ရန်ကုန်တိုင်း)**။ ။ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား။ ရန်ကုန်တိုင်း လမ်းမတော်မြို့၊ သရက်တောကျောင်းတိုက် ဖျာပုံတိုက်သစ်ကျောင်းဆရာတော် ဦးဩဘာသာဘိဝံသကို နိုင်ငံတော် သံဃာ့မဟာနာယက ဆရာတော်အဖွဲ့ဝင်အဖြစ်ဖြင့် ရန်ကုန်တိုင်း၊ ပုဇွန်တောင်မြို့၊ မြသိန်းတန်ကျောင်းတိုက် သောဘဏက အဆိုဘင်သွင်းပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထောက်ခံရန် ကြွတော်မူပါဘုရား။

**ဦးဥတ္တရာဘိဝံသ(ရန်ကုန်တိုင်း)**။ ။ရန်ကုန်တိုင်း၊ ပုဇွန်တောင်မြို့နယ်၊ မြသိန်းတန် အရှင်သောဘဏက ရန်ကုန်မြို့၊ သရက်တောကျောင်းတိုက်၊ ဖျာပုံတိုက်သစ်ဆရာတော် ဦးဩဘာသာဘိဝံသအား နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ် အဆိုကို ရန်ကုန်တိုင်း၊ လမ်းမတော်မြို့နယ်၊ သရက်တောတိုက်၊ သီဘာရုံကျောင်း တပည့်တော် ဥတ္တရာဘိဝံသက လေးစားစွာ ထောက်ခံပါသည် အရှင်ဘုရား။

**အခမ်းအနားမှူးဆရာတော်**။ ။ထပ်မံ၍ အဆိုရှင်တပါး ကြွရောက်တော်မူပါဘုရား။

**ဦးနန္ဒာဘာသ(ရန်ကုန်တိုင်း)**။ ။ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား၊ ဤအစည်းအဝေးကြီး၌ နိုင်ငံတော် သံဃာ့မဟာနာယက ဂုဏ်

အချပ်ရပ်တို့နှင့် ပြည့်စုံသည်ဖြစ်၍ ခြောက်ထပ်ကြီး၊ ဘုရားကြီးတိုက် ဆရာတော် အရှင်အာဒိစ္စအား နိုင်ငံတော် သံဃာ့မဟာနာယကအဖြစ် အဆိုကို တပည့်တော် နန္ဒောဘာသ ရန်ကုန်တိုင်း ဗဟန်းက တင်သွင်းပါသည် သံဃာတော် အရှင်မြတ်တို့ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံတော်မူပါဘုရား။

**ဦးဝိသုဒ္ဓရံသီ(ရန်ကုန်တိုင်း)။** ။ရန်ကုန်တိုင်း အရှင်နန္ဒောဘာသ တင်သွင်းသွားသောအဆိုကို ရန်ကုန် ဒေါပုံ မင်းနန္ဒာစာသင်တိုက်မှ ဝိသုဒ္ဓရံသီက ရိုရိုသေသေ လေးလေးစားစား ထောက်ခံပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။နောက်ထပ် အဆိုရှင်တပါး ကြွရောက်တော်မူပါဘုရား။

**ဦးဓမ္မာဘိဝံသ(မူလဒွါရဂိုဏ်း)။** ။ဆရာတော်သခင်အရှင်မြတ်တို့ဘုရား။ ရန်ကုန်တိုင်း ဗဟန်းမြို့နယ် ဗြဟ္မနိမ္မိတာရုံ ဆရာတော် ဦးသဟာမ္မတိသည် အခြေခံစည်းမျဉ်း၌ ပြဋ္ဌာန်းအပ်သော နိုင်ငံတော်သံဃာ့မဟာနာယကဂုဏ်အင်္ဂါနှင့် စုံလင်စွာပြည့်စုံပါသောကြောင့်နိုင်ငံတော်သံဃာ့မဟာနာယကအဖွဲ့ဝင်အဖြစ်ဖြင့် တင်မြှောက်ပါကြောင်းကို ဘုရားတပည့်တော် ပြည်မြို့ကန်တွင်း ဆုတောင်းပြည့်တိုက် ဓမ္မာဘိဝံသက အဆိုတင်သွင်း အပ်ပါသည်ဘုရား။

**အခမ်းအနားမှူးဆရာတော်။** ။ထောက်ခံမည့်ပုဂ္ဂိုလ် ကြွရောက် ထောက်ခံတော်မူပါဘုရား။

**ဦးဓမ္မိဿရ ( အနောက်ချောင်းဒွါရဂိုဏ်း )။** ။လျှောက်ထား အပ်ပါသည် ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား။ ယခု ပြည်မြို့ ကန်တွင်း ဆုတောင်းပြည့်ကျောင်းတိုက် အရှင်ဓမ္မာဘိဝံသ လျှောက်ထား တင်သွင်းသွားသောအဆိုကို ဘုရားတပည့်တော် အနောက်ချောင်းဒွါရဂိုဏ်း ဓမ္မိဿရက ထောက်ခံပါကြောင်း ရိုသေစွာ လျှောက်ထားပါသည် ဘုရား။

**အခမ်းအနားမှူးဆရာတော်က။** ။အဆိုရှင်တပါး ကြွရောက်တော်မူပါဘုရား။

**ဦးဝိမလာဘိဝံသ ( ရွှေကျင်ဂိုဏ်း )။** ။ရွှေကျင်ဂိုဏ်း ပြည်မြို့ ဝိသုဒ္ဓါရုံဗာရာဏသီတိုက် ဆရာတော် ဦးအာနန္ဒပဏ္ဍိတ ဆရာတော်အား နိုင်ငံတော်သံဃာ့မဟာနာယက ဆရာတော်အဖြစ် ဘုရားတပည့်တော် ရွှေကျင်ဂိုဏ်း၊ ညောင်ရွှေမြို့ ကန်ကြီးကျောင်းတိုက်၊ နာယက ဆရာတော် ဝိမလာဘိဝံသ က တင်သွင်းပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ထောက်ခံတော်မူပါ ဘုရား။

**ဦးအဂ္ဂိယ ( ရွှေကျင်ဂိုဏ်း ) ။** ။တပည့်တော်တို့ ရွှေကျင် နိကာယ သုံးခရိုင်ဝိနည်းဓြုန်ဌာန၊ ပြည်မြို့၊ ဝိသုဒ္ဓါရုံ ဗာရာဏသီတိုက်မှာ သီတင်းသုံးတော်မူသော ဆရာတော် ဦးအာနန္ဒပဏ္ဍိတကို နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင် အဖြစ်ဖြင့် အဆိုတင်သွင်းသွားတဲ့ ကန်ကြီးကျောင်းတိုက် ညောင်ရွှေမြို့ ဆရာတော် ဦးဝိမလာဘိဝံသရဲ့ အဆိုကို တပည့်တော် မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သစ်၊ ဇယခမေဒနီ ဝါဆိုကျောင်းနေတဲ့ အဂ္ဂိယက ရိုသေစွာ လျှောက်ထား ထောက်ခံကြောင်း လျှောက်ထားပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ကျန်နောက်ထပ် တပါး အတွက် အဆို တင်သွင်းတော်မူပါ ဘုရား။ နောက်ဆုံးပါဘုရား။

**ဦးပညာဒီပ ( ကရင်ပြည်နယ် ) ။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ ဘုရားတပည့်တော် ကရင်ပြည်နယ်က အခြေခံဒေသ မဟာနာယက သံဃာ့အဖွဲ့ဝင်တပါး ရွေးချယ်ခွင့် ရပါသည် ဘုရား၊ ကော့ကရိတ် အခြေခံ ဒေသ၊ ဖားကျကျောင်း ဆရာတော် ဦးစန္ဒောဘာသ ကို သံဃာ့မဟာနာယက အဖွဲ့ဝင်အဖြစ်ဖြင့် ဆောင်ရွက်ပါရန် တပည့်တော် ကော့ဘိန်းရွာ မဟာဝိဟာရ ပရိယတ္တိစာသင်တိုက်ကျောင်းမှ ဦးပညာဒီပ က အဆို တင်သွင်းပါတယ် ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ထောက်ခံတော်မူပါ ဘုရား။

**ဦးဣန္ဒြိယ (ကရင်ပြည်နယ်)။** ။သာသနာ့ အာဇာနည် ဖြစ်တော်မူကြကုန်သော သဘာပတိ ဆရာတော်နှင့်တကွ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် ဆရာတော် အရှင်မြတ်တို့ ဘုရား၊ ဘုရား တပည့်တော်တို့ ကရင် ပြည်နယ် ကော့ကရိတ် အခြေခံဒေသ၊ ကော့ဘိန်းကျောင်းကြီး အရှင်ပညာဒီပ တင်သွင်းလိုက်တဲ့ အရှင်စန္ဒောဘာသကို နိုင်ငံတော် သံဃာ့ မဟာနာယက အဖြစ် တပည့်တော် ဘားအံ အခြေခံဒေသ ဘားအံမြို့၊ မဲဘောင်ကျောင်းမှ တပည့်တော် ဣန္ဒြိယက ရိုသေ လေးမြတ်စွာ ထောက်ခံလိုက်ပါတယ် ဘုရား။

**အခမ်းအနားမှူးဆရာတော်က။** ။ရွေးချယ်ရေးအစီအစဉ် ပြီးဆုံးသွားပါပြီဘုရား၊ ယခု အဆိုတင်သွင်း ထောက်ခံ လျှောက်ထားခဲ့သည့် နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ဝင် ဆရာတော် ၂၇-ပါးတို့၏ စာရင်းကို အစည်းအဝေး၏ အတည်ပြုချက် ရယူပေးပါရန်အတွက် သဘာပတိ ဥက္ကဋ္ဌဆရာတော်ကြီးအား လျှောက်ထား ပန်ကြားပါသည် ဘုရား။

**သဘာပတိ ဆရာတော် ။** ။အခမ်းအနားမှူး ဆရာတော် ဖတ်ကြား

လျှောက်ထားသွားသည့် နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ဝင် ဆရာတော် ၂၇-ပါးတို့၏ စာရင်းကို အစည်းအဝေးက သဘောတူကြပါသလား ဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ် နေတော်မူရန် ဖြစ်ပါသည် ဆရာတော် အရှင်မြတ်တို့ဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်ကြရန် ဖြစ်ပါသည် ဘုရား။ ။ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓုသုံးကြိမ် ခေါ်တော်မူကြပါသည်။

**သဘာပတိအဖွဲ့ ဥက္ကဋ္ဌ အဘိဓဇ မဟာရဋ္ဌဂုရု ရွှေဟင်္သာ ဆရာတော်**
**ဘုရားကြီးက နိဂုံး ဩဝါဒ ကထာ မြွက်ကြားခြင်း**

**အခမ်းအနားမှူး ဆရာတော်က။** ။သဘာပတိ ဥက္ကဋ္ဌ စစ်ကိုင်း ရွှေဟင်္သာဆရာတော်ဘုရားကြီးအား နိဂုံးချုပ် မိန့်ခွန်း မြွက်ကြားပေးတော်မူပါရန်အတွက် ရှိသေစွာ လျှောက်ထားပါသည် ဆရာတော် အရှင်မြတ်တို့ ဘုရား။

**သဘာပတိ ဆရာတော်က။** ။မြန်မာနိုင်ငံတော် တဝန်းလုံးမှ ကြွရောက်လာတော်မူကြသော သမ္မုတိရ သံဃာတော်တို့က သဘောကျ ရွေးချယ်တင်မြှောက်သဖြင့် နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော် အဖြစ်သို့ ရောက်တော် မူကြကုန်သော ဆရာတော်တို့သည် မြတ်စွာ ဘုရား သာသနာတော်ကို သန့်ရှင်း စင်ကြယ်စေမည်၊ တည်တံ့စေမည်၊ စည်ပင်ပြန့်ပွားစေမည်ဟူ၍ နှလုံးသွင်းမနသိကာရ ရှိပြီးဖြစ်တော်မူကြသည်ကို ဩဝါဒါစရိယ ဆရာတော်ကြီးများမှ စ၍ တထောင်ကျော် သံဃာတော်တို့က ယုံကြည်လျက် ရှိပါသည်၊ စွမ်းအားရှိသလောက် အခြေအနေ ပေးသလောက် ဆက်လက်၍ အလှည့်ကျ ဆောင်ရွက်တော် မူကြမည်ကိုလည်း ယုံကြည်ကြပါသည်၊ သာသနာတော် ကောင်းမွန် စင်ကြယ်အောင် ဆောင်ရွက်နိုင်သည်မှာလည်း ပုဗ္ဗေစ ကတပုညတာ မင်္ဂလာနှင့် ပြည့်စုံ၍ ရှေးဘုန်း ရှေးကံ ပါရမီ အားသန်သော ပုဂ္ဂိုလ်တို့မှသာလျှင် ဆောင်ရွက်နိုင်ခြင်း ဖြစ်ပါသည်။

နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်များ၊ နိုင်ငံတော် သမ္မတကြီးမှ အစပြု၍ မြန်မာနိုင်ငံတော်အတွင်း ရတနာ သုံးပါးကို ယုံကြည်မြတ်နိုးကြသူတို့ အပါအဝင် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးနှင့် တကွ လက်အောက်ခံ မှုထမ်း ရာထမ်း အားလုံးတို့သည် ထိုက်သင့်သည့် အားလျော်စွာ ရှေးဘုန်း ရှေးကံ ရှိကြသူတို့ ဖြစ်သောကြောင့် ဤသာသနာ့ သန့်ရှင်းရေးကိစ္စကြီးကို ထန်သည်းသောလှိုင်း၊ များပြောင်သော ဆန္ဒတို့ဖြင့် အဆင့်ဆင့် အကြိမ်ကြိမ် ဦးမနှိမ့်စိတ်မလျော့ပဲ အားခဲ၍ ဆောင်ရွက်လာခဲ့ရာ ယနေ့

ဟိုင်အောင် အောင်မြင်ပြီးစီးခဲ့ကြလေပြီ၊ နယုန်လဆန်း ၁၄ - ရက်နေ့၌ အချောသပ်အတည်ပြု၍ သာဓုသံ ချိမ့်ချိမ့်သဲလျက် အောင်ပွဲကြီးဆင်ကြရ ဘော့မည်မှာ မြေလက်ခတ်လဲ့တော့မည် မဟုတ်ပေ။ သို့ဖြစ်၍ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်တို့သည် မိမိတို့ ကြိုးစားဆောင် ရွက်ခဲ့ကြသော သာသနာတော် သန့်ရှင်းရေးကိစ္စ အခြေခံ အုတ်မြစ်ကို စည်းလုံးညီညွတ်စွာ ခိုင်မြဲတောင့်တင်းစေ၍ အမွမ်းတင် ဖြစ်သော သာ သနာ့ ပန်းခက်ပန်းလက်၊ သာသနာ့ ပန်းချီ ပန်းပွင့်ကိုတို့ ချယ်လှယ်မွမ်းမံ တော်မူကြရန် 'မြရာ သံပတ်၊ မြတ်ရာ တံခွန်တင်' ဆိုသကဲ့သို့ သတိပေးနှိုးဆော် တိုက်တွန်းအပ်ပါသတည်း။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေးကို ခေတ္တရပ်နားပါ မည်ဘုရား။ နေ့လယ် ၁ - နာရီတွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ အစည်းအဝေးကို ဆက်လက်၍ ကျင်းပမည် ဖြစ်ပါကြောင်း လေးစားစွာ လျှောက်ထားပါသည် ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ယခု နံနက်ပိုင်း နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေးကို ရပ်နားမည် ဖြစ်ပါ သည်။ သဘာပတိ ဆရာတော်များ ကြွသွားတော်မူကြပြီးမှ ဆရာတော် များ ကြွသွားကြပါရန် လျှောက်ထားပါသည် ဘုရား။

အစည်းအဝေးကို နံနက် ၁၀ - နာရီ ၁၅ - မိနစ်အချိန်တွင် ရပ်နားသည်။

**နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင် ဆရာတော်များစာရင်း**

(၁) ဦးဣန္ဒာစာရ (အဂ္ဂမဟာပဏ္ဍိတ)
မြို့မစာသင်တိုက်၊ ပဲခူးမြို့ ဥက္ကဋ္ဌ။

(၂) ဦးဝိမလ ရွှေဟင်္သာတောရတိုက်၊
ညောင်တုန်း (ရွှေကျင်) ဒုတိယ ဥက္ကဋ္ဌ။

(၃) ဦးခေဝ ဘ ဘောင်သမန်တိုက် (မန္တလေးမြို့) ဒုတိယ ဥက္ကဋ္ဌ။

(၄) ဦးဝိစိတ္တသာရာဘိဝံသ (တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက)
(အဂ္ဂမဟာပဏ္ဍိတ) (မင်းကွန်း) အကျိုးတော်ဆောင်

(၅) ဦးခမာဝုဓ လယ်တီကျောင်းတိုက်
(ဟင်္သာတ) တွဲဘက် အကျိုးတော်ဆောင်။

(၆) ဦးဝဏ္ဏသိရီ ပထမပြန်စာသင်တိုက်
(သံလျင်) တွဲဘက် အကျိုးတော်ဆောင်။

(၇) ဦးသဟမ္မတိ ဖြဟ္မနိမ္မိတာရုံကျောင်း၊ ရန်ကုန် (မူလဒွါရ) အဖွဲ့ဝင်။
(၈) ဦးကုမုဒ ဓမ္မာစကြာကျောင်းတိုက် (ကြံခင်း) (ဝေဠုဝန်) အဖွဲ့ဝင်။
(၉) ဦးအာနန္ဒပဏ္ဍိတ ဝိသုဒ္ဓါရုံ ဗာရာဏသီတိုက် (ပြည်မြို့) (ရွှေကျင်) အဖွဲ့ဝင်။
(၁၀) ဦးဇဝန မြို့မကျောင်း (ကချင်) အဖွဲ့ဝင်။
(၁၁) ဦးစန္ဒောဘာသ ဖားကျဲကျောင်း (ကရင်) အဖွဲ့ဝင်။
(၁၂) ဦးဉာဏိန္ဒ ဝေဠုဝန်ကျောင်း (ရွှေဂူ) အဖွဲ့ဝင်။
(၁၃) ဦးပညာဝံသ သထုံစံသကျောင်း (မုံရွာ) အဖွဲ့ဝင်။
(၁၄) ဦးအာစိဏ္ဏာဘိဝံသ ရွှေဂူကျောင်း (တနင်္သာရီ) အဖွဲ့ဝင်။
(၁၅) ဦးဥတ္တရာဘိဓဇ တိုက်ကျောင်း (ကြို့ပင်ကောက်) အဖွဲ့ဝင်။
(၁၆) ဦးတေဇောဘာသာဘိဂံသ သဒ္ဓမ္မဇောတိကာရုံ ကျောင်း (ပေါင်းတည်) အဖွဲ့ဝင်။
(၁၇) ဦးကုမာရာဘိဝံသ မဟာဓမ္မိကာရာမကျောင်းတိုက် (မကွေး) အဖွဲ့ဝင်။
(၁၈) ဦးဝေပုလ္လာသာမိ ရွှေပေါက်ပင်ကျောင်း (ပခုက္ကူ) အဖွဲ့ဝင်။
(၁၉) ဦးကိတ္တိ မဟာဝိသုတာရာမတိုက် (စလင်း) အဖွဲ့ဝင်။
(၂၀) ဦးဉာဏာဘိဝံသ မိုးကောင်းတိုက် (မန္တလေး) အဖွဲ့ဝင်။
(၂၁) ဦးသိရိန္ဒာဘိဝံသ မစိုးရိမ်တိုက်သစ် (မန္တလေး) အဖွဲ့ဝင်။
(၂၂) ဦးကောသလ္လ ဆင်ကျုံးတောရကျောင်း (ရမည်းသင်း) အဖွဲ့ဝင်။
(၂၃) ဦးသောဘိတ ကိုးဆောင်တိုက် (မြင်းခြံ) အဖွဲ့ဝင်။
(၂၄) ဦးရဝိန္ဒ ကဒုံစီးကျောင်း (ပေါင်မြို့) အဖွဲ့ဝင်။
(၂၅) ဦးဝါယာမ အရှေ့ကျော်ကျောင်း (မော်လမြိုင်) အဖွဲ့ဝင်။
(၂၆) ဦးနရသီဟ ဘုရားကြီးကျောင်း (စစ်တွေ) အဖွဲ့ဝင်။
(၂၇) ဦးဉာဏဝံသ ပြည်ဇောတိကာရုံကျောင်း (တိုက်ကြီး) အဖွဲ့ဝင်။

(၂၈) ဦးအာဒိစ္စ ခြောက်ထပ်ကြီးတိုက် (ရန်ကုန်) အဖွဲ့ဝင်။
(၂၉) ဦးသြဘာသာဘိဝံသ ဖျာပုံတိုက်သစ် (ရန်ကုန်) အဖွဲ့ဝင်။
(၃၀) ဦးဝိလာသာဘိဝံသ ရွှေဂူစာသင်တိုက် (ညောင်ရွှေ) အဖွဲ့ဝင်။
(၃၁) ဦးဓမ္မာနန္ဒ ရွှေကျောင်း (မိုးမိတ်) အဖွဲ့ဝင်။
(၃၂) ဦးတိက္ခဓမ္မာလင်္ကာရ ပိုးစားတောကျောင်း (ဟင်္သာတ) အဖွဲ့ဝင်။
(၃၃) ဦးဓမ္မစက္က တိုက်သစ်ကျောင်း (ဖျာပုံ) အဖွဲ့ဝင်။

## နိုင်ငံတော် သံဃာ့ မဟာ နာယက အဖွဲ့
## ပထမ အကြိမ် အစည်းအဝေး မှတ်တမ်း

၁၃၄၂-ခုနှစ်၊ နယုန် လဆန်း ၁၃-ရက်
(၁၉၈၀-ပြည့်နှစ်၊ မေလ ၂၆-ရက်)
(တနင်္လာနေ့)

ရန်ကုန်မြို့၊ ကမ္ဘာအေး ကုန်းမြေ ဇမ္ဗူဒီပကျောင်း အစည်းအဝေးနန်း၌ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ ပထမအကြိမ် အစည်းအဝေးကို နံနက် ၁၁-နာရီ ၄၀-မိနစ် အချိန်တွင် စတင်ကျင်းပသည်။

အစည်းအဝေးတွင် ဥက္ကဋ္ဌဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တကုဏ္ဍာဘိဝံသ သဘာပတိ အဖြစ် ဆောင်ရွက်၍ ဦးဝဏ္ဏသိရီ က အခမ်းအနားမှူး အဖြစ် ဆောင်ရွက်ပါသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ ပထမ အကြိမ် အစည်းအဝေး ကျင်းပရာ ဇမ္ဗူဒီပ အစည်းအဝေး ခန်းမဆောင်သို့ ကြွရောက်တော်မူလာကြသော နိုင်ငံတော် သံဃာ့ မဟာ နာယက အဖွဲ့ဝင် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ နိုင်ငံတော် သံဃာ့ မဟာ နာယက အဖွဲ့ အစည်းအဝေးတွင် ဥက္ကဋ္ဌဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တ ကုဏ္ဍာဘိဝံသ က အစည်းအဝေးကြီး၏ သဘာပတိ အဖြစ် ဆောင်ရွက်၍ ဘုရားတပည့်တော် ဝဏ္ဏသိရီ က တိပိဋကဆရာတော်ဘုရား၏ ခွင့်ပြုချက် အရ အခမ်းအနားမှူး အဖြစ် ဆောင်ရွက်မည်ဖြစ်ပါကြောင်း ရိုသေစွာ လျှောက်ထားပါသည် ဘုရား။

## အစည်းအဝေးဖွင့်လှစ်ကြောင်း ကြေငြာခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ သဘာပတိဆရာတော် ဘုရားကြီး၏ ခွင့်ပြုတော်မူချက် အရ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ ပထမအကြိမ် အစည်းအဝေးကို စတင် ဖွင့်လှစ်ကြောင်း ကြေငြာ လျှောက်ထားဝံ့ပါသည်ဘုရား။

## အစည်းအဝေး ထမြောက်ကြောင်း ကြေငြာခြင်း

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ဘုရား၊ နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ ပထမ အကြိမ် အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော သံဃာတော် အရေအတွက်မှာ ၃၃-ပါးဖြစ်၍ တက်ရောက်နိုင်သော သံဃာ့ ကိုယ်စားလည် အရေအတွက်မှာ ၃၃-ပါး ဖြစ်ပါသည် ဘုရား၊ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်လာသော ရာနှုန်းမှာ ရာနှုန်းပြည့်ဖြစ်၍ သတ်မှတ်ထားသော ရာနှုန်းအတိုင်းပင် ဖြစ်၍ အစည်းအဝေးကြီး အောင်မြင် ထမြောက်ကြောင်း လျှောက်ထားပါသည် ဘုရား။

## သဘာပတိ ဆရာတော် မိန့်ခွန်း မြွက်ကြားခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား၊ အစည်းအဝေးကြီး၏ အစီအစဉ်အရ သဘာပတိဆရာတော်ကြီးက မိန့်ခွန်း မြွက်ကြားရန် ဖြစ်ပါသည် ဘုရား၊ သို့ဖြစ်ပါ၍ သဘာပတိ ဆရာတော်ကြီးအား မိန့်ခွန်း မြွက်ကြားတော်မူပါရန် လျှောက်ထားဝံ့ပါသည် ဘုရား။

**သဘာပတိ ဆရာတော်က။** ။ဒီကနေ့ နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ ပထမအကြိမ် အစည်းအဝေး ဖြစ်ပါတယ်၊ အဲဒီ ပထမအကြိမ် အစည်းအဝေးမှာဆိုလို့ ရှိယင်ဖြင့် မနက်က မဟာ ပါသာဏ လိုဏ်ဂူထဲမှာ ပြီးခဲ့တာကဖြင့် နိုင်ငံတော် သံဃာ့မဟာနယက အဖွဲ့လောက် အစီအစဉ်ကတော့ဖြင့် ပြီးခဲ့ပါပြီ။ ပြီးတော့ ဥက္ကဋ္ဌ ရွေးချယ်မှုတို့၊ အကျိုးဆောင် ရွေးချယ်မှုတို့ ဦးဦးဖျားဖျား ဖြစ်တဲ့ နိုင်ငံတော် သံဃာ့ မဟာ နာယက အဖွဲ့က ပထမ အကြိမ် အစည်းအဝေးမှာ ဆိုလို့ရှိယင်ဖြင့် အခု နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့အပေါ်၌သော်လည်းကောင်း၊ ဗဟိုဝန်ဆောင် အဖွဲ့အပေါ်၌သော်လည်းကောင်း အဲဒီ ဩဝါဒ ညွှန်ကြားဖို့ဆိုတဲ့ ဆရာတော်များလဲပဲ လိုအပ်နေတဲ့ အတွက် အဲဒီ ဩဝါဒါစရိယ ဆရာတော်ကြီးများရဲ့ စာရင်းကို

ဆက်ကပ်ပြီးတဲ့ အတိုင်း အရှင်ဘုရားတို့ အသီးသီး သိပြီး ဖြစ်နေပါတယ်၊ ဖြစ်နေတဲ့ အတွက် ဒါကိုလဲပဲ ရွေးချယ်ပြီးတော့ ဒီတရားဝင် ဖြစ်အောင် ကြေငြာဖို့ ဆိုတဲ့ အချက်ကိုလဲ ရှိနေတဲ့အဖြစ်ကို အားလုံးပဲ မဟာ နာယက အဖွဲ့ဝင်ဆရာတော်များနှင့်တကွ ဩဝါဒါစရိယ ဆရာတော်များကို လျှောက်ထားပါသည် ဘုရား။

**နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့ကို ဖွဲ့စည်း၍ နိုင်ငံတော် သံဃာ့ဝန်ဆောင်အဖွဲ့ကို တင်သွင်းရန် ဆုံးဖြတ်ခြင်း**

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ အစည်းအဝေး အစီအစဉ် အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အပိုဒ် ၂၄-အရ နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့ကို ဖွဲ့စည်းရမှာ ဖြစ်ပါသည် ဘုရား၊ ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့တွင် အဖွဲ့ဝင် ဆရာတော်ကြီးများ ၇၁-ပါး ပါဝင်ပါသည် ဘုရား၊ ဆရာတော်ကြီးများ ၇၁-ပါးမှာ ဖြန့်ဝေထားသည့် စာရင်းတွင် ပါသည့်အတိုင်း ဖြစ်ပါသည် ဘုရား၊ နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ စာရင်းကို အတည်ပြုရန် ဒီ အစည်းအဝေးက သဘော တူမတူ သဘာပတိ ဆရာတော်ဘုရားကြီးမှတဆင့် ပန်ကြားပေးပါရန် ရှိသေစွာ လျှောက်ထားပါသည် ဘုရား။

**သဘာပတိဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ အခမ်းအနားမှူး သံလျင် ဦးဝဏ္ဏသိရီ ဖတ်ကြားလျှောက်သွားသည့် နိုင်ငံတော် ဩဝါဒါစရိယဆရာတော်ကြီးများ စာရင်းကို အတည်ပြုရန် အတွက် ဤ အစည်းအဝေးက သဘောတူကြပါသလား ဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ်နေတော်မူကြပါရန် ဖြစ်ပါသည် ဘုရား၊ ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ (သုံးကြိမ်) ခေါ်တော်မူရန် ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ်ခေါ်တော်မူကြသည်။

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အပိုဒ် ၂၄-အရ၊ နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့စာရင်းကို နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်သွင်းပြီး အတည်ပြုချက် ရယူမည် ဖြစ်ပါသည် ဘုရား၊ သို့ဖြစ်၍ နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ အဖွဲ့စာရင်းကို

နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ ပထမအကြိမ် ဒုတိယပိုင်း အစည်းအဝေးသို့ ထောက်ခံတင်သွင်းရန် ဆုံးဖြတ်တော်မူကြပါမည့် အကြောင်း ရှိသေစွာ လျှောက်ထားပါသည် ဘုရား။

**သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်းနှင့် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းတို့ကို တင်သွင်းရန် ဆုံးဖြတ်ခြင်း**

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အပိုဒ် ၇၆ - အရ၊ (၁) ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်း နှင့် (၂) ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းတို့ကို ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်သွင်းပြီး ပြဋ္ဌာန်းချက် ရယူရမှာ ဖြစ်ပါသည် ဘုရား။ ထိုသို့ တင်သွင်းသည့်အခါ လိုအပ်သလို တပိုဒ်ချင်း ဖြစ်စေ၊ ချုပ်၍ ဖြစ်စေ ဖတ်ကြား၍ တင်သွင်းရမှာ ဖြစ်ပါသည် ဘုရား။ သို့ဖြစ်၍ အမှတ် (၁) လုပ်ထုံးလုပ်နည်းနှင့် အမှတ် (၂) မှတ်တမ်းတို့ကို နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ ပထမအကြိမ် ဒုတိယပိုင်း အစည်းအဝေးသို့ လိုအပ်သလို ဖတ်ကြားတင်သွင်းရန် အစည်းအဝေးကြီး၏ သဘောတူညီချက်ကို ဥက္ကဋ္ဌ ဆရာတော်မှ တဆင့် အဘည်ပြုပေးပါရန် ရှိသေစွာ လျှောက်ထားပါသည် ဘုရား။

**ဥက္ကဋ္ဌဆရာတော်က။** ။ဆရာတော် အရှင်မြတ်တို့ ဘုရား၊ (၁) ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်း၊ (၂) ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာ နိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များရဲ့ သာသနာ့နွယ်ဝင် မှတ်တမ်းတို့ကို နိုင်ငံတော်အစိုးရ သံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် ဒုတိယအချိန် အစည်းအဝေးသို့ ဖတ်ကြားတင်သွင်းရန် အတွက် ဤအစည်းအဝေးက သဘောတူကြပါသလားဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ်နေတော်မူကြပါရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော်အရှင်သူမြတ်တို့ ဘုရား၊ သဘောတူပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်တော်မူကြရန် ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဥက္ကဋ္ဌ ဆရာတော် ဘုရားကြီး နိဂုံးချုပ် မိန့်မြွက်တဲ့ ကိစ္စ မဆောင်ရွက်မီ ယနေ့ နိုင်ငံတော် ဗဟို သံဃာ့ ဝန်ဆောင် အဖွဲ့ ပဌမ အကြိမ် ဒုတိယပိုင်း အစည်းအဝေးသို့ အခြေခံ စည်းမျဉ်း ၂၄· အရ နိုင်ငံတော် ဩဝါဒါစရိယ စာရင်းကို နိုင်ငံတော် ဗဟို သံဃာ့ ဝန်ဆောင် အဖွဲ့သို့ တင်သွင်းချက်၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် သံဃာ့ အဖွဲ့အစည်း လုပ်ထုံး လုပ်နည်း မူကြမ်း တင်သွင်းချက်၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင် များ၏ သာသနာနွယ်ဝင် မှတ်တမ်းတို့ကို တပည့်တော် တင်သွင်းရမည် ဖြစ်ပါသည်ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် သံဃာ့ အဖွဲ့အစည်း လုပ်ထုံး လုပ်နည်း မူကြမ်းကို ဘုရား တပည့်တော်နှင့် ပြည် အခြေခံဒေသ က အရှင်တေဇောဘာသ တို့က တင်သွင်းပါမည် ဘုရား၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင် များ၏ သာသနာနွယ်ဝင် မှတ်တမ်းကို မန္တလေး အခြေခံဒေသ ဆရာတော် ဦးဉာဏာဘိဝံသ က တင်သွင်းမည် ဖြစ်ကြောင်းကို လျှောက်ထား ပါသည် ဘုရား။

သဘာပတိ ဆရာတော်ဘုရား နိဂုံးချုပ် မိန့်ခွန်း မြွက်ကြားခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။အစီအစဉ်အရ ဥက္ကဋ္ဌ ဆရာတော် ဘုရားက နိဂုံးချုပ် မိန့်ခွန်း မြွက်ကြားပေးတော်မူပါရန် ရှိသေစွာ လျှောက် ထားပါသည် ဘုရား။

**ဥက္ကဋ္ဌ ဆရာတော်က။** ။ဘုရား တပည့်တော်များ သာသနာ သန့်ရှင်း တည်တံ့ ပြန့်ပွားရေးနှင့် စပ်လျဉ်းပြီးတော့ အခု ဆောင်ရွက်လာခဲ့တဲ့ အချိန် ကာလ ဆိုယင်ဖြင့် နောက်ကြောင်း ပြန်ကြည့်မယ်ဆိုလျှင် (၅) လကျော်နီ့ လောက် ရှိလိမ့်မည်လို့ မှတ်ထင်မိပါတယ်၊ အဲဒီ အတွင်းမှာ တပည့်တော်များ ကြီးမှူးပြီးတော့ အခု ဩဝါဒါစရိယ ဆရာတော်များနှင့် တပည့်တော်များ ကြီးမှူးပြီး ဆောင်ရွက်မှုကိုသော်လည်းကောင်း၊ ပြီးတော့ သမ္မုတိ ရ ဒီ သာသနာ့ ဝန်ထမ်းဖြစ်တဲ့ ကိုယ်စားလှယ်တော် ဆရာတော်များရဲ့ အားထုတ် ဆောင်ရွက်မှုသည်လည်းကောင်း၊ မိမိတို့ ရည်မှန်းထားတဲ့ အဖြစ်ကတော့ဖြင့် မနက်က အောင်အောင် မြင်မြင်နဲ့ပဲ ပြီးစီးသွားတယ်လို့ သိရှိရပါတယ်၊ အဲဒီ တော့ ပြီးစီးသွားတဲ့ နေရာမှာလဲပဲ ဒီနေ့ဆိုလို့ရှိယင် နိုင်ငံတော် မဟာ နာယက

အဖွဲ့ရဲ့ ပထမအကြိမ် အစည်းအဝေးမှာ ဩဝါဒါစရိယ ဆရာတော်များလဲပဲ ဆက်ကပ်ထားတဲ့ စာရင်းအတိုင်း အတည်ပြုပြီး ဖြစ်ပါတယ်၊ ပြီးတော့ တခါ နေ့ဘက်မှာ ဆက်လက်ပြီးတော့ ဆောင်ရွက်ဖို့ရာ ဆိုတဲ့ ခုနက နံပါတ်(၁) ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံး လုပ်နည်း မူကြမ်းကိုလည်းကောင်း နံပါတ် (၂) အနေ အားဖြင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သီလရှင်များရဲ့ သာသနာ နွယ်ဝင်မှတ်ဘမ်းကိုသော်လည်းကောင်း ဆက်လက်ပြီးတော့ ဆောင်ရွက်ဖို့ရာ ရှိတဲ့အတွက် အဲဒီ ကိစ္စတွေလဲပဲ မိမိတို့ ကျရာ တာဝန်ကို သာသနာရေး၌ အားပေးကူညီ ဆောင်ရွက်လိုတဲ့စိတ်ထားဖြင့် လေးလေးစားစား ဆောင်ရွက် တော်မူကြပါလို့ မှာဆို တိုက်တွန်းယင်းပဲ နိဂုံး ချုပ်ပါတယ်။

အခမ်းအနားမှူး ဆရာတော်က။ ။နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ ပထမ အကြိမ် အစည်းအဝေးကြီးကို နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ ဥက္ကဋ္ဌဆရာတော် ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရား ကြီးရဲ့ ခွင့်ပြုချက် အရ တပည့်တော်တို့ ပထမ အကြိမ် အစည်းအဝေးကို ရုပ်သိမ်းပြီး ဖြစ်ကြောင်း ရှိသေစွာ လျှောက်ထားပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ ဘုရား၊ နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့ ပထမ အကြိမ် အစည်းအဝေး ပြီးဆုံးပါပြီ ဘုရား။ နိုင်ငံ တော် သံဃာ့ဝန်ဆောင် အဖွဲ့ အစည်းအဝေးသို့ ဆက်လက် တက်ရောက် တော်မူကြပါရန် ရှိသေစွာ လျှောက်ထားဝံ့ ပါသည် ဘုရား။

အစည်းအဝေးကို ၁၂-နာရီ ၁၀-မိနစ် အချိန်တွင် ရုပ်သိမ်းသည်။

## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ ပထမ အကြိမ် အစည်းအဝေး မှတ်တမ်း

၁၃၄၂-ခုနှစ်၊ နယုန် လဆန်း ၁၃-ရက်
(၁၉၈၀-ပြည့်နှစ်၊ မေလ ၂၆-ရက်)
(တနင်္လာနေ့)
[ မွန်းလွဲပိုင်း ]

ရန်ကုန်မြို့၊ ကမ္ဘာ့အေးကုန်းမြေ၊ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ နိုင်ငံတော်ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၊ ပထမအကြိမ် အစည်းအဝေးကြီးကို

မွန်းလွဲ ၁ - နာရီအချိန်တွင် စတင်ကျင်းပသည်။ အစည်းအဝေးကြီးတွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ ဘဒ္ဒန္တဇာဂရာဘိဝံသ သဘာပတိ ဆရာတော် အဖြစ် ဆောင်ရွက်၍ တွဲဖက်အကျိုးတော်ဆောင် ဆရာတော် ဦးဝဏ္ဏသိရီက အခမ်းအနားမှူး ဆရာတော် အဖြစ် ဆောင်ရွက်တော်မူသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ အစည်းအဝေးကြီး ကျင်းပရန် အချိန်နီးကပ်နေပြီ ဖြစ်ပါ၍ လိုဏ်ဂူတော်ကြီးအတွင်း သတ်မှတ်ထားသော နေရာသို့ ကြွရောက်တော်မူကြပြီး နေရာ ယူတော်မူကြပါရန် ရိုသေစွာ ပင့်လျှောက်အပ်ပါသည် ဘုရား။ သုံးကြိမ် ၊ တိုင်တိုင် ပင့်လျှောက်ပါသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် အစည်းအဝေး ဒုတိယပိုင်းတွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ ဘဒ္ဒန္တဇာဂရာဘိဝံသ သဘာပတိ ဆရာတော်အဖြစ် ဆောင်ရွက်တော်မူ၍ အကျိုးတော်ဆောင် ဆရာတော် အဖြစ် ဘုရားတပည့်တော် ဝဏ္ဏသိရီက တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ဘုရားကြီး၏ စေခိုင်းချက်အရ အခမ်းအနားမှူး အဖြစ် ဆောင်ရွက်မည် ဖြစ်ကြောင်း ရိုသေစွာ လျှောက်ထားရပါသည် ဘုရား။

**အစည်းအဝေး အထမြောက်ကြောင်း ကြေငြာခြင်း**

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ သဘာပတိ ဆရာတော်ဘုရား၏ ခွင့်ပြုတော်မူချက် အရ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် အစည်းအဝေး ဒုတိယပိုင်းကို ဆက်လက် ကျင်းပမည် ဖြစ်ကြောင်း ကြေငြာ လျှောက်ထားပါသည်ဘုရား။ ဆရာတော် အရှင်သူမြတ်တို့ဘုရား။ အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာသော သံဃာတော် အရေအတွက်မှာ ၂၉၉ - ပါး ဖြစ်၍ တက်ရောက်နိုင်သော သံဃာအရေအတွက်မှာလည်း ၂၉၉ - ပါးပင် ဖြစ်ပါသည် ဘုရား။ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့ တက်ရောက်သော သံဃာတော်များမှာ ရာခိုင်နှုန်းပြည့် ဖြစ်ပါသည်ဘုရား။ ရာခိုင်နှုန်းပြည့် ဖြစ်ပါသဖြင့် အစည်းအဝေးကြီး ထမြောက်အောင်မြင်ကြောင်း ကြေငြာ လျှောက်ထားရပါသည်ဘုရား။

**နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များ စာရင်းကို တင်သွင်း အတည်ပြုခြင်း**

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း အပိုဒ် ၂၄-အရ၊ နိုင်ငံတော် သံဃာ့ မဟာနာယက အဖွဲ့က နိုင်ငံတော် ဩဝါဒါစရိယအဖွဲ့ စာရင်းကို တင်သွင်းထားပါသည် ဘုရား။ ထိုနိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့စာရင်း[၁] ကို ဥက္ကဋ္ဌ ဆရာတော်မှ တဆင့် အတည်ပြု ပေးတော်မူပါရန် ရှိသေစွာ လျှောက်ထား ရပါသည် ဘုရား။

**သဘာပတိ ဆရာတော်က။** ။သဘောတူကြပါလျှင် ဆိတ်ဆိတ်နေ တော်မူကြပါဘုရား။

ဆရာတော် အရှင်သူမြတ်များ ဘုရား။ သဘောတူပါက သာဓုအနု မောဒနာ သုံးကြိမ် ခေါ်တော်မူရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ် တော်မူကြသည်။

**ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော်**
**သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်းကို တင်သွင်း**
**အတည်ပြုခြင်း**

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း အပိုဒ် (၇၆) အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း၏ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်းထားပါသည်ဘုရား။ ထို လုပ်ထုံးလုပ်နည်း မူကြမ်းကို တွဲဖက်အကျိုးတော်ဆောင် ဖြစ်သော တပည့် တော် နှင့် ပြည် အခြေခံဒေသက အရှင်တေဇောဘာသတို့က တင်သွင်း လျှောက်ထားပါမည်ဘုရား။

သာသနာတော် သက္ကရာဇ် ၂၅၂၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက်၊ တနင်္လာနေ့တွင် ကျင်းပသော နိုင်ငံ တော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် အစည်းအဝေးသို့ တင်သွင်း သော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့ အစည်း၏ လုပ်ထုံးလုပ်နည်းများ မူကြမ်းအဆိုကို တင်သွင်းမှာပါ ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အစည်းအဝေးပွဲသို့ ကြွရောက်တော်မူလာကြသော ဥက္ကဋ္ဌ ဆရာတော် အမှူး ရှိသော ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့

---

၁။ နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များ စာရင်း နောက်ဆက်တွဲကြည့်။

ဘုရား။ သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား သန်လျင် အခြေခံဒေသမှ ဘုရားတပည့်တော် ဝဏ္ဏသိရီ နှင့် ပြည် အခြေခံဒေသက အရှင်တေဇောဘာသ တို့က ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း၏ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို လေးမြတ်စွာ တင်သွင်းလျှောက်ထားပါမည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ဘုရား။ ကောဇာသက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန်လဆန်း ၁၁ - ရက်၊ စနေနေ့တွင် ကျင်းပသော သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား သန်လျင် အခြေခံဒေသမှ ဘုရားတပည့်တော် ဝဏ္ဏသိရီက သံဃာ့အဖွဲ့အစည်း၏ အခြေခံ စည်းမျဉ်းမူကြမ်းကို တင်သွင်းခဲ့ပါသည် ဘုရား။

ပြည်နယ်/တိုင်း ဂိုဏ်းတို့မှ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ဆရာတော် ၂၂ - ပါး တို့က ၂ - ရက် တိုင်တိုင် ဆွေးနွေးထောက်ခံတော်မူကြပြီး ၁၃၄၂ - ခုနှစ်၊ နယုန်လဆန်း ၁၂ - ရက်၊ တနင်္ဂနွေနေ့တွင် ဆက်လက် ကျင်းပသော ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ တက်ရောက် တော်မူလာကြသော ၁၂၁၈ - ပါး သော သံဃာတော် အရှင်သူမြတ်တို့က တညီတညွတ်တည်း သာဓု သုံးကြိမ် ခေါ်လျက် အတည်ပြု ပြဋ္ဌာန်းခဲ့သည်ကို ဆရာတော်များ အသိပင် ဖြစ်ပါသည်ဘုရား။

ယင်း အတည်ပြု ပြဋ္ဌာန်းခဲ့ပြီးဖြစ်သော အခြေခံစည်းမျဉ်း အခန်း(၁၃)၊ အပိုဒ်(၈၆)အရ လိုအပ်သော လုပ်ထုံးလုပ်နည်းများကို ရေးဆွဲ ပြဋ္ဌာန်း နိုင်ခွင့်ကို နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က ရရှိပြီးဖြစ်၍ ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့၏ကိုယ်စား ၆၆ ပါးသော သံဃာ့ဝန်ဆောင်အဖွဲ့က ရေးဆွဲ ပြီး ပထမအကြိမ် ကျင်းပသော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ အစည်းအဝေးသို့ ဆွေးနွေး စဉ်းစား ဆုံးဖြတ် အတည်ပြုနိုင်ရန် တင်သွင်း ရခြင်းဖြစ်ပါသည် ဘုရား။ လုပ်ထုံးလုပ်နည်းများ ရေးဆွဲရခြင်းအကြောင်း ကို လျှောက်ထားပါမည် ဘုရား။

အတည်ပြုပြဋ္ဌာန်းခဲ့ပြီး အခြေခံစည်းမျဉ်းသည် အကျဉ်းမျှဖြစ်၍ အခြေခံ စည်းမျဉ်းနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ဆောင် ရွက်သူတိုင်း အပြည့်အဝ နားလည်ဖို့ မလွယ်ပါ ဘုရား။ တနည်းအားဖြင့် ဤအခြေခံစည်းမျဉ်းသည် သဒ္ဒါနည်းအရ သုတ္တ—သုတ်ဖြစ်၍ ကျဉ်းလှန်းပြီး ယင်းအကျဉ်း၏ အကျယ်ဖွင့်ဆိုဖို့ရာ ဝုတ္တိကို ရေးသားရသလို သုတ္တပမာ အခြေခံစည်းမျဉ်းကို ဖွင့်ဆိုဖို့ရာ အကျယ်ဖြစ်သော သံဃာ့အဖွဲ့အစည်း၏

လုပ်ထုံးလုပ်နည်းများ ဟူသော ဝိတ္တိကို ရေးသားတင်သွင်းရခြင်းဖြစ်ပါသည် ဘုရား။

သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို လက်တွေ့ လုပ်ကိုင်ဆောင်ရွက်ရာ၌ အပြည့်အဝနားလည်ပြီး အကောင်အထည် ဖော်နိုင်မှသာလျှင် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ မျှော်လင့်ထားသည့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဟူသော ကြီးမားသည့် ရည်ရွယ်ချက်ကြီး အောင်မြင်နိုင်မည် ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ဤသံဃာ့အဖွဲ့အစည်း၏ လုပ်ထုံးလုပ်နည်းများ မူကြမ်း၌ နိဒါန်း နှင့် တကွ အခန်းပေါင်း ၃၂ ခန်း ပါဝင်၍ နောက်ဆက်တွဲ (က) နှင့် နောက်ဆက်တွဲ ဇယား များ လည်း ပါဝင်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ အခန်း(၁) ၌ အမည်နှင့် အဓိပ္ပာယ် ဖော်ပြချက် ပါဝင်၍ အခန်း (၂) ၌ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် ရွေးချယ်ခြင်းကို ဖော်ပြထားပါသည် ဘုရား။ အခန်း(၃)၌ ဗဟိုအဖွဲ့များ အရေအတွက် သတ်မှတ်ခြင်း၊ အခန်း(၄) ၌ နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့ ရွေးချယ်ဖွဲ့စည်းခြင်း၊ အခန်း(၅)၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ ရွေးချယ်ဖွဲ့စည်းခြင်း၊ အခန်း(၆)၌ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ ရွေးချယ်ဖွဲ့စည်းခြင်း၊ အခန်း(၇)၊ (၈) နှင့် (၉)တို့၌ မအောက်ပိုင်းနာယကအဖွဲ့ သုံးမျိုး ရွေးချယ်ဖွဲ့စည်းခြင်း၊ အခန်း (၁၀)၌ အရည်အချင်း ပျက်ယွင်းခြင်း၊ အခန်း(၁၁)၌ နုတ်ထွက်ခွင့် အနားပေးခြင်း၊ အရေးယူခြင်း၊ အခန်း (၁၂)၊ (၁၃)၊ (၁၄)၊ (၁၅)၊ (၁၆) နှင့် (၁၇) တို့၌ နာယက ၄ ဖွဲ့နှင့် ဗဟိုသံဃာ့ဝန်ဆောင် ဩဝါဒါစရိယအဖွဲ့တို့၏ လုပ်ငန်းတာဝန်များ၊ အခန်း (၁၈)၊ (၁၉)၊ (၂၀)၊ (၂၁)၊ (၂၂) နှင့် (၂၃) တို့၌ သံဃာ့နာယက ၄ ဖွဲ့၊ ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့တို့ နှင့် ဩဝါဒါစရိယအဖွဲ့တို့၏ လုပ်ငန်းတာဝန်များတို့ကို ဖော်ပြထားပါသည် ဘုရား။ အခန်း (၂၉)၊ (၃၀)၊ (၃၁) နှင့် (၃၂) တို့၌ သံဃာ့နာယက အဖွဲ့များ အစည်းအဝေး စည်းဝေးနည်းများကို ဖော်ညွှန်းထားပါသည် ဘုရား။ အခန်း(၃၃)၌ သာသနာ့အလံတော်နှင့် ပတ်သက်၍ အလံ၏ အရွယ်အစား၊ ခိုင်မာသော အရောင်သတ်မှတ်ချက်၊ သုံးစွဲနည်းနှင့် တကွ သာသနာ့အလံတော်ကို ဆုတ်ဖြဲ၊ ဖျက်ဆီးခြင်း မပြုလုပ်ရ ဟု ဖော်ပြထားပါသည် ဘုရား။ အခန်း(၃၄)၌ တံဆိပ်တုံးများအကြောင်း နှင့် အခန်း(၃၅)၌ အခြေခံစည်းမျဉ်း ပြင်ဆင်ခြင်း၊ အခန်း(၃၆)၌ လုပ်ထုံး

လုပ်နည်း ရေးဆွဲခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်၊ နုတ်ပယ်ခြင်းတို့ကို ဖော်ပြထားပါသည် ဘုရား။ အခန်း(၃၇)၌ အထွေထွေ နောက်ဆက်တွဲတွေကို ဖော်ပြထားပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ သုတ်၊ သုတ္တပမာ အကျဉ်းဖြစ်သည့် အခြေခံစည်းမျဉ်းကို လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်တော်မူကြမည့်ပိဋကကြီးများဖြစ်ကြသော တပြည်လုံးရှိသံဃာ-သံဃာတော်များက သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဟူသော ဗိမာန်ကြီးကို တည်ဆောက်သွားရမည် ဖြစ်ပါသည် ဘုရား။ အဆောက်အအုံ ပိဋကကြီးများကို ခေတ်မီ လှပသော အဆောက်အအုံကို တည်ဆောက်ရာ၌ ကိရိယာ တန်ဆာပလာများ ကောင်းမွန်မှု၊ လုပ်ငန်းကျွမ်းကျင်မှု၊ လက်တွေ့ရှိမှုတို့ လိုအပ်သလို သမိုင်းတခေတ်၌ မော်ကွန်းတင်ရမည့် သာသနာတော်သန့်ရှင်း တည်တံ့ ပြန့်ပွား ရေး ဟူသော ဗိမာန်တော်ကြီး ကို တည်ဆောက် ရာ၌ ကောင်းမွန်သည့် ကိရိယာ တန်ဆာပလာဖြစ်သော သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ ရှိမှသာ—ဆရာတော် သံဃာတော် အရှင်မြတ်တို့ လုပ်ငန်းကျွမ်းကျင်မှု လက်တွေ့ရှိမှု ဟူသော အရည်အသွေး ကောင်းများ ရှိမှသာ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သမ္မတကြီး နှင့် တကွ တပြည်လုံးက မျှော်လင့်ယုံကြည်နေကြသော သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဟူသော ဗိမာန်တော်ကြီးကို ပီပီပြင်ပြင် တည်ဆောက်သွားနိုင်မည် ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဟူသော ဗိမာန်တော်ကြီးကို ဘုရား တပည့်တော်တို့ အပါအဝင် ဆရာတော် သံဃာတော် အရှင်သူမြတ်အားလုံးတို့က လုပ်ငန်းကျွမ်းကျင်မှု၊ အရည်အသွေးပြည့်ဝမှုတို့ နှင့် စူးဆောက်ပမာ သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်တော်မူနိုင်ကြရန်အတွက် ဤသံဃာ့အဖွဲ့အစည်း လုပ်ထုံး လုပ်နည်းများ မူကြမ်းကို သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား ဟံသာဝတီ၊ သန်လျင်ဒေသမှ တပည့်တော် ဝဏ္ဏသိရီ နှင့် ပြည် အခြေခံဒေသမှ အရှင်ဓောဇောဘာသာဘိဝံသတို့က နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့သို့ တပိုဒ်ချင်း တပိုဒ်ချင်း ဖတ်ကြား လျှောက်ထား တင်သွင်းပါမည် ဘုရား။

မာတိကာများကို ပဖတ်တော့ပဲနဲ့ နိဒါန်းကို စတင်ပြီး ဖတ်ကြား လျှောက်ထားပါမည် ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ

နိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ (မူကြမ်း) ကို တပိုဒ်ချင်း ဖတ်ကြား လျှောက်ထား တင်သွင်းသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီး၏ ခွင့်ပြုချက်အရ မိနစ် ၂၀ ခန့် ဘုရားတပည့်တော်တို့၏ အစည်းအဝေးကို ခေတ္တရပ်နားမည်ဖြစ်ပါသည် ဘုရား။ ခေတ္တရပ်နားတဲ့အချိန်မှာ ဆရာတော်ဘုရားများ၏ နေရာမှာပင် အဖျော်ယမကာများကို ဆက်ကပ်မည်ဖြစ်၍ သုံးဆောင်တော်မူကြပါရန်ကို လျှောက်ထားပါသည် ဘုရား။

အစည်းအဝေးကို မိနစ် ၂၀ ခန့် ခေတ္တရပ်နား၍ ဆက်လက် ကျင်းပ ပါသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။အစည်းအဝေး ပြန်လည်ကျင်းပ တော့ပါမည် ဖြစ်ပါ၍ ဆရာတော်များ မူလသီတင်းသုံးရာနေရာဌာနမှာ ပြန်လည်ဝင်ရောက်၍ သီတင်းသုံးတော်မူကြပါရန် ရိုသေစွာ ပင့်လျှောက် ပါသည် ဘုရား။

သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ဆက်လက်ဖတ်ကြား လျှောက်ထားသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်း၍ တွဲဖက် အကျိုးတော် ဆောင်ဖြစ်သော တပည့်တော်နှင့် ပြည် အခြေခံဒေသမှ ဆရာတော် ဦးတေဇောဘာသာဘိဝံသတို့က ဖတ်ကြားလျှောက်တားသည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်း မူကြမ်း နှင့် ပတ်သက်၍ ထူးခြားသော ဝေဖန်ဆွေးနွေးလိုသည့်အချက်များ ရှိပါက စာဖြင့်ရေးသား၍ ဇမ္ဗူဒီပကျောင်းဆောင်ဌာနမှာ တည်ရှိသော နိုင်ငံတော် သံဃာ့နာယကအဖွဲ့သို့ တင်ပြတော်မူကြပါ ဘုရား။

နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့သို့ တင်ပြပြီး အခြေခံစည်းမျဉ်း (၈၇) အရ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့သည် အချိန်ကာလ အားလျော်စွာ လုပ်ထုံးလုပ်နည်းများကို ပြင်ဆင် ခြင်း၊ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်းများ ပြုလုပ်နိုင်သည်အရ ပြုလုပ် ဆောင် ရွက်ပေးမည်ဖြစ်ကြောင်းကို လျှောက်ထားပါသည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ဥက္ကဋ္ဌ ဆရာတော်ကြီးမှတဆင့် အတည်ပြုပေးတော်မူပါရန် ရှိသေစွာလျှောက်ထား ပါသည် ဘုရား။

**ဥက္ကဋ္ဌ ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်းထားသည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်း များ မူကြမ်းကို အတည်ပြုရန် ဤအစည်းအဝေးက သဘောတူပါသလား ဘုရား။ သဘောတူပါလျှင် ဆိတ်ဆိတ်နေတော်မူရန်ဖြစ်ပါတယ် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ သဘောတူပါက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်တော်မူရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူ ကြသည်။

**ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာဝန်ဝင်မှတ်တမ်းကို တင်သွင်းအတည်ပြုခြင်း**

**အခမ်းအနားမှူး ဆရာတော်က၊** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အပိုဒ် ၇၆ အရ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်းသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓ ဘာသာ၊ သီလရှင်များ၏ သာသနာဝန်ဝင်မှတ်တမ်းကို မန္တလေး အခြေခံ ဒေသ မန္တလေးမြို့ မိုးကောင်းကိုက် ဝါးတန်း စာချကျောင်းဆရာတော် ဦးဉာဏာဘိဝံသက ဖတ်ကြားလျှောက်ထား၍ တင်သွင်းပါလိမ့်မည် ဘုရား။

ဆရာတော် ဦးဉာဏာဘိဝံသ ဖတ်ကြားလျှောက်ထားတင်သွင်းရန် ကြွတော်မူပါ ဘုရား။

**ဦးဉာဏာဘိဝံသ ဆရာတော်က။** ။သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက်၊ တနင်္လာနေ့၊ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်နိုင်ငံတော်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် အစည်း အဝေးသို့ တင်သွင်းသော ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာဝန်ဝင် မှတ်တမ်း မူကြမ်းကို အတည်ပြုရန် အဆိုတင်သွင်း လျှောက်ထားပါမည်

ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြသော ဥက္ကဋ္ဌ ဆရာတော် အမှူးရှိသည့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်း မူကြမ်းကို အတည်ပြုရန် ဘုရားတပည့်တော် မန္တလေးမြို့၊ မိုးကောင်းတိုက် ညောင်ရမ်း ပါဠိတက္ကသိုလ် ဝါးတန်းစာချကျောင်းမှ တပည့်တော် ဉာဏာဘိဝံသက ရှိသေလေးမြတ်စွာ တင်သွင်းလျှောက်ထားပါသည်ဘုရား။

ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်း နိဒါန်းကို အတည်ပြုရန် ဘုရားတပည့်တော် မန္တလေးမြို့ မိုးကောင်းတိုက် ညောင်ရမ်း ပါဠိတက္ကသိုလ် ဝါးတန်းစာချကျောင်းမှ တပည့်တော် ဉာဏာဘိဝံသက ရှိသေလေးမြတ်စွာ တင်သွင်း လျှောက်ထားပါသည်ဘုရား။ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားရှင်သည် မိထွေးတော် မဟာပဇာပတိ ဂေါတမီကို အဦးအမှူးထား၍ အမျိုးသမီးများအား ဗုဒ္ဓသာသနာတော် အတွင်းသို့ သာသနာ့ဝန်ထမ်း အဖြစ်ဝင်ရောက်ခွင့် ပြုခဲ့ပါသည်ဘုရား။ ထိုသို့ ဗုဒ္ဓသာသနာ ဝန်ထမ်း ဖြစ်ကြသော အမျိုးကောင်းသမီးများကို ပါဠိဘာသာအားဖြင့် ဘိက္ခုနီ ဟု ခေါ်ဆိုခဲ့ကြ၍ မြန်မာဘာသာအားဖြင့် ရဟန်းမိန်းမ ဟု ခေါ်ဆိုခဲ့ကြပါသည်ဘုရား။ သာသနာတော် အနှစ်တထောင်ကျော်ခန့်တွင် ဘိက္ခုနီ သာသနာ ကွယ်ပခဲ့ပါသည်ဘုရား။ ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ထိုသို့ ဘိက္ခုနီ သာသနာ ကွယ်ပသွားသောအခါ အမျိုးကောင်းသမီးများမှာ သာသနာ့ဘောင်၌ မြင့်မြတ်သော ဗြဟ္မစရိယအကျင့်ကို ကျင့်သုံးလိုသော်လည်း သာသနာ့ဝန်ထမ်း ဘိက္ခုနီ ဖြစ်ဖို့ရာ အခွင့်အလမ်း လုံးဝမရှိတော့ပါဘုရား။ သို့သော်လည်း အမျိုးကောင်း သမီးများသည် မဖြစ်မနေ ကျင့်သုံးလိုကြသောကြောင့် သီလသမာဓိနှင့် ပြည့်စုံသော ဆရာတော် သံဃာတော် အရှင်မြတ်တို့ထံ၌ ငါးပါးသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါးသီလတို့ကို ထိန်းသိမ်းကြ၍ ဆံကေသာ ပယ်ဖြတ်ပြီးလျှင် ဖန်ရည်စွန်းသော အဝတ်ကို ဝတ်ဆင်ကြလျက် ဗြဟ္မစရိယ အကျင့်မြတ်ကို ကျင့်သုံးဆောက်တည်ခဲ့ကြပါသည်ဘုရား။ ထိုသို့ ဗြဟ္မစရိယ အကျင့်ကို ကျင့်သုံးစောင့်ထိန်းနေထိုင်ကြသော အမျိုးကောင်းသမီးများကို မြန်မာနိုင်ငံတွင် သီတင်းသည် ဟု ခေါ်တွင်ခဲ့ကြ၍ ယခုခေတ်၌ သီလရှင် ဟု ခေါ်တွင်လျက် ရှိကြပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ အဆိုပါ သီလရှင်များမှာ လောကီအကျိုးစီးပွားများကို စွန့်ပယ်လျက် ပရိယတ္တိစာပေများကို သင်အံ့ပို့ချခြင်း၊ ပဋိပတ် အကျင့်မြတ်ကို ကျင့်ကြံ အားထုတ်ခြင်း စသော လောကုတ္တရာ အကျိုးစီးပွားများကိုသာ အထူးဇောက်ချ၍ ကျင့်သုံးလျက် ရှိကြပါသည်ဘုရား။ သို့ပါ၍ သီလရှင်များသည် လူဝတ်ကြောင် အမျိုးသမီးများနှင့် အသွင်အပြင် အမူအရာမှ စ၍ အစခပ်သိမ်း ထူးခြားလျက် ရှိပါသောကြောင့် သီလရှင်များမှာ လူသာမန်တို့ ကဲ့သို့ အမျိုးသားမှတ်ပုံတင် လက်မှတ်များ ကိုင်ဆောင်ရန် မသင့်လျော်ပါဘုရား။ ထိုသို့ မသင့်လျော်သည့် အလျောက် ဗုဒ္ဓဘာသာဝင် သီလရှင်များ အနေဖြင့် သီးခြား မှတ်ပုံတင်တမျိုး စီစဉ်ပေးရန် လိုအပ်လျက် ရှိပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယင်း လိုအပ်ချက်ကို ဖြည့်စွက်ရန် အတွက် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ စည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့က ဗုဒ္ဓဘာသာ သီလရှင်များ အတွက် သာသနာနွယ်ဝင် မှတ်တမ်းကို စီစဉ်ရေးဆွဲခဲ့ကြပါသည်ဘုရား။ ဤ သာသနာဝင်မှတ်တမ်းတွင် သီလရှင်၏ ဘွဲ့အမည်၊ သီတင်းသုံးရာဌာန၊ မွေးဖွားရာဒေသ၊ မွေးဖွားသက္ကရာဇ်၊ သီလရှင် ဖြစ်သည့်အချိန်၊ နေရာဌာန၊ မယ်တော်၊ ခမည်းတော်၏အမည်၊ သီလရှင် ဒါယကာ၊ ဒါယိကာမ အမည်များ စသည်ဖြင့် အချက်အလက်များ ပြည့်စုံလင်စွာ ပါရှိပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဤ သာသနာနွယ်ဝင် မှတ်တမ်းကို ဩဝါဒ ခံယူအမှီပြု နေထိုင်သည့် ကျောင်းထိုင်ဆရာတော်၊ သို့မဟုတ် သီလရှင် ဆရာကြီး၏ ထောက်ခံချက်ဖြင့် သက်ဆိုင်ရာ မြို့နယ် သံဃာ့နာယကအဖွဲ့က ကြီးကြပ်ထုတ်ပေးရန် စီစဉ်ထားပါသည် ဘုရား။ သာသနာနွယ်ဝင် မှတ်တမ်းကို ၁၂-နှစ်အောက် သီလရှင်များကို ထုတ်ပေးရန် မလိုပဲ၊ ၁၂-နှစ် နှင့် ၁၂-နှစ် အထက် သီလရှင်များကိုသာ ထုတ်ပေးရန် ဖြစ်ပါသည်ဘုရား။ ဆံပင်ပယ်ပြီးသော ရသေ့မများကို လည်း သာသနာနွယ်ဝင် မှတ်တမ်း ထုတ်ပေးရန် ဖြစ်၍ ဆံပင်မပယ်သော ရသေ့မများကို သာသနာနွယ်ဝင် မှတ်တမ်းထုတ်ပေးမည် မဟုတ်ပါဘုရား။ နေထိုင်ရာ ကျောင်းတိုက် ပြောင်းရွှေ့တိုင်း ပြောင်းရွှေ့တိုင်း၊ ကျောင်းထိုင်ဆရာတော် သို့မဟုတ် သီလရှင်ဆရာကြီးက ပရိယတ်၊ ပဋိပတ် ဆောင်ရွက်ချက်များကို မှတ်တမ်း အဖြစ် ရေးသွင်းပေးရန် စီစဉ်ထားရှိပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ဘုရားတပည့်တော် အကျဉ်းချုပ်အားဖြင့် လျှောက်ထားလိုသည်မှာ သာသနာ့နွယ်ဝင် မှတ်တမ်းကို သီလရှင်တိုင်း၊ သီလရှင်တိုင်း ကိုင်ဆောင်ကြပါက ကြည်ညိုဖွယ်ရာ မကောင်းသော သီလရှင်များ ပပျောက်၍ ယဉ်ကျေးသိမ်မွေ့၍ အကျင့်သိက္ခာနှင့် ပြည့်စုံသော သီလရှင်များကို တွေ့မြင်ရမည် ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းကို နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က အတည်ပြု ပြဋ္ဌာန်းပေးပါရန် ဘုရားတပည့်တော် ရိုသေစွာ တင်သွင်းလျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား။ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့က တင်သွင်း၍ မန္တလေးမြို့ မိုးကောင်းတိုက်၊ ညောင်ရမ်းပါဠိတက္ကသိုလ် ဝါးတန်းစာချကျောင်း ဆရာတော် ဦးဉာဏာဘိဝံသက ဖတ်ကြားလျှောက်ထား၍ ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းကို တင်သွင်းသွားပြီး ဖြစ်ပါသည်ဘုရား။ ဆရာတော် အရှင်မြတ်တို့ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းကို ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးမှ တဆင့် အတည်ပြုပေးတော်မူပါရန် ရိုသေစွာ လျှောက်ထားဝံ့ပါသည်ဘုရား။

**သဘာပတိ ဆရာတော်က ။** ။ဆရာတော် အရှင်သူမြတ်တို့ဘုရား။ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်းထားသည့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာ သီလရှင်များ၏ သာသနာ့နွယ်ဝင် မှတ်တမ်းကို အတည်ပြုရန် အစည်းအဝေးကြီးက သဘောတူကြပါသလား ဘုရား။ သဘောတူကြပါလျှင် ဆိတ်ဆိတ်နေကြရန် ဖြစ်ပါသည် ဘုရား။ ဆရာတော် အရှင်သူမြတ်တို့ဘုရား။ သဘောတူပါက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်တော်မူကြရန် ဖြစ်ပါသည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

## နိဂုံး ဩဝါဒကထာ မြွက်ကြားခြင်း

**အခမ်းအနားမှူး ဆရာတော်။** ။ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးက နိဂုံး

ချုပ် မိန့်ခွန်း မြွက်ကြားပေးတော်မူပါရန် ရှိသေစွာ လျှောက်ထားပါသည်ဘုရား။

**သဘာပတိ ဆရာတော်က။** ။ဒီနေ့ နံနက်ခင်းက နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့နှင့် စပ်လျဉ်းပြီးတော့ နံနက်ပိုင်းက အစီအစဉ် ပထမပိုင်း အနေဖြင့် အဲဒီ ခုဆောင်ရွက်လာခဲ့တဲ့ ပထမသန္နိပါတ၊ ဒုတိယသန္နိပါတ၊ တတိယသန္နိပါတ အထိ ဆောင်ရွက်ခဲ့တဲ့ အစီအစဉ်များကိုလည်းပဲ မူလ စီစဉ်ထားတဲ့အတိုင်း ဒီနိုင်ငံတော်ပိုင်းနဲ့ ဒေသပိုင်းတို့ ခွဲပြီးနေရာမှာ နိုင်ငံတော် ပိုင်းဆိုင်ရာကို မနက်က စီစဉ်ဆောင်ရွက်ခဲ့လို့ နံနက်ပိုင်း အချိန်က တော့ဖြင့် တပိုင်းပြီးခဲ့ပါပြီ၊ ပြီးခဲ့ပြီးတော့ စီစဉ်ဆောင်ရွက်ခဲ့တဲ့အတိုင်း အခု နေ့လယ် ၁၂-နာရီအချိန်မှာ ဆိုလို့ရှိယင် နိုင်ငံတော် သံဃာ့မဟာ နာယကအဖွဲ့ ပထမအကြိမ် အစည်းအဝေးကို ဇမ္ဗူဒီပ ကျောင်းဆောင် အပေါ်ထပ် ခန်းမမှာပဲ ဒါ ပထမအကြိမ် အစည်းအဝေး အဖြစ်ဖြင့် ဆောင်ရွက်ခဲ့ပါတယ်၊ အဲဒီ ဆောင်ရွက်ခဲ့ပြီးတဲ့အခါ ခု နေ့လယ်ပိုင်းမှာ ဒုတိယပိုင်း အနေဖြင့် ဆောင်ရွက်ရန် ဆိုတဲ့ တာဝန်ရှိတဲ့အပိုင်း ဒါ ပထမ ဩဝါဒါစရိယဆိုတဲ့ ဆရာတော်များ၊ နိုင်ငံတော် ဩဝါဒါစရိယ ဆရာ တော်များ စာရင်းကိုလည်း ဖတ်ကြားပြီးတော့ အတည်ပြုခဲ့ပါတယ်။

ဒုတိယအနေအားဖြင့် ဆိုလို့ရှိယင် ဒီသံဃာ့ ဖွဲ့စည်းပုံ လုပ်ထုံးလုပ်နည်း ကို ဒုတိယအကြိမ်ကို ဖတ်ကြားပြီးတော့ အတည်ပြုခဲ့ပါတယ်။ အခု တတိ ယအချိန်မှာ ဆိုလို့ရှိယင်ဖြင့် သီလရှင်များရဲ့ သာသနာဝင် မှတ်တမ်းကို လည်း အတည်ပြုပြီး ပြခဲ့ပါတယ်။ ဒါကြောင့် ဒါ ဒီနေ့နဲ့ ပတ်သက်တဲ့ အစီအစဉ် ပြီးတော့ မနက်ဖြန်ခါ နံနက်ပိုင်းကို ဆက်လက်ပြီးတော့ ဆောင် ရွက်သင့် ဆောင်ရွက်ထိုက်တဲ့ ဂိုဏ်းပေါင်းစုံ သံဃာ့ဝန်ဆောင် အစည်း အဝေးကိုလည်းပဲ ဆက်လက်ပြီးတော့ ဆောင်ရွက်ဖို့ပါပဲ ဆိုတဲ့ အနေနဲ့ အဲဒီသောက်ပဲ ပြောကြားပြီးတော့ ဒါနဲ့ဂိုဏ်းချုပ်ဖို့ပါပဲ။

အဘိ အနားမှူးဆရာတော်က။ ။ဆရာတော် အရှင်သူမြတ်တို့ဘုရား။ ဥက္ကဋ္ဌ ဆရာတော်ကြီးရဲ့ မိန့်ခွန်းချက်အရ မနက်ဖြန်ခါမှာ နံနက်ပိုင်း ၈- နာရီအချိန်၌ နောက်ဆုံးနေ့နှင့် စတုတ္ထနေ့ အဖြစ် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီး ကျင်းပမည် ဖြစ် ကြောင်း ဆရာတော်တို့အား ရှိသေစွာ လျှောက်ထားပါသည်ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ဘုရား။ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ ပထမအကြိမ် အစည်းအဝေး ပြီးဆုံးကြောင်း လျှောက်ထားပါသည်ဘုရား။

ဉက္ကဋ္ဌ ဆရာတော်ကြီးများ ကြွသွားတော်မူပြီးမှ ကျန် ဆရာတော်များက ကြွသွားတော်မူကြပါရန် ရှိသေစွာ လျှောက်ထားဝံ့ပါသည် ဘုရား။

အစည်းအဝေးကို ညနေ ၃-နာရီ ၃၇-မိနစ် အချိန်တွင် ရုပ်သိမ်းသည်။

## ဒွါဒသမပိုင်း အပြီးသတ်ခြင်း

ဤတွင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး တတိယနေ့ မှတ်တမ်း–နိုင်ငံတော် ဗဟိုသံဃာဝန်ဆောင် ဆရာတော်များ အစည်းအဝေး မှတ်တမ်း–နိုင်ငံတော် သံဃာ့မဟာနာယက ဆရာတော်များ၏ အစည်းအဝေး မှတ်တမ်းများကို ဖော်ပြရာ ဖြစ်သော ဒွါဒသမပိုင်း လက်စသတ်လိုက်ပြီ။

သုဘာသိနံ ဟိတတ္ထာယ၊ သာဒုနံ ပသာဒါယ စ။
ရစိတော ဣမ ဂန္ထမှိ၊ ဒွါဒသမော သုနိဋ္ဌိတော။

# တေရသမပိုင်း

## သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဝတုတ္ထနေ့ အစည်းအဝေးမှတ်တမ်း

သာသနာတော်နှစ် ၂၅၂၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်
နယုန် လဆန်း ၁၄-ရက်
( ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၇-ရက် )
( အင်္ဂါနေ့ )

ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး (ပထမ အကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးကို နံနက် ၈-နာရီ အချိန်တွင် စတင် ကျင်းပလေသည်၊ အစည်းအဝေးပွဲကြီးတွင် သံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မ ဆရာတော်က သဘာပတိ အဖြစ် ဆောင်ရွက်၍ သံဃာ့ဝန်ဆောင်အဖွဲ့၏ အကျိုးတော်ဆောင် မန္တလေး အခြေခံဒေသ တောင်သမန်တိုက်မှ ဦးရေဝတက အခမ်းအနားမှူး အဖြစ် ဆောင်ရွက်ပါသည်။

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊ အစည်းအဝေးကြီး စတင် ကျင်းပရန် အချိန် နီးကပ်နေပြီ ဖြစ်ပါ၍ လိုဏ်ဂူတော်ကြီး အတွင်းသို့ ကြွရောက်ကာ သတ်မှတ် ထားသော နေရာ အသီးသီးတွင် ကြွရောက်၍ နေရာယူကြပါရန် ပင့်လျှောက် အပ်ပါသည် အရှင်သူမြတ်တို့ ဘုရား။

သုံးကြိမ်တိုင်တိုင် ပင့်လျှောက်တော်မူသည်။

**အခမ်းအနားမှူးဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမ အကြိမ်) သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး (စတုတ္ထနေ့) ဂိုဏ်းပေါင်းစုံ အစည်းအဝေးပွဲကြီးတွင် သံဃာ့ဝန်ဆောင်အဖွဲ့၏ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ပဲခူးမြို့မ ဆရာတော်ဘုရားကြီးက အစည်းအဝေးကြီး၏ ဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်ပြီး ဘုရားတပည့်တော် သံဃာ့ဝန်ဆောင် အဖွဲ့၏ အကျိုးတော်ဆောင် မန္တလေးမြို့ အခြေခံဒေသ တောင်သမန်တိုက် ရေဝတက အခမ်းအနားမှူးအဖြစ်ဖြင့် ဆောင်ရွက်ပည့် အကြောင်းကို လျှောက်ထားပါသည်ဘုရား။

### အစည်းအဝေးကြီး စတင်ဖွင့်လှစ်ကြောင်း ကြေငြာခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ ဘုရားတပည့်တော်တို့၏ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် (ပထမအကြိမ်) သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး (စတုတ္ထနေ့) ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးကို ဥက္ကဋ္ဌ ပဲခူးမြို့မ ဆရာတော်ဘုရားကြီး၏ ခွင့်ပြုချက်အရ စတင်ဖွင့်လှစ်ကြောင်း ကြေငြာလျှောက်ထားပါသည် ဘုရား။

### စတုတ္ထနေ့ အစည်းအဝေး အထမြောက်ကြောင်း ကြေငြာခြင်း

အခမ်းအနားမှူး ဆရာတော်က။ ။ဘုရားတပည့်တော်တို့ အစည်းအဝေးကြီးသို့ ကြွရောက်လာသော သံဃာအရေအတွက်မှာ (၁၂၁၈) ပါးဖြစ်ပါသည်။ သို့ဖြစ်ပါ၍ အစည်းအဝေးကြီးသို့တက်ရောက်သော သံဃာတော်ရာနှုန်းမှာ (၉၈.၆) နှုန်းဖြစ်သောကြောင့် သတ်မှတ်ထားသော (၇၅) ရာနှုန်းကို ကျော်သည့်အတွက် အစည်းအဝေးကြီး ထမြောက်အောင်မြင်ကြောင်း လျှောက်ထားပါသည် ဘုရား။

ယနေ့ အစည်းအဝေးကြီး၏ အစီအစဉ်မှာ ဝေငှထားသည့်သတင်းစဉ်တွင် ပါရှိသည့်အတိုင်းပင် ဖြစ်ပါသည်ဘုရား၊ တပည့်တော် ဖတ်ကြားလျှောက်ထားခြင်း မပြုတော့ပါ ဘုရား။

### ဝိနည်းမဏ္ဍကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း) ကို ဂိုဏ်းအလိုက်၊ ပြည်နယ် / တိုင်းအလိုက် တောက်ခံဆွေးနွေးခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။အစီအစဉ်အရ ယခုအချိန်တွင် ဝိနည်းမဏ္ဍကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ (မူကြမ်း) ကို ဂိုဏ်းအလိုက်၊ ပြည်နယ်/တိုင်းအလိုက် ထောက်ခံဆွေးနွေးသွားကြရန် ဖြစ်ပါတယ်၊ ထောက်ခံဆွေးနွေးမည့် ဆရာတော် တပါးလျှင် အချိန် (၁၅) မိနစ် ထက်မကျော်း ကန့်သတ်ထားပါ၍ ထောက်ခံဆွေးနွေးမည့် ဆရာတော်များသည် အချိန်ကို လေးစားလိုက်နာခြင်းဖြင့် သတ်မှတ်ထားသည့် အချိန်အတိုင်း ထောက်ခံဆွေးနွေးတော်မူကြပါရန် မေတ္တာရပ်ခံ လျှောက်ထားပါသည် ဘုရား။

ရွှေးဦးစွာ ဓမ္မဝိနယာနုလောမ မူလဒွါရနိကာယဂိုဏ်းမှကိုယ်စားဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးသူရိယ (မူလဒွါရဂိုဏ်း)**။ ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဘုရားတပည့်တော် မမ္မဝိနယာနုံလောမ မူလဒွါရနိကာယသမ္မုတိရ သံဃာ့ကိုယ်စားလှယ် သန်လျင်မြို့နယ် ဘားကူးအရှေ့ကျေးရွာ ပုဗ္ဗာရုံကျောင်းမှ သူရိယဖြစ်ပါတယ် ဘုရား။ ဤအစည်းအဝေးကြီးရဲ့ ပထမနေ့က တင်သွင်းသွားတဲ့ ဝိနည်းဓမ္မကံအဓိကရုဏ်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် ပတ်သက်ပြီး ဘုရားတပည့်တော် ထောက်ခံဆွေးနွေးသွားမှာ ဖြစ်ပါတယ်ဘုရား။ တပည့်တော်များအတွက် 'ဝိနည်းသည် အသက်ပမာ' အရေးကြီးလှပါ၍ တပည့်တော်တို့ အကြိမ်ကြိမ် အခါခါ လေ့လာသုံးသပ်ပြီးနောက် ရရှိတဲ့ အချိန်အတောအတွင်းမှာ လုပ်ထုံးလုပ်နည်း တအုပ်လုံးမှ အားလုံးကို မဆွေးနွေးတော့ပဲ အဓိကအားဖြင့် အခြေခံမူ (၂) ချက်ကို ထောက်ခံဆွေးနွေးသွားမှာ ဖြစ်ပါတယ် ဘုရား။

အခြေခံမူများထဲမှ ရှေးဦးပထမ (၁) အချက်မှာ 'ဤဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အတွင်း သီတင်းသုံးနေထိုင်တော်မူကြသော ဗုဒ္ဓသာသနာ့ဝန်ထမ်း ရဟန်း သာမဏေအားလုံးတို့နှင့် သက်ဆိုင်စေရမည်' ဆိုတဲ့အချက် ဖြစ်ပါတယ်ဘုရား။

ဒီအချက်ဟာ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းမှာ သတ်မှတ်ရေးဆွဲထားတဲ့ အခြေခံမူများနဲ့ တပြေးညီ ဖြစ်ပါတယ်။ တပြေးညီ ဖြစ်အောင် ရေးဆွဲထားတယ်လို့ ယူဆပါတယ်။ သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အရ တခုတည်းသော သံဃာ့အဖွဲ့အစည်းကြီးထဲမှာ ပါဝင်နေကြရသည့် တပည့်တော်တို့ သံဃာတော် အားလုံးဟာ ဤဝိနည်းမွေကံအဓိကရုဏ်း မှုခင်း ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် သက်ဆိုင်စေရမည်လို့ ဆိုထားခြင်းဟာ လွန်စွာ သဘာဝကျပါတယ်ဘုရား၊ ဘုရားရှင်ရဲ့ တခုတည်းသော ဝိနည်းကို ဘုရားသားတော် အားလုံးက တပြေးညီလိုက်နာကြရသလို ဤလုပ်ထုံးလုပ်နည်းများကိုလည်း တပြေးညီ သံဃာတော် အားလုံး လိုက်နာစေသင့်ပါတယ်၊ သက်ဆိုင်စေသင့်ပါတယ်၊ ဒီအကြောင်းကြောင့် ဘုရားတပည့်တော်က အခြေခံမူ ပထမအချက်ကို ယခုလို တင်ပြဆွေးနွေးထောက်ခံရခြင်း ဖြစ်ပါသည်ဘုရား။

ဝိနည်းဓမ္မကံ အခြေခံမူ ဒုတိယအချက်မှာ ဝိနည်းဓမ္မကံအဓိကရုဏ်း

မှုခင်းများကို သံဃဝိနိစ္ဆယအဖွဲ့များဖြင့်သာ ဝိနည်းတော်နှင့်အညီ စစ်ဆေးဆုံးဖြတ်ရမည်၊ ပြည်သူ့တရားရုံးများတွင် တရားမကြောင်း စွဲဆိုခွင့် မရှိစေရ ဆိုတဲ့ အချက်ဖြစ်ပါတယ်။

နိုင်ငံတော်ရှိ ပြည်သူ့တရားရုံးများသို့ သွားပြီး၊ ရဟန်းတော်များ တရားဆိုင်ရခြင်းဟာ သံဃာတော်များရဲ့ အမြင်မှာရော၊ လူ ဒါယကာ ဒါယိကာမများရဲ့ အမြင်မှာရော၊ နိုင်ငံခြား ဘာသာခြားတွေရဲ့ အမြင်မှာရော ကြည့်ရှုလို့ မတင့်တယ် မလျောက်ပတ်ပါဘုရား။

ပြည်သူ့တရားရုံးမှာ ကျင့်သုံးတဲ့ အချို့ ဥပဒေတွေဟာ ဘုရားဝိနည်းနဲ့ အချို့ မကိုက်ညီဘာတွေ ရှိတယ်ဆိုတာ ဆရာတော်များ အားလုံးလည်း သိပြီးဖြစ်ပါတယ်။

သံဃာတော်များ သမ္မုတိ ပေးသည့် ဝိနည်းဓိုရ်များဖြင့် ဖွဲ့စည်းတဲ့ သံဃဝိနိစ္ဆယအဖွဲ့များကသာ စစ်ဆေးဆုံးဖြတ်ရမယ်လို့ ဆိုထားတဲ့ အတွက် တရားမျှတ မှန်ကန်မှုရှိပြီး ဝိနည်းနဲ့အညီ ဖြစ်တဲ့ အတွက် ထောက်ခံရခြင်း ဖြစ်ပါတယ် ဘုရား။

ယခင် အမှားတွေကို ရှောင်ပြီး လက်တွေ့ ဖြစ်နိုင်တဲ့ အချက်အလက်တွေကို ထည့်သွင်း ရေးဆွဲထားသဖြင့် နှစ်နှစ်ခြိုက်ခြိုက် ဝမ်းမြောက်ဝမ်းသာစွာဖြင့် အလေးအနက်ထားပြီး ထောက်ခံရပါကြောင်း လျှောက်ထားပါသည် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က**။ ။ဆက်လက်၍ ဓမ္မာနုဓမ္မ မဟာဒွါရ နိကာယဂိုဏ်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးအဂ္ဂဓမ္မာလင်္ကာရ (မဟာဒွါရဂိုဏ်း)**။ ။ဝိနည်းဓမ္မကံအဓိကရဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် ပတ်သက်၍ ဆွေးနွေးဖြည့်စွက် ထောက်ခံချက်ပါ ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ဓမ္မာနုဓမ္မမဟာဒွါရနိကာယ ဘိုကလေးမြို့ ဓမ္မိကာရုံကျောင်းတိုက်မှ တပည့်တော် အဂ္ဂဓမ္မာလင်္ကာရက ဩဝါဒါစရိယ နာယက ဆရာတော်ကြီးများ၊ သဘာပတိ ဆရာတော်ကြီး၊ အကျိုးတော်ဆောင် ဆရာတော်ကြီးများမှ စ၍ အသက် သိက္ခာ ဂုဏ်ဝါအားဖြင့် ကြီးမားတော်မူကြကုန်သော ဆရာတော်ဘုရား **ကြီးများ၏ ခြေတော်အစုံကို ရိုသေလေးမြတ်စွာ ရှိခိုးပါ၏ ဘုရား**။

ဘုရားတပည့်တော်သည် ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ မူကြမ်းကို အခန်း (၇) ၌ အယူခံ စောဒနာ ဝင်ခြင်းနှင့် သံဃ ဝိနိစ္ဆယ အဖွဲ့အစည်း ဆုံးဖြတ်ခြင်း အပိုင်းကို ဓမ္မာနုဓမ္မ မဟာဒ္ဓါရနိကာယ ဂိုဏ်းဝင် သံဃာတော်အားလုံးတို့၏ ကိုယ်စား ရရှိသော အချိန်အတိုင်းအတာ အရ ဖြည့်စွက်ထောက်ခံ ဆွေးနွေးလိုပါသဖြင့် ခွင့်ပြုတော်မူပါ အရှင်ဘုရား။

အခန်း (၇) တွင် အပိုဒ် ၄၅-မှ စ၍ ၅၅-အထိ ၁၁-ပိုဒ် ပါရှိပါသည် ဘုရား၊ အပိုဒ် ၄၅- ၌ မြို့နယ် သံဃဝိနိစ္ဆယ အဖွဲ့၏ ဆုံးဖြတ်ချက်ကို စောဒက ကသော်လည်းကောင်း၊ စုဒိတက ကသော်လည်းကောင်း၊ ဝိနည်းတရားတော်နှင့် မညီညွတ် ဟု ယူဆခဲ့သော် ပြည်နယ်/တိုင်း သံဃာ့နာယက အဖွဲ့သို့ (အယူခံ) စောဒနာ ဝင်လှာ တင်သွင်းနိုင်သည် ဟု ဆိုထားသဖြင့် စောဒက စုဒိတကတို့၏ အကျိုးကို မငဲ့ကွက်ပဲ ဝိနည်း ဓမ္မကံနှင့် ညီညွတ်သည် မညီညွတ်သည်ကိုသာ အလေးထား၍ (အယူခံ) စောဒနာဝင်လှာ တင်သွင်းနိုင်ခြင်းကို ခွင့်ပြု ထားခြင်း ဖြစ်ကြောင်း ထင်ရှားသည် တချက်၊ အပိုဒ် ၄၉-၌ ပြည်နယ် /တိုင်း သံဃာ့ နာယက အဖွဲ့က ပြုစုထားပြီး ဖြစ်သော ဝိနည်းဓိုရ် ဆရာတော်များ စာရင်းမှ မူလ အမှု ဆုံးဖြတ်သောမြို့နယ်ရှိ ဝိနည်းဓိုရ် မပါဝင်သော ပြည်နယ်/တိုင်း အတွင်းရှိ အခြား သင့်လျော်ရာ မြို့နယ်မှ အမှတ်စဉ် ကျရာ ၃-ပါးကိုသော်လည်းကောင်း၊ ၅-ပါးကိုသော်လည်းကောင်း အယူခံ စောဒနာဝင် သံဃဝိနိစ္ဆယ အဖွဲ့ကို ဖွဲ့စည်းပေးရမည် ဟူသော အချက်များသည်—

ဆန္ဒ ဒေါသာ ဘယာ မောဟာ၊ ယော ဓမ္မံ အတိဝတ္တတိ။
နိဟီယတိ တဿ ယသော၊ ကာဠပက္ခေဝ စန္ဒိမာ ၁။

ဟူသော ပရိဝါ ပါဠိတော်နှင့်အညီ ဆန္ဒာဂတိ ဒေါသာဂတိ ဘယာဂတိ မောဟာ ဂတိ ဟု ဆိုအပ်သော အဂတိ တရား လေးပါးမှ ကောင်းစွာကင်းဝေး သန့်ရှင်းစေရေးကို ကောင်းစွာ မြော်တွေးတော် မူကြ ကုန်၍ အညီအညွတ် တိုင်ပင် ရေးဆွဲထားသော ၎င်း အပိုဒ်ပါ စကားရပ်ဟု မုချဆတ်ဆတ် မှတ်ယူ နိုင်ပါကြောင်း ထင်ရှားသည် တချက်၊ အပိုဒ် ၅၀-၌ အကယ်၍ မြို့နယ် သံဃဝိနိစ္ဆယ ဆုံးဖြတ်ချက်သည် ဝိနည်း တရားတော်နှင့် မညီညွတ်ဟု တွေ့ရှိရလျှင် တရားလို တရားပြိုင်နှင့် သက်ဆိုင်ရာ သက်သေများ

၁။ ဝိ၊ ၅။ ၂၉၄။ ဒီ၊ ၃။ ၁၄၇။ အံ၊ ၁။ ၃၂၅။ နေတ္တိ။ ၁၀၇။ ပေဋကော။ ၂၁၂၊

ကို မခေါ်ယူပဲသော်လည်းကောင်း၊ လိုအပ်ပါက ခေါ်ယူ၍သော်လည်းကောင်း စစ်ဆေး ဆုံးဖြတ်နိုင်သည် ဟူသော စကားကို ဆင်ခြင် သုံးသပ်လျှင် (တရားလို တရားပြိုင်နှင့် သက်ဆိုင်ရာ သက်သေများကို မခေါ်ယူပဲ ဆုံးဖြတ်နိုင်သည်၊ ခေါ်ယူ၍လည်း စစ်ဆေး ဆုံးဖြတ်နိုင်သည်၊) ဟူသော စကား နှစ်ဝါကျကို တွေ့ရပေသည်။

ယင်းစကား နှစ်ရပ်၏ ရည်ရွယ်ချက်မှာ တရားလို တရားပြိုင် သက်ဆိုင်ရာ သက်သေများ၏ ထွက်ဆိုချက် စကားရပ်များသည် ဓမ္မကံဖြင့် ဆုံးဖြတ်ရန် ပြည့်စုံလုံလောက်နေပြီ ဖြစ်ပါက ထိုသက်ဆိုင်ရာ ပုဂ္ဂိုလ်တို့ကို ခေါ်ယူ စစ်ဆေး မေးမြန်းရန် မလို၊ ဝိနည်းဓမ္မကံနှင့် ဆုံးဖြတ်၍ မပြည့်စုံ မလုံလောက်ရှိပါက ထိုသက်ဆိုင်ရာ ပုဂ္ဂိုလ် ခေါ်ယူစစ်ဆေးပြီးမှ ဆုံးဖြတ်ရန် ဟူသော ရည်ရွယ်ချက် ဖြစ်သည်။ ထိုရည်ရွယ်ချက်သည်လည်း 'ဥဘိန္နံ ဝစနံ သုတွာ ယထာဓမ္မော တထာကာရေ' နှစ်ဘက်နှစ်ပြင် ဟု ဆိုအပ်သော စောဒက စုဒိတကတို့က တင်ပြပြောဆို လျှောက်ထားသော စကားကို ကြားနာပြီးမှ ပြုလုပ်ဆောင်ရွက် ဆုံးဖြတ်ချက်ချရ၏ ဟူသော စတုက္ကနိပါတ်၊ ဇာတ်အဋ္ဌကထာများ၌ ဆိုထားသော စကားနှင့်မခြား ပုံသေတထပ်တည်းတူ၍ နေသည်လည်း အကြောင်းတချက်၊ ၎င်းပြင် ပြည်နယ်/တိုင်း သံဃာ့ဝိနိစ္ဆယအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် မကျေနပ်သေးလျှင် နိုင်ငံတော် သံဃမဟာနာယက အဖွဲ့သို့အမှုအားလျှော်စွာ(အယူခံ) စောဒနာ ဝင်နိုင်သေးကြောင်း၊ ရှေးနည်းအတူ အပိုဒ် ၅၁ - ၅၂ - တို့၌ ခွင့်ပြုထားသဖြင့် စောဒက စုဒိတက တို့အား ကျေနပ်နှစ်သက်စေနိုင်ကြောင်း နှလုံးဒွိဟ သံသယ ကင်းစေနိုင်ကြောင်းတို့ကို အတတ်နိုင်ဆုံး ဖြစ်အောင် ဆောင်ရွက်ထားတော်မူကြသည်ကို တွေ့ရသည် အကြောင်းတချက်၊ အထူးသဖြင့် ဂိုဏ်းတပါးနှင့် ဂိုဏ်းတပါး ဖြစ်ပွားကြသော မှုခင်းမျိုး၌ သန့်ရှင်းရန် အလွန် မလွယ်ကူသာပေ။ အကယ်၍ နှစ်ဘက်ပြင်က မိမိတို့ ကျေနပ်ရာ ဝိနည်းမိုရ်ကို တင်ပြပါက ထိုဝိနည်းမိုရ်များသည် ဝိနည်းမိုရ် အရာ၌ မတည် ရှေ့နေ ရှေ့ရပ်တို့၏ အရာတို့၌သာ တည်ကြသည်က များလှပါသောကြောင့် သန့်ရှင်းရန် မလွယ်ကူခြင်း ဖြစ်ပေသည်။

အပိုဒ် ၅၄ - ၌ ဂိုဏ်းတပါးနှင့် ဂိုဏ်းတပါး ဖြစ်ခဲ့သော် တနိုင်ငံလုံးရှိ ဝိနည်းမိုရ်များ စာရင်းမှ မူလ အမှုဆုံးဖြတ်သည့် ဝိနည်းမိုရ်များအပြင် ယင်းအမှု ဖြစ်ပွားရာ ပြည်နယ်/တိုင်းအတွင်းရှိ ဝိနည်းမိုရ်များကိုပါ အယူခံ သံဃဝိနိစ္ဆယအဖွဲ့၌ ပါဝင်ခွင့် မပြုသင့်ပါ၊ ထိုသို့ ပါဝင်ခြင်း မရှိပါက အလွန် သန့်ရှင်းသော ဝိနည်းမိုရ်များကို ရသဖြင့် စောဒကတို့၏ သန္တာန်၌

စိုးရိမ်ကြောင့်ကြ ဒုဗ္ဗိနိစ္ဆယလွတ်ကင်း သံသယရှင်းလောက်သော သုဝိနိစ္ဆယ မှုချ ဖြစ်ပေါ်နိုင်စရာ အကြောင်း ရှိသည်လည်းတချက် ဖြစ်ပေသည်။

ဤဆိုခဲ့ကုန်ပြီးသော အကြောင်းအချက်တို့ကြောင့် ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်း မူကြမ်း အခန်း ၇၊ အပိုဒ် ၅၄ ・ ကွင် (မူလအမှု ဆုံးဖြတ်သည့် ဝိနည်းဓိုရ်များ မပါဝင်သော) ဟူသော စကားရပ်အစား၊ (မူလအမှု ဆုံးဖြတ်သည့် ဝိနည်း ဓိုရ်များနှင့် ယင်းအမှုဖြစ်ရာ ပြည်နယ်/တိုင်းမှ ဝိနည်းဓိုရ်များ မပါဝင်သော) ဟူသော စကားရပ်ကို ဖြည့်စွက်၍ အခန်း ၇ ・ နှင့်တကွ ဝိနည်းဓမ္မကံအဓိက ရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာလုပ်ထုံးလုပ်နည်း မူကြမ်းကို ဆွေးနွေးထောက်ခံပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ရွှေကျင်ဂိုဏ်းမှ ကိုယ် စားလှယ်ကော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးတိက္ခဝိန္ဒြိယ (ရွှေကျင်ဂိုဏ်း)။ ။ဩဝါဒါစရိယ ဆရာတော်နာယက ဆရာတော် သဘာပတိဆရာတော် အကျိုးတော်ဆောင် ဆရာတော်များနှင့် တကွ မြန်မာနိုင်ငံတော် တဝန်းလုံးရှိ တသိန်းကျော်မျှသော ဆရာတော် သံဃာတော်တို့၏ကိုယ်စား သမ္မုတိရ ဖြစ်တော်မူကြသည့် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။ တပည့်တော်သည် ရန်ကုန်မြို့ ကျောင်း တော်ရာ ရွှေကျင်တိုက် ဝိနည်းပြန်ဌာန သုံးထပ်ကျောင်းမှ တိက္ခိန္ဒြိယ ဖြစ် ပါသည် ဘုရား။ တပည့်တော် ရရှိသည့် အချိန်အတိုင်းအတာအရ အဓိက အားဖြင့် ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများကို သံဃဝိနိစ္ဆယ အဖွဲ့က စစ်ဆေးဆုံးဖြတ်ခြင်းနှင့် စပ်လျဉ်းသော အကြောင်း အချက်များကို ရွှေ ကျင်ဂိုဏ်း၏ကိုယ်စား ဘုရား တပည့်တော်က မြန်မာနိုင်ငံတော် တဝန်း လုံးရှိ တသိန်းကျော်မျှသော ဆရာတော် သံဃာတော်တို့၏ ကိုယ်စား သမ္မု တိရ ဖြစ်တော်မူကြသည့် သံဃကိုယ်စားလှယ် ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ အတတ်နိုင်ဆုံး ဉာဏ်မီသမျှ ဆွေးနွေးထောက်ခံ လျှောက်ထားပါ မည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ် ထုံးလုပ်နည်းများ အခန်း (၆) ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းကို သံဃ ဝိနိစ္ဆယအဖွဲ့က စစ်ဆေးဆုံးဖြတ်ခြင်း အပိုင်းကို ခြုံငုံသုံးသပ် ဖော်ပြရသည် ဆိုလျှင်—

(၁) သံဃဝိနိစ္ဆယအဖွဲ့ ဝိနည်းဓိုရ် (အနုဝိဇ္ဇက)

(၂) ဝိနည်းမမှုကံ့အဓိကရုဏ်း မှုခင်း (တရားမမှု)

(၃) **စောဒက....တဘက်စုဒိတကၡ၏ အပြစ်ကို ထင်ရှား ဖော်ပြ၍ အဆုံးအဖြတ် ရလိုသော (တရားလို)**

(၄) စုဒိတက....အပြစ်ရှိသည် ဟု စွပ်စွဲခံရသော (တရားပြိုင်)

(၅) သက်သေ....စောဒက စုဒိတကတို့ အတွက် အပြစ် ရှိ-မရှိ ထင်ရှားပေါ်လွင်အောင်ပြောဆိုသည့် (အထောက်အကူ)

(၆) သမထ....အဓိကရုဏ်း ငြိမ်းစေရာ ငြိမ်းစေကြောင်း တရား (၇) ပါး

(၇) အဓိကရုဏ်း ငြိမ်းစေရာမှာ အထောက်အကူ ဖြစ်သော သာသနာရေး ဦးစီးဌာနနှင့် ပြည်သူ့ကောင်စီ ဟူ၍ အကြောင်းအချက် (၇) မျိုး တွေ့ရှိပေါ်လွင် ပါသည်ဘုရား။

ထိုအကြောင်းအချက် (၇) မျိုးကို စိစစ်ညှိနှိုင်းကြည့်လျှင် ဝိနည်းပရိဝါရပါဠိ **စောဒနာကဏ္ဍ** စောဒကာဒိပဋိပတ္တိ၌—

(၁) **စောဒကေန ပဉ္စသု ဓမ္မေသု ပတိဋ္ဌာယ ပရောစောဒေ တဗ္ဗော စသည်ဖြင့်လည်းကောင်း၊**

(၂) စုဒိတ ကေန ဒွိသု ဓမ္မေသု ပဋိပဇ္ဇိတဗ္ဗံ၊ သစ္စေန အကုပ္ပေန စသည်ဖြင့်လည်းကောင်း၊

(၃) သံဃေန ဩတိဏ္ဏောတိဏ္ဏံ ပဋိပဇ္ဇိတဗ္ဗံ စသည်ဖြင့်လည်း **ကောင်း၊**

(၄) အနုဝိဇ္ဇကေန ယေန ဓမ္မေန၊ ယေန ဝိနယေန၊ ယေန သတ္ထု သာသနေန တံ **အဓိကရဏံ** ဝူပသမေတိ၊ ကထာ တံ **အဓိကရဏံ** ဝူပသမေတဗ္ဗံ စသည်ဖြင့်လည်းကောင်း၊

ဘုရားရှင် ပညတ်တော်မူသည်နှင့် တထပ်တည်း တသားတည်း ညီညွတ်နေပါသောကြောင့် ဘုရားတပည့်တော်များတို့ ရွေကျင်ဂိုဏ်းလုံးဆိုင်ရာ သံဃာ့ဝန်ဆောင် ဆရာတော်များက မြန်မာနိုင်ငံတော် တဝန်းလုံးရှိ တသိန်းကျော်သော ဆရာတော် သံဃာတော်တို့၏ ကိုယ်စား သမ္မုတိရ ဖြစ်တော်မူကြသည့် သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်မြတ်တို့အား အတတ်နိုင်ဆုံး ဉာဏ်မီသမျှ ဆွေးနွေးထောက်ခံ လျှောက်ထားပါသည် သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ စစ်ကိုင်းတိုင်း ကိုယ်စားလှယ် ဆရာတော် ဆောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးဩဘာသ (စစ်ကိုင်းတိုင်း)။** ။သဘာပတိ ဆရာတော်ဘုရားကြီး နှင့်တကွ တထောင်ကျော်သော သမ္မုတိရ သံဃာ့ ကိုယ်စားလှယ်ဆရာတော် အရှင်သူမြတ်တို့ ဘုရား။

စစ်ကိုင်းတိုင်း သံဃာတော်များ၏ကိုယ်စား မုံရွာအခြေခံဒေသ မုံရွာမြို့ ဘောင်ဂျမ်းပင်တိုက်မှ တပည့်တော် ဩဘာသက ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ရတဲ့အချိန်အဘင်း အားလုံး မဆွေးနွေးနိုင်တဲ့အတွက် အခန်း (၄) ကို မူတည်ပြီး အကြံပြု ဆွေးနွေးပါမယ် ဘုရား။

ဘုရားတပည့်တော်တို့ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများစာတမ်းကို လေ့လာကြည့်တဲ့ အခါမှာ အချက်အလက်အားလုံး ယေဘုယျ ပြည့်စုံလုံလောက်ပြီး အခု အခြေအနေနဲ့ ကိုက်ညီတာကို တွေ့ရပါတယ် ဘုရား၊ ဘုရားတပည့်တော် အနေနဲ့ ဝိနည်းဓမ္မကံ မှုခင်း ဖြေရှင်း ရေး ဆိုင် ရာ လုပ် ထုံး လုပ် နည်း များ လေ့လာတဲ့အခါ အခန်း (၄) အပိုဒ် ၂၂ တွင် 'ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းကို အခြားမည်သည့်တရားရုံးတွင်မျှ တရားမကြောင်း စွဲဆိုခွင့်မရှိစေရ' ဟု ဖော်ပြထားသည်များကို တွေ့ရှိရပါသည် ဘုရား။ ထို ဖော်ပြချက်သည် ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်း ဖြေရှင်းရန် ကြုံတွေ့လာသော ရှင်တော် ဘုရားသည် လည်းကောင်း၊ ဥပါလိ စသော တပည့်ရဟန္တာပုဂ္ဂိုလ်များသည် လည်းကောင်း ဝိနည်းတော်အရ အဆုံးအဖြတ်ပေးတော်မူခဲ့သည်ကို ဝိနည်း ပါဠိတော်တို့၌ အတိအကျ ဖော်ပြထားပါသဖြင့် ပြည်သူ့တရားရုံးများတွင် ဖြေရှင်းခြင်းထက် ဝိနည်းမိုရ်များဖြင့်သာ ဖြေရှင်းခြင်းက အလွန်သင့်မြတ် လှပါသည် ဘုရား၊ပိုမိုမှန်ကန်တိကျတယ်ဆိုတဲ့ သဘောသက်ရောက်တဲ့အတွက် သံဃာတော်များနှင့် အလွန် သင့် မြတ် လှ ပါ သည် ဘုရား။ ဆက်လက်ပြီး အပိုဒ် ၂၃ တွင် ဖော်ပြထားတာကို ဆွေးနွေးပါမယ် ဘုရား။ 'ဤဥပဒေ အတည်မပြုမီက ငြိမ်းပြီးသော အဓိကရုဏ်းမှုခင်းများကို မည်သည့်ဝိနိစ္ဆယ အဖွဲ့ကမျှ လက်ခံစစ်ဆေးဆုံးဖြတ်ခြင်း မပြုရ' ဟု ကန့် သတ် တော် မူ လိုက် ခြင်းသည်လည်း အလွန်သင့်မြတ်လှပါသည် ဘုရား။ အကြောင်းမှာ ဤ ကဲ့သို့ ကန့်သတ်ချက်များ မရှိပါက နှစ်ပေါင်းများစွာက ဝိနိစ္ဆယဆက် ဥပဒေ စသည်ဖြင့် ဆုံးဖြတ်ပြီးသော အမှုဟောင်းများ ပြန်ဝင်လာခြင်း စသော

ရှုပ်ထွေးမှုများ မရှိနိုင်တော့ပါ ဘုရား။ ထို့ကြောင့် အပိုဒ် ၂၃ ကို ထောက်ခံပါသည် ဘုရား။

တဲဖန် အပိုဒ် ၂၄ တွင် မြို့နယ်သံဃာ့နာယကအဖွဲ့က ဝိနည်းဓိုရ် ဆရာတော်များကို ရွေးချယ်ပေးရမည့်အစီအစဉ်မှာ ဝိနည်းဓိုရ်များ စာရင်းမှ အစဉ်ကျရောက်သော ဝိနည်းဓိုရ်များကိုသာ ရွေးချယ်ပေးဖို့ စီမံထားပါသည်။ ထိုသို့ စီမံထားသဖြင့် မြို့နယ် သံဃာ့နာယက ဆရာတော်အား ကျရောက်နိုင်သော အဂတိလိုက်စားမှု တွေ့ စွပ်စွဲချက်များ မရှိနိုင်သော ကြောင့် အလွန်ကောင်းမြတ်လှပါသည် ဘုရား။

အပိုဒ် ၂၅၊ ၂၆၊ ၂၇ ကတော့ ဒီ သံဃဝိနိစ္ဆယအဖွဲ့အတွက် ဖြောင့် ဖြောင့် ဖြူးဖြူး ဆောင်ရွက်နိုင်အောင် စီမံထားခြင်းဖြစ်ပါတယ် ဘုရား။

အပိုဒ် ၂၆ တွင်လည်း ရက်မကြာအောင် စီစဉ်ထားသဖြင့် အလွန် ကောင်းမြတ်လှပါသည် ဘုရား။

အပိုဒ် ၂၀ ကို ကြည့်ယင် နှစ်ဘက်သော စောဒက နှင့် စုဒိတက ပုဂ္ဂိုလ် တွေက မိမိကို စစ်ဆေးမည့်ဆရာတော်တွေအပေါ် ဖော်ပြထားတဲ့အတိုင်း ကန့်ကွက်ရန်အကြောင်း၊ ခိုင်လုံစွာတွေ့ရှိပါက ကန့်ကွက်ခွင့်ပြုထားပါတယ်၊ ဒီအချက်ကိုကြည့်ယင် တရားမျှတမှုရှိ၍ ကျေနပ်ဖွယ်ရာ ဖြစ်ပါတယ်။ ဒါပေမယ့် ဒီကန့်ကွက်မှုက ခိုင်လုံယင် သက်ဆိုင်ရာသံဃာ့နာယကအဖွဲ့က ကန့်ကွက် ခံရတဲ့ ဝိနည်းဓိုရ်ဆရာတော်ရဲ့နေရာမှာ အမှတ်စဉ်အတိုင်း အခြားဝိနည်းဓိုရ် တပါး လဲလှယ် ထည့်သွင်းခန့်ထားပေးဖို့ အစီအစဉ် မပါသေးပါဘူး။ ဒါကြောင့် ပိုမိုပြည့်စုံအောင် အကြံပြုပါရစေ၊ အကြံပြုချက်ပါ ဘုရား။ အပိုဒ် ၂၀ နောက်မှာ ကန့်ကွက်ချက်သည် အထောက်အထားခိုင်လုံကြောင်း တွေ့ရှိရပါက အမှတ်စဉ်အတိုင်း အခြားဝိနည်းဓိုရ်ဆရာတော်တပါးကို ထို ကန့်ကွက်ခံ ဝိနည်းဓိုရ်ဆရာတော်၏နေရာတွင် အစားထိုး ခန့်ထားပေးရမည် ဟု အပိုဒ်သစ် တပိုဒ် ဖြည့်စွက်ထည့်သွင်းပေးရန် အကြံပြုပါသည် ဘုရား။

အပိုဒ် ၂၉ ကို ဆွေးနွေးရမယ်ဆိုယင် ဝိနိစ္ဆယအဖွဲ့ဝင်တွေကို အကြောင်း အချက်မခိုင်လုံပဲ မစွပ်စွဲနိုင်အောင် ဖော်ပြထားပြီး ဖျက်လိုဖျက်ဆီးလုပ်လိုတဲ့ ပုဂ္ဂိုလ်တွေကို တားဆီးထားခြင်း ဖြစ်ပါတယ်၊ အပိုဒ် ၃၀ ကို မထည့်ပဲထား ယင် ဝိနိစ္ဆယအဖွဲ့တခုရဲ့ အဖွဲ့ဝင် တပါးပါးဟာ အကြောင်းတခုခုကြောင့် ပျက်ကွက်သွားပြီး အမှုမစစ်နိုင်သဖြင့် ရုံးအသစ် ဖွဲ့ရမှာ ဖြစ်ပါတယ်၊ ဒီ အခါမှာ အမှုတွေ မကြာသင့်ပဲ ကြာမည်စိုးရပါတယ်၊ ဒီလိုမဖြစ်ရအောင်

တပါးချင်း အစားထိုးပြီး အမှုဆက်လက်စစ်နိုင်အောင် စီစဉ်ထားခြင်း ဖြစ်ပါတယ်။

အားလုံးခြုံပြီး နိဂုံးချုပ်ပြောရပေ်ာင် ဒီအခန်း (၄) တခုလုံးဟာ မျှတတဲ့သဘောရှိတာကို တွေ့ရပါတယ် ဘုရား။ အကြောင်းတစုံတခုပေါ်သော်လည်း အမှုကို မရပ်နားပဲ ဆက်လက် စစ်ဆေးနိုင်တာ တွေ့ရပါတယ်၊ စောဒက စုဒိတက ဘက်က ကြည့်ယင်လဲ ကျေနပ်စရာ ကောင်းပါတယ်၊ ဒါကြောင့် အခန်း (၄) အပိုဒ် ၂၀ ရဲ့နောက်မှာ ဖြည့်စွက်ချက်နှင့်တကွ ဒီ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ထောက်ခံပါကြောင်း ရှိသေစွာ လျှောက်ထားပါတယ် ဆရာတော် အရှင်သူမြတ်တို့ ဘုရား။

အခမ်းအနားမှူး ဆရာတော်က။ ။ဆက်လက်၍ ပဲခူးတိုင်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးကုဏ္ဍလ (ပဲခူးတိုင်း)။ ။သာသနသုဒ္ဓိကာမ၊ သာသနဋ္ဌိတိကာမ၊ သာသနဝိပုလကာမ ဖြစ်တော်မူကြကုန်သော သံဃာတော်အရှင်မြတ်အပေါင်းအား ဘုရားတပည့်တော် ရိုသေစွာ ရှိခိုးဦးခိုက်ပါ၏ ဘုရား။

ပဲခူးတိုင်း၊ ပြည် အခြေခံဒေသ၊ ပြည်မြို့၊ ဇောတိကာရုံ ပါဠိတက္ကသိုလ်ကျောင်းတိုက်မှ ဘုရားတပည့်တော် ကုဏ္ဍလအား ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ဆွေးနွေးထောက်ခံခွင့် ပေးသနားတော်မူကြပါရန် တောင်းပန်လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

မင်္ဂလာကျက်သရေ တဝေဝေတင့်နွန်းနွန်း တင့်ထွန်းတောက်ပ သံဃာကြည်နူးဖွယ်ကောင်းလှပါသော ဤအခါသမယဝယ် ကပ္ပာ့အလယ် သာသနာ့နယ်ပယ်အတွင်းတွင် တွေ့ရခဲ မြင်ရခဲ ကြုံကြိုက်လှခဲ့သည့် အတွက် ရဟန်း, ရှင်, လူ မြင်မြင်သူအပေါင်းတို့၏ ရင်သပ်ရှုမော အံ့သြထောမနာ ကုန်နိုင်စရာမရှိ အဘိဇ္ဇာ ဖြစ်ပေထသော သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ရောက်တော်မူလာကြကုန်သော သုံးလောကထွတ်ထား မြတ်စွာဘုရား၏သားတော် ရင်နှစ် ဖြစ်ကြီးဖြစ်လျက် သာသနာတော်မြတ်ကို အလက်ပက မြတ်နိုးရှာကြကုန်သော သဘာပတိ ဆရာတော်ကြီး အမှူးရှိသည့် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ဘုရားတပည့်တော် ရရှိသည့် အချိန်အတိုင်းအတာအရ ဝိနည်းဓမ္မကံ

အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးထိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းစာအုပ်မှ အခန်း (၅) ကို ဘုရားတပည့်တော် ဆွေးနွေးပါမည် ဘုရား။

အခန်း (၅) အပိုဒ် ၃၀ ၌ 'ဝိနည်းဓမ္မကံ အဓိက ရုဏ်း မှုခင်း သည် အဆောက်အအုံနှင့် ကျောင်းတိုက်ရှိ ပုဂ္ဂိုလ်အားလုံးကိုသော်လည်းကောင်း၊ ပုဂ္ဂိုလ်တဦးဦးသော်လည်းကောင်း ဖယ်ရှားရန် လိုအပ်လျှင် သက်ဆိုင်ရာ ပြည်သူ့ကောင်စီအဖွဲ့က လိုအပ်သလို အရေးယူ ဆောင်ရွက်ပေးရမည်' ဟု ဆိုထားပါသည် ဘုရား။ ထိုသို့ ဆိုထားသည့်အတိုင်း ကျောင်းနေ ရဟန်း တပါးပါးကိုဖြစ်စေ၊ ရဟန်းအများကို ဖြစ်စေ နေရင်းစွဲကျောင်းမှ ဖယ်ရှား ပစ်ရမည့်အရေးမှာ လွန်စွာပင် ဝန်လေးလှပါသည် ဘုရား။ ယင်းကဲ့သို့ ဝန်လေးလှပုံကို သံဃိကကျောင်းမှ ရဟန်း တပါးပါးကို နှင်ထုတ်ခဲ့သော် အာပတ်သင့်စေဟု ပညတ်တော်မူခဲ့သော နိက္ကဍ္ဎနသိက္ခာပုဒ်တော်က သက်သေခံလျက် ရှိနေပါသည် ဘုရား။

သို့ဖြစ်ပါသော်လဲ (က) ဆုံးမ မနိုင်—ဆိုနိုင်ခက်ခဲသော တပည့်မျိုးကို ဆရာဥပဇ္ဈာယ်တို့က နှင်ထုတ်ပစ်ရခြင်း၊ (ခ) ငြင်းခုံစကား ခိုက်ရန်များသော ရဟန်းဆိုးများကို သံဃာ့အရာမ်မှ နှင်ထုတ်ပစ်ရခြင်း စသည်တို့ကို ထောက်ထားသောအားဖြင့် လည်းကောင်း၊ (ဂ) ကောသမ္ဗကက္ခန္ဓက လာသည့်အတိုင်း အဓိကရုဏ်း ကြီးထွားမှုကို တားမြစ်ပိတ်ပင်နိုင်စေခြင်း အကျိုး မျှော်ကိုးသောအားဖြင့် လည်းကောင်း အမှုဖြစ်နေဆဲ ကျောင်း အတွင်းရှိ ပယ်ရှားသင့်သော ပုဂ္ဂိုလ်များကို ဖယ်ရှားပေးခြင်းသည် လွန်စွာ သင့်လျော်လျောက်ပတ်သော ကိစ္စတရပ် ဖြစ်ပါကြောင်း ဆွေးနွေးတင်ပြ ထောက်ခံအပ်ပါသည် ဘုရား။

အပိုဒ် ၃၁ - မှာ ပုဂ္ဂိုလ်အားလုံး ဖယ်ရှားပြီးသော ကျောင်းတိုက်ကို သင့်လျော်သော အဖွဲ့အစည်းက ဖြစ်စေ၊ ပုဂ္ဂိုလ် တဦးဦးက ဖြစ်စေ ထိန်း သိမ်းစောင့်ရှောက်ရန် တာဝန်ပေးနိုင်သည် ဟု ဆိုထားရာ၌လည်း ရှေးအခါ ကျောင်းကန် အစရှိသော အဆောက်အဦ သစ်သီးအရာမ် ပန်းအရာမ် အစရှိသည်တို့ကို အဖိုးအခပေး၍ပင် စောင့်ရှောက်စေခဲ့ပုံကို နှလုံးထား၍ လည်းကောင်း၊ ဒါယကာ ဒါယိကာမတို့၏ သဒ္ဓါတရား ထက်သန်စွာဖြင့် လှူဒါန်းထားသော ပစ္စည်းများကို မပျက်စီးအောင် စောင့်ရှောက်ထား သင့်ကြောင်း တင်ပြဆွေးနွေးအပ်ပါသည် ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ ဘုရား။



မကွေးတိုင်း ပခုက္ကူအခြေခံဒေသမှ သံဃာ့ကိုယ်စားလှယ်
ဆရာတော်ဦးကေလာသ ထောက်ခံဆွေးနွေးစဉ်

အပိုဒ် ၃၃ - တွင် ဖော်ပြထားသည့် 'ရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို အမှုသည်များ ရှေ့မှောက်တွင် စာရင်းပြု၍ ထိန်းသိမ်းစောင့်ရှောက်ရမည်' ဆိုသော စကားမှာလည်း သာသနာတော်၌ သံဃိကပစ္စည်းများကို ထိန်းသိမ်းစောင့်ရှောက်သော ဘဏ္ဍာစိုး ရဟန်းသည် ပိတ်ပိုင်း ဖျင်ပိုင်း စသည်တို့၏ အတိုအရှည် အလျား အနံ ပမာဏကိုလည်းကောင်း၊ အထူ အပါး အချော အကြမ်းကိုလည်းကောင်း၊ အရေအတွက် မည်၍ မည်မျှကိုလည်းကောင်း တိကျမှတ်သား စာရင်းထားကာ စောင့်ရှောက်ရမည်၊ အကယ်တစေ ပစ္စည်းတခုခုပျောက်ပျက်ပါမူက ဘဏ္ဍာစား (လျော်ကြေး) ပေးရမည် ဟူသော ဝိနည်းပညတ်တော်နှင့် လိုက်လျောညီထွေ ရှိပါလေသောကြောင့် ပစ္စည်းများကို စာရင်းဇယားပြုလုပ် ထားရှိမှက မပျောက်မပျက်အောင်ပါ စောင့်ရှောက်သင့်ကြောင်း ဆွေးနွေးထောက်ခံ အပ်ပါသည် အရှင်မြတ်တို့ ဘုရား။

အပိုဒ် ၃၄ - လာ အမှုပြီးဆုံးသောအခါ သံဃဝိနိစ္ဆယနှင့် အညီ ထိန်းသိမ်းထားသော ပစ္စည်းများကို သက်ဆိုင်သူများအား စာရင်းနှင့်တကွ လွှဲအပ်ပေးရမည် ဆိုသောအချက်မှာလည်း (က) ကျောင်းတိုက်အတွင်း မေ့ကျန်ရစ်သော ပစ္စည်းများကို ပိုင်ရှင်အား ပြန်ပေးရသေးထုံး၊ (ခ) အပ်နှံထားသော ပစ္စည်းကို အပ်နှံသူအား ပြန်ပေးရမည်ဆိုသော စကားများကို ထောက်ထားကြည့်ပါက အလွန်ပင်ရာမှ သင့်မြတ်လှပါကြောင်း ဆွေးနွေးထောက်ခံအပ်ပါသည် ဘုရား။

နောက်ဆုံး စောင့်ရှောက်သူတို့ အတွက် သတိမူစရာအချက်ကို တင်ပြလိုသည်မှာ — 'ပဗ္ဗဇိက ပရိဘော ဂေါတိ အာဂါရိကာနံ စေတိယဋ္ဌာနီယော' မိန့်တော်ပါဌ် လာရှိသည်နှင့် အညီ ရဟန်းတော်များ အသုံးအဆောင်ပစ္စည်းမှန်သမျှသည် လူပုဂ္ဂိုလ်တို့၏ ကိုးကွယ်ရာ စေတီထိုက်ပါသောကြောင့် ကျောင်း ကန် စသော ရဟန်းတော်များပစ္စည်းကို စောင့်ရှောက်သူတို့က စေတီတော်ကဲ့သို့ ရှိသေလေးစား စောင့်ရှောက်သွားရန် သင့်မြတ်လှပါကြောင်း နိဂုံးသတ်ကာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

အခမ်းအနားမှူး ဆရာတော်က။ ။မကွေးတိုင်းက ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးကေလာသ (မကွေးတိုင်း)။ ။ဇိနသာသနံ စိရံဟိဋ္ဌတု။ ဇိနသာသနံ၊ ငါးပါးမာရ်အောင် ဘုန်းခေါင်မြတ်စွာ သာသနာတော် မြတ်ကြီးသည်။

စီရံ၊ မြင့်ရှည်မြဲ့မြောင် နှစ်ငါးထောင်ကာလ ကြာအောင်။ တိုင်ငွတု၊ မလျော့မပျက် ထွန်းတက်တည်ရှိပါစေသတည်း။

**သာသနာ**တော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့် သံဃာ့ဝန်ဆောင် ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီး အမှူးပြုသော သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သခင် အရှင်သူမြတ်တို့ ဘုရား။

**မ**ကွေးတိုင်း၊ ပခုက္ကူမြို့၊ မဟာဝိသုတာရာမကျောင်းတိုက်မှ ဘုရားတပည့်တော် ကေလာသက မကွေးတိုင်း သံဃာတော်များ၏ ကိုယ်စား ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ဘုရားတပည့်တော် အချိန်သမယ ရသလောက် ထောက်ခံဆွေးနွေးပါမည် ဆရာတော်သခင် အရှင်သူမြတ်တို့ ဘုရား။

ဘုရားတပည့်တော်များ၏ သာသနာ့ သမိုင်းတလျှောက်တွင် ရဟန်းသံဃာတော်များနှင့် စပ်လျဉ်းသည့် ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများကို ဓမ္မဝိယနနှင့် အညီ ဝိနည်းဓိုရ် ပုဂ္ဂိုလ်များက စစ်ဆေးဆုံးဖြတ်ခဲ့ကြပါသည် ဘုရား။ မြန်မာနိုင်ငံ သာသနာ့ သမိုင်းမှာ ဒီအစဉ်အလာအတိုင်း လိုက်နာကျင့်သုံးခဲ့ကြပါသည် ဆရာတော်သခင် အရှင်သူမြတ်တို့ ဘုရား။

တိုင်းတပါးသား ဘာသာခြား ဖြစ်ခဲ့ကြတဲ့ အင်္ဂလိပ်များဟာ မြန်မာနိုင်ငံတော်ကို စတင်အုပ်စိုးခါစက ဝိနည်းဓိုရ် ပုဂ္ဂိုလ်များနဲ့ စစ်ဆေးဆုံးဖြတ်ခြင်းကို လိုက်လျောခွင့်ပြုခဲ့ပါတယ်ဘုရား။ မြန်မာဘုရင်များရဲ့ အစဉ်အလာအတိုင်း သာသနာပိုင်များ ခန့်အပ်၍ သံဃာတော် အချင်းချင်းကြီးကြပ်အုပ်ထိန်းရန်နှင့် ဝိနည်းဓမ္မကံ မှုခင်းများကို ဝိနည်းဓိုရ်များနဲ့ စစ်ဆေးဆုံးဖြတ်ရန် အခွင့်အာဏာများ ပေးအပ်ခဲ့ပါတယ်ဘုရား။ သို့ရာတွင် နောက်ပိုင်းမှာ သံဃာ မညီညွတ်မှုကို အကြောင်းပြု၍ ၁၂၉၇-ခုနှစ်တွင် သာသနာပိုင် ဆရာတော်မှာ ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဆုံးဖြတ်ခွင့် အာဏာမရှိ ဟု ဟိုက်ကုတ်လွှတ်တော်က ဆုံးဖြတ်ခဲ့ပါသည်ဘုရား။ ထိုအချိန်မှစ၍ ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများကို ဝိနည်းဓိုရ် ဆရာတော်များဖြင့် ဆုံးဖြတ်ခွင့် မရတော့ပဲ သက်ဆိုင်ရာ တရားမရုံးများက စီရင်ဆုံးဖြတ်ခဲ့ပါသည်ဘုရား။ ထိုတရားမရုံးသည် အစိုးရ ဥပဒေအရ ဆုံးဖြတ်ရခြင်းဖြစ်၍ ဝိနည်းတရားတော်အရ ဆုံးဖြတ်ရခြင်း မဟုတ်သောကြောင့် ဝိနည်းတော်နှင့် မညီညွတ်သော အချက်များ ပေါ်ပေါက် ဖြစ်ထွန်းခဲ့ပါသည်

ဘုရား။ ထိုသို့ ဝိနည်းတော်နှင့် မညီညွတ်သည့် အတွက် သံဃာတော်များ၏ ကျေနပ်နှစ်သိမ့်မှု ကို မဖြစ်စေခဲ့ပါဘုရား။ ထိုဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်း များကို ဝိနည်းတော်နှင့် လျော်ညီစွာ ဝိနည်းဓိုရ် ပုဂ္ဂိုလ်များက စစ်ဆေး ဆုံးဖြတ်နိုင်ခွင့် ရရှိရေးကို ခေတ်အဆက်ဆက် အချိန်ကာလ အဆက်ဆက် နှစ်ပေါင်း များစွာကပင် ဘုရားတပည့်တော်တို့ လိုလိုလားလား မျှော်မှန်း တောင့်တခဲ့ကြပါသည်ဘုရား။

ယခု ဤလုပ်ထုံးလုပ်နည်း မူကြမ်းကို အတည်ပြုပြီးပါက ဘုရားမြတ်စွာ သာသနာတော်အတွင်း ဖြစ်ပွားသည့် ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ကို ဓမ္မဝိနယနှင့် လျော်ညီစွာ ဝိနည်းဓိုရ်ပုဂ္ဂိုလ်များဖြင့် စစ်ဆေးဆုံးဖြတ်ခွင့် ရရှိတော့မည် ဖြစ်ပါသောကြောင့် ဤဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများကို အတည်ပြုပေးပါရန် ထောက်ခံအပ်ပါသည် သက်တော်ရှည် ဆရာတော်သခင် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ မန္တလေးတိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါဘုရား။

**ဦးဥက္ကံသာဘိဝံသ (မန္တလေးတိုင်း)။** ။သဘာပတိဆရာတော် ရဋ္ဌဂုရု ဆရာတော် ဩဝါဒါစရိယဆရာတော် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာ တော် အမှူးပြုသည့် သံဃာ့သမ္မုတိရ ဆရာတော် သံဃာတော် အရှင်သူမြတ် တို့ ဘုရား။

မန္တလေး အခြေခံဒေသ မန္တလေးအရှေ့တောင်မြို့နယ် ဘုရားကြီးတိုက် အမရပူရကျောင်း တပည့်တော် ဥက္ကံသာဘိဝံသ လေးလေးစားစား လျှောက်ပါမည် ဘုရား၊ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့် ပတ်သက်၍ အနိဒါနဖြင့် အခန်း ၂ အခြေခံမူ ၄ ချက်အနက် တတိယနှင့် စတုတ္ထ မူနှစ်ချက်ကိုသာ ဆွေးနွေးပါမယ် ဘုရား။ စာမျက်နှာ ၃၊ အခြေခံမူ ၄ ချက်အနက် တတိယ အချက်ကို စတင်ဆွေးနွေးပါမယ် ဘုရား။

'သတ်မှတ်ထားသော ဂိုဏ်းများအတွင်း ဖြစ်ပွားသော ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများကို မိမိတို့ ဂိုဏ်းဆိုင်ရာ ဝိနည်းဓိုရ်များဖြင့် စစ်ဆေး ဆုံးဖြတ်နိုင်ခွင့် ရှိသည်' ဤအပိုဒ်အရ သတ်မှတ်ထားသော ဂိုဏ်းများသည် မိမိဂိုဏ်းများအတွင်း ဖြစ်ပွားသော မှုခင်းများကို စစ်ဆေး ဆုံးဖြတ်ပိုင်ခွင့် ရှိသွားပါသည် ဘုရား။ သို့ရာတွင် သာမန်ပုဂ္ဂိုလ်များဖြင့် စစ်ဆေးသည်ကို

သံဃာတော်များက ကျေနပ်လက်ခံကြမည် မဟုတ်ပါ ဘုရား။ ဂိုဏ်းဆိုင်ရာ ဝိနည်းဓိုရ်ပုဂ္ဂိုလ်များ၏ ဝိနည်းကျွမ်းကျင်မှု မကျွမ်းကျင်မှု ဂိုဏ်းအတွင်းရှိ သံဃာတော်များက သိရှိပြီးဖြစ်ပါ၍ ဝိနည်းဓိုရ်ဂုဏ်အင်္ဂါနှင့် ပြည့်စုံသော ဂိုဏ်းဆိုင်ရာ ဝိနည်းဓိုရ်များဖြင့် စစ်ဆေးဆုံးဖြတ်ခြင်းသည် သင့်လျော် လျောက်ပတ်၍ သံဃာတော်များ ကျေနပ်လက်ခံစရာ ရှိပါသည်။

ဤကဲ့သို့ ဝိနည်းဓိုရ်များဖြင့် စနစ်တကျ စစ်ဆေးဆုံးဖြတ်ခြင်းသည် တိုင်းပြည်အတွက် စေဒက နှင့် စုဒိတက တို့အတွက်ပါ ကျေနပ်အားရ ဖွယ်ဖြစ်ပါသည် ဘုရား။ သက်ဆိုင်ရာ ဂိုဏ်းများအနေဖြင့်လည်း ဂုဏ် အသရေ ပိုမိုတိုးတက်သွားပါသည် ဘုရား။ ဤကဲ့သို့ အဘက်ဘက်မှ ကျေနပ် နှစ်သက်ဖွယ်ရှိသောကြောင့် ဘုရားတပည့်တော်က ဤအခြေခံမူ ၄ ချက်မှ တတိယ အချက်ကို လေးနက်စွာ ဆွေးနွေးထောက်ခံအပ်ပါသည် ဘုရား။

ထို့ပြင် အခြေခံမူ စတုတ္ထအချက်ကို ဆက်လက် ထောက်ခံ ဆွေးနွေး ပါမည် ဘုရား။ 'ဤဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ် ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ကြီးသို့ ကြွရောက်တော်မူလာကြသော သံဃာမျှတ်ရ သံဃာ့ကိုယ်စားလှယ် ဆရာတော်များ၏ ဆန္ဒဖြင့်သာ အတည်ဖြစ်စေရမည်' ဟု သတ်မှတ်ထား ပါသည် ဘုရား။

ဤအချက်အလက်သည်လည်း အဓိကရုဏ်းအေးငြိမ်းစေကြောင်း သမထ (၇) ပါးအနက် ယေဘုယျသိက ဝိနည်းတရားတော်ပင်ဖြစ်ပါသည် ဘုရား။ မမ္မဝါဒီပုဂ္ဂိုလ် အရှင်မြတ်များ၏ များရာဆန္ဒအတိုင်း အဓိကရုဏ်းမှုခင်း များကို အေးငြိမ်းစေကြ ဟု မိန့်မှာတော်မူသော ဘုရားရှင်၏ အာဏာ ဒေသနာတော်သည် လိုက်နာကျင့်သုံးရသူ ရဟန်း, သံဃာတော်တို့အဖို့ အလွန်စိတ်ချမ်းမြေ့ဖွယ် ဖြစ်ပါပေသည်။ ဤအကြောင်းအချက်တို့ကြောင့် လည်း ဘုရားတပည့်တော်သည် အခြေခံမူ ၄ ချက်မှ စတုတ္ထအချက်ကို လေးနက်စွာ ဆွေးနွေးထောက်ခံပါသည် ဘုရား။

နောက်ဆုံးအနေဖြင့် ပုံစံ (၈) ကို ထောက်ခံဆွေးနွေးလိုပါသေးသည် ဘုရား။ အခြားခြားသော ဝိနိစ္ဆယအက်ဥပဒေစာအုပ် စသည်တို့ထက် အထူး ခြားဆုံးသောအချက်မှာ ပုံစံ (၈) ထည့်သွင်းထားခြင်းပင် ဖြစ်ပါသည် ဘုရား။ ပုံစံ (၈) ၌ ဝိနည်းဓမ္မကံ အဓိကရုဏ်း စစ်ဆေးရန်ပုံစံ ဟု စကား ချီ၍ အမှုဘခုစစ်ဆေးမည့် ဝိနည်းဓိုရ်ဆရာတော်လုပ်ရမည့်အစီအစဉ်ကို တခု မကျန် အစဉ်လိုက်ဖော်ပြထားသည်ကို တွေ့ရှိရပါသည် ဘုရား။ ၎င်းပုံစံ



မွန်ပြည်နယ် ဘီးလင်းမြို့နယ်မှ ဦးဝါယမ ထောက်ခံဆွေးနွေးစဉ်

(ဂ)၌ ပြုလုပ်ရမည့်အဆင့်ကို နံပါတ်စဉ် ၁၅ အထိ ပြထားသည်ကို တွေ့ရှိရပါသည်။ ၎င်းအစီအစဉ် ၁၅ ချက်အတိုင်း ဝိနည်းဓိုရ်ပုဂ္ဂိုလ်သည် ဘခုပြီး တခု ဆောင်ရွက်သွားရမည်ဆိုပါက လုပ်ထုံးလုပ်နည်း မှားယွင်းဖွယ်မရှိတော့ပါ ဘုရား။

ဤကဲ့သို့ စနစ်တကျ ခေတ်မီ စီစဉ်ထားသည့်အတွက်ကြောင့်လဲပဲ ဘုရားတပည့်တော်က ပုံစံ (ဂ) ကို နှစ်ခြိုက်ပါသည် ဘုရား။ ဤသို့ အဘက်ဘက်မှ ကျေနပ်နှစ်ခြိုက်ဖွယ်ရာ အချက်အလက်များနှင့် ပြည့်စုံသော ဤဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းဆိုင်ရာ— စစ်ဆေး ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ထောက်ခံကြောင်း လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ မွန်ပြည်နယ်မှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးဝါယမ (မွန်ပြည်နယ်)။** ။ရှိသေ လေးစားအပ်သော သဘာပတိဆရာတော်၊ အဘိဓဇ မဟာရဋ္ဌဂုရုဆရာတော်၊ သြဝါဒါစရိယ ဆရာတော်၊ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိကဆရာတော်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်များ နှင့် သံဃသမ္မုတိရ ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ယခု ထောက်ခံဆွေးနွေးသော တပည့်တော်သည် မွန်ပြည်နယ်အတွင်းရှိ သံဃာတော်တို့၏ကိုယ်စားသထုံ အခြေခံဒေသ ဘီးလင်းမြို့ လေသာစာသင်တိုက်မှ ဝါယမ ဖြစ်ပါသည် ဘုရား။

ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ထောက်ခံဆွေးနွေးရာမှာ တပည့်တော်ရရှိထားတဲ့ အချိန်အတိုင်းအတာအရ အခန်း (၃) ဝိနည်းဓိုရ်ပုဂ္ဂိုလ်များ ရွေးချယ်တင်မြှောက်ခြင်းဆိုတဲ့အကြောင်းကို ဝေဖန်သုံးသပ်ပြီး အကြံပေးထောက်ခံသွားမှာ ဖြစ်ပါတယ်။ အခန်း (၃) မှ — အပိုဒ် ၆ မှ— အပိုဒ် ၂၀ အထိ အပိုဒ်ပေါင်း ၁၅ ခု ရှိပါသည် ဘုရား။ အပိုဒ်များကို ခွဲခြားလိုက်ယင် ဝိနည်းဓိုရ်ဖြစ်နိုင်တဲ့ အရည်အချင်း သတ်မှတ်မှု၊ ဝိနည်းဓိုရ် ရွေးချယ်ရာမှာ ဆန္ဒပေးခွင့်ရှိတဲ့ ရဟန်းတော်များရဲ့ အင်္ဂါအရည်အချင်း သတ်မှတ်ချက်၊ သံဃာ့ဦးရေအလိုက် ဝိနည်းဓိုရ်ရွေးချယ်ရမည့်အရေအတွက်၊ အမျိုးအစား၊ အရည်အချင်းပျက်ယွင်းယင် ဝိနည်းဓိုရ်ဆရာတော်မှ ပယ်ဖျက်ပြီး အစားထိုးရွေးချယ်ရန် ဝိနည်းဓိုရ်လုပ်ရမည့်ပုဂ္ဂိုလ်များကို တိတိကျကျ မှတ်သားထားတာ တွေ့ရပါတယ် ဘုရား။

ဒီအချက်တွေထဲက တပည့်တော် အကြံပေးလိုတာကတော့ အပိုဒ် ၁၃ ဖြစ်ပါတယ်။ ဒီအပိုဒ် ၁၃ မှာ မြို့နယ်တခုအတွင်းမှ—

(၁) သံဃာ ၅၀ မှ ၁၀၀ အထိ ဝိနည်းဓိုရ် ၃ ပါး၊
(၂) သံဃာ ၁၀၁ မှ ၂၀၀ အထိ ဝိနည်းဓိုရ် ၅ ပါး၊
(၃) သံဃာ ၂၀၁ မှ ၃၀၀ အထိ ဝိနည်းဓိုရ် ၇ ပါး၊
(၄) သံဃာ ၃၀၁ မှ ၅၀၀ အထိ ဝိနည်းဓိုရ် ၁၀ ပါး၊
(၅) သံဃာ ၅၀၁ မှ ၁၀၀၀ အထိ ဝိနည်းဓိုရ် ၁၅ ပါး၊
(၆) သံဃာ ၁၀၀၁ မှ အထက် ဝိနည်းဓိုရ် ၂၀ ပါး၊

လို့ ဖော်ပြထားပါသည် ဘုရား။

ဒီ အချိုးအစားအတိုင်း ဝိနည်းဓိုရ်ပုဂ္ဂိုလ်များ ရွေးချယ်ရာ တပြည်လုံး ရဟန်း, သံဃာ ၁၀၉၀၃၂ ပါးမှ ဝိနည်းဓိုရ်ပုဂ္ဂိုလ် ၃၀၀၀ ကျော် ရရှိမည် ဖြစ်ပါသည် ဘုရား။ ဒီ အချိုးသတ်မှတ်ချက်ဟာ ကောင်းပင်ကောင်းသော် လည်း ဘုရားကပည့်တော်အနေနဲ့ စိုးရိမ်မှု ရှိပါတယ်။ တပည့်တော်လေ့လာ ကြည့်ရသလောက် တချို့မြို့နယ်များမှာ ရဟန်း, သံဃာဦးရေ အလွန် နည်းပါးနေတာကို တွေ့ရပါတယ် ဘုရား။ ဥပမာ—ကချင်ပြည်နယ် ဝိုင်း မော် မြို့နယ်မှာ သံဃာ ၃၂ ပါး၊ စစ်ကိုင်းတိုင်း တမူးမြို့နယ်မှာ သံဃာ ၂၄ ပါး၊ မကွေးတိုင်း ချောက်၊ စေတုတ္တရာမြို့နယ်မှာ သံဃာ ၇၇ ပါး၊ သံဃာဦးရေ အချိုးအစား မရှိတဲ့ မြို့တွေမှာ အနည်းဆုံး ဝိနည်းဓိုရ်ပုဂ္ဂိုလ် ၃ ပါးသာ ရွေးချယ်ခွင့်ရှိတာကို တွေ့ရပါတယ် ဘုရား။ ဝိနည်းဓိုရ်ပုဂ္ဂိုလ် ရွေးချယ်ထားတဲ့အတွက် ဒီမြို့နယ်တွေမှာ ဝိနည်းဓိုရ် ၃ ပါးသာရှိတော့မည် ဖြစ်၍ ဒီပုဂ္ဂိုလ်တွေဟာ အလိုအလျောက် အမြဲတမ်းဝိနည်းဓိုရ်များဖြစ်သွား ပါသည် ဘုရား။ တပည့်တော်တို့ မွန်ပြည်နယ်၊ ချောင်းဆုံမြို့နယ် နှင့် သံဖြူ ဇရပ်မြို့နယ်မှာဆိုယင် သံဃာ ၃၀၀ ကျော်သာရှိတဲ့အတွက် ဝိနည်းဓိုရ် ပုဂ္ဂိုလ် ၁၀ ပါးသာ ရွေးချယ်ခွင့်ရှိမည် ဖြစ်ပါသည် ဘုရား။ ဝိနည်းဓိုရ် အရေအတွက်က နည်းလွန်းနေတဲ့အတွက် အလှည့်ကျ လှည့်လည်ခန့်ထား ပေးဖို့ အခက်အခဲရှိမယ်လို့ ထင်ပါတယ် ဘုရား။ ဒါကြောင့်လည်း လက် တွေ့ လုပ်ကိုင်ဆောင်ရွက်တဲ့နေရာမှာ အခက်အခဲ မရှိရအောင် ဖော်ပြပါ အတိုင်း ဝိနည်းဓိုရ်အရေအတွက် တိုးမြှင့်ပေးဖို့ အကြံပြုလိုပါတယ် ဘုရား။

(က) သံဃာ ၅၀ မှ ၁၀၀ အထိ ဝိနည်းဓိုရ်ဦးရေ ၇ ပါး၊
(ခ) သံဃာ ၁၀၁ မှ ၂၀၀ အထိ ဝိနည်းဓိုရ်ဦးရေ ၁၃ ပါး၊



ရခိုင်ပြည်နယ် ကျောက်ဖြူအခြေခံဒေသမှ ဆရာတော် ဦးကလျာဏ
ဆွေးနွေးလျှောက်ထားစဉ်

(ဂ) သံဃာ ၂၀၁ မှ ၃၀၀ အထိ ဝိနည်းဓိုရ်ဦးရေ ၁၉-ပါး၊
(ဃ) သံဃာ ၃၀၁ မှ ၅၀၀ အထိ ဝိနည်းဓိုရ်ဦးရေ ၂၅-ပါး၊
(င) သံဃာ ၅၀၁ မှ ၁၀၀၀ အထိ ဝိနည်းဓိုရ်ဦးရေ ၃၁-ပါး၊
(စ) သံဃာ၁၀၀၁ မှ အထက် ဝိနည်းဓိုရ်ဦးရေ ၃၇-ပါး၊

ကျ ရွေးချယ်သင့်ပါတယ်ဘုရား။

နိဂုံးချုပ်အနေအားဖြင့် ဘုရားတပည့်တော် လေသာစာသင်တိုက်မှ ဝါယမက ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို အခန်း (၃)၊ အပိုဒ် ၁၃ - ပြင်ဆင်ချက်နှင့် တကွ ထောက်ခံကြောင်း လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်အပေါင်းတို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ရခိုင်ပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးကလျာဏ (ရခိုင်ပြည်နယ်)။** ။မြို့နယ်အခြေခံဒေသ ပြည်နယ်/တိုင်း အသီးသီးတို့မှ ကြွရောက်တော်မူလာကြသော သံဃာ့ဝန်ဆောင် ဆရာတော်၊ ဩဝါဒါစရိယ ဆရာတော်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်၊ တိပိဋကဓရ ဘဏ္ဍာဂါရိက ဆရာတော်၊ သံဃကိုယ်စားလှယ် ဆရာတော်တို့အား ဂါရဝ တရားရှေ့ထား၍ လေးစားစွာ လျှောက်ထားအပ်ပါသည် သံဃာတော် ဆရာတော် အရှင်မြတ်တို့ ဘုရား။ ဘုရားတပည့်တော် ကျောက်ဖြူ အခြေခံဒေသ ပင်လယ်နားကျောင်းမှ ကလျာဏက ရခိုင်ပြည်နယ် သံဃာတော် များရဲ့ ကိုယ်စား ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ် သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ထောက်ခံဆွေးနွေးပါမည်ဘုရား။

ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြစ်ပေါ်လာတိုင်း ဝိနိစ္ဆယ အဖွဲ့တွေ ဖွဲ့စည်းပြီး စစ်ဆေးဆုံးဖြတ်ဖို့ မဟုတ်ပါ ဘုရား။ ရှေးဦးစွာ ရပ်ကွက်/ကျေးရွာ သံဃနာယကအဖွဲ့၊ ထို့နောက် မြို့နယ်နှင့် ပြည်နယ်/တိုင်း သံဃနာယကအဖွဲ့များ ရှေ့မှောက်မှာ စေ့စပ်ပြေငြိမ်း ခွင့်ပြုထားတဲ့ အတွက် အချိန်ကုန် လူပန်း မဖြစ်ရတော့ပါဘုရား။ ပြေလည်အောင်ငြိမ်းသည့်နည်းမှာ မိမိတို့ရပ်ကွက်/ကျေးရွာ အုပ်စုအတွင်း၊ မြို့နယ်အတွင်းမှာ အဖြစ်မှန် သိရှိနားလည်ကြပြီးဖြစ်လို့ နှစ်ဘက်တွေ့ဆုံ ညှိနှိုင်းသိုက်သင် ပြေငြိမ်းသွားမည့် အမှုတွေ ရှိပါသည် ဘုရား။

ဒီအမှုမျိုးတွေ အတွက် အချိန်ကုန်လူပန်းခံပြီး ဝိနိစ္ဆယအဖွဲ့များ ဖွဲ့ပြီး

စစ်ဆေးဆုံးဖြတ်ရန် လိုတော့ပါဘုရား။ ကြီးတဲ့အမှု–ငယ်အောင်၊ ငယ်တဲ့အမှု–ပပျောက်အောင် ဆောင်ရွက်တဲ့နည်း ဖြစ်ပါတယ်ဘုရား။ ဆရာသမားရဲ့ ဩဝါဒကို နာယူတဲ့အတွက် နောင်လာ နောင်သားများ အတုယူနိုင်စရာ ထုံးတခုဖြစ်သွားနိုင်ပါတယ် ဘုရား။ သံဃနာယကအဖွဲ့ မရှိ အသွားအလာ ခက်ခဲတဲ့နေရာများမှာလည်း ဆောင်ရွက်လို့ ရအောင် အပြည့်အစုံ ညွှန်ကြားဘာ တွေ့ရပါတယ်ဘုရား။ ဤလုပ်ထုံးလုပ်နည်း မူကြမ်းစာအုပ် အခန်း ( ၂ ) ပါ ပြေလည်အေးငြိမ်း နည်း၃ - နည်းကို တပည့်တော် ဖတ်ကြား တင်ပြပါမည် ဘုရား။

(က) ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြစ်ပွားသော၊ သို့တည်းမဟုတ် သက်ဆိုင်သော နှစ်ဦးနှစ်ဘက် ကာယကံရှင် ပုဂ္ဂိုလ်တို့သည် မိမိတို့နှင့် သက်ဆိုင်ရာ ရပ်ကွက်/ကျေးရွာ သံဃနာယကအဖွဲ့သို့ ဖြစ်ပေါ်သော ပြဿနာကို တင်ပြ၍ ဖြေရှင်းပြေလည် အေးငြိမ်းစေခြင်း၊

(ခ) ရပ်ကွက်/ကျေးရွာ သံဃနာယကအဖွဲ့တွင် ပြဿနာ ပြေငြိမ်းမှု မရရှိပါက မြို့နယ်သံဃနာယကအဖွဲ့သို့ အချင်းဖြစ် ပြဿနာကို တင်ပြ၍ ပြေလည်အေးငြိမ်းစေခြင်း၊

(ဂ) မြို့နယ်သံဃနာယကအဖွဲ့ဖြင့် ပြဿနာ ပြေငြိမ်းမှု မရရှိပါက ပြည်နယ်/တိုင်း သံဃနာယကအဖွဲ့သို့ အချင်းဖြစ် ပြဿနာကို တင်ပြ၍ ပြေလည်အေးငြိမ်းစေခြင်း။

ဤအချက်များသည် ဓမ္မဝိနယနှင့် အလွန်တရာမှ သင့်လျော် ညီညွတ်နေသဖြင့် လေးလေးနက်နက် ထောက်ခံကြောင်း လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ ဆက်လက်၍ ရန်ကုန်တိုင်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးဧယျဓမ္မ (ရန်ကုန်တိုင်း)။** ။သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြကုန်သော သုပ္ပဋိပန္နတာ အစရှိသော ဂုဏ်တော်များနှင့် ပြည့်စုံတော်မူကြကုန်သော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယခုအစည်းအဝေးကြီး၌ သံဃာ့ဝန်ဆောင်အဖွဲ့က တင်သွင်းအပ်သော ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို



ရန်ကုန်တိုင်း တွံတေးအခြေခံဒေသမှ ဦးဥေ ယျ ထောက်ခံဆွေးနွေးစဉ်

ဘုရားတပည့်တော် သန့်လျှင် အခြေခံဒေသ တွံတေးမြို့ ကျုံးကြီးပဋိယတ္တိ စာသင်တိုက် ဥက္ကဋ္ဌမ္မက ရန်ကုန်တိုင်း သံဃာတော်များ ကိုယ်စား ဆွေးနွေးထောက်ခံပါသည် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဤအစည်းအဝေးကြီး၌ သံဃာ့ဝန်ဆောင် ဆရာတော်များအဖွဲ့က တင်သွင်းအပ်သော ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများမှာ ကြီးမားလှသော သာသနာ့ အန္တရာယ်ကြီးများ အထင်အရှား ပေါ်ပေါက်နေချိန်ဝယ် ယင်းအန္တရာယ်ကြီးများကို တားဆီးကာကွယ်ရန် အချိန်မီ အခါသင့် ပွင့်ထွန်းထွက်ပေါ်လာသဖြင့် အားရဝမ်းသာ ကြိုဆိုထောက်ခံလိုပါသည် အရှင်ဘုရား။

ဤလုပ်ထုံးလုပ်နည်း မူကြမ်းတခုလုံးကို ဘုရားတပည့်တော်များ အကြိမ်ကြိမ်ပင် သုံးသပ်လေ့လာပြီး ဖြစ်ပါသည်ဘုရား။ သို့ပါသော်လည်း ယင်းမူကြမ်းတခုလုံးကို ကျိုးကြောင်း ထောက်ဆလျက် ဝေဖန်ထောက်ခံရန်မှာ အချိန်တိုတောင်းလှပါသဖြင့် ဝိနည်းဓိုရ်ပုဂ္ဂိုလ်များ ရွေးချယ် တင်မြှောက်ခြင်း အခန်း (၃) ကို ပဓာနထား၍ စကားမကျယ် အနည်းငယ် တင်ပြလိုပါသည် ဘုရား။

ယင်းအခန်း (၃) လာ ဝိနည်းဓိုရ်များ၏ ဂုဏ်အင်္ဂါများကို စိစစ်ကြည့်သည့်အခါ 'တီဏိပိ ဝိနယဓရဿ လက္ခဏာနိ ဣစ္ဆိတဗ္ဗာနိ၊ ကတမာနိ၊ တီဏိ၊ သုတ္တဉှဿ သွာဂတံ ဟောတိ သုပ္ပဝတ္တိ သုဝိနိစ္ဆိတံ သုတ္တ သောအနုဗျဉ္ဇသောတိ ဣဒ မေတံ လက္ခဏံ၊ ဝိနယေ ခေါ ပန ဌိတော ဟောတိ အသံဟီရောတိဣဒံ ဒုတိယံ အာစရိယပရမ္ပရာ ခေါ ပန နဿသုဂ္ဂတိတာ ဟောတိ သုမနသိကတာ သူပဓာရိတာတိ ဣဒံတတိယံ' ဟူသော ဝိနယသင်္ဂဟအဋ္ဌကထာ စာမျက်နှာ ၃၂၂-လာ ဝိနည်းဓိုရ်၏ ဂုဏ်အင်္ဂါလက္ခဏာများကိုလည်းကောင်း၊ နဆန္ဒာဂတိ ဂန္တဗ္ဗာ အစရှိသော ဝိနယပိဋကပရိဝါရ ပါဠိတော်လာ ဝိနည်းဓိုရ်၏ ဂုဏ်အင်္ဂါလက္ခဏာများကိုလည်းကောင်း ခြုံမိ ငုံမိစေလျက် (ခ) ဝိနယဓမ္မ၌ ကျွမ်းကျင်လိမ်မာစေရမည်၊ (ဂ) ဝိနည်းတော်ကို လေးစားမြတ်နိုး၍ အကျင့်သိက္ခာဂုဏ်နှင့် ပြည့်စုံရမည်။ (ဃ) အဂတိတရားလေးပါး လိုက်စားခြင်းမှ ကင်းစင်ရမည် စသည်ဖြင့် ယင်းဂုဏ်အင်္ဂါလက္ခဏာများကို အဓိကထား၍ သတ်မှတ်ပြဌာန်းထားသည် ဖြစ်ရကား ဘုရားရှင် ဆန္ဒတော်နှင့် ဇမ္ဗူရာဇ်ရွှေ နှင့် သင်္ဂီရွှေ ဟု နှစ်ထွေမပြား တသားတည်း ရောစပ်သွားသကဲ့သို့ တသားတည်း ညီညွတ်လှပါသဖြင့် ဘုရားတပည့်တော်များအဖို့ ပယ်ဖျက်ရန် မမြင် ဖြည့်စွက်ရန် မရှိ ဝမ်းဆီထိသို့ ပီတိ ဖြစ်ရပါသည်ဘုရား။

ဤကဲ့သို့ ဂုဏ်အင်္ဂါနှင့် ပြည့်စုံသည့် ဝိနည်းဓိုရ်ပုဂ္ဂိုလ်များ၏ ဝိနည်းဒေသနာတော်နှင့် အညီ စစ်ဆေးဆုံးဖြတ်ခြင်းသည် ငါဘုရား၏ သာသနာတော်ကို စောင့်ရှောက်ပြုစုခြင်းပင် ဖြစ်သည် ဟူ၍လည်းကောင်း၊ ပညာရှိများ သိတင်းသုံးဖော်များတို့ ချစ်ခင်နှစ်သက်အပ်–အလေးအမြတ်ပြုအပ်–စိတ်နှလုံးကို ပွားစေအပ်သည် ဟု လည်းကောင်း ဘုရားရှင် ကိုယ်တော်တိုင်ပင်လျှင် ဝိနယပိဋကပရိဝါရ ပါဠိတော် စာမျက်နှာ (၂၈၈) ၌ 'ဝေဠု ပန အနုဝိဇ္ဇကော အနုဝိဇ္ဇမာနော သတ္ထုသာသနကရော ဟောတိ ဝိညူနဥ္စ ပြဟ္မစာရိနံ ပိယောစ ဟောတိ မနာပေါစ ဂရုစ ဘာဝနီယောစ' ဟူ၍ ကျူးရင့် မြွက်ဖော်ဟောကြားတော်မူခဲ့သဖြင့် ဝိနည်းဒေသနာတော်နှင့်အညီ ရေးသားစီရင်ထားသည့် ဤဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာကို နည်းလမ်းညွှန်ပြပေးသော လုပ်ထုံးလုပ်နည်းများကိုလန်ကွက်ရန်မှာ ဘုရားရှင်၏ အလိုဆန္ဒတော်ကို ဆန့်ကျင်ဖက်ပြုရာ ရောက်မည်စိုးပါ၍ စိတ်ဖြင့်ပင် မကြံစည်ဝံ့ပါဘုရား။ သို့ပါ၍ ဘုရားတပည့်တော်များအဖို့ သံဃာ့ဝန်ဆောင် ဆရာတော်များ အဖွဲ့က တင်သွင်းအပ်သည့် ဤဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ခြွင်းချက်မရှိ ထောက်ခံပါကြောင်းကို ရိုသေလေးစွာ လျှောက်ထား ပန်ကြားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူးဆရာတော်က။** ။ဆက်လက်၍ ရှမ်းပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးဝေပုလ္လာဘိဝံသ (ရှမ်းပြည်နယ်)။** ။ဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများ၊ သဘာပတိ ဆရာတော်ဘုရားကြီးများ အမှူးရှိသော ဂိုဏ်းပေါင်းစုံမှ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရားတပည့်တော် တောင်ကြီး အခြေခံဒေသ ညောင်ရွှေမြို့နယ်၊ အင်းလေးဟဲယားရွာမ၊ ရွှေဘုံသာ သဒ္ဓမ္မဝုတ္တိကာရီ စာသင်တိုက် ဝေပုလ္လာဘိဝံသ က ရှမ်းပြည်နယ် သံဃာတော်များ၏ ကိုယ်စား ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ခွင့်ပြုချက်အချိန် ၅ မိနစ်အတွင်း တိုတိုကျဉ်းကျဉ်း လိုရင်းအချက်ကိုသာ ထောက်ခံဆွေးနွေးမည် ဖြစ်ပါသည် ဘုရား။

ဤလုပ်ထုံးလုပ်နည်းများ မူကြမ်းတွင် 'ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများကို စတင်ဖြေလည် အေးငြိမ်းစေခြင်း' ဟူသော အခန်းနံပါတ် (၂)



ရှမ်းပြည်နယ် ညောင်ရွှေမြို့မှ ဦးဝေပုလ္လာဘိဝံသ ဟောကြားခဲ့သည်ဆွေးနွေးစဉ်

ကို အဓိကထား၍ ထောက်ခံဆွေးနွေးလိုပါသည် ဘုရား။ ဝိနည်းဓမ္မကံ ဆိုသည်မှာ – ဝိနည်းတရားတော် အားလျော်စွာ တရားသဖြင့် ဆောင်ရွက် အပ်သော မှုခင်းများဖြစ်ကြောင်း။ အဓိကရဏ်း ဆိုသည်မှာ – ဝိဝါဒါ ဓိကရဏ်း စသည်ဖြင့် (၄) မျိုးရှိကြောင်း ဆရာတော် သံဃာတော်များ သိတော်မူပြီးဖြစ်ပါသည် ဘုရား။

ဗုဒ္ဓသာသနာတော်အတွင်းမှာ သာသနာဝန်ထမ်းအချင်းချင်း ဖြစ်ပွား တတ်သည့် ဖော်ပြပါအဓိကရဏ်းမှုခင်းများကို ငြေလည်ငြိမ်းအေးစေနိုင်ရန် သမ္မုခါဝိနယ စသော သမထ (၇) ပါးကို မြတ်စွာဘုရားကိုယ်တော်တိုင် ဟောကြားတော်မူခဲ့ပြီးဖြစ်ပါသည် ဘုရား။

ယင်းအဓိကရဏ်း (၄) မျိုးအနက် 'မည်သည့်အဓိကရဏ်းကို မည်သည့် သမထဖြင့် ပြေလည်ငြိမ်းအေးစေရမည်' ဟူလည်း အဋ္ဌကထာဆရာတော် ကြီးများက ညွှန်ကြားတော်မူခဲ့ပြီးဖြစ်ပါသည် ဘုရား။

သို့ရာတွင် ယင်းဟောကြား ညွှန်ပြခဲ့သည့်အတိုင်း ဝိနည်းဓမ္မကံ အဓိ ကရဏ်းမှုခင်းများကို ဖြေရှင်းဆုံးဖြတ်နိုင်ရန် သင့်လျော်လျောက်ပတ်သည့် လုပ်ထုံးလုပ်နည်းများကိုမူ ကာလ ဒေသ အခြေအနေအရ လိုအပ်လာပါ သည် ဘုရား။ ယင်းသို့ လိုအပ်လာသည်ဖြစ်သောကြောင့် ၁၃၄၂ ခုနှစ်၊ နယုန်လဆန်း ၁၁ ရက်နေ့က ဤဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီးသို့ ဝိနည်းဓမ္မကံ အဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ (မူကြမ်း) ကို သံဃာ့ဝန်ဆောင်ဆရာတော်များက ဖတ်ကြား တင်သွင်းခဲ့ပါသည် ဘုရား။

ယင်းမူကြမ်း အခန်း ၂၊ အပိုဒ် (၃)၊ (၄)၊ (၅) တို့မှာ ရပ်ကွက်/ကျေးရွာအုပ်စုတခုခုအတွင်း ဝိနည်းဓမ္မကံ အဓိကရဏ်းမှုခင်း တစုံ တခုဖြစ်ပေါ်လာလျှင် ယင်းမှုခင်းကို ဝိနိစ္ဆယဌာနများသို့ တိုက်ရိုက် မရောက်စေသေးဘဲ–

(က) သက်ဆိုင်ရာ ရပ်ကွက်/ကျေးရွာအုပ်စု သံဃာ့နာယကအဖွဲ့သို့ လည်းကောင်း၊

(ခ) မြို့နယ် သံဃာ့နာယကအဖွဲ့သို့ လည်းကောင်း၊

(ဂ) ပြည်နယ်/တိုင်း သံဃာ့နာယကအဖွဲ့သို့ လည်းကောင်း၊

တဆင့်ပြီးမှ တဆင့် တင်ပြ၍ ဝိနည်းဓမ္မကံနှင့်အညီ ပြေလည်ငြိမ်းအေး စေရသည့် လုပ်ထုံးလုပ်နည်းများ ဖြစ်ပါသည် ဘုရား။

ယင်းလုပ်ထုံးလုပ်နည်းများမှာ သံဃာ့နာယကအဖွဲ့ အဆင့်ဆင့်က ကြီးသည့်အမှု ငယ်စေရန် – ငယ်သည့်အမှု ပပျောက်စေရန်အတွက် 'ဘိန္နာနံ သန္ဓာတာ' ဟူသည်နှင့်အညီ စောဒက စုဒိတက နှစ်ဦး နှစ်ဘက်တို့ အား မေတ္တာရှေ့ထား၍ ရှေးဦးစွာ စေ့စပ် ပြေငြိမ်း စေသည့် နည်းလမ်း များဖြစ်သည်ဟု ယူဆပါသည် ဘုရား။

ထို့ပြင် သံဃာ့နာယကအဖွဲ့အစည်းများက ဦးဆောင်သည့် လုပ်ထုံးလုပ်နည်းများဖြစ်ခြင်းကြောင့် ပုဂ္ဂိုလ်ဦးဆောင်ခြင်းထက် အဂတိလိုက်စားမှုများ နည်းပါးနေသည်ဟု ယူဆပါသည် ဘုရား။ ယင်းလုပ်ထုံးလုပ်နည်းများမှာ—

> 'သံဃာ့အဖွဲ့အစည်းအဆင့်ဆင့်သည် သာသနာရေးကိစ္စများကို ဆောင်ရွက်ရာ၌ သံဃဂရုကေန ဘဝိတဗ္ဗံ၊ နောပုဂ္ဂလ—ဂရုကေန ဓမ္မဝိနယကို အလေးပြုခြင်းဖြင့် သံဃာကိုသာ အလေးဂရုပြုရမည်၊ ပုဂ္ဂိုလ်ကို အလေးမပြုရ ဟူသော ပရိဝါ ပါဠိတော်နှင့်အညီ စုပေါင်းဆောင်ရွက်ခြင်း၊ စုပေါင်းဦးဆောင်ခြင်း၊ စုပေါင်းဆုံးဖြတ်ခြင်း'

စသည်ဖြင့် ဖော်ပြထားသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း အခန်း ၂၊ အပိုဒ် (၆) ပါ အခြေခံမူနှင့်လည်း တသားတည်း ညီညွတ်ပါသည် ဘုရား။

ထိုမှတပါး ဤလုပ်ထုံး လုပ်နည်းများမှာ အဓိကရုဏ်း မှုခင်းများကို ဖြေရှင်းဆုံးဖြတ်ရာ၌ ဝိနည်းဓမ္မကံနှင့်ညီညွတ်အောင် လုပ်ကိုင်ဆောင်ရွက်တတ်ရန် နည်းလမ်းများကို ညွှန်ပြခြင်းမျှသာ ဖြစ်၍ 'သံဃော အပညတ္တံ နပ္ပညပေတိ' စသော စူဠဝဂ္ဂပါဠိတော်နှင့်လည်း ဆန့်ကျင်မှု မရှိဟု ယူဆပါသည် ဘုရား။

သို့ဖြစ်ပါ၍ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတဝန်းလုံးမှ သံဃသမ္မုတိရ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးက အတည်ပြု ပြဋ္ဌာန်းပေးတော်မူပါရန် ရှမ်းပြည်နယ် သံဃာတော်များကိုယ်စား တပည့်တော် ဝေပုလ္လာဘိဝံသက လေးလေးနက်နက် ထောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ရှေ့တိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးသောဘဏ (ရော ၀ တီ တိုင်း)။** ။ပြည်နယ် / တိုင်းအသီးသီးမှ ကြွရောက်တော်မူကြကုန်သော ဩဝါဒါစရိယဆရာတော်၊ နာယကဆရာတော်နှင့်တကွ အားလုံးသောဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ တပည့်တော် ရောဝတီတိုင်း၊ မြောင်းမြအခြေခံဒေသ မြောင်းမြ မြို့နယ် ဝေဠုဝန်ကျောင်း တပည့်တော် သောဘဏက ရောဝတီတိုင်း၌ သီတင်းသုံးနေထိုင်ကြသော ရဟန်း, သံဃာတော်တို့၏ ကိုယ်စား ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးခင်ရာ လုပ်ထုံးလုပ်နည်း များ မူကြမ်းကို ထောက်ခံဆွေးနွေးပါမည် ဘုရား။ တပည့်တော် ရှိသော အချိန်အတိုင်းအတာအရ အခန်း ၈၊ သံဃဝိနိစ္ဆယအဖွဲ့၏ ဆုံးဖြတ်ချက်ကို လိုက်နာစေခြင်းအကြောင်းကို အဓိကထား၍ ဆွေးနွေးပါမည် ဘုရား။

ဤမူကြမ်း စာမျက်နှာ ၂၊ အခန်း ၈၊ အပိုဒ် ၅ (၈) ၌ သင့်လျော်သော အချိန်ရောက်သော် သံဃဝိနိစ္ဆယအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ မြို့နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့က ဆောင်ရွက်ပေးရမည်ဟု ပါရှိရာ တိုပုဒ်မ (က) အရ မရွှေ့ပြောင်းနိုင်သောပစ္စည်းများကို (ခ) အရ ရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို ပိုင်ဆိုင်လက်ငယ်ရထိုက်သူများအား စာရင်းနှင့်တကွ အပြည့်အစုံ လွှဲအပ်ပေးရန်ဟု ဆိုပါသည်။

ရဟန်း, ရှင်, လူ မည်သည့်ပုဂ္ဂိုလ်မဆို မိမိသက်ဝယ် ရထိုက်သောပစ္စည်း များကို မိမိရရှိမှုမှာ အလွန်ပင်ဖြစ်သင့်သော တရားသဘောနှင့် ဆန့်ကျင်သော အခွင့်အရေးတရပ် ဖြစ်ပါသည်။ အပိုဒ် ၅(က) (ခ) တို့ကို အကြောင်းပြု၍ သူတော်စင်တို့ ရရှိသော အခွင့်အရေးကိုရနိုင်ကာ လောကီ အကျိုး လောကုတ္တရာအကျိုးတို့ကို ဆောင်ရွက်နိုင်ကြပါလိမ့်မည်။ သူတပါး ပိုင်ပစ္စည်းကို မတရားရလိုမှုကို အခြေခံကာ တရားတွေ့ကြသောပုဂ္ဂိုလ်များ လည်း နောက်တွန့် သွားကြပါလိမ့်မည်။

ထိုအပိုဒ် (၈) ၌ ဆုံးဖြတ်ချက်နှင့်အညီ ပါရာဇိကကျသော ရဟန်းကို သာမဏေ၊ သို့မဟုတ် လူပြုပေးရန် ပါရှိခဲ့ပါသည်။ မျက်မှောက်ခေတ်၌ ပညာရှိသူတော်ကောင်း ဝိနည်းဓိုရ်ပုဂ္ဂိုလ်တို့က ပါရာဇိကကျသည်ဟု ဆုံးဖြတ် ခံရစေကာ သာမဏေပြုမှု လူထွက်လဲမှုတို့ကို မပြုလုပ်ပဲ ရဟန်းအသွင်ဖြင့်နေ နေထိုင်ကြသောပုဂ္ဂိုလ်များ နေရာအနှံ့အပြား၌ ရှိကောင်း ရှိကြပါလိမ့်မည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်မြတ်တို့ ဘုရား။ နံနက်ပိုင်းအစည်းအဝေး ဆက်လက်ကျင်းပမည်ဖြစ်ပါ၍ သတ်မှတ်ထား သော နေရာအသီးသီးတွင် နေရာယူတော်မူကြပါရန် လျှောက်ထားပါသည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ အစီအစဉ်အရ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ်ဆရာတော်များက အသီးသီး ထောက်ခံဆွေးနွေးသွားကြပါသည် ဘုရား။

အဲဒီ ထောက်ခံ ဆွေးနွေးချက်များအပေါ်မှာ သံဃာ့ဝန်ဆောင်အဖွဲ့က ပြန်ကြားလျှောက်ထားရန် ဖြစ်ပါတယ် ဘုရား။ သံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ ကိုယ်စား ပြန်ကြားလျှောက်ထားမည့် မန္တလေးအခြေခံဒေသ ဗန်းမော်တိုက်မှ ဦးကုမာရာဘိဝံသ ကြွတော်မူပါ ဘုရား။

ဦးကုမာရာဘိဝံသ ( သံဃာ့ဝန်ဆောင် )။ ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ကျက်သရေ မင်္ဂလာအပေါင်းဖြင့် ပြည့်စုံသော ယခုအချိန်အခါမှာ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် 'ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ' နှင့် ပတ်သက်၍ ဂိုဏ်း ၃ ဂိုဏ်း၊ တိုင်း ၆ တိုင်း၊ ပြည်နယ် ၃ ပြည်နယ်တို့က အသီးသီး ထောက်ခံဆွေးနွေးသွားကြပါပြီ ဘုရား၊ ဘုရားတပည့်တော် မန္တလေးအခြေခံဒေသ မန္တလေးအရှေ့တောင်မြို့နယ် ဗန်းမော်တိုက်မှ ကုမာရာဘိဝံသက သံဃာ့ဝန်ဆောင်အဖွဲ့၏ကိုယ်စား ပြန်ကြားလျှောက်ထားပါမည် ဘုရား။

'ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာလုပ်ထုံးလုပ်နည်းများ' မူကြမ်း အစည်းအဝေးပွဲကြီး၏ စတုတ္ထ ကျင်းပနေ့မှာပင် မူလဒွါရဂိုဏ်း ကိုယ်စားလှယ်ဆရာတော် ဦးသူရိယက ရှေးဦးစွာ ထောက်ခံသွားပါသည် ဘုရား။ ထို့နောက် မဟာဒွါရဂိုဏ်း ကိုယ်စားလှယ်ဆရာတော်နှင့် ရွှေကျင်ဂိုဏ်း ကိုယ်စားလှယ်ဆရာတော်များက ထောက်ခံသွားကြပါသည် ဘုရား။ ၄ နံပါတ်အနေဖြင့် စစ်ကိုင်းတိုင်းဆရာတော်က ထောက်ခံ၍ ၅ နံပါတ်၊ ၆ နံပါတ်၊ ၇ နံပါတ်အနေတို့ဖြင့် ပဲခူးတိုင်း၊ မကွေးတိုင်း၊ မန္တလေးတိုင်း ဆရာတော်များက ထောက်ခံ ဆွေးနွေး သွားကြပါသည် ဘုရား။

အံ့ဖွယ်ရာစစ်ဖြာနှင့် ပြည့်စုံသည့် ဘုရားရှင့် သာသနာတော်သည် ပါရာဇိက ကျပြီးသော ရဟန်းတို့နှင့် လုံးဝမထိုက်တန်ပါ။ ပါရာဇိက ကျများ ရဟန်းအသွင်ဆောင်၍ နေထိုင်မှုသည်လည်း သာသနာတော် အတွက် တွေးလေ တွေးလေ အသွန်ကြောက်မက်ဖွယ်ရာ ကောင်းကြောင်း သိရပါသည်။ ဤစည်းမျဉ်းပါ အပိုဒ် ၅၈၊ အပိုဒ်ခွဲ ( ဂ ) အရ ဆိုအပ်ပြီးသော သာသနာ

ပုပ်ကောင်ကြီးများ၊ သာသနာတော်တည်း ဟူသော မဟာသမုဒ္ဒရာမှ လွင့်စဉ်သွားကြဖွယ်ရာရှိ၍ သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး အတွက် အလွန် ဝမ်းမြောက်ဖွယ် ဖြစ်ပါသည် ဘုရား။

တပည့်တော်အား တာဝန်ပေးအပ်သော ဤစည်းမျဉ်း မူကြမ်း အပိုဒ် ၅၈-တခုကို အကြောင်းပြု၍—

(က) ပစ္စည်းရှင် အစစ်ဖြစ်သော ပုဂ္ဂိုလ်များ မိမိတို့၏ ပစ္စည်းများကို တရားသဖြင့် ပြန်လည်ရရှိနိုင်ခြင်း၊

(ခ) မတရားသဖြင့် သူတပါးတို့၏ ပစ္စည်းကို ရလိုသူများ တရားတွေ့ရန် နောက်တွန့်သွားဖွယ် ရှိခြင်း၊

(ဂ) ပါရာဇိက ကျနေသော သာသနာ့ အညစ်အကြေး သာသနာ အပုပ်ကောင်ကြီးများ၊ သာသနာတော် တည်းဟူသော သမုဒ္ဒရာမှ လွင့်စဉ်သွားဖွယ်ရှိခြင်း၊ ဤအကျိုးတို့ကို ရရှိနိုင်မည့် ဤစည်းမျဉ်းမူကြမ်း တရပ်လုံးဖြင့် အတိုင်းမသိသော အကျိုး အဆက်ဆက်တို့ကိုလည်း ဧကန်ရရှိလိမ့်မည် ဟု ဘုရားတပည့်တော် ယုံကြည်ပါသည် ဘုရား။

ဤအကြောင်းအချက်များကြောင့် စည်းမျဉ်းမူကြမ်းကို ဘုရားတပည့်တော် လေးလေးနက်နက် ထောက်ခံပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ် ဘုရား။ ယခု တပည့်တော်တို့ အစည်းအဝေးကြီးကို ၁၀-မိနစ်ခန့် ခေတ္တရပ်နားပါမည် ဘုရား။ အစည်းအဝေးကို ၉-နာရီ ၃၅-မိနစ်တွင် ဆက်လက်ကျင်းပမည်ဖြစ်ကြောင်း လျှောက်ထားပါသည် ဘုရား။ အစည်းအဝေးကို ၁၀-မိနစ်ခန့် ခေတ္တရပ်နား၍ နံနက် ၉-နာရီ ၃၅-မိနစ် အချိန်တွင် ဆက်လက်ကျင်းပသည်။

**ဝိနည်းဓမ္မကံအဓိကရဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း) နှင့် ပတ်သက်၍ ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ်များ၏ ထောက်ခံဆွေးနွေးချက်များအပေါ် သံဃာ့ဝန်ဆောင် အဖွဲ့က ပြန်ကြားလျှောက်ထားခြင်း**

ထို့နောက် ဆက်လက်၍ မွန်ပြည်နယ်၊ ရခိုင်ပြည်နယ်၊ ရန်ကုန်တိုင်း၊ ရှမ်းပြည်နယ်၊ ဧရာဝတီတိုင်းတို့မှ ကိုယ်စားလှယ် ဆရာတော် အသီးသီးတို့က

မိမိတို့၏ တိုင်းနှင့် ပြည်နယ်ရှိ သံဃာတော်များ၏ ကိုယ်စား ဆွေးနွေး ထောက်ခံ၍ သွားကြပါသည် ဘုရား။ ကိုယ်စားလှယ် ဆရာတော်ပေါင်း ၁၂-ပါးတို့က ဝမ်းမြောက်ဝမ်းသာ ချီးကျူးထောမနာ၍ ဆွေးနွေး ထောက်ခံသွားကြသည်ကို သံဃာ့ဝန်ဆောင်အဖွဲ့က ကြားနာကြည်နူးမိကြ ပါသည် ဘုရား။

ဆွေးနွေးထောက်ခံချက် အားလုံးကို ခြုံ၍ သုံးသပ်ဆင်ခြင်လိုက်လျှင် ၂-မျိုး ၂-စားတွေ့ရပါသည် ဘုရား။ ၁-နံပါတ် အမျိုးအစားမှာ ယခု ရေးဆွဲထားသည့် လုပ်ထုံးလုပ်နည်း မူကြမ်းကို ဤအကြောင်း၊ ဤ အချက်များကြောင့် ဟု ချီးကျူးထောက်ခံကြခြင်း ဖြစ်ပါသည် ဘုရား။ ၂-နံပါတ် အမျိုးအစားမှာ ယခု ဝန်ဆောင်အဖွဲ့က တင်သွင်းသည့် လုပ် ထုံးလုပ်နည်း မူကြမ်းကို အကြောင်းနှင့်တကွ ချီးကျူးထောက်ခံရုံမျှသာ မကသေးပဲ အကြံပြုချက်များဖြင့် ထောက်ခံဆွေးနွေးသွားကြပါသည် ဘုရား။ အကြံပေး ထောက်ခံချက်များအနက်မှ ရွှေဦးစွာ မဟာဒွါရ ဂိုဏ်း၏ ကိုယ်စား အရှင်အဂ္ဂဓမ္မာလင်္ကာရ၏ အကြံပေးထောက်ခံချက်ကို ဘုရားတပည့်တော် ပြန်ကြားလျှောက်ထားပါမည် ဘုရား။ ဆရာတော် ဘုရားက အပိုဒ် ၅၄-မှာ ပါဝင်သည့် 'မူလအမှု ဆုံးဖြတ်သော မြို့နယ်ရှိ ဝိနည်းဓိုရ်များ မပါဝင်သော' ဟူသော ဝိသေသန စကားရပ်ကို ပို၍ သန့် ရှင်းသော ဝိနည်းဓိုရ်များရအောင် 'မူလအမှုဆုံးဖြတ်သည့် ဝိနည်းဓိုရ်များ နှင့် ထိုအမှုဖြစ်ရာ ပြည်နယ်/တိုင်းမှ ဝိနည်းဓိုရ်များ ပါဝင်သော' ဟူသော ဝိသေသန စကားရပ် ဖြည့်စွက်ရန် အကြံပြုထားပါသည် ဘုရား။

ဆရာတော်ဘုရား အကြံပြုချက်မှာ အလွန်ပင် ကောင်းပါသည် ဘုရား။ သို့ပါ၍ အပိုဒ် ၅၄ 'မူလဆုံးဖြတ်သည့် ဝိနည်းဓိုရ်များ' ဟူသော စကား ၏နောက်၌ 'ယင်းအမှုဖြစ်ရာ ပြည်နယ်/တိုင်းမှ ဝိနည်းဓိုရ်များ' ဟူသော စကားရပ်ကို ဖြည့်စွက်ပါလျှင် မူလ အပိုဒ် ၅၄-မှာ ဖော်ပြပါအတိုင်း ဖြစ်သွားပါသည် ဘုရား။

အပိုဒ် ၅၄-နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့သည် အယူခံ စောဒနာ ဝင်လွှာနှင့် အတူ စပ်ဆိုင်သော အမှုတွဲကို လက်ခံရရှိလျှင် တနိုင်ငံလုံး ရှိ ဝိနည်းဓိုရ်များ စာရင်းမှ မူလအမှု ဆုံးဖြတ်သည့် ဝိနည်းဓိုရ်များနှင့် ထို အမှုဖြစ်ရာ ပြည်နယ်/တိုင်းမှ ဝိနည်းဓိုရ်များ မပါဝင်သော ဝိနည်းဓိုရ် ဆရာတော် (၅) ပါးတို့ဖြင့် အယူခံစောဒနာဝင်၊ နိုင်ငံတော် သံဃဝိနိစ္ဆယ အဖွဲ့ကို (၁၅) ရက်အတွင်း သတ်မှတ်သည့် ပုံစံ (၁၄) ဖြင့် ဖွဲ့စည်းပေး ရမည်။

ဒုတိယအကြံပြုချက်ကို စစ်ကိုင်းတိုင်း မုံရွာမြို့၊ ဇောင်ဂျမ်းပင်တိုက် ဆရာတော် ဦးဩဘာသက တင်သွင်းခဲ့ပါသည် ဘုရား။ ထိုဆရာတော်က အပိုဒ် ၂၀-နောက်မှာ 'ကန့်ကွက်ချက်သည် အထောက်အထား ခိုင်လုံကြောင်း တွေ့ရှိရပါက အမှတ်စဉ်အတိုင်း အခြား ဝိနည်းဓိုရ် ဆရာတော် တပါးကို ထိုကန့်ကွက်ခံ ဝိနည်းဓိုရ် ဆရာတော်၏ နေရာ၌ အစားထိုး ခန့်ထားပေးရမည်' ဟု ဖြည့်စွက် ထောက်ခံခဲ့ပါသည် ဘုရား။

၎င်းဆရာတော်၏ အကြံပြုချက်သည် အလွန်ပင် ပြည့်စုံ၍ ကောင်းမွန်ပါသည် ဘုရား၊ ဆရာတော် အကြံပြုသည့်အတိုင်း ဖြည့်စွက်ရမည် ဆိုပါက လက်ရှိအပိုဒ် ၂၉-ကို (က) (ခ) ဟု ခွဲခြား၍ အပိုဒ် ၂၉ (က)မှာ—

> သက်ဆိုင်ရာ သံဃနာယကအဖွဲ့သည် အပိုဒ် ၂၀-အရ သံဃဝိနိစ္ဆယအဖွဲ့ဝင် တပါးပါးကိုလည်းကောင်း အားလုံးကိုလည်းကောင်း ကန့်ကွက်ကြောင်း တင်ပြလာပါက တင်ပြကန့်ကွက်ချက်သည် အထောက်အထား ခိုင်လုံကြောင်း တွေ့ရှိရလျှင် ဝိနိစ္ဆယအဖွဲ့ဝင် တပါးကိုသော်လည်းကောင်း၊ သံဃဝိနိစ္ဆယအဖွဲ့ဝင် အားလုံးကိုသော်လည်းကောင်း အမှတ်စဉ်အတိုင်း အစားခန့်အပ်ခြင်းနှင့် ပြန်လည်ဖွဲ့စည်းခြင်းကို လိုအပ်သလို ဆောင်ရွက်ပေးရမည်—

ဤကဲ့သို့ ဖြစ်သွားပြီးလျှင် မူလအပိုဒ် ၂၉-သည် (ခ) အဖြစ် ပြောင်းလဲသွားမည် ဖြစ်ပါသည် ဘုရား။

တတိယအကြံပြုချက်ကို ပဲခူးတိုင်း ပြည်မြို့ ဇောတိကာရုံပါဠိတက္ကသိုလ်မှ အရှင်ကုဏ္ဍလက တင်သွင်းခဲ့ပါသည် ဘုရား၊ ၎င်းဆရာတော်က အပိုဒ် ၃၃ ပါ ကိစ္စရပ်ကို ဆောင်ရွက်ရာ၌ ဆောင်ရွက်သူမှာ အကုသိုလ်တရား မဖြစ်ပွားစေရန် အတွက် သတိပေးချက်ကို ဘုရားတပည့်တော် များက လက်ခံ၍ နောင်အခါ ပေါ်လာမည့် နိုင်ငံတော် သံဃနာယကအဖွဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ရန် မေတ္တာရပ်ခံပေးမည် ဖြစ်ကြောင်း လျှောက်ထားအပ်ပါသည် ဘုရား။

နောက်ဆုံး စတုတ္ထအကြံပြုချက်ကို မွန်ပြည်နယ်၊ သထုံအာခြေခံဒေသ ဘီလင်းမြို့၊ လေသာစာတိုက်မှ အရှင်ဝါယာမက တင်သွင်းခဲ့ပါသည် ဘုရား။ ၎င်းဆရာတော်ဘုရားက အပိုဒ် ၃၃-ပါ ဝိနည်းဓိုရ် ရွေးချယ်သည့် အချိုးအစားကို ပြင်ဆင်ဖြည့်စွက် အကြံပြုထားပါသည် ဘုရား၊ ၎င်းအကြံပြုပြင်ဆင်ချက်သည် အလွန့်အလွန်ပင် ကောင်းမွန်လှပါသည် ဘုရား၊ ဆရာတော်

အကြံပြုသည့်အတိုင်းပင် ဝိနည်းမိုရ် ရွေးချယ်မည့် အချိုးအစားကို ပြင်ဆင်ပေးပါမည် ဘုရား။

ပြင်ဆင်လိုက်လျှင် အပိုဒ် ၁၃-အောက်၌ မူလရှိသော (က) (ခ) (ဂ) (ဃ) (င) (စ) ပါ ဝိနည်းမိုရ်ဦးရေ၊ အရေအတွက်များ ပျက်ပျယ်သွား၍ ယခု ဖော်ပြထားသည့်အတိုင်း ဖြစ်သွားပါမည် ဘုရား—

(က) သံဃာ ၅၀ မှ ၁၀၀ အထိ ဝိနည်းမိုရ် (၇) ပါး၊
(ခ) သံဃာ ၁၀၁ မှ ၂၀၀ အထိ ဝိနည်းမိုရ် (၁၃) ပါး၊
(ဂ) သံဃာ ၂၀၁ မှ ၃၀၀ အထိ ဝိနည်းမိုရ် (၁၉) ပါး၊
(ဃ) သံဃာ ၃၀၁ မှ ၅၀၀ အထိ ဝိနည်းမိုရ် (၂၅) ပါး၊
(င) သံဃာ ၅၀၁ မှ ၁၀၀၀ အထိ ဝိနည်းမိုရ် (၃၁) ပါး၊
(စ) သံဃာ ၁၀၀၁ မှ အထက် ဝိနည်းမိုရ် (၃၇) ပါး၊

ဤသို့ ပြင်ဆင်ချက်ကို သဘောတူလက်ခံပါလျှင် အပိုဒ် ၁၄-သည် အပိုဒ် ၁၃-နှင့် ဆက်နွယ်နေသောကြောင့် အပိုဒ် ၁၄-၏ ဝိနည်းမိုရ်အပါး အရေအတွက်ကိုလည်း ပြင်ဆင်ရန် လိုအပ်မည် ဖြစ်ပါသည် ဘုရား၊ ထို့ကြောင့် တပည့်တော်တို့ အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့က အချိုးအစား မမီသည့် မြို့နယ်များ အတွက် ဝိနည်းမိုရ် ဆရာတော် ၃-ပါး ရွေးချယ်နိုင်ခွင့်အစား ၅-ပါး ဟု ပြင်ဆင်ခွင့် ပြုပါရန် လျှောက်ထားပါသည် ဘုရား။

ထိုအပြင် အလွန်နောက်ကျမှ ရောက်လာသည့် အကြံပေး အဆိုပြုလွှာများကို အချိန်မရသည့် အတွက် ဆွေးနွေးခွင့် မပေးနိုင်သည်ကို ခွင့်လွှတ်တော်မူကြပါ ဘုရား၊ ၎င်းအကြံပေး အဆိုပြုလွှာများကို မှတ်တမ်းတင်ထား၍ နောင် သင့်လျော်သည့်အခါ ၎င်းအကြံပြုလွှာများကို အသုံးပြုသွားမည်ဖြစ်ပါသည် ဘုရား။

ဘုရားတပည့်တော် ဆက်လက်လျှောက်ထားလိုသည်မှာ 'ဝိနည်းမှုကို အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ' မူကြမ်းကို ကိုယ်စားလှယ် ဆရာတော် အသီးသီးတို့က ဝမ်းမြောက်ရွှင်လန်းစွာ ဆွေးနွေးထောက်ခံသွားကြသည့် အတွက် အထူးပဲ ကျေးဇူးတင်စွာ မှတ်တမ်းတင်ထားပါကြောင်းကို သံဃာ့ဝန်ဆောင်အဖွဲ့ ကိုယ်စား ဘုရားတပည့်တော် ကုမာရဘိဝံသက ရိုသေလေးစားစွာ ပြန်ကြားလျှောက်ထားအပ်ပါသည် ဘုရား၊ ၎င်းအပြင် ဘုရားတပည့်တော် ၁၃၄၂-ခု၊ နယုန်လဆန်း

၁၁-ရက်နေ့က တင်သွင်းခဲ့သော ဝိနည်းဓမ္မကံအင်္ဂါကန့်ကွက် မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ မူကြမ်းကို ယနေ့တင်ပြ ပြင်ဆင်ချက်များနှင့် တကွ ကြွရောက်တော်မူလာကြသော သံဃသမ္မုတိ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော်တို့က တညီတညွတ်တည်း ဤအစည်းအဝေးကြီးမှ အတည်ပြုပေးတော်မူကြပါရန် မန္တလေး အခြေခံသေ မန္တလေး အရှေ့တောင်မြို့နယ် ဗန်းမော်တိုက်မှ ဘုရားတပည့်တော် ကုမာရာဘိဝံသက အလေးအနက် တင်သွင်းလျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဝိနည်းဓမ္မကံ အဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ
လုပ်ထုံးလုပ်နည်းများ ( မူကြမ်း ) ကို အတည်ပြုခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။အစီအစဉ်အရ ဝိနည်းဓမ္မကံ အဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်း မူကြမ်းကို ဤအစည်းအဝေးကြီးက အတည်ပြုရန်ဖြစ်ပါတယ် ဘုရား၊ ဥက္ကဋ္ဌဆရာတော်ဘုရားကြီးက အတည်ပြုချက် ရယူပေးတော်မူပါရန် လျှောက်ထားပါသည် ဘုရား။

**ဥက္ကဋ္ဌဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ သံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ကိုယ်စား မန္တလေးအခြေခံသေပှ ဦးကုမာရာဘိဝံသက တင်သွင်း၍ ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ် ဆရာတော်များက ထောက်ခံဆွေးနွေးသွားကြသော ဝိနည်းဓမ္မကံ အင်္ဂါကန့်ကွက်မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ မူကြမ်းကို ဤအစည်းအဝေးကြီးက အတည်ပြုရန်အတွက် သဘောတူကြပါသလား ဘုရား၊ သဘောတူကြပါလျှင် ဆိတ်ဆိတ်နေတော်မူရန် ဖြစ်ပါတယ် ဘုရား၊ ဆရာတော်အရှင်သူမြတ်တို့ ဘုရား၊ သဘောတူကြပါက သာဓုအနုမောဒနာ သုံးကြိမ် ခေါ်တော်မူရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြပါသည်။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏
သာသနာဝင်မှတ်တမ်း ( မူကြမ်း ) ကို ဂိုဏ်းအလိုက်
ပြည်နယ်/တိုင်းအလိုက် ထောက်ခံဆွေးနွေးခြင်း

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ အစီအစဉ်အရ ပြည်

ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း မူကြမ်းကို ဂိုဏ်းအလိုက် ပြည်နယ်နှင့်တိုင်းအလိုက် ထောက်ခံဆွေးနွေးသွားကြရန် ဖြစ်ပါတယ် ဘုရား၊ ဒီလို ထောက်ခံဆွေးနွေးတဲ့နေရာမှာလဲ ဆရာတော်တပါးလျှင် ၅ မိနစ်သာ အချိန်ကန့်သတ်ထားပါတယ် ဘုရား၊ ထောက်ခံဆွေးနွေးမည့်ပုဂ္ဂိုလ်များသည် အချိန်ကိုလေးစားသောအားဖြင့် တိကျစွာလိုက်နာ၍ ဆွေးနွေးကြစေလိုပါတယ် ဘုရား၊ ရှေးဦးစွာ ဂဏဝိမုတ်ကူးတို့ဂိုဏ်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးကောသလ္လ ( ဂဏဝိမုတ်ကူးတို့ဂိုဏ်း )။ ။ဇိနသာသနံ စိရံ တိဋ္ဌတု သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော သဘာပတိ ဆရာတော်ဘုရားကြီးနှင့်တကွ ထေရနဝ မဇ္ဈိမ ဖြစ်တော်မူကြကုန်သော သမ္မုတိထေရ်ကျော် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဂဏဝိမုတ်ကူးတို့ဂိုဏ်းမှ သံဃာ့ကိုယ်စားလှယ်ဖြစ်တဲ့ ဘုရားတပည့်တော် ကောသလ္လက သာသနာဝင်မှတ်တမ်းကို ထောက်ခံဆွေးနွေးမည်ဖြစ်ကြောင်း ဦးစွာလျှောက်ထားပါသည် သံဃာတော်အရှင်မြတ်တို့ ဘုရား။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်ဝယ် သိက္ခာမတင် သိမ်မဝင်ပဲနဲ့ မိမိဘာသာ သင်္ကန်းဝတ်ကြပြီးတော့ သာသနာတော်နှင့် မလျော် မလျောက်ပတ်တဲ့ အပြုအမူ အပြောအဆိုတို့ကို ပြုလုပ်ပြောဆိုနေတိုင်ကြတဲ့ ရဟန်းတု ရဟန်းယောင်များ ပေါများနေတဲ့ ယခုလိုအချိန်အခါမျိုးမှာ အတုအယောင်နှင့် အစစ်အမှန်ကို ခွဲခြားသိနိုင်ဖို့ရန် သာသနာဝင်မှတ်တမ်းကို ကိုင်ဆောင်ရမည်ဟု ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးက အတည်ပြု ဖြဋ္ဌာန်းတော့မည်ဖြစ်ကြောင်း သိရပါသည် ဘုရား။

သမ္မုတိရထေရ်ကျော် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။ ယင်းသာသနာဝင်မှတ်တမ်းပါ အတွင်းစာသားများကို ကြည့်ရှုလိုက်တဲ့အခါမှာ ဘွဲ့အဘိ၊ သီတင်းသုံးရာဌာန၊ မွေးဖွားရာဒေသ၊ မွေးသက္ကရာဇ်၊ နိုင်ငံသား စသောအားဖြင့် ရှင်သာမဏေ ရဟန်းတော်တို့နှင့် ပတ်သက်တဲ့အချက်ပေါင်း ( ၁၇ ) ချက်တို့ကို ရေးသွင်းရန်ရှိသည်ကို တွေ့ရပါသည်။ ဤသို့အားဖြင့် လိုအပ်သော အချက်အလက်ပြည့်စုံမှုကြောင့် သာသနာဝင်ဖြစ်တော်မူကြကုန်သော ရဟန်းသစ် ရဟန်းဟောင်းများသာ ဤသာသနာဝင် မှတ်တမ်းကို ကိုင်ဆောင်ခွင့်ရကြသည်။ သာသနာဝင် မဟုတ်ကြသောရဟန်းတု ရဟန်းယောင်များမှာမူကား ကိုင်ဆောင်ခွင့် မရနိုင်တော့ပါ။ ရဟန်းတု

ရဟန်းယောင်များကို သာသနာတော်မှ ရွေးချယ်စိစစ် ဖယ်ရှားနှင်ထုတ်နိုင်တော့မည် ဖြစ်ပါသောကြောင့် သာသနာဝင်မှတ်တမ်း ကိုင်ဆောင်ခြင်းသည် သာသနာတော်ကြီး သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် လွန်စွာလွန်စွာ အရေးကြီးသည်ဟု ယုံကြည်ပါသည် ဘုရား။ ထိုသို့ ယုံကြည်ပါသောကြောင့် သာသနာဝင်လက်မှတ် ကိုင်ဆောင်ခြင်းကို အလေးအနက်ထောက်ခံပါကြောင်း လျှောက်ထားလိုပါသည် ဆရာတော် သံဃာတော်အရှင်သူမြတ်တို့ ဘုရား။ ဆရာတော် သံဃာတော် အရှင်မြတ်အပေါင်းတို့သည်လဲပဲ ရှည်မြင့်စွာသော ကာလပတ်လုံး အယိုင်ညီညီ၊ အထညီညီဖြင့် အပရိဟာနိယ တရားနှင့်လျော်စွာ ကျန်းမာ ချမ်းသာတော်မူကြပါစေဟု ဆုတောင်းမေတ္တာ ပို့သပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ မမွယုဗ္ဗိနိကာယ မဟာရင်ဂိုဏ်းမှ ကိုယ်စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွပါ ဘုရား။

**ဦးအာဒိစ္စ (မဟာရင်ဂိုဏ်း)။** ။သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဘုရားတပည့်တော်သည် မဟာရင်ဂိုဏ်း သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ ကတိုးရွာ၊ မဟာရင်ကျောင်းတိုက်မှ အာဒိစ္စ ဖြစ်ပါသည် ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင်မှတ်တမ်းကို သာသနာ့ဝန်ထမ်းရဟန်း သာမဏေ အားလုံးကိုင်ဆောင်သင့်ကြောင်းကို တပည့်တော် ဉာဏ်မီသမျှ ဆွေးနွေးလျှောက်ထားလိုပါသည် ဘုရား။

ဤသာသနာဝင်မှတ်တမ်းကို ရဟန်း သာမဏေ အားလုံးတို့က ကိုင်ဆောင်ကြပါလျှင် ကြည်ညိုဖွယ်ကို မဆောင်သော သမဏသာရုပ်မဖြစ်သည့်အမှုများကို ပပျောက်သွားရောရှိပါသည် ဘုရား။ ဖူးမြင်ရသူ ဒါယကာဒါယိကာမများ သဒ္ဓါပသန္နတိုးပွားစေနိုင်မည့် အမှုများကိုသာ ပြုကျင့်သည့် ရဟန်းကောင်း ရဟန်းမြတ်များကိုသာ ဖူးမြင်ရတော့မည်ဟု မျှော်လင့်ရပါသည် ဘုရား။ ဤသာသနာဝင်မှတ်တမ်းကို ကိုင်ဆောင်သည့် ရဟန်းကောင်း သာမဏေများသည် စာပေသင်ကြားခြင်း ဂန္ထဓူရနှင့် တရားအားထုတ်ခြင်း ဝိပဿနာဓူရ နှစ်ပါးကိုသာ စောက်ချ၍ ဆောင်ရွက်သွားကြတော့မည် ဖြစ်သဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရန် အကြောင်းရှိပါသည် ဘုရား။

မြတ်စွာဘုရားရှင်၏ ဝိနည်းတရားတော်ကို ဦးထိပ်ပန်ဆင်လျက် သာသနာတော်၏ အသက်ကို ဆောင်သော ရဟန်းကောင်း ရဟန်းမြတ် ဖြစ်ကြောင်းကို မှတ်တမ်းတင် ထားရှိသော ဤသာသနာဝင် မှတ်တမ်းကို သိလိုသူ ကြည့်လိုသူ ရှိပါက ထုတ်ပြရန် ဝန်မလေးသင့်ဟု တပည့်တော် ထင်မြင် ယူဆပါသည် ဘုရား။

ယခု လျှောက်ထားခဲ့သော အကြောင်းအရာကို ထောက်ရှု၍ သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းကို အတည်ပြုပေးပါရန် မဟာရင်ဂိုဏ်းဝင် သံဃာတော်များ၏ ကိုယ်စား တပည့်တော် အာဒိစ္စက လေးနက်စွာ ဆွေးနွေးထောက်ခံ လျှောက်ထားအပ်ပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်က**။ ။ဆက်လက်၍ ဝေဠုဝန်နိကာယဂိုဏ်းမှ ထောက်ခံမည့်ကိုယ်စားလှယ်ဆရာတော် ကြွရောက်တော်မူပါ ဘုရား။

**ဦးသုန္ဒရာဘိဝံသ ( ဝေဠုဝန်နိကာယဂိုဏ်း )**။ ။ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော်အရပ်ရပ်မှ ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဘုရားတပည့်တော်သည် ဝေဠုဝန်နိကာယဂိုဏ်း၊ ရန်ကုန်မြို့၊ စမ်းချောင်းမြို့နယ်၊ ဝေဠုဝန်ကျောင်းတိုက်မှ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ်သုန္ဒရ ဖြစ်ပါသည် ဘုရား။ ဘုရားတပည့်တော်တို့သည် ယခု ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၌ သံဃာတော်များ၏ဆန္ဒအရ ပြဋ္ဌာန်းဆုံးဖြတ်ရန် အတွက် သံဃာ့ဝန်ဆောင်ဆရာတော်များအဖွဲ့မှ တင်ပြထားသော သံဃာတော်များ၏ သာသနာဝင်မှတ်တမ်းဟူသော အမည်နာမ ဝေါဟာရကို အဓိကထားပြီး ဆွေးနွေးတင်ပြလိုပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ယခု ဘုရားတပည့်တော်တို့ သဘောတူအတည်ပြု၍ ကိုင်ဆောင်ကြရမည့် စာအုပ်ငယ်ကို မှတ်ပုံတင်လက်မှတ်ဟု ခေါ်ပါက လူဝတ်ကြောင်များ ကိုင်ဆောင်ရသော မှတ်ပုံတင်လက်မှတ် နှင့် နာမည်ချင်းတူ၍ အဓိပ္ပာယ် ရောထွေးကာ စဉ်းစားစရာရှိပါသည် ဘုရား။ အမှန်စင်စစ် တပည့်တော်များ ကိုင်ဆောင်ရမည့် စာအုပ်ငယ်မှာ လူဝတ်ကြောင်များ ကိုင်ဆောင်ကြသည့် မှတ်ပုံတင်လက်မှတ် နှင့် သဘောသွားချင်း မတူ၊ စည်းကမ်း သတ်မှတ်ချက်လည်း ကွဲပြားခြားနားမှု ရှိပါသည် ဘုရား။ ထို့ကြောင့် သံဃာ့ဝန်ဆောင် အဖွဲ့က တပည့်တော်တို့ ကိုင်ဆောင်ရမည့်စာအုပ်ငယ်ကို မှတ်ပုံတင်လက်မှတ်ဟု ခေါ်ဆိုခြင်းမပြုခဲ့ကြောင်း သိရပါသည် ဘုရား။

တဖန် ဤစာအုပ်ငယ်ကို ပထမ မူကြမ်းအဖြစ် တင်ပြစဉ်က သာသနာ့ဝင် လက်မှတ် ဟု အမည်နာမ ကင်ပွန်းတပ်ခဲ့ပါသည် ဘုရား။ ထိုနာမည်မှာလည်း လက်မှတ် ဟူသည် စာမေးပွဲအောင်လက်မှတ်၊ မီးရထားလက်မှတ်၊ သင်္ဘောလက်မှတ်၊ ရုပ်ရှင်လက်မှတ် စသည်ဖြင့် လူဝတ်ကြောင်များ နေ့စဉ် ခေါ်ဝေါ်သုံးစွဲနေကြသော ဝေါဟာရစကား အသုံးအနှုန်းများနှင့် ရောနှောလျက် ရှိသောကြောင့် ရဟန်းသံဃာတော်များ ကိုင်ဆောင်ကြရမည့် ဤစာအုပ်ငယ်ကို လက်မှတ် ဟု အမည်မပေးတော့ပဲ သာသနာဝင် မှတ်တမ်း ဟု အမည်ပေးခဲ့ကြောင်း သိရပါသည် ဘုရား။

သံဃာ့ဝန်ဆောင်အဖွဲ့က အမည်ပေးလိုက်သော သာသနာဝင် မှတ်တမ်း ဟူသော အမည်သည် ပုံသဏ္ဌာန် ပြင်ပ အသွင်အပြင်နှင့် အတွင်းသား အနှစ်သာရတို့ လိုက်လျောညီစွာ ရှိလှပါသည် ဘုရား။ သာသနာဝင် မှတ်တမ်းစာအုပ်ငယ်၌ ရဟန်းတော်များ အတွက် လွန်စွာ အရေးကြီးသည့် ရဟန်း ရက်ချုပ်ကို ဖော်ပြထား၍ ကိုင်ဆောင်သော ရဟန်းတော်၏ ဆောင်ရွက်ချက်များ၊ သီတင်းသုံးခဲ့သော ကျောင်းတိုက်များကို ဖော်ပြ မှတ်တမ်းတင်ထားသဖြင့် သာသနာ့ဝန်ထမ်း ရှင်ရဟန်းများ အတွက် တကယ်တာ မှတ်တမ်းဖြစ်သည် ဟု ဆိုနိုင်ပါသည် ဘုရား။ သို့ပါ၍ သာသနာဝင် မှတ်တမ်း ဟူသော အမည်သည် ပညတ်သွားရာ ဓာတ်သက်ပါ ဆိုသကဲ့သို့ အနက်အဓိပ္ပာယ်နှင့် လိုက်လျောညီသော အမည်နာမ ပညတ်ဖြစ်ကြောင်း ဖော်ပြလျက် ရှိပါသည် ဘုရား။

ဤသို့ အဘက်ဘက်မှ အပြစ်ကင်းစင်၍ ဂုဏ်တင် ချီးမွမ်းလောက်သော အမည်နာမကို မျက်နှာဖုံးတွင် ရိုက်နှိပ်ဖော်ပြထားသော ဤသာသနာဝင် မှတ်တမ်း မူကြမ်းကို အတည်ပြုပေးပါရန် ဆွေးနွေးတောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်များ ဘုရား။ ဝေဠုဝန်နိကာယ ဂိုဏ်း သံဃာတော်များ၏ ကိုယ်စား ဘုရားတပည့်တော် ယခု တင်ပြဆွေးနွေးထောက်ခံအပ်သော အဓိပ္ပာယ်ပြည့်ဝ အလွန်အနှစ်သာရ ရှိပါသော သာသနာဝင် မှတ်တမ်း ဟူသော အမည်သညာ ဝေါဟာရကို မှတ်ပုံတင် လက်မှတ် ဟူသော လှိုင်းထမ်းပိုးအတွင်းမှ နစ်မြုပ်ပျောက်ကွယ် မသွားရအောင် သံဃာတော်များဘက်က အသီးသီး ထိန်းသိမ်းစောင့်ရှောက်ပေးတော်မူပါရန်ကိုလည်း နိဂုံးချုပ် အနေအားဖြင့် လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အာမ်းအနားမှူးဆရာတော်က။** ။ဆက်လက်၍ ကချင်ပြည်နယ်မှ ကိုယ်စားလှယ် ဆရာတော်ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးနေမိန္ဒရ (ကချင်ပြည်နယ်)။** ။တပည့်တော် ကချင်ပြည်နယ် ဗန်းမော် အခြေခံဒေသ ရွှေကူမြို့နယ်၊ ဘိုကုန်းအုပ်စု မြိုင်သာယာကျေးရွာ သာသနာ လင်္ကာရကျောင်း နေမိန္ဒရ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ရန်ကုန်မြို့ ကမ္ဘာအေး ကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီးအတွင်း သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြကုန်သော တနိုင်ငံလုံးရှိ သံဃာတော် အရှင်မြတ်တို့၏ ကိုယ်စားပြုသော သံဃာ့ဥသျှောင် ဆရာတော်ကြီးများနှင့်တကွ ဆရာတော် သံဃာတော် အရှင်မြတ်တို့ကို မျက်ဝါးထင်ထင် ဖူးမြင်ရပါသည် ဘုရား။ ဤသို့ ဖူးမျှော်ကန်တော့လိုက်ရခြင်းသည် 'သမဏာနဉ္စ ဒဿနံ၊ ဧတံမင်္ဂလမုတ္တမံ' ဒေသနာအရ ကောင်းမြတ်သော မင်္ဂလာကို ရရှိပါသဖြင့် ဘုရားတပည့်တော် နေမိန္ဒရ ဝမ်းမြောက်လှပါသည် ဘုရား။

ကချင်ပြည်နယ်၊ ပန်းမော် အခြေခံဒေသ၊ ရွှေကူမြို့နယ်၊ ဘိုကုန်းရွာမှ ဘုရားတပည့်တော် နေမိန္ဒရက ကချင်ပြည်နယ် သံဃာတော်များ ကိုယ်စား သာသနာဝင် မှတ်တမ်းကို လှိုက်လှဲစွာ ထောက်ခံပါသည် ဘုရား။

အကြောင်းမှာ — သာသနာဝင် မှတ်တမ်းတွင် ရှင့်ဒါယကာအမည်၊ ရှင့်ဒါယိကာမအမည်၊ ရဟန်းဒါယကာအမည်၊ ရဟန်းဒါယိကာမအမည် တို့ကို ထည့်သွင်းထားခြင်းသည် သကပုတ္တဒါယဇ္ဇ၊ ပရပုတ္တဒါယဇ္ဇ (၂) မျိုးတို့တွင် ပရပုတ္တဒါယဇ္ဇ အရာ၌ တည်သောကြောင့်လည်းကောင်း၊ ဒါယဇ္ဇ၏ အကျိုးကို သာမဏေနှင့် ရဟန်းတို့သည် မုချ အားဖြင့် ရ၍ ရှင့်ဒါယကာ ရှင့်ဒါယိကာမ၊ ရဟန်းဒါယကာ ရဟန်းဒါယိကာမတို့သည် ဥပစာ အားဖြင့် ရသောကြောင့်လည်းကောင်း အဆိုပါ ရှင့်ဒါယကာ ရှင့်ဒါယိကာမ၊ ရဟန်းဒါယကာ ရဟန်းဒါယိကာမတို့ကို ရေးသွင်းရန် ထည့်ထားခြင်းသည် အလွန်သျှော် ကောင်းမြတ် သင့်လျော်ပါသည်။

ရှမ်းအမျိုးသားတို့၏ အစဉ်အလာ ယဉ်ကျေးမှုထုံးစံ မလေ့အရ ရှင့်ဒါယကာ ရှင့်ဒါယိကာမတို့ကို လွန်စွာ တန်ဖိုးထားပါသည် ဘုရား။

သူဘပါး၏ သားကို ကိတ္တိမသားအဖြစ် မွေးစားလိုပါက စာချုပ်စာတမ်းပြုလုပ်နေစရာမလိုပဲ ရှင့်ဒါယကာ ရှင့်ဒါယိကာမ အဖြစ်ခံယူလိုက်

ပါက ထိုရှင်လောင်းကို သားအဖြစ် မွေးစားပြီး ဖြစ်ပါသည်။ ကိုရင်လူထွက်လာလျှင် ရှင့်ဒါယကာ၏ သားရင်း သမီးရင်းများ နည်းတူ အမွေဆက်ခံပိုင်ခွင့် ရှိပါသည် ဘုရား။ ဤမျှ အရေးပါ၍ ဂုဏ်ပြုထိုက်သော ရှင့်ဒါယကာ ရှင့်ဒါယိကာမ အမည်များကို သာသနာဝင် မှတ်တမ်း၌ ထည့်သွင်း ဖော်ပြရန် စီစဉ်ထားခြင်းမှာ လွန်စွာ လျော်ကန်သင့်မြတ်လှပါသည် ဘုရား။

ထို့အပြင် ပစ္စည်းလေးပါးဖြင့် ထောက်ပံ့လှူဒါန်းနေသည့် ရဟန်းဒါယကာ ရဟန်းဒါယိကာမ အမည်များကို သာသနာဝင် မှတ်တမ်း၌ ထည့်သွင်းဖော်ပြရန် စီစဉ်ထားရှိခြင်းမှာ ရဟန်းဒါယကာ ရဟန်း ဒါယိကာမများကို ဂုဏ်ပြုရာ ရောက်သဖြင့် လွန်စွာ ကောင်းမြတ်သော အစီအစဉ်ဖြစ်ကြောင်း လျှောက်ထားပါသည် ဘုရား။

ဤသို့ အဘက်ဘက် ကောင်းမြတ်သင့်လျော်သော ဤသာသနာဝင် မှတ်တမ်းကို သာသနာ့ဝန်ထမ်းအားလုံးက ကိုင်ဆောင်နိုင်အောင် အမြန်အဘည်ပြုပေးပါရန် လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ကရင်ပြည်နယ်မှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးယောနက (ကရင်ပြည်နယ်)။ ။သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအစည်းအဝေးကြီးသို့ စည်းဝေးကြွရောက်တော်မူလာကြသည့် ဥက္ကဋ္ဌဆရာတော်အမှူးရှိသည့် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ်ဆရာတော် အရှင်သူမြတ်တို့ ဘုရား။

ယခုအစည်းအဝေးကြီးသို့ မန္တလေးဆရာတော် ဦးဉာဏာဘိဝံသ တင်သွင်းသည့် ရဟန်းတော်တိုင်း သာသနာဝင်မှတ်တမ်း ရှိသင့်သည်ဟူသော အဆိုကို တပည့်တော် ကရင်ပြည်နယ်၊ လှိုင်းဘွဲမြို့၊ မယ်လမကျောင်းမှ ယောနက က ထောက်ခံကြောင်းကို လျှောက်ထားလိုပါသည် ဘုရား။

အဆိုရှင်ဆရာတော် ဦးဉာဏာဘိဝံသက တတိယသံဂါယနာ တင်ကာနီးအခါက သာသနာတော်၌ဖြစ်ပေါ်ခဲ့သည့် သံဃာ့အဓိကရုဏ်းကြီးကို သက်သေအဖြစ် တင်ပြထားပါသည်။ ဤအဆိုကို တပည့်တော်သိသမျှ အနည်းငယ် ဖြည့်စွက်တင်ပြလိုပါတယ်။ ထိုစဉ်အခါက ဆူပူသောင်းကျန်းသော ရဟန်းဘူ ရဟန်းယောင်ဒတ်ကို မခံနိုင်သောကြောင့် ရဟန်းကောင်း ရဟန်း

မြတ်များမှာ တောင်ကြို တောင်ကြား ရွာစွန် ရွာဖျားများသို့ သွားရောက် တိမ်းရှောင်၍ နေတော်မူကြရပါသည်။ တတိယသံဂါယနာကို ဦးဆောင် တင်တော်မည့် အရှင်မဟာမောဂ္ဂလိပုတ္တတိဿ အရှင်မြတ်ကြီးသည်ပင်လျှင် ဂင်္ဂါမြစ်ညာရှိ အဟောဂင်္ဂါ တောင်ကြားကျောင်းသို့ သွားရောက်သီတင်းသုံးနေတော်မူရသည်ကို ဆရာတော်အရှင်မြတ်များ သိတော်မူပြီးဖြစ်ပါသည်။

ယင်းသို့ ရဟန်းကောင်း ရဟန်းမြတ်များ တိမ်းရှောင်နေရ၍ ရဟန်းဆိုးများ မင်းမူသောင်းကျန်းနေသောကြောင့် သာသနာတော်ကြီး၌ ပဟန်းတော်များ (၇) နှစ်တိုင်တိုင် ဥပုသ်ပဝါရဏာ မပြုနိုင်ဟု အဆိုရှိပါသည် ဘုရား။

ဤမျှလောက် ရဟန်းဆိုးများ သာသနာတော်တွင်းဝင်ပြီး ဆိုးသွမ်းနေနိုင်သည်မှာ ရဟန်းကောင်း နှင့် ရဟန်းဆိုးများကို ခွဲခြား မရနိုင်သောကြောင့် ဖြစ်ပါသည်။

နောင်အခါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မဟာထေရ် အမှူးရှိသော မဟာထေရ်များက ဓမ္မဝါဒီ အဓမ္မဝါဒီ သိသာကွဲပြားအောင် ခွဲခြားပြလိုက်သောအခါ ရဟန်းဆိုး အဓမ္မဝါဒီများသည် ခိုးထုပ်ခိုးထည် နှင့် အတူ လက်ပူးလက်ကြပ် မိသောသူခိုးကဲ့သို့ ဖုံးကွယ်မရနိုင်တော့ပဲ ဘွားဘွားကြီး ပေါ်ပေါက်လာတော့ရာ သီရိဓမ္မာသောကမင်းကြီး အမှူးရှိသော လူဒါယကာများ၏ အာဏာစက်ဖြင့် ဝိုင်းဝန်းနှိမ်နင်းခြင်းခံရ၍ သာသနာတော်ကြီး သန့်ရှင်းတည်တံ့ပြန့်ပွားခဲ့ကြောင်း တပည့်တော် မှတ်သားမိဖူးသည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ယခု ဤအစည်းအဝေးကြီး၌ တင်သွင်းသည့် 'သာသနာဝင်မှတ်တမ်း' သည် ရဟန်းကောင်း ရဟန်းမြတ်များနှင့် ရဟန်းတု ရဟန်းယောင်များကို ခွဲခြားနိုင်ရန်အတွက် အလွန်ကောင်းမြတ်သည့်အထောက်အထား ဖြစ်ပါသည်။ ဤအကြောင်း ထင်ရှားစေရန် အနည်းငယ် ချဲ့ထွင်လျှောက်ထားခွင့် ပြုတော်မူပါ ဘုရား။

ထိုပြင်လည်း ဤသာသနာဝင်မှတ်တမ်း၌ ထည့်သွင်းရန် ညွှန်ကြားထားသည့်—

(ဿ) ဥပဇ္ဈာယ်ဆရာ ဘွဲ့အမည်

(င) ခမည်းတော်အမည် နှင့် အမျိုးသားမှတ်ပုံတင်အမှတ်

(စ) မယ်တော်အမည် နှင့် အမျိုးသားမှတ်ပုံတင်အမှတ်

(ဆ) ရဟန်းဒါယကာအမည် နှင့် အမျိုးသားမှတ်ပုံတင်အမှတ်

(ဇ) ရဟန်းဒါယိကာမအမည် နှင့် အမျိုးသားမှတ်ပုံတင်အမှတ်

စသည့် အင်္ဂါအချက်အလက်များ စေ့စပ်သေချာ ပြည့်ဝစုံလင်လှသော ကြောင့် အတုအပ အယောင်ဆောင် မရှိနိုင်အောင် ကာကွယ်နိုင်ကြပါသည် ဘုရား။

ဤသို့ဖြစ်သောကြောင့် သာသနာ့ဝင်မှတ်တမ်း တခုလုံးသည်ပင်လျှင် မှတ်တမ်းကိုင်ဆောင်သူ ရဟန်းတော်အား အတုအပ အယောင်ဆောင် မပေါ်နိုင်အောင် စောင့်ရှောက်ထိန်းသိမ်းထားမည့် ဝံတိုင်းခံတံခါးကြီး ဖြစ်နေပါသည်။

တနည်းဆိုရလျှင် ရဟန်းစစ် ရဟန်းကောင်း နှင့် ရဟန်းတု ရဟန်းယောင် ခွဲခြားပြနိုင်သည့် မှတ်ကျောက်ကြီးတခုသဖွယ် ဖြစ်နေပါသည်။

ယခု အရှင်ဘုရားတို့ထံ ဆက်ကပ်ထားသည့် သာသနာ့ဝင်မှတ်တမ်းကို ကြည့်ရှုတော်မူပါ ဘုရား။

(က) ဤမှတ်တမ်း မျက်နှာဖုံးအောက်ခြေ၌ လည်းကောင်း၊ အတွင်း မျက်နှာဖုံးအောက်ခြေ၌လည်းကောင်း၊ စာမျက်နှာ ၃ အထက်ဆုံး၌ လည်းကောင်း၊ စာမျက်နှာ ၉ အထက်ဆုံး၌ လည်းကောင်း (အမှတ်စဉ်) ဟူ၍ ရေးသားထားပါသည်။

ဤအမှတ်စဉ်နံပါတ်သည် 'သာသနာ့ဝင်မှတ်တမ်း' စာအုပ်များတွင် အတု မရှိသော ကိုယ်ပိုင်အမှတ် ဖြစ်ပါသည်။ တပ်မတော်သားများ၏ ကိုယ်ပိုင် အမှတ်၊ ပြည်ထောင်စုမြန်မာနိုင်ငံသားတို့၏ အမျိုးသားမှတ်ပုံတင်နံပါတ်များ ကဲ့သို့ အတု မရှိနိုင်သော နံပါတ်များ ဖြစ်ပါသည်။ ယင်းသို့ အတုမရှိသော နံပါတ်များဖြစ်သောကြောင့် အတုပြု အယောင်ဆောင် မရပါ၊ ငုံ့မှားငိုက် မရပါ၊ သေချာစွာစစ်ဆေးကြည့်လျှင် အမှန်ကို ဘွားကနဲ ပေါ်လာနေနိုင် ပါသည်။ ထို့ကြောင့် ဤအမှတ်စဉ်သည် သာသနာတော်၌ အတုအယောင် များ မရှိအောင် ကာကွယ်နိုင်ပါသည် ဘုရား။

(ခ) သာသနာ့ဝင်မှတ်တမ်းစာအုပ် စာမျက်နှာ ၃ ၌လည်းကောင်း၊ စာမျက်နှာ ၉ ၌လည်းကောင်း ကိုင်ဆောင်သည့်ပုဂ္ဂိုလ်၏ ဓာတ်ပုံကပ်၍ ညွှန်ပြထားပါသည်။ ဓာတ်ပုံသည် ကိုင်ဆောင်သူ ဟုတ်-မဟုတ် အလွယ် တကူသိနိုင်သည့် အထောက်အထားတခု ဖြစ်ပါသည်။ ယခုအခါ လူပုဂ္ဂိုလ် များသည် အမျိုးသားမှတ်ပုံတင်လက်မှတ်၌ ဓာတ်ပုံကပ်ထားသဖြင့် ဓာတ်

ပုံကိုကြည့်၍ ကိုင်ဆောင်သူပိုင်ရှင် ဟုတ် - မဟုတ် တိတိကျကျ သိနိုင်ပါသည်။ အတန်းကျောင်းများ စာမေးပွဲဖြေရာ — ပထမပြန် နှင့် ဓမ္မာစရိယစာမေးပွဲဖြေရာ — မန္တလေးမြို့ သကျသီဟစာမေးပွဲ၊ ရန်ကုန်မြို့ စေတိယင်္ဂဏစာမေးပွဲ စသော စာမေးပွဲကြီးများ ဖြေရာတို့၌ ဓာတ်ပုံတင်ပြထားရပြီး အစစ်အမှန် ဟုတ် - မဟုတ် စစ်ဆေး ကြည့်ရှုရပါသည်။ မသမာသောနည်းဖြင့်ဖြေဆိုမှုကို ကာကွယ်ကြပါသည်။ ထို့ကြောင့် သာသနာ့ဝင်မှတ်တမ်း၌ ဓာတ်ပုံထည့်သွင်းထားခြင်းသည် သာသနာတော်၌ အယောင်ဆောင်မှု အတုအပပြုလုပ်မှုများကို ကာကွယ်နိုင်ပါသည် ဘုရား။

(ဂ) သာသနာ့ဝင်မှတ်တမ်းစာအုပ် စာမျက်နှာ ၃ အောက်ခြေ၌လည်းကောင်း၊ စာမျက်နှာ ၉ အောက်ခြေ၌လည်းကောင်း လက်မှတ်ထိုးရန် ပါရှိပါသည်။ လက်မှတ်ထိုးခြင်းသည် အစစ်အမှန်ဖြစ်ကြောင်း ပြဆိုနိုင်သည့် အထောက်အထားတခု ဖြစ်ပါသည်။ လက်မှတ်ကို မည်မျှတူအောင်ထိုးသော်လည်း တူရန် မလွယ်ပါ။ သေချာစွာစစ်ဆေးကြည့်က အစစ်မဟုတ်ကြောင်း သိနိုင်ပါသည်။ လောက၌ အရေးကြီးသောစာချုပ်စာတမ်းများ နှင့် သက်သေခံချက်ဟူသမျှတို့၌ လက်မှတ်ထိုးကြရပါသည်။ လက်မှတ်ထိုးခြင်းကို ခိုင်လုံသောအထောက်အထားတခုဟု မှတ်ယူကြပါသည်။ ထို့ကြောင့် သာသနာ့ဝင်မှတ်တမ်း၌ လက်မှတ်ထိုးသောနည်းဖြင့် အယောင်ဆောင်မှု အတုအပပြုလုပ်မှုများကို ကာကွယ်နိုင်ပါသည် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ တတိယသံဂါယနာတင်ခါနီးအချိန်က ရဟန်းတု ရဟန်းယောင်တွေကြောင့် သာသနာအဓိကရုဏ်းကြီး ပေါ်ခဲ့သည်။ ရဟန်းတု ရဟန်းယောင်များကို ရှင်းပစ်နိုင်မှ သာသနာ သန့်ရှင်းတည်တံ့ပြန့်ပွားနိုင်အောင် ပြုလုပ်နိုင်ခဲ့သည်ဟူသောသာဓကကို တပည့်တော်ယုံကြည်ပါသည် ဘုရား။ ဆရာတော်များလည်း ယုံကြည်တော်မူကြလိမ့်မည်ဟု တပည့်တော် ယူဆပါသည်။ ထို့ကြောင့် ယခု တပည့်တော်တို့ရည်မှန်းချက်ထား၍ စည်းဝေးဆွေးနွေးကြသည့် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို ရရှိနိုင်စေရန်အတွက် ရဟန်းတု ရဟန်းယောင်များကို ခွဲခြားသိရှိအောင် စွမ်းဆောင်နိုင်သော ရဟန်းတော်တိုင်း သာသနာ့ဝင်မှတ်တမ်းရှိသင့်သည်ဟုသော မန္တလေးဆရာတော် ဦးဉာဏာဘိဝံသ၏ အဆိုပြုချက်ကို တပည့်တော် ယောနကက လိုက်လိုက်လှဲလှဲ ထောက်ခံပါသည် ဘုရား။

အခမ်းအနားမှူးဆရာတော်က။ ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ တပည့်တော်တို့ရှိနံနက်ပိုင်းအစည်းအဝေးကို ရပ်နားရန် ဖြစ်ပါတယ် ဘုရား။ နေ့လယ်ပိုင်းအစည်းအဝေးကို မွန်းလွဲ ၁ နာရီတိတိတွင် ကျင်းပမည်

ဖြစ်ကြောင်း လျှောက်ထားပါသည် ဘုရား။ ယခု အစည်းအဝေးရပ်နားပါမည် ဘုရား။ ဩဝါဒါဆရာတော်ကြီးများ ကြွသွားတော်မူပြီးမှ တပည့်တော်တို့ ကျန် ဆရာတော်များ ကြွသွားရန် ဖြစ်ပါတယ် ဘုရား။

နံနက်ပိုင်းအစည်းအဝေးကို နံနက် ၁၀ နာရီအချိန်တွင်ရပ်နား၍ နေ့လယ်ပိုင်းအစည်းအဝေးကို မွန်းလွဲ ၁ နာရီအချိန်တွင် ပြန်လည်ကျင်းပသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ နေ့လယ်ပိုင်းအစည်းအဝေးကြီး စတင်တော့မည်ဖြစ်ပါ၍ သတ်မှတ်ထားသောနေရာများတွင် နေရာယူတော်မူကြပါရန် ပင့်လျှောက်ပါသည်ဘုရား။

သုံးကြိမ် တိုင်တိုင် လျှောက်ထားသည်။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ တပည့်တော်တို့ ယခုနေ့ နေ့လယ်ပိုင်းအစည်းအဝေးကြီးကို အစီအစဉ်အရ ဆက်လက်ကျင်းပမည်ဖြစ်ကြောင်း လျှောက်ထားပါသည် ဘုရား။

အစီအစဉ်အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း မှုကြမ်းကို ထောက်ခံဆွေးနွေးခြင်းများ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါ၍ ချင်းပြည်နယ်မှ ကိုယ်စားလှယ်တော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

**ဦးဣန္ဒာစရိယ (ချင်းပြည်နယ်)။** ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြသည့် သံဃာ့ ဥသျှောင်ဆရာတော်များ ဖြစ်ကြသည့် အဘိဓဇ မဟာရဋ္ဌဂုရု ဆရာတော်ကြီးများ၊ အဂ္ဂမဟာပဏ္ဍိတဆရာတော်ကြီးများ၊ တိပိဋကဓရ အကြံပေးဆရာတော်များ၊ သံဃာ့ ဝန်ဆောင် ဆရာတော်ကြီးများနှင့် ပြည်နယ်/ တိုင်း အခြေခံဒေသ အသီးသီးတို့မှ သမ္မုတိ ရ သံဃာ့ ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ယခု ကြုံခဲ ဆုံခဲ သာသနာမှတ်တိုင် တခုအဖြစ် စိုက်ထူရာ ရောက်သည့် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး၌ သာသနာဝင် မှတ်တမ်းနှင့် ပတ်သက်၍ ဆွေးနွေးထောက်ခံ လျှောက်ထားခွင့် ရသဖြင့် ချင်းပြည်နယ် ပလက်ဝမြို့ အခြေခံဒေသမှ သံဃာတော် အရှင်မြတ်တို့၏ ကိုယ်စား ကပည့်တော် ဣန္ဒာစရိယများစွာ ကျေးဇူးတင် ဝမ်းမြောက်မိပါကြောင်း ရှိခိုးစွာ လျှောက်ထားအပ်ပါသည် ဘုရား။

အခြေခံ စည်းမျဉ်း အပိုဒ် (၉၁) အရ 'ရှင်သာမဏေများ နှင့် ရဟန်းတော်များ အားလုံး သတ်မှတ်ထားသော သာသနာဝင် မှတ်တမ်းကို ကိုင်ဆောင်ကြရမည်' ဟု ဆိုရာ ယင်းသို့ ကိုင်ဆောင်ရမည့် သာသနာဝင်မှတ်တမ်းသည် သက်ဆိုင်ရာ ဥက္ကဋ္ဌဆရာတော်နှင့် တာဝန်ရှိ ပုဂ္ဂိုလ်များ၏ လက်မှတ်တံဆိပ် ရိုက်နှိပ်မှု မရှိပါက ခိုင်လုံသော မှတ်တမ်းတခု ဖြစ်လာနိုင်မည် မဟုတ်ပါဘုရား။

ခိုင်လုံသော လက်မှတ်တံဆိပ် ရိုက်နှိပ်မှု မရှိပါက သာသနာဝင် လက်မှတ်သည် ဖောင်းပွမှု ဖြစ်ပွားလာရုံမျှ မက မူလ ရည်ရွယ်ရင်း ဖြစ်သော ရဟန်းယောင်များကို ခွဲခြားလိုသည့် ရည်ရွယ်ချက်၊ အတုအယောင် ပပျောက်ရေးဟူသော မှန်မြတ်သော ရည်ရွယ်ချက်များပါ ပျက်ပြား သွားနိုင်ပါသည်ဘုရား။

သို့ဖြစ်ပါ၍ ရဟန်းစစ် သာမဏေစစ်တို့ကို ဗုဒ္ဓဘာသာဝင် သူတော်စင် ဒါယကာ ဒါယိကာမ အပေါင်းတို့ ပုညခေတ္တ အနုတ္တရ ဂုဏ်နှင့်အညီ ကြည်ညိုသဒ္ဓါ ပွားနိုင်ခွင့် ရရှိပြီး ရဟန်းတု သာမဏေတုများ ပပျောက် နိုင်ရေးအတွက် မဖြစ်မနေ လိုအပ်နေသော မြို့နယ် သံဃာ့ နာယက ဥက္ကဋ္ဌ ဆရာတော်၏ လက်မှတ်တံဆိပ်၊ ပြည်နယ်/ တိုင်း သာသနာရေး ဦးစီးမှူး၊ မြို့နယ် ဦးစီးမှူး လက်မှတ် တံဆိပ် ရိုက်နှိပ် ပါရှိရမည်ဟု သာသနာဝင် မှတ်တမ်းစာအုပ် စာမျက်နှာ (၇) (၁၃)တို့၌ ဆိုထားချက်တို့ကို အမှန်ပင် လိုအပ်ပါသည် ဘုရား။

နိဂုံးချုပ်အားဖြင့် ခြုံ၍ သုံးသပ်ရပါက ဤ သာသနာဝင် မှတ်တမ်းသည် အဘက်ဘက်မှ ပြည့်ဝစုံလင်သည့်အတွက် အတည်ပြုပေးပါရန် ချင်းပြည်နယ် ပလက်ဝမြို့ အခြေခံဒေသမှ သံဃာတော် အရှင်မြတ်တို့၏ ကိုယ်စား တပည့်တော် ဣန္ဒာစရိယ က လေးနက်စွာ ဆွေးနွေး ထောက်ခံ လျှောက်ထားအပ်ပါသည်ဘုရား။

အခမ်းအနားမှူး ဆရာတော်က။ ။ဆက်လက်၍ တနင်္သာရီ တိုင်းမှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံ ဆွေးနွေးရန် ကြွတော်မူပါဘုရား။

ဦးသီလာစာရာဘိဝံသ (တနင်္သာရီ)။ ။သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးကြီးသို့ တနိုင်ငံလုံးမှ ကြွရောက်တော်မူလာကြကုန်သော ဥက္ကဋ္ဌဆရာတော်ဘုရားနှင့် တကွ အားလုံးသော သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် အရှင်ကောင်း အရှင်မြတ်တို့ဘုရား၊ ဤ ကျက်သရေ မင်္ဂလာနှင့် ပြည့်စုံလှပါသော အစည်းအဝေးကြီး၌ ယနေ့လို

ပါဝင်ဆွေးနွေးခွင့် ရရှိသဖြင့် တနယ်ခရီတိုင်း မြိတ်အခြေခံဒေသ မြိတ်အရှေ့ မြို့နယ်မှ တပည့်တော် သီလာစာရာဘိဝံသ အနေဖြင့် ဘုရား ပွင့်တော်မူမည် ဟု ကြွေးကြော်သံကို ကြားကြကုန်သော လူ နတ် ဗြဟ္မာ ဘဏ္ဍဝါအပေါင်းတို့ သည် အဆုံးအပိုင်းအခြား မရှိသော နှစ်သက်ခြင်း၊ ရွှင်လန်းခြင်း၊ ဝမ်းမြောက် ခြင်းကို ဖြစ်ကြဘိသကဲ့သို့ ထိုနည်းတူစွာ များစွာပင် ရွှင်လန်းခြင်း၊ နှစ်သက် ခြင်း ဖြစ်မိပါကြောင်း ဦးစွာပထမ လျှောက်ထားလိုပါသည် ဘုရား။

ဘုရားတပည့်တော်သည် သာသနာ့ဝင် မှတ်တမ်း မူကြမ်း၌ ပါဝင်သော အချက်အလက်များအနက် နောက်ဆက်တွဲဇယားကွက်များပါ နောက်ဆက်တွဲ ဇယားကွက်များကို အဓိကထား၍ အချိန်ရသမျှ ဆွေးနွေးလိုပါသည် ဘုရား။

ရင်း ဇယားကွက်တွင် သီတင်းသုံး နေထိုင်ရာ မှတ်တမ်း ရေးသွင်းရန် ဟူသော ခေါင်းစဉ်ဖြင့်—

( ၁ ) အမှတ်စဉ်
( ၂ ) နေထိုင်ရာ ကျောင်းတိုက် အမည်နှင့် လိပ်စာ
( ၃ ) ရောက်ရှိသည့် ရက်စွဲ
( ၄ ) ကျောင်းထိုင်ဆရာတော် လက်မှတ်
( ၅ ) ပရိယတ် ပဋိပတ် လုပ်ဆောင်ချက်
( ၆ ) ပြောင်းရွှေ့သည့် ရက်စွဲ
( ၇ ) ကျောင်းထိုင်ဆရာတော် လက်မှတ်

ဟူ၍ ( ၇ ) ချက် ပါရှိပါသည် ဘုရား။

ရင်းဇယားကွက်ပါ အားလုံးသော အချက်များမှာ သာသနာ့ဝင် မှတ်တမ်းကို ကိုင်ဆောင်ထားသော မှတ်တမ်းပိုင်ရှင်များ အတွက် သာသ နာ့ဘောင်၌ သန့်ရှင်းသော သားကောင်း သားမြတ် ကယောက် အဖြစ်ဖြင့် ဂုဏ်ဘက်နိုင်ခြင်း၊ ဂုဏ်ရှိအောင် ကြိုးစားလိုသည့် ဆန္ဒကို ဖြစ်ပေါ်စေနိုင် ခြင်း၊ အဆိုး အကောင်း အကျိုး အကြောင်းကို သိလိုသူများ အတွက်လည်း လွယ်ကူစွာ သိရှိနိုင်၍ မှတ်တမ်းရှင် အပေါ် သံသယကင်းနိုင်ခြင်း စသော အကျိုးများစွာကို ရယူနိုင်သဖြင့် ဘုရားတပည့်တော်များ တနယ်ခရီတိုင်း သံဃာတော်များ အနေဖြင့် လိုက်လိုက်လှဲလှဲ ထောက်ခံအပ်ပါသည် ဘုရား။

ဆရာဘော် သံဃာတော် အရှင်မြတ်တို့ ဘုရား။ ယင်းနှင့် ပတ်သက်၍ အနည်းငယ် ဖြည့်စွက်ပြီး အချိန်ရသမျှ တပည့်တော် ဆွေးနွေးလိုပါသည် ဘုရား။

ဖော်ပြခဲ့ပြီးသော အထက်ပါ အချက် ၇-ချက်တို့တွင် (၂) နေထိုင်ရာ ကျောင်းတိုက်အမည်နှင့် လိပ်စာ၊ (၄) ကျောင်းထိုင်ဆရာတော် လက်မှတ် ဟူသော အချက်တို့ဖြင့်(၁)မှတ်တမ်းပိုင်ရှင် ပုဂ္ဂိုလ်အား ခြေသလုံး အိမ်တိုင် လုပ်၍ အအုပ်အထိန်း ကင်းမဲ့သော ပုဂ္ဂိုလ်မျိုးမဟုတ်ကြောင်း သိစေနိုင်၍ အခြေအနေကို သိလိုသူတို့အား လေးစားစေနိုင်ခြင်း။ (၂) ကျောင်းထိုင် ဆရာတော် လက်မှတ်ကို မြင်ရသဖြင့် ထိုဆရာတော်၏ သီလသမာဓိ သိက္ခာ ဂုဏ်ရှိန်ဝါထင်ဟပ်၍ တစုံတယောက်၏ အထင်သေး အမြင်သေးမှုကို ကာ ကွယ်နိုင်ခြင်း။

(၃) မှတ်တမ်းရှင် ပုဂ္ဂိုလ်အနေဖြင့်လည်း မိမိမှီရာ ဆရာတော်၏ ဂုဏ်သိက္ခာကို ထောက်၍ ဆရာသမားများအား မထိခိုက်ရအောင် အစစ အရာရာ ထိန်းထိန်းသိမ်းသိမ်း ပြုပြင်နေထိုင်ခြင်း။ (၄) ထိုသို့ ထိန်းသိမ်း နေထိုင်သဖြင့် မိမိအတွက်လည်း ပစ္စုပ္ပန်တမလွန် အပြစ်ကင်းနိုင်ခြင်း စသော အကျိုးများ ရရှိစေနိုင်ပါသည် ဘုရား။ (၃) ရောက်ရှိနေ့စွဲ၊ အမှတ် (၄) အမှတ် (၆) ပြောင်းရွှေ့သည့် နေ့စွဲ ဟူသော အချက်တို့ဖြင့် တနေရာရာ၌ နေထိုင်မှုကာလကို အတိအကျ သိနိုင်ခြင်း။ ထိုသို့ သိရသဖြင့် နောက် လက်ခံမည့် ဆရာတော်ကလည်း ဆင်ခြင်တိုင်းထွာနိုင်ခြင်း။ ပြောင်းရွှေ့ သည့် ရက်စွဲနှင့် အသစ်နေထိုင်သည့် ကျောင်းသို့ မရောက်မီ ကြားကာလ ကြာမြင့်လွန်းပါက တမျိုးတမည် ထင်မြင်နိုင်သဖြင့် ကြာမြင့်စွာ ရောရော ထွေးထွေး နေခြင်း အစရှိသော သဘောမျိုးသို့ မသက်ရောက်နိုင်ခြင်း အစ ရှိသော အကျိုးများကိုလည်း ရရှိစေနိုင်ပါသည် ဘုရား။

ထို့ပြင် အချက် (၅) ပဋိယတ်, ပဋိပတ် လုပ်ဆောင်ချက် ဟူသော နေရာ၌ ပထမမူကြမ်းမှာ နေထိုင်စဉ် လုပ်ဆောင်ချက် ဟူ၍ ပါရှိပါသည် ဘုရား။ ၎င်းအချက်အရ ကောင်းသော လုပ်ဆောင်ချက်၊ မကောင်းသော လုပ်ဆောင်ချက်များကို တမျိုးတည်း ဖြစ်ဖြစ် နှစ်မျိုးစလုံးပဲ ဖြစ်ဖြစ် ရေး သွင်းရမည် ဖြစ်ပါသည် ဘုရား။ ထိုအချက်တို့တွင် ပုထုဇဉ်တို့ သဘာဝအရ နှစ်မျိုးလုံးပင် ရှိရမည် ဖြစ်ပါ၍ ထိုနှစ်မျိုးအနက် ကောင်းသော အချက် ကို ရေးသွင်းပေးပါက ပြောစရာမရှိသော်လည်း အကယ်၍များ ဒေါသ ဂတိ စသည် ရှိ၍ မကောင်းသည့် အချက်ကိုသာ ရေးသွင်းပေးမိပါလျှင် သာသနာဝင် မှတ်တမ်းရှင်၏ နောင်ရေးမှာ များစွာပင် အခက်အခဲတွေ့ နိုင်ပါသည် ဘုရား။ ယခု မူကြမ်း၌မူ ထိုသို့ မဖြစ်နိုင်အောင် ပဋိယတ်, ပဋိပတ် လုပ်ဆောင်ချက် ဟု ပြင်ဆင်လိုက်သဖြင့် မှတ်တမ်းရှင်ပုဂ္ဂိုလ် အတွက် အနှောင့်အယှက်ကင်း၍ သာသနာတော်၌ သန့်ရှင်းသော သားကောင်း

တဲ့ယောက် အနေဖြင့် ဂုဏ်တက်စေနိုင်ခြင်း ဖြစ်နိုင်ပါသည် ဘုရား။ ထို ကဲ့သို့ ပြင်ဆင်လိုက်သဖြင့် မှတ်တမ်းရှင် ပုဂ္ဂိုလ်က ပုထုဇဉ်ပီပီ အကယ်၍ မကောင်းတာ ပြုမိစေကာမူ ၎င်းကို ရေးသွင်းရန် ၎င်းမကောင်းတာကို ရေးသွင်းရန်မလိုသဖြင့် အနှောင့်အယှက်မှ ကင်းနိုင်ပါသည် ဘုရား။ ထို့မှ တပါး ၎င်းအကွက်ကို ဖြည့်စွက်နိုင်အောင် ထိုထိုက်တန်သော ဂုဏ်ထူးကို ရရှိအောင် ကြိုးစားခြင်း စသော အကျိုးများလည်း ထပ်ဆင့်၍ ပေါ် ပေါက်စေနိုင်ပါသည် ဘုရား။ ထိုကဲ့သို့ မှတ်တမ်း ပိုင်ရှင်အတွက် သာသနာ တော်၌ သန့်ရှင်းသော သားကောင်းတယောက် အနေဖြင့် ဂုဏ်ယူနိုင်ခြင်း၊ ဂုဏ်ရှိအောင် ကြိုးစားလိုသည့် ဆန္ဒကို ဖြစ်စေနိုင်ခြင်း၊ သံသယကင်းရှင်း နိုင်ခြင်း စသော အကျိုးများစွာကို ဖြစ်ပေါ်စေနိုင်ပါသဖြင့် ဤနောက် ဆက်တွဲ ဇယားပါ ဇယားများ အပါအဝင် သာသနာဝင် မှတ်တမ်း အချက်အလက်များ အားလုံးကို ဟပည့်တော်များ တနည်းရှိတိုင်း သံဃာ တော် အရှင်မြတ်များ၏ အနေအားဖြင့် သံဃာတော် အရှင်မြတ်၏ ကိုယ် စားလိုက်လိုက်လှဲလှဲကြီး ထောက်ခံပါကြောင်း ရိုသေစွာ လျှောက်ထား တင်သွင်းအပ်ပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

သာသနာတော်ကြီး သန့်ရှင်း တည်တံ့ပြန့်ပွား၍ ကမ္ဘာတိုင် အောင် တည်ပါစေသတည်း။

**အခမ်းအနားမှူး ဆရာတော်က**။ ။ဆက်လက်၍ မကွေးတိုင်းမှ ကိုယ် စားလှယ်ဆရာကော် ထောက်ခံဆွေးနွေးရန် ကြွတော်မူပါ ဘုရား။

ဦးပညာဝံသ (မကွေးတိုင်း)။ ။သာသနာတော် တည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြ သော နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင်ဆရာတော်များ၊ နိုင်ငံတော် ဩဝါဒါစရိယ အဖွဲ့ဝင်ဆရာတော်များ၊ နိုင်ငံတော်သံဃာ့ဟောနာယက အဖွဲ့ ဝင် ဆရာတော်များနှင့် ပြည်နယ်/တိုင်း အခြေခံဒေသ အသီးသီးမှ သမ္မုတိ ရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။

မကွေးတိုင်း မင်းဘူး အခြေခံ ဒေသ ပွင့်ဖြူ မြို့နယ်မှ သမ္မုတိရ သံဃာ့ ကိုယ်စားလှယ် တပည့်တော် ရွှေသာ ပညာဝံသက ယခုလို သာသနာ့သမိုင်း တွင် ထူးခြားသော မှတ်တိုင်တခု အဖြစ် စိုက်ထူရာရောက်သည့် သာသနာ တော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေး ပွဲကြီး၌ သာသနာဝင် မှတ်တမ်းနှင့် ပတ်သက်၍ ကြောင်းကျိုး ဖော်ပြကာ ဆွေးနွေးထောက်ခံခွင့် ရသဖြင့် များစွာ ကျေးဇူးတင် ဝမ်းမြောက်မိပါ ကြောင်းကို ရိုသေစွာ လျှောက်ထားရပါသည် ဘုရား။

ဗုဒ္ဓမြတ်စွာ သာသနာတော်တွင်း၌ ရဟန်းစစ် ရဟန်းမှန် သာမဏေစစ် သာမဏေမှန်များနှင့် ရဟန်းတု ရဟန်းယောင် သာမဏေတု သာမဏေယောင်တို့ကို ခွဲခြားလိုသည့် ရည်ရွယ်ချက်တို့ဖြင့် ရေးဆွဲ တင်ပြလာသော သာသနာဝင်မှတ်တမ်း မူကြမ်းပါ စာမျက်နှာ ၁၅-ရှိ အမှတ်စဉ် ၄-၌ 'သာသနာဝင်မှတ်တမ်းပေါ်ရှိ အမှတ်အသားများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲ ရေးသားခြင်း မပြုရပါ' ဟု စည်းကမ်းကို အဓိကထား၍ ဆွေးနွေးပါမည် ဘုရား။

ဤ သာသနာဝင် မှတ်တမ်းပေါ် ဆက်ဆိုင်ရာ သံဃာ့နာယက အဖွဲ့ ပြည်နယ်/ တိုင်း သာသနာရေးမှူး၊ သို့မဟုတ် မြို့နယ် ဦးစီးမှူး၊ သို့မဟုတ် လူဝင်မှု ကြီးကြပ်ရေးမှူးနှင့် ပြည်သူ့အင်အား ဦးစီးဌာန အရေးရှိ တဦးဦးက ဖြည့်စွက်ရေးသွင်းထားသည့် စာနှင့် ဂဏန်းကိုလည်းကောင်း၊ တံဆိပ်အမှတ်အသား တစုံတခုကို လည်းကောင်း၊ ပုံရိုက် ထားသော စာနှင့် ဂဏန်းကိုလည်းကောင်း အမှတ်အသားဟု ခေါ်ဆိုပါသည်ဘုရား။

ထိုဆိုခဲ့သော အမှတ်အသား တစုံတခုကို မသမာသော ပါပိစ္ဆ စေတနာဆိုးဖြင့် မထင်ရှားသည်ကို ထင်ရှားအောင်သော် လည်းကောင်း၊ အဓိပ္ပါယ်အယူအဆ ဘမျိုး ဖြစ်သွားအောင်သော်လည်းကောင်း၊ မင်ဖြင့်လည်းကောင်း ခဲဖြင့်လည်းကောင်း ထပ်၍ ရေးသားခြင်း၊ စာနှင့် ဂဏန်းကို ပယ်ဖျက်ခြင်း၊ ပြင်ဆင်ပြောင်းလဲရေးသားခြင်း ပြုလုပ်ခဲ့ပါလျှင် တံဆိပ်တော်ခေါင်းဥပဒေ၊ ငွေစက္ကူ ဥပဒေ၊ ဘဏ်ချက်လက်မှတ် ဥပဒေ၊ စာချုပ် စာတမ်းဥပဒေ အရရှိသော ပြစ်မှုဆိုင်ရာ ဥပဒေများ အရ နိုင်ငံတော်အစိုးရ၏ ဥပဒေ အာဏာကို ဖောက်ဖျက် ကျူးလွန်ရာ ရောက်သဖြင့် ကြီးလေးသော အပြစ်ဒဏ်များ ကျရောက်နိုင်ကြောင်း သိရှိရပါသည်ဘုရား။

ထိုကဲ့သို့ အပြစ်မျိုးကို အမှတ်တမဲ့ ပြုလုပ်ခြင်း၊ မတော်တဆ ပြုလုပ်ခြင်း၊ တမင်တကာ မရိုးမသား ပြုလုပ်ခြင်း စသည်ဖြင့် ဖောက်ဖျက် ကျူးလွန်ခြင်းကို တားဆီး ကာကွယ်ရန် လိုအပ်ပါသောကြောင့် သာသနာဝင် မှတ်တမ်းပေါ်ရှိ အမှတ်အသားများကို ပြင်ဆင် ပြောင်းလဲ ရေးသားခြင်း မပြုရပါ ဟူသော စည်းကမ်းချက် အပိုဒ် ၄-ကို ထည့်သွင်း ပါဝင်သင့်ပါသည် ဘုရား။

နိဂုံးချုပ်အားဖြင့် ဤသာသနာဝင် မှတ်တမ်းမူကြမ်းမှာ ချွတ်ယွင်းချက်မရှိ ပကာဘိ ပြည့်စုံပြီးဖြစ်ပါ၍ မကွေးတိုင်း မင်းဘူး အခြေခံဒေသ ပွင့်ဖြူမြို့နယ်မှ သမ္မုတိရ သံဃာ့ကိုယ်စားလှယ် တပည့်တော် ပညာဝံသက လေးလေးနက်နက် ထောက်ခံကြောင်း လျှောက်ထားပါသည် ဆရာတော်သံဃာတော်အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က**။ ။ဆက်လက်၍ မန္တလေးတိုင်းမှ ကိုယ်စားလှယ် ထောက်ခံဆွေးနွေးရန် ကြွပါ ဘုရား။

**ဦးကောလာသာဘိဝံသ (မန္တလေးတိုင်း)**။ ။သဘာပတိဆရာတော် သံဃသမ္မုတိရသံဃာ့ကိုယ်စားလှယ်ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ဘုရားတပည့်တော်သည် မန္တလေးတိုင်း မန္တလေးမြို့ မြတောင်တိုက် သမ္ဘာစာချကျောင်းမှ ကောလာသာဘိဝံသ ဖြစ်ပါသည် ဘုရား။ ဘုရားတပည့်တော်အား သာသနာဝင် မှတ်တမ်းကို ထောက်ခံဆွေးနွေးခွင့်ပြုတော်မူကြသည့် အတွက် ဝမ်းမြောက်ဝမ်းသာ ကျေးဇူးတင်ပါကြောင်း လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

သဘာပတိဆရာတော်၊ သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

သာသနာဝင်မှတ်တမ်းကို ကိုင်ဆောင်သော သာမဏေများ၊ ရဟန်းတော်များသည် သာသနာဝင်မှတ်တမ်း၌ ပါရှိသော မိမိ၏ဘွဲ့တော်၊ သိက္ခာတော် ဓာတ်ပုံနှင့်တကွ ရုံးတံဆိပ်များကိုလည်းကောင်း၊ သီတင်းသုံးနေထိုင်ရာ နေရာဒေသကိုလည်းကောင်း၊ မွေးဖွားရာဒေသကိုလည်းကောင်း၊ မွေးသက္ကရာဇ် စသည်တို့ကိုလည်းကောင်း၊ ခမည်းတော် မယ်တော် အမည်နှင့် ရှင်ဒါယကာ ဒါယိကာမတို့၏ အမည်၊ ရဟန်းဒါယကာ ရဟန်းဒါယိကာမတို့၏ အမည်ကိုလည်းကောင်း မိမိ နေထိုင်သီတင်းသုံးရာကျောင်းတိုက်၊ ကျောင်း စသည်တို့၏ လိပ်စာများကိုလည်းကောင်း၊ မိမိ သီတင်းသုံးရာကျောင်းရှိ ကျောင်းထိုင်ဆရာတော်က မှန်-မမှန် စစ်ဆေးပြီး မှန်ကန်ပါက ကိုယ်တိုင် လက်မှတ်ရေးထိုးရပါမည် ဘုရား။

ထိုသို့ ကျောင်းထိုင်ဆရာတော် ကိုယ်တိုင် လက်မှတ်ရေးထိုး ထားသော အချက်အလက်များကို မိမိသီတင်းသုံး နေထိုင်ရာ မြို့နယ်သံဃနာယကအဖွဲ့၏ ဥက္ကဋ္ဌဆရာတော်က ထပ်ဆင့်စိစစ်၍ ထပ်ဆင့် လက်မှတ်ရေးထိုးရမည် ဖြစ်ပါသည် ဘုရား။ မိမိသီတင်းသုံးနေထိုင်ရာ ပြည်နယ်/တိုင်းတို့၌ ပြည်နယ်/တိုင်း သာသနာရေး ဦးစီးမှူးရှိပါက ထိုတိုင်း သာသနာရေး ဦးစီးမှူး၏ လက်မှတ် မရှိသော မြို့နယ်များ၌ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးဌာန၏ မြို့နယ်ဦးစီးမှူးတို့က လက်မှတ်ရေးထိုးရမည် ဖြစ်ပါသည် အရှင်ဘုရား။

ထိုသို့ မြို့နယ်သံဃနာယကအဖွဲ့၏ ဥက္ကဋ္ဌ ဆရာတော် လက်မှတ်၊ ပြည်နယ်နှင့်တိုင်း သာသနာရေးဦးစီးမှူး၏ လက်မှတ်ပါရှိမှသာလျှင် ကိုင်ဆောင်ရမည့် ဤသာသနာဝင်မှတ်တမ်းသည် တရားဝင် ဖြစ်ပါသည် အရှင်ဘုရား။

ထိုသို့ မိမိတို့ ကိုင်ဆောင်ထားသော သာသနာဝင်မှတ်တမ်း၌ မြို့နယ်သံဃာ့နာယကအဖွဲ့၏ ဥက္ကဋ္ဌဆရာတော် လက်မှတ်၊ ပြည်နယ်နှင့် တိုင်းသာသနာရေးဦးစီးမှူး၏ လက်မှတ်တို့ပါရှိခြင်းသည် မိမိကိုင်ဆောင်သော သာသနာဝင်မှတ်တမ်းမှာ တရားဝင် ဖြစ်ရုံမျှမက မိမိသည် ရဟန်းတု ရဟန်းယောင် မဟုတ်ပဲ သာသနာ့ဝန်ထမ်း ရဟန်းစစ် ရဟန်းကောင်း ရှင်သာမဏေကောင်း တဦးဖြစ်ကြောင်း အထောက်အထား တရပ်ဖြစ်၍ သာသနာ့ ကျက်သရေကို ဆောင်တော်မူနိုင်ပါမည် ဘုရား။

သို့ဖြစ်၍ သာသနာဝင်မှတ်တမ်း၌ မြို့နယ်သံဃာ့နာယကအဖွဲ့၏ ဥက္ကဋ္ဌဆရာတော်လက်မှတ်၊ ပြည်နယ်/တိုင်း သာသနာရေးဦးစီးမှူး၏ လက်မှတ်၊ မြို့နယ်ဦးစီးမှူး၏လက်မှတ်များ ပါရှိခြင်းသည် လွန်စွာ သင့်လျော်ကြောင်း နိဂုံးချုပ်အနေအားဖြင့် အဘက်ဘက်မှ ပြည့်ဝစုံလင် ကောင်းမြတ်သော ဤသာသနာဝင်မှတ်တမ်းကို သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးက အတည်ပြုသင့်ကြောင်း ဆွေးနွေးထောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ရခိုင်ပြည်နယ်မှ ကိုယ်စားလှယ်ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွရောက်တော်မူပါ ဘုရား။

ဦးဓမ္မသာရာဘိဝံသ (ရခိုင်ပြည်နယ်)။ ။ယခုအခါ ကျက်သရေမင်္ဂလာ အဖြာဖြာတို့နှင့် ပြည့်စုံလှပါသော ဤမဟာပါသာဏလိုဏ်ဂူတော်အဘွင်းသို့ ညီညာဖြိုဖြို စည်းဝေးကြွရောက်တော်မူလာကြကုန်သော သာသနာပြု အခကျော် ဆရာတော် သံဃာတော် အရှင်မြတ်တို့အား ရခိုင်ပြည်နယ် သံတွဲအခြေခံဒေသ တောင်ကုတ်မြို့နယ် နတ်မော်ရွာ အဘယခေမိကာရုံကျောင်း ဘုရားတပည့်တော် ဓမ္မသာရာဘိဝံသ ရိုသေစွာ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ဤပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း မူကြမ်းပုံစံ စာမျက်နှာ (၁၆) စည်းကမ်း(၆) (၇)တို့၌ပါရှိသော စာတမ်းများကို အဓိကထား၍ဆွေးနွေးပါမည် ဘုရား။ ထိုစာတမ်းများသည် ဓမ္မဝိနယနှင့် ညီညွတ်စွာ ရေးသားထားအပ်သော စာတမ်းများသာ ဖြစ်ပါသည် ဘုရား၊ အကြောင်းမှာ ဓမ္မဝိနယနှင့် ညီညွတ်စွာ ကျင့်ကြံနေထိုင်ကုန်သော အလုပ်တို့ကိုသာ လမ်းညွှန်၍ ပြသောကြောင့် ဖြစ်ပါသည် ဘုရား။

စည်းကမ်း(၆)တွင် ပါရှိသော စာတမ်း၏အဓိပ္ပာယ်မှာ ထိုထိုကျောင်း၌

နေထိုင်ကုန်သော စာသင်သား ရဟန်း သာမဏေများသည်မိမိတို့ သီတင်းသုံး နေထိုင်ရာ ကျောင်း ကျောင်းတိုက်များမှ အခြား ကျောင်း ကျောင်းတိုက်များသို့ ပြောင်းရွှေ့ သီတင်းသုံး နေထိုင်လိုကြလျှင် ဤ သာသနာဝင် မှတ်ပုံတင်စာအုပ်ငယ်ဝယ် နောက်ပိုင်း၌ ကည့်သွင်းထားသော ခုနစ်ခုသော ဇယားကွက်များ၌ လိုအပ်ချက်များကို ရေးသွင်းကြရမည်၊ ယင်းသို့ရေးသွင်း နိုင်ရန် လက်ရှိ ကျောင်းထိုင် ဆရာတော်အား အလေးတမူ အရေးယူ၍ ရှေးဦးစွာ လျှောက်ထားရမည်၊ ဤသို့ ကျောင်းထိုင် ဆရာတော်အား လျှောက်ထားပြီးမှ သာလျှင် ပုံစံဇယားတွင် ပါရှိသည့်အတိုင်း ဖြည့်စွက် ဆောင်ရွက်ရပါမည် ဟူ၍ အဓိပ္ပာယ် ရရှိပါသည် ဘုရား။

ဤ စည်းကမ်း ( ၆ )၌ ပါရှိသော ကျောင်းထိုင် ဆရာတော်ကို သာမန် ကျောင်းထိုင် ဆရာတော်ကို မယူပဲ—

သဒ္ဓါဝန္တော ပဋိသေဒေန္တော၊ အနုဝတ္တေ နိယောဇကော။
ဘုသော စ ရတိ သိဿာနံ၊ အတ္ထံ အာစရိယော တတော။

ဟူသော ဝစနတ္ထ ဂါထာနှင့်အညီ တပည့်တို့အား ဓမ္မဝိနယ တို့နှင့် ဆန့်ကျင် ဖက်ဖြစ်၍ အပြစ်ရှိသော အလုပ် အပြောအဆို အကြံအစည် တည်းဟူသော ဒုစရိုက်အမှုတို့၌ မလိုက်စား မမိုက်မှားအောင် တားမြစ်လျက် အပြစ်မရှိကုန် သော အလုပ် အပြော အဆို အကြံအစည် တည်းဟူသော သုစရိုက်မှုတို့၌ နှစ် ခြိုက် လိုလား၍ အားတိုက် အင်တိုက် ပြုလုပ်ကြရန် နှိုးဆော် တိုက်တွန်းလျက် မိမိကို မှီခိုနေငြား တပည့်သားတို့၏ ကောင်းကျိုးချမ်းသာ အဖြာဖြာကိုသာ လွန်စွာ ဆောင်ရွက်တတ်သောကြောင့် ဆရာဟု ခေါ်ရပါမည် ဘုရား။

ဤသို့ သဘောရှိသော ဝိသေသ ကျောင်းထိုင် ဆရာတော်ကောင်းကို သာ ယူရပါမည်၊ ဤသို့ တပည့်သားတို့၏ ကောင်းကျိုး ကိုသာ လွန်စွာ ကျင့်ကြံတတ်သော ဆရာမြတ်၏ ကျောင်းမှ ပြောင်းရွှေ့လိုလျှင် တပည့် ကောင်းမှန်က ဆရာကောင်းအား ကောန် လျှောက်ထားရန် ဝတ္တရား ရှိပါ သည်၊ ၎င်းပြင် အထက်ပါ ဆရာကောင်းကျောင်း၌သာ မှီခိုနေထိုင်သော တပည့်များအား စည်းမျဉ်း (၆) ပါ စာတမ်း များကြောင့် တစုံ တရာ အကျပ်အတည်း အခက် အခဲများလည်း မရှိနိုင်ကြပါ၊ ထို့ကြောင့် ဤ စည်းမျဉ်း( ၆ ) ပါ စာတမ်းသည် တပည့် ရဟန်းသာမဏေများ၏ ချမ်းသာ ကြောင်းသာဖြစ်၍ ဓမ္မဝိနယနှင့် ညီညွတ်သဖြင့် ကောင်းမြတ်သော စည်း ကမ်းများသာ ဖြစ်ပါသည်ဘုရား။

ထို့ပြင် စည်းကမ်း (၇)၌ အခြား နေရာသို့ ရောက်ရှိသော အခါ ဤ သာသနာဝင် မှတ်တမ်းပေါ်တွင် လိုအပ်သော မှတ်ချက်များ ရေးသွင်း နိုင်ရန် နေရာအသစ်ရှိ ကျောင်းထိုင် ဆရာတော်ထံ လျှောက်ထား၍ ပုံစံတွင် ပါသည့်အတိုင်း ဖြည့်စွက် ဆောင်ရွက်ရပါမည်ဟူ၍ ပါရှိပါသည်ဘုရား။

ဤစည်းကမ်း (၇) သည် (၁) နေရာသစ်သို့ ရောက်ရှိခြင်း၊ (၂) နေရာ သစ်ရှိကျောင်းထိုင်ဆရာတော်အား လျှောက်ထားရခြင်း၊ ဤနှစ်ပါးသော စည်းကမ်း (၆) မှ ထူး၍ အခြား စာသားများသည် စည်းကမ်း (၆) နှင့် အလုံးစုံတူညီပါသည် ဘုရား၊ သို့ဖြစ်ပါ၍ စည်းကမ်း (၇) တွင် ပါရှိသော စည်းကမ်းသည်လည်း ပြဆိုအပ်ပြီးသော စည်းကမ်း (၆) ၌ ရှိသော စည်း ကမ်းကဲ့သို့ ဓမ္မဝိနယနှင့် ညီညွတ်သော စည်းကမ်းသာဖြစ်၍ ကောင်းကျိုး အဖြာဖြာကို ရရှိစေနိုင်ပါသည် ဘုရား။

ထိုသို့ သင့်မြတ်လျော်ကန်သည့် စည်းမျဉ်း စည်းကမ်းချက်များကို ဖော်ပြ ထားသည့် ပြည့်ဝစုံလင်သော ဤသာသနာဝင်မှတ်တမ်းကို ရနိုင်ပြည်နယ်၊ သံတွဲအခြေခံဒေသ တောင်ကုတ်မြို့နယ် နတ်မော်ရွာ အဘယဓမ္မိကာရုံ ကျောင်း ဘုရားကပည့်တော် ဓမ္မသာရာဘိဝံသ က မပျက်မကွက်တဲ့ သဒ္ဓါ သွက်လက်တဲ့ စေတနာ ထက်မြက်တဲ့ ဉာဏ်ပညာတို့ဖြင့် ဝမ်းမြောက်ဝမ်းသာ ထောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က။** ။ဆက်လက်၍ ရန်ကုန်တိုင်းမှ ကိုယ် စားလှယ် ဆရာတော် ထောက်ခံဆွေးနွေးရန် ကြွရောက်မူပါ ဘုရား။

**ဦးပရမ (ရန်ကုန်တိုင်း)။** ။အလွန်လေးစားအပ်ပါသော သဘာပတိ ဆရာတော်သံဃာသမူဟိရည်သံဃာ့ကိုယ်စားလှယ်ဆရာတော် သံဃာတော်အရှင် မြတ်တို့ဘုရား။ ဘုရားတပည့်တော်သည် ရန်ကုန်တိုင်း၊ ရန်ကုန်မြို့၊ လမ်းမတော် မြို့နယ် သံဃာသမူဟကိုယ်စားလှယ် သရက်တောကျောင်းတိုက်၊ မေဃဝတီ စာသင်တိုက်မှ ပရမ ဖြစ်ပါသည်ဘုရား။ ဘုရားတပည့်တော်သည် သာသနာ ဝင်မှတ်တမ်းစာမျက်နှာ ၁၇-ပါ စကားရပ် ၃-ပိုဒ်ကို အစီကထား၍ ဆွေးနွေးလိုပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

သာသနာဝင်မှတ်တမ်း စာမျက်နှာ ၁၇ ပါ စကားရပ် ၄-ပိုဒ်ကို တပိုဒ်ချင်း ထောက်ခံဆွေးနွေးသွားပါမည် ဘုရား—

(က) ဤသာသနာဝင်မှတ်တမ်းသည် ခေတ္တာစောင်တော်သော ဒုလ္လဘ ရဟန်း ရှင်သာမဏေများနှင့် သက်ဆိုင်ခြင်း မရှိပါ ဟူ၍

ဆိုထားသဖြင့် ခေတ္တခဏမျှ ဝတ်သော ဒုလ္လဘရဟန်း၊ ရှင် သာမဏေများနှင့် အမြဲတမ်းဝတ်သော ရဟန်းတော်များ၊ ရှင်သာမဏေများ ခွဲခြားပြီး ဖြစ်သဖြင့် ဗုဒ္ဓဘာသာဝင်တို့ စိတ်သန္တာန်တွင် ကြည်ညိုမှုသဒ္ဓါတရားပွားများ ထက်သန် လာနိုင်ပါသည် ဘုရား။

(ခ) ထို ခေတ္တခဏဝတ်သော ဒုလ္လဘရဟန်းများသည် လူမှတ်ပုံတင် ထားရှိရမည့်အပြင် ဥပဇ္ဈာယ် ဆရာတော်ကိုယ်တိုင် လက်မှတ် ရေးထိုးပါရှိသော ရဟန်းဖြစ်ချိန် ရက်ချုပ်ကို ကိုင်ဆောင် ရမည်ဟူ၍ ဆိုထားသဖြင့် ဒုလ္လဘ ရဟန်းဝတ်၍ ပါရမီ ဖြည့်လိုသော ပုဂ္ဂိုလ်များသည် မိမိ ဒုလ္လဘရဟန်း ပြုလိုသော ကျောင်းတိုက်၌ အေးချမ်းသာယာစွာ ဒုလ္လဘရဟန်း သာမဏေ ပြုနိုင်ပါ၍ မြို့နယ် သံဃာ့နာယကအဖွဲ့ ပြည်နယ်/ တိုင်း သာသနာရေးဦးစီးမှူး၊ မြို့နယ် ဦးစီးမှူးများထံ သို့ သွားရန် မလိုတော့ပါ ဘုရား။

(ဂ) အကယ်၍ ဒုလ္လဘရဟန်းအဖြစ်မှ ဆက်လက်၍ သာသနာ့ဝန် ထမ်းဆောင်လိုပါလျှင် လူမှတ်ပုံတင်လက်မှတ် နှင့် သာသနာ ဝင်မှတ်တမ်းကို လဲလှယ်ခွင့် ရှိပါသည် ဟူ၍ ဆိုထားသဖြင့် ဒုလ္လဘရဟန်းအဖြစ်မှ ဆက်လက်၍ အမြဲတမ်း သာသနာ့ဝန်ကို ထမ်းဆောင်လိုသော ပုဂ္ဂိုလ်များမှာလည်း သာသနာဝင် လက်မှတ် ရရှိရေး မခက်ခဲကြောင်း တွေ့ရှိရပါသည် ဘုရား။

သို့ဖြစ်ပါသောကြောင့် အမြဲဝတ်သော ရဟန်း သာမဏေများနှင့် ခေတ္တ ဝတ်သော ဒုလ္လဘ ရဟန်း သာမဏေများ ရောယှက် ရှုတ်ထွေးခြင်း မရှိစေရ အောင် ရှင်းလင်းပြဆိုထားသဖြင့် အစစ အရာရာ ကောင်းမွန်လှသည် ဖြစ်ပါ၍ သာသနာဝင်မှတ်တမ်းကို ဆွေးနွေးထောက်ခံကြောင်းလျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**ပရိယတ္တိ စာမေးပွဲများ ပြုပြင် ကျင်းပသွားရန် အဆိုကို တင်သွင်း ဆွေးနွေး အတည်ပြုခြင်း**

**အခမ်းအနားမှူး ဆရာတော်။** ။ယခု အစီအစဉ် အရ တင်သွင်းထားတဲ့ အဆို ၄-ခုကို တခုပြီး တခု အဆိုများ တင်သွင်းရန် ဖြစ်ပါ၍ ပရိယတ္တိ စာမေးပွဲများ ပြုပြင်ကျင်းပသွားရန် အဆိုတင်သွင်းမည့် ဆရာတော်ဘုရား ကြွတော်မူပါ ဘုရား။

ဦးဝဏ္ဏသာရ ( ဘုရားသုံးဆူကျောင်း သန်လျင်မြို့နယ် )။ ။သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား၊

သံဃာတော် အရှင်မြတ်များအတွက် (က) သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၊ (ခ) ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံး လုပ်နည်းများ၊ (ဂ) သာသနာဝင် မှတ်တမ်းဟု အဓိက လိုအပ်နေသော အချက်သုံးမျိုးကို တသိန်းကျော် သံဃာတော်တို့၏ ကိုယ်စား ပြုသော သမ္မုတိရ ဆရာတော် သံဃာတော် အရှင်မြတ်တို့က ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အစိုးရ၏ အမြော်အမြင်ကြီးစွာဖြင့် ကူညီထောက်ပံ့အားပေးမှု၊ သဒ္ဓါကြည်လင် ပါရမီရှင် ဒကာဒကာမတို့၏ လှူဒါန်း ထောက်ပံ့မှုတို့ကြောင့် တခဲနက် အောင်မြင်စွာ အတည်ပြု ပြဋ္ဌာန်းနိုင်ခဲ့ပါပြီ ဘုရား။ ဤကဲ့သို့ အတည်ပြု ပြဋ္ဌာန်းနိုင်ခြင်းသည် ကမ္ဘာဦးက လူသားများသည် နေ့လနှစ်ပါးကို မျှော်လင့် တောင့်တနေသည့် အခိုက် နေ့လနှစ်ပါးကို မြင်ရ၍ ရွှင်လန်း ဝမ်းသာကြသကဲ့သို့ တပြည်လုံးရှိ ပြည်သူပြည်သား ရှင်လူအများက အားရ ရွှင်လန်း ဝမ်းမြောက်သော လက်ခံ ကြိုဆိုနေကြသည့် မင်္ဂလာအချိန်အခါပါ ဘုရား။ တနည်းအားဖြင့် သာသနာတော်ကြီးမှာ သာသနာ့ မှတ်တိုင်ကြီးတခု စိုက်ထူလိုက်ခြင်းပါ ဘုရား။ သာသနာတော် မော်ကွန်းသစ်ကြီး တခု ရေးထိုးလိုက်ခြင်းမည်ပါသည် ဘုရား။

ဤကဲ့သို့ ကျက်သရေ မင်္ဂလာ အပြာပြာနှင့် ဝေဆာ ပြည့်စုံနေသည့် ကောင်းမြတ်သော မင်္ဂလာအချိန်အခါမှာ တပည့်တော်အား ပရိယတ္တိ ပညာသင်ကြားရေးနှင့် ပတ်သက်သည့် အဆိုတခု တင်သွင်းခွင့် ပြုတော်မူပါရန် တပည့်တော် ရိုသေစွာ ခွင့်ပန် လျှောက်ထားဝံ့ပါသည် အရှင်သူမြတ်တို့ဘုရား။

(၁) ရဟန်း သာမဏေများ အကျင့်သိက္ခာ ပညာဗဟုသုတ တိုးတက်မြင့်မားစေမည့်နည်းလမ်း၊ (၂) ပါဠိ မြန်မာ နှစ်ဘာသာ တတ်မြောက်ကျွမ်းကျင်စေမည့် နည်းလမ်းတို့ဖြင့် ပရိယတ္တိ စာပေကို လေ့လာသင်ယူနိုင်ရေးအတွက် ပရိယတ္တိစာမေးပွဲများကို ပြုပြင်ကျင်းပ ပေးသွားရန် ဤဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးက ဆုံးဖြတ် ပြဋ္ဌာန်း ပေးသင့်ကြောင်း အဆိုတခုကို ဘုရားတပည့်တော် တင်သွင်းလိုပါသည် ဘုရား။

အဆို တင်သွင်းရခြင်း အကြောင်းကတော့ ယမန်နေ့က သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီးက တညီတညွတ်တည်း အတည်ပြု ပြဋ္ဌာန်းလိုက်သည့် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အခန်း (၂) အခြေခံ မူများ အပိုဒ် (၁၂) သံဃာ့ အဖွဲ့ အစည်း အဆင့်ဆင့်ဖွဲ့စည်းမှု ရည်ရွယ်ချက်များ အပိုဒ် (ဂ) ၌ 'ပရိယတ္တိ သာသနာတော် တိုးတက် စည်ပင်ပြန့်ပွားစေရန် ကူညီထောက်ပံ့၍ ပိဋကတ် တော်နှင့်မညီသော ရေးသားခြင်း၊ ဟောပြောခြင်း၊ ပြုလုပ်ခြင်းများကို တားဆီးကာကွယ်ရန် ဖြစ်သည်ဟု ပြဋ္ဌာန်းထားပါသည် ဘုရား။

ဤပြဋ္ဌာန်းချက်မှာ ပါသည့် 'ပရိယတ္တိ သာသနာတော် တိုးတက်စည်ပင် ပြန့်ပွားစေရန်' ဆိုသည့် အချက်တခုကို စေတ်စနစ်နှင့် အညီ အကောင် အထည် ဖော်လိုက်ပါက အခြား အပိုဒ်ခွဲ (က) (ခ) (ဃ) စသည်တို့၌ ဖော်ပြထားသော သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားခြင်း၊ သံဃာ တော်များ ဝိနည်း ဒေသနာတော်နှင့် အညီ ကျင့်ကြံ နေထိုင် သီတင်းသုံးနိုင် ခြင်း၊ ပရိယတ္တိနှင့် လျော်အောင် ပဋိပတ္တိ ကျင့်သုံးနိုင်ခြင်း စသော ရည်ရွယ် ချက်များ အောင်မြင်တမြောက်ပြီးသား ဖြစ်သွားနိုင်ပါသည် ဘုရား။

(၁) ပါဠိ, အဋ္ဌကထာ, ဋီကာစသော ပိဋကတ် စာပေနှင့် ပိဋကတ် အခြေခံ ကျမ်းဂန်များသည် ပရိယတ္တိသာသနာပင် ဖြစ်ပါသည် ဘုရား။ ပရိ ယတ္တိကို သင်ယူကြသူတိုင်း သာသနာနှင့်ပါ တပါတည်း တွေ့ကြဖို့ လိုအပ် ပါသည် ဘုရား။

(၂) ရဟန်းသံဃာမှန်လျှင် ဘာသန္တရ ဗဟုသုတ မရှိစေကာမူ မိမိတို့၏ ဘုရားရှင် ဟောကြားထားသည့် ပိဋကတ် ကျမ်းဂန်စာပေ ဗဟုသုတ မုချ ရှိကြရမည်ပင် ဖြစ်ပါသည်ဘုရား။ ပိဋကတ် ကျမ်းဂန်ကို နှံ့နှံ့စပ်စပ် ပပ်ပပ် နပ်နပ် တတ်မြောက် ကျွမ်းကျင်ထားဖို့ လိုအပ်ပါသည် ဘုရား။ ပိဋကတ် ကျမ်းစာကို တကယ်နှံ့စပ် တတ်သိပါက လောကအလယ်မှာ မျက်နှာ မငယ် နိုင်ပါ ဘုရား။

(၃) ပါဠိဘာသာကို မည်သူတွေက မည်သို့ ပြောပြော ဂပည့်တော်တို့ ဘုရားသားတော် ရဟန်းသံဃာတော်များသည် မိမိတို့၏ အကဘုရား စကား တော် ဖြစ်သည့်အတွက် ပါဠိဘာသာကို ကျကျနန တတ်သိနားလည်အောင် သင်ယူ ဆည်းပူးကြရမည်ပင် ဖြစ်ပါသည် ဘုရား။ အမှန်အားဖြင့် ပါဠိ ဘာသာသည် စည်းကမ်း စနစ်ရှိသည့် ခိုင်မာသည့် ရှေးဟောင်း ဘာသာကြီး တရပ်ဖြစ်၍ မည်သည့် ပညာရှိမျှ အထင် မသေးဝံ့သည့် ဘာသာရပ်လည်း

ဖြစ်ပါသည် ဘုရား။ ပါဠိဘာသာကို တကယ် တတ်လျှင်လည်း အဖိုးတန် ပညာရှင်တယောက် ဖြစ်လာနိုင်ပါသည် ဘုရား။

(၄) ရဟန်း သံဃာတော်များ မြန်မာစာကို ကောင်းကောင်း ရေးတတ်ဖို့ ဖြစ်ပါသည် ဘုရား။ တပည့်တော်တို့၏သာသနာ့ သမိုင်းကို ပြန်လည်လေ့လာ ကြည့်ရှုလျှင် ရဟန်း သံဃာတော်များသည် မြန်မာ ဘာသာနှင့် မြန်မာစာပေကို ကောင်းမွန်စွာ ပြုစု ရေးသားနိုင်ခဲ့ကြသည်ကို တွေ့မြင်နိုင်ပါသည် ဘုရား။

အနီးကပ်ဆုံးကို ညွှန်ပြရပါလျှင် လယ်တီဆရာတော်သည် ပါဠိစာပေကို သာ ပါရဂူ မြောက် တတ်မြောက်သည် မဟုတ်ပါ၊ မြန်မာစာပေ အရေးအသားကိုပါ အလွန်တော်သည့်အတွက် ပါဠိစာပေ မြန်မာစာပေ နှစ်မျိုးတို့ဖြင့် ကမ္ဘာကျော်သည့် အထိ ထူးထူးချွန်ချွန် သာသနာပြုသွားနိုင်သည်ကို အားလုံးအသိပင် ဖြစ်ပါသည် ဘုရား။

ယခုနှ လျှောက်ထားတင်ပြခဲ့သည့် (၁) အကျင့်သိက္ခာ မြင့်မားစေခြင်း၊ (၂) ပိဋကတ်ကျမ်းဂန် နှံ့စပ်စေခြင်း၊ (၃) ပါဠိဘာသာ တတ်မြောက်ကျွမ်းကျင်စေခြင်း၊ (၄) မြန်မာစာပေ အရေးအသား တော်စေခြင်း ဟူသော အချက် (၄) ခုသည် ယနေ့ ရဟန်း သံဃာတော် လောကမှာ အလွန် လိုအပ်နေသည့် အခြေခံအချက်ကြီးများ ဖြစ်ပါသည် ဘုရား။

ရဟန်းသံဃာတော်များမှာ ရှေးယတ္တိတာဝန်သည် သာသနာတရပ်လုံးနှင့် ဆိုင်သည့် အခြေခံ တာဝန်ဖြစ်ပါသည် ဘုရား။ ဘာသန္တရ သင်ကြားခြင်းစသည့် ကိစ္စများသည် နောက်တဆင့် ဆောင်ရွက်ရမည့် ကိစ္စများသာ ဖြစ်ပါသည် ဘုရား။

ယခု လျှောက်ထားခဲ့သည့် အရည်အသွေး လေးရပ်ကို ရဖို့ရာ စာမေးပွဲစနစ်ဖြင့် ဖော်ထုတ်ရယူရမှာ ဖြစ်ပါသည် ဘုရား။ ယခုခေတ်မှာ စာမေးပွဲစနစ်ကို မကျင့်သုံးလျှင် မဖြစ်ပါ ဘုရား။ သို့သော် အထက်ပါ အချက်လေးချက်ကို မူအဖြစ်ထားပြီး ကျင်းပသည့် စာမေးပွဲမျိုးကို လိုလားအပ်ပြီး အပြစ်ကင်းသည့် စာမေးပွဲမျိုး ဖြစ်နိုင်ပါသည် ဘုရား။ လက်ရှိ စာမေးပွဲစနစ်ဖြင့် လိုအပ်သည့် အကျိုးကျေးဇူး လေးရပ်ကို မရနိုင်ပါ ဘုရား။ လက်ရှိစာမေးပွဲ စနစ်သည် သူ့ကျွန်ဘဝကပင် ကျင့်သုံးလာခဲ့သည့် စနစ်ဖြစ်ရာ ခေတ်အခြေအနေက တောင်းဆိုနေသည့် သာသနာ့ အန္တရာယ်ကို ကောင်းစွာ ကာကွယ်ပေးနိုင်သည့် စွမ်းရည်သတ္တိကို မပေးနိုင်ပါ ဘုရား။

ဤသို့ ဖြစ်သည်ကို စာမေးပွဲနှင့် လက်ပွန်းတတီး ရှိနေပြီး စဉ်းစား ဆင်ခြင်သုံးသပ်မိသည့် ပုဂ္ဂိုလ်တိုင်း အသိပင် ဖြစ်ပါသည် ဘုရား။ သို့ပါ၍—

'ရဟန်း သာမဏေများသည် အကျင့်သိက္ခာ ပညာ ဗဟုသုတ တိုးတက်မြင့်မားစေပြီး ပါဠိ—မြန်မာ နှစ်ဘာသာ တတ်မြောက် ကျွမ်းကျင်စေမည့် နည်းလမ်းများဖြင့် ပရိယတ္တိ စာပေကို သင်ယူနိုင် ရေးအတွက် ပရိယတ္တိစာမေးပွဲများကို ပြုပြင်ကျင်းပသွားနိုင်ရန် ဤ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးက ဆုံးဖြတ်ပြဋ္ဌာန်း ကြောင်း'

အဆိုကို သန်လျင် အခြေခံဒေသ ဘားကူးအနောက် ဘုရားသုံးဆူကျောင်း တပည့်တော် ဝဏ္ဏသာရက တင်သွင်းပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။ယခု တင်သွင်းသွားသည့် အဆိုကို ထောက်ခံဆွေးနွေးမည့် ဆရာတော် ရှိပါက ကြွရောက်ထောက်ခံတော်မူပါ ဘုရား။

ဦးပညာသီဟ (ရတနာမာန်အောင်ကျောင်းတိုက်၊ မေမြို့)။ ။ကြွဝါဒါ ပရိယဆရာတော်များ၊ ဥက္ကဋ္ဌဆရာတော် အမှူးပြုသော သံဃာ့ဝန်ဆောင် ဆရာတော်များနှင့် သံဃာသမ္မုတိရ ကိုယ်စားလှယ် ဆရာတော်တို့ ဘုရား။ ပရိယတ္တိစာမေးပွဲများ ပြုပြင်ကျင်းပရန် အဆိုကို တပည့်တော်အား ထောက် ခံခွင့်ပြုတော်မူပါ ဘုရား။

'ရဟန်း သာမဏေများသည် အကျင့်သိက္ခာ ပညာ ဗဟုသုတ တိုးတက်မြင့်မားစေပြီး ပါဠိ—မြန်မာ နှစ်ဘာသာ တတ်မြောက် ကျွမ်းကျင်စေမည့် နည်းလမ်းများဖြင့် ပရိယတ္တိစာပေကို သင်ယူနိုင် ရေးအတွက် ပရိယတ္တိစာမေးပွဲများကို ပြုပြင်ကျင်းပသွားနိုင်ရန် ဤ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးက ဆုံးဖြတ်ပြဋ္ဌာန်း ကြောင်း'

ဟူသော ရန်ကုန်တိုင်း ဟံသာဝတီ သန်လျင်အခြေခံဒေသ သန်လျင်မြို့နယ် ဘားကူးအနောက်ရွာ ဘုရားသုံးဆူကျောင်း ဦးဝဏ္ဏသာရ၏ အဆိုကို မန္တလေးတိုင်း မန္တလေး အခြေခံဒေသ မေမြို့ ရတနာမာန်အောင် ကျောင်း တိုက် တပည့်တော် ပညာသီဟက ထောက်ခံပါသည် ဘုရား။

အဆိုရှင် ဆရာတော်က သူ၏အဆိုကို မျှော်လင့်ချက် လေးရပ်ဖြင့် တင် သွင်းသွားပါသည် ဘုရား။ မျှော်လင့်ချက် လေးရပ်က (၁) အကျင့်သိက္ခာ

မြင့်မားစေခြင်း။ (၂) ပိဋကတ်ကျမ်းဂန် နှံ့စပ်စေခြင်း။ (၃) ပါဠိဘာသာ တတ်မြောက်ကျွမ်းကျင်စေခြင်း။ (၄) မြန်မာစာပေ အရေးအသား တော်စေခြင်းတို့ ဖြစ်ပါသည် ဘုရား။ ဤလေးရပ်ကို အနည်းငယ် ရှင်းလင်းခွင့် ပြုပါ ဘုရား။

ယခု လက်ရှိ ကျင်းပလျက် ရှိသော စာပေးပွဲ စနစ်များမှာ ပိဋကတ်တော်နှင့် အထိအတွေ့ နည်းပါးပြီး ပါဠိအခြေခံ သဒ္ဒါနည်းများကို အလေးထားသင်စေသော စနစ်များ ဖြစ်ပါသည် ဘုရား။ သဒ္ဒါတတ်မှ စာတတ်သည် ဟူသော ဆောင်ပုဒ်ဖြင့် ကျားကန်ပေးလျက် သဒ္ဒါရေးကို အလေးပေးပြီး အစွန်းရောက်အောင် သင်ကြားပေးသဖြင့် ပိဋကတ် အသိဉာဏ် ကျယ်ကျယ်ပြန့်ပြန့် မရ၍ ကိုယ်နှုတ် စိတ် သောင်းကျန်း ပရမ်းပတာ ဖြစ်ကြရပါသည် ဘုရား။ ပိဋကတ် တဘက်သတ်ကိုသာ သင်၍ သဒ္ဒါရေးကို လျစ်လျူရှုပြန်လျှင်လည်း ပုဒ်ပါဌ်အက္ခရာ မှန်ကန်စွာ မသိသဖြင့် ပိဋကတ်အရှည်ခံ၍ တည်တံ့အောင် ထိန်းသိမ်းနိုင်မည် မဟုတ်သည့်အပြင် ဆင်ကန်းတောတိုးအကျိုးမရောက် ပုဒ်ပါဌ်တိုင်းမှာ တွေဝေဝိစိကိစ္ဆာတွေ တိုးပွားဖို့ရှိပါသည် ဘုရား။ သို့ပါ၍ သဒ္ဒါရေးနှင့် ပိဋကတ် အသိဉာဏ် ညီမျှစေမည့် မဇ္ဈိမပဋိပဒါ စာသင်နည်းတရပ် ဖော်ဆောင်ပေးရန် အမြဲအနေက တောင်းဆိုနေပါပြီ ဘုရား။

**ပါဠိဘာသာတတ်မြောက်ကျွမ်းကျင်စေခြင်း။** ။ဘုရားရှင်၏ စကားတော်များသည် ပါဠိဘာသာဖြင့် တည်ရှိနေသောကြောင့် မြန်မာနိုင်ငံသို့ သာသနာတော် ရောက်စမှစ၍ ယနေ့တိုင်အောင် သာသနာ့ဝန်ဆောင် ရှင်ရဟန်းများသည် ပါဠိဘာသာကို လေ့လာ လေ့ကျက် သင်ကြားနေကြရပါသည် ဘုရား။ ပထမပြန် စာမေးပွဲဝယ် ပါဠိဘာသာ၌ ကျွမ်းကျင်လိမ်မာရေးကို ရှေးရှု၍ အင်္ဂုတ္တိုရ် ပါဠိတော်ကို ဘာသာပြန် အဖြစ် ပြဋ္ဌာန်းခဲ့ပါသည်။ သို့ ပြဋ္ဌာန်းခဲ့သော်လည်း မျှော်မှန်းသလောက် အကျိုးသက်ရောက်မှု မရှိသေးပါ၊ အကြောင်းမှာမူ စာမေးပွဲ၌ ပါဠိဘာသာ အတွက် အမှတ်မရသော်လည်း မြန်မာဘာသာပြန်ဖြင့်ပင် အောင်မှတ် လုံလောက်အောင် ရသောကြောင့် ထိုအင်္ဂုတ္တိုရ် ပါဠိကို လေ့လာသင်ကြားရာ၌ မြန်မာပြန်တတ်ရုံမျှကို အဓိက ထား၍ သင်ကြားလေ့လာနေကြပါသည်။ ပါဠိသိကုံးနည်းကိုမူ လေ့လာသူ အလွန်နည်းပါးနေရုံမျှမက မရှိသလောက်ပင်ရှားပါးနေသောကြောင့်ပင် ဖြစ်ပါသည် ဘုရား။ သို့ လေ့လာသူ နည်းပါးနေကြောင်းကို (၁) ပါဠိပထမပြန် စာမေးပွဲ၌ ပါဠိဘာသာဖြင့် ဖြေဆိုနိုင်သူ ဦးရေ အလွန်နည်းပါးနေသေးခြင်း၊ (၂) ဧခုဝန်းကျင် ပါဠိဂူ

စာမေးပွဲကို သုညဖြင့် စတင်ခဲ့ရခြင်း၊ (၃) နိုင်ငံခြား ရဟန်းတော်များနှင့် တွဲဖက်၍ ပါဠိစကားပြောကြားနိုင်သူ ဦးရေ အလွန် နည်းပါးနေသေးခြင်းတို့က သက်သေခံလျက် ရှိပါသည် ဘုရား။

မြန်မာရဟန်းတော်များမှာ ပိဋကတ်တော်ကို အလွန်လိမ်မာကျွမ်းကျင်တော်မူကြပါလျက် ပါဠိရေးနည်း - ပါဠိပြောနည်းများကို မကျွမ်းကျင်သည့်အတွက် ကမ္ဘာ့ပါဠိပညာရှင်တို့၏ အထင်အမြင်သေးမှုကို ခံနေကြရပါသည်ဘုရား။ မခဲယဉ်းလှသော ပါဠိသီကုံးပြောဆိုရေးဝဂ်၌ ကျွမ်းကျင်လိမ်မာခဲ့ပါမူ ခဲခဲယဉ်းယဉ်း သင်ယူရသော ပိဋကတ် ကျွမ်းကျင်မှုအတွက် ကမ္ဘာ့ပါဠိပညာရှင်တို့၏ အလယ် ထယ်ထယ်ဝါဝါ ဂုဏ်ယူနိုင်မည်ဖြစ်၍ ပါဠိဘာသာ တတ်မြောက်ကျွမ်းကျင်စေမည့် စာသင်နည်း ဝ ပ်ဂ ၊ တည်ထောင်ပေးသင့်ပါသည် ဘုရား။

မြန်မာစာပေအရေးအသား တော်စေခြင်း။ ။ရဟန်း, သာမဏေများသင်ကြားရသော ပါဠိစာပေမှာ ကံ, ဂတ္တား, ကြိယာ မှစ၍ ဝါကျထုံးဖွဲ့နည်းများတွင် ပါဝင်နေသဖြင့် စနစ်တကျ ရှိလှပါသည် ဘုရား။ မြန်မာမင်းများလက်ထက်ပေါ် ရှေးဆရာတော်ကြီးများလည်း ထိုနေစ်ကို ယူ၍ မြန်မာစာပေရေးသားဘက်၌ တောက်တောက်ပြောင်ပြောင် စွမ်းဆောင်နိုင်ခဲ့ကြပါသည် ဘုရား။ ထိုအခါ မြန်မာစာပေမှာ ထီးသုံး နန်းသုံး စာပေဖြစ်၍လည်း သိအောင် တတ်အောင် ကြိုးစားကြပါသည် ဘုရား။ ကိုလိုနီခေတ်၌ကား မြန်မာစာပေ အရေးပါမှုသည် တစ တစ တိမ်ကောလာခဲ့သဖြင့် သိအောင် တတ်အောင် ကြိုးစားမှုလည်း နည်းပါးလာခဲ့ရကား အချို့ဆရာတော်ကြီးများ၏ ကျမ်းဂန်စာပေများ၌ပင် မြန်မာစာပေ ဒုလွဲအမှားများကို တွေ့နေရပါသေးသည် ဘုရား။ သို့ပါ၍ မြန်မာစာပေအရေးအသားတော်စေမည့် စာသင်နည်းတရပ်ကို ပြုပြင်ပေးသင့်ပါသည်ဘုရား။ ဆိုခဲ့ပြီးသော အကြောင်းအရာများကို ထောက်ထား၍ ရန်ကုန်တိုင်း ဟံသာဝတီ သန်လျင်အခြေခံဒေသ သန်လျင်မြို့နယ် ဘားကူးအနောက်ရွာ ဘုရားသုံးဆူကျောင်း ဦးဝဏ္ဏသာရ၏ ရဟန်း, သာမဏေများသည် အကျင့်သိက္ခာ ပညာ ဗဟုသုတ တိုးတက်မြင့်မားစေပြီး ပါဠိ-မြန်မာ နှစ်ဘာသာ တတ်မြောက်ကျွမ်းကျင်စေမည့် နည်းလမ်းများဖြင့် ပရိယတ္တိစာပေကို သင်ယူနိုင်ရေးအတွက် ပရိယတ္တိစာပေးပွဲများကို ပြုပြင်ကျင်းပသွားနိုင်ရန် ဤဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးက ဆုံးဖြတ်ပြဋ္ဌာန်းကြောင်း ဟူသောအဆိုကို တည့်တော် မန္တလေးတိုင်း၊ မန္တလေးအခြေခံဒေသ မြို့ ရတနာမာန်အောင်ကျောင်း ပညာသီဟ က လေးလေးနက်နက် ထောက်ခံပါသည်

ဘုရား။ ဗုဒ္ဓမြတ်စွာ သာသနာတော် သန့်ရှင်းတည်တံ့ အရှည်ခိုင်၍ ပျံ့နှံ့ပါစေသတည်း။

**အခမ်းအနားမှူးဆရာတော်။** ။ပရိယတ္တိစာမေးပွဲများ ပြုပြင်ကျင်းပသွားရန် ဆုံးဖြတ်ကြောင်းအဆိုကို အစည်းအဝေးကြီး၏ အတည်ပြုချက်ရယူရန်အတွက် ဥက္ကဋ္ဌဆရာတော်ဘုရားကြီးအား ပန်ကြားအပ်ပါသည်ဘုရား။ ဆရာတော်ဘုရား ပန်ကြားအတည်ပြုပေးရန် ဆန္ဒယူတော်မူပါဘုရား။

**ဥက္ကဋ္ဌဆရာတော်။** ။ဆရာတော် အရှင်မြတ်တို့ ဘုရား၊ ယခုတင်သွင်းသွားတဲ့ ပရိယတ္တိစာမေးပွဲများ ပြုပြင်ကျင်းပရန် ဆုံးဖြတ်ကြောင်းအဆိုကို အစည်းအဝေးကြီးက သဘောတူကြပါသလားဘုရား။ သဘောတူကြပါက ဆိတ်ဆိတ်နေတော်မူကြရန်ဖြစ်ပါတယ် ဘုရား။

သဘောတူကြပါလျှင် သာဓုအနုမောဒနာ သုံးကြိမ် ခေါ်ရန်ဖြစ်ပါတယ်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

**မြတ်ဘုရား၏ပုံတော်များကို မျက်နှာဖုံးအဖြစ် အသုံးပြုခြင်း နှင့် ပိဋကတ်တော်များ နှင့် ပညီညွတ်သော ပုံတော်များ ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန်အဆိုကို တင်သွင်းဆွေးနွေး အတည်ပြုခြင်း**

**အခမ်းအနားမှူးဆရာတော်။** ။ယခုအစီအစဉ်အရ မြတ်စွာဘုရား၏ ရုပ်ပွားတော်ပုံ စေတီတော်ပုံတို့ကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် မျက်နှာဖုံးအဖြစ် အသုံးပြုခြင်း နှင့် ပိဋကတ်တော်များနှင့်မညီညွတ်သော ရတနာသုံးပါးနှင့်စပ်လျဉ်းသည့်ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန် သက်ဆိုင်ရာများထံ မေတ္တာရပ်ခံသင့်ကြောင်းအဆိုကို တင်သွင်းရန် ဆရာတော် ကြွရောက်တော်မူပါ ဘုရား။

**ဦးပညာဇောတ ( မြို့ကြီးကျောင်း၊ ပေါင်းတည်မြို့ )။** ။မြတ်စွာဘုရား၏ ရုပ်ပွားတော်ပုံ စေတီတော်ပုံတို့ကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် မျက်နှာဖုံးအဖြစ်အသုံးပြုခြင်းနှင့် ပိဋကတ်တော်များနှင့်မညီညွတ်သော ရတနာသုံးပါးနှင့်စပ်လျဉ်းသည့်ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်

ပေးရန် သက်ဆိုင်ရာများထံ မေတ္တာရပ်ခံသင့်ကြောင်း အဆိုတင်သွင်းလှပါ ဘုရား။

အလွန်တရာမှ တွေ့ရ မြင်ရ ကြုံကြိုက်ခဲလှစွာသော သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်း အ ဝေး ကြီး သို့ ကြွရောက်တော်မူကြကုန်သော ဥက္ကဋ္ဌဆရာတော်ဘုရားကြီးမှူးသည့် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ပဲခူးတိုင်း ပြည်အခြေခံဒေသ၊ ပေါင်းတည်မြို့၊ မြို့ကြီးကျောင်းနေ ဘုရားတပည့်တော် ပညာဇောတ မြတ်စွာဘုရားသခင် ရုပ်ပွားတော် စေတီ တော်ပုံများကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် မျက်နှာဖုံးအဖြစ် အသုံး ပြုခြင်း ပိဋကတ်တော်များနှင့်မညီညွတ်သော ရတနာသုံးပါးနှင့် ပေ်လျဉ်း သည့်ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန် သက်ဆိုင်ရာ များထံ မေတ္တာရပ်ခံသင့်ကြောင်း အဆိုတင်သွင်းခွင့်ပေးသနားတော်မူကြပါ ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် အမြို့မြို့ အနယ်နယ်တိုင်း၌ မြတ်စွာဘုရား သခင်၏ရုပ်ပွားတော် စေတီတော်ပုံများကို ပြက္ခဒိန် စာအုပ် တိတ်ခွေ မျက် နှာဖုံးများအဖြစ် သုံးစွဲနေကြသည်ကို ဆရာတော်ဘုရားများ တွေ့ပြီး မြင်ပြီး ဖြစ်ကြပါသည် ဘုရား။ ထိုမြတ်စွာဘုရားသခင်၏ပုံတော်များကို မျက်နှာဖုံး အဖြစ်အသုံးပြုကာ ထုတ်လုပ်နေသူများထဲတွင် အချို့ပုဂ္ဂိုလ်တို့မှာ မြတ်စွာ ဘုရားရှင်၏ ရုပ်ပွားတော် ပုံတော်များ စေတီတော်များကိုဖူးမြင်ကြရလျှင် ဗုဒ္ဓဘာသာဝင် သူတော်စင်မှန်သမျှ ကြည်ညိုစိတ်ပွား ကုသိုလ်များကြ ပါစေ ဟူသောချည်ရွယ်ချက်ဖြင့် ထုတ်ဝေသူများလည်း ရှိကောင်း ရှိကြ ပါလိမ့်မည် ဘုရား။ သို့သော်လည်း ဗုဒ္ဓဘာသာဝင် သူတော်စင်မှန်သမျှ တို့မှာ မြတ်စွာဘုရားသခင်၏ရုပ်ပွားတော် စေတီတော်ပုံများကိုဖူးမြင်ရလျှင် ဝမ်းမြောက်ဝမ်းသာ သဒ္ဓါယိုဖိတ် ပီတိစိတ်တွေ ဖြစ်ပေါ်ရကား တွေ့မြင် ရသူတွေ ဝယ်ချင်စိတ်ပေါက်လျက် အရောင်းရသွက်အောင် ထုတ်လုပ်နေသူ တွေသာ များကြလိမ့်မည်ဟု ယူဆမိပါသည် ဘုရား။

မည်သို့သော စိတ်ထားမျိုးဖြင့် ထုတ်ဝေသည်ဖြစ်စေ၊ သုံးစွဲသောသူများ အနေကို ကြည့်ရှု လိုက်ပါလျှင် ( များသောအားဖြင့် ) ချိတ်ဆွဲရာ၌လည်း ကောင်း၊ သိမ်းဆည်း ထားရာ၌လည်းကောင်း၊ ကိုင်ဆောင်ယူ ကြည့်ရှုရာ၌လည်း ကောင်း ဥဒ္ဒိဿစေတီ၊ ပရိဘောဂစေတီ ထိုက်တော်မူသော ရုပ်ပွားစေတီ

ပုံတော်များ၊ မြတ်စွာဘုရားသခင်၏ ဂုဏ်တော်များကို အရိုအသေမထားကြမူ၍ ပြက္ခဒိန်တခု အနေ၊ စာတအုပ်အနေ၊ တိတ်ခွေတခု အနေဖြင့်သာ ချိတ်ဆွဲ ကိုင်တွယ် သုံးသပ်နေကြသည်တို့ကို တွေ့ရှိကြပါလိမ့်မည် ဘုရား။

ယင်းကဲ့သို့သော အပြုအမူမျိုးသည် ' တိဋ္ဌန္တေ နိဗ္ဗုတေ စာပိ၊ သမေ စိတ္တေ သမံ ဖလံ ' ဟူသော စကားတော်အရ ရုပ်ပွားစေတီ ပုံတော်များ ဖြစ်စေကာမူ သက်တော်ထင်ရှား မြတ်စွာဘုရားနှင့် တသားတည်း အနေ စိတ်ထား ရှိပါချေက တူမျှသောအကျိုးကို ပေးတတ်လေရကား သက်တော် ထင်ရှား မြတ်စွာဘုရားသခင်ကဲ့သို့ လေးစားရိုသေ မြတ်နိုးပူဇော်ရပေမည် ဖြစ်သော ရုပ်ပွားစေတီပုံတော်များကို ဤကဲ့သို့ မမာဏမထား လုပ်ဆောင် နေခြင်းများသည် ကုသိုလ်မဖြစ်ရုံသာ မက ဗုဒ္ဓ အဂါရဝ မြတ်စွာ ဘုရား အပေါ် မရိုမသေ မလေးမစား ပြုရာ ရောက်နေပါသောကြောင့် ကိုင်တွယ် ကြည့်ရှုသူများအတွက် အကုသိုလ် တရားတွေ ပွားချင်တိုင်းပွားနေပါတော့ သည် ဘုရား။

ဤမျှလောက်သာ မကသေးပါဘုရား။ စာအုပ်များအနေ လွန်မင်းစွာ မဆိုသာချေပါသော်လည်း ပြက္ခဒိန်စာရွက်များမှာ အသုံးပြုပြီးသောကာလ ပုံတော်များကို ပမာဏ မထားတော့မူ၍ ထားချင်သည့် နေရာမှာ ထား, ပစ်ချင်သည့်နေရာမှာ ပစ်ထားတတ်လေရကား မြတ်စွာဘုရား၏ ရုပ်ပွား တော် စေတီတော် ပုံတွေကို အမှိုက်ပုံ လမ်းဆုံလမ်းခွ အစရှိသော မသင့် လျော်သည့် နေရာတို့၌ ပစ်ယားကြသည်ကို ဆရာတော်ဘုရားများ တွေ့ရှိကြ ပါလိမ့်မည် ဘုရား။

ထိုထက် ဆိုးရွားသော အချက်မှာ ဝါဒမတူ အယူကွဲပြားသူများက ဆိုလျှင် ရုပ်ပွားစေတီတော်ပုံများ ပါရှိသည့် စာရွက်တွေနှင့် ကုန်ထုပ် ပေး သည်အထိ ဂမ်းနည်းစရာ အသုံးပြု ခံနေရသော အချက်ပင် ဖြစ်ပါသည် ဘုရား။ သို့ပါသောကြောင့် မြတ်စွာ ဘုရားသခင်၏ ရုပ်ပွားတော် စေတီ တော် ပုံများကိုပြက္ခဒိန်စသည်တို့၌ မျက်နှာဖုံးအဖြစ် သုံးစွဲနေခြင်းမှာ ကိုင် ဆောင် အသုံးပြုသူများ အတွက် ကုသိုလ် များခြင်းထက် အကုသိုလ်ပွား ခြင်းက ပိုမိုနေသည်ဟု ထင်မြင် ယူဆမိပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား။ အကျယ်တဝင့် လျှောက် ထားရမည့် အချိန် မဟုတ်ပါသောကြောင့် ပိဋကတ်တော်များနှင့် မလျော် ညီသော ရတနာသုံးပါးနှင့် စပ်လျဉ်းသည့် ပုံတော်များ အကြောင်းကို ဆက်လက် လျှောက်ထားပါရစေ ဘုရား။

လွန်ခဲ့သော လေးနှစ် ငါးနှစ်ခန့်လောက်က နာမည်ကျော် ဗုဒ္ဓဘာသာ အသင်းကြီးတခုမှ ထုတ်ဝေလိုက်သည့် ပြက္ခဒိန်တခုကို လေ့လာလိုက်ရပါသည် ဘုရား။ ၎င်းပြက္ခဒိန်၏ မျက်နှာဖုံးကတော့ မိဂဒါဝုန်တောင်ယ မြတ်စွာဘုရားသခင်က ပဥ္စဝဂ္ဂီငါးဦးတို့အား ဓမ္မစကြာတရား ဟောကြားနေသည့် ပုံတော်ပင် ဖြစ်ပါသည် ဘုရား။ ထိုပုံတော်တွင် မြတ်စွာဘုရားသခင် ပုံတော် အနေနှင့် ဆိုစရာမရှိပါသော်လည်း ပဥ္စဝဂ္ဂီငါးဦးတို့၏ ပုံတော်များမှာ ရဟန်းအသွင် မဟုတ်မူ၍ ဆံပင်ရှည်လျား မုတ်ဆိပ်များနှင့် လူသားတို့အဝတ် အစားအတိုင်းပင် ရိုက်နှိပ်ထားသည်ကို တွေ့မြင်လိုက်ရပါသည် ဘုရား။ ထုတ်ဝေသူတို့ အထင်မှာ ပဥ္စဝဂ္ဂီငါးဦးတို့သည် ဧဟိ ဘိက္ခု ရဟန်းတော် များ ဖြစ်ကြ၍ မြတ်စွာဘုရားသခင်က ဧဟိ ဘိက္ခု အစရှိသော စကားကို မိန့်တော်မူသောအခါ အရှင်ယသ၊ အရှင်မဟာကဿပ စသော မထေရ်တို့ ကဲ့သို့ ချက်ခြင်းလက်ငင်း လူ့အသွင် ကွယ်ပျောက်လျက် ဝါတော် ခြောက် ဆယ်ရပြီးသော ရဟန်းအသွင်သို့ ရောက်သည် ဟု အထင်ရောက်ခါ ရိုက်နှိပ် ထုတ်ဝေလိုက်ခြင်း ဖြစ်ဟန်တူပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။ ဆရာတော်ဘုရားများ သိတော်မူပြီးသည့်အတိုင်း ပဥ္စဝဂ္ဂီ ရဟန်းတော် ငါးဦးတို့မှာ အရှင်ယသ၊ အရှင် မဟာကဿပ စသော မထေရ်များ ကဲ့သို့ ဧဟိ ဘိက္ခု အစရှိသော စကားကို မိန့်ကြားသောအခါမှ-ဧဟိဘိက္ခုခေါ်သောအခါမှ ရဟန်းအသွင် ရောက်ကြသူများ မဟုတ်ပါ ဘုရား။ မြတ်စွာဘုရား အလောင်းတော် (သိဒ္ဓတ္ထမင်းသား) ဘုရားမဖြစ်မီ ဇာတာဇာကပင် (ရသေ့) ရဟန်းပြုနေကြ သူများ ဖြစ်တော်မူကြကြောင်းကို ဗုဒ္ဓပင် အဋ္ဌကထာ စသည်တို့၌ တိုက်ရိုက် မိန့်တော်မူထားပါသောကြောင့် ဓမ္မစကြာတရား ဟောကြားတော်မူသော အခါ ပဥ္စဝဂ္ဂီ ငါးဦးတို့၏ အသွင်သဏ္ဌာန်မှာ လူဝတ်ကြောင်တို့၏ ပုံပန်း သဏ္ဌာန် မဟုတ်၊ ရဟန်းတော်တို့၏ အသွင်အပြင် ပုံသဏ္ဌာန်သို့ ရောက်နေ နှင့်ပြီး ဖြစ်ပါသည် ဘုရား။

သို့ပါသောကြောင့် ကုသိုလ်များမှထက် အကုသိုလ်ပွားမှုကို ဖြစ်စေတတ် သည့် မြတ်စွာဘုရားသခင်၏ ရုပ်ပွားတော်ပုံတော်များကို ပြက္ခဒိန်စာအုပ် တိကံခွ စသည်တို့၏ မျက်နှာဖုံးမှ အစ ယပ်တောင် ဖိတ်စာ အဆုံး အသုံး ပြုခြင်း၊ ပိဋကတ်တော်နှင့် မလျော်ညီသော ရတနာ သုံးပါးနှင့် စပ်လျဉ်း သည့် ပုံတော်များ ထုတ်ဝေခြင်းတို့ကို သက်ဆိုင်ရာတို့က တားမြစ်ပိတ်ပင် ပေးပါရန် မေတ္တာရပ်ခံသင့်ကြောင်း အဆိုကို လေးလေးနက်နက် တင်သွင်း အပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်က**။ ။ယခု တင်သွင်းသွားသည့် အဆိုကို ထောက်ခံဆွေးနွေးမည့် ဆရာတော် ရှိပါက ကြွရောက်ထောက်ခံတော်မူပါဘုရား။

ဦးသုန္ဒရ (ဘိုကုန်းကျောင်း၊ ပေါင်းတည်မြို့)။ ။ရိုသေလေးစားအပ်သော သဿပတိ ဆရာတော်ဘုရားကြီးနှင့် ထေရ နဝ မဇ္ဈိမ ဖြစ်တော်မူသော သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ မြတ်စွာဘုရားသခင်၏ ရုပ်ပွားဆင်းတုတော် စေတီပုံများကို ပြက္ခဒိန်၊ စာအုပ်၊ တိတ်ခွေများ၌ မျက်နှာဖုံးအဖြစ် အသုံးပြုခြင်း၊ ပိဋကတ်တော်နှင့် မလျော်ညီသော ရတနာသုံးပါး ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင် ပေးပါရန် သက်ဆိုင်ရာသို့ မေတ္တာရပ်ခံသင့်ကြောင်း အဆိုကို ထောက်ခံချက်ပါ ဘုရား။ တာဝတိံသာ မည်ဆန်း နတ်တို့နန်းဝယ် အလွန်တရာ မွန်မြတ်လှစွာသော အဆင်းအနံ့ အရသာတို့နှင့် ပြည့်စုံသည့် အာသာဝတီ နွယ်နီနတ်နန်းသည် အနှစ်တထောင်ကြာမြင့်မှ တကြိမ်တခါသာ ပွင့်လာသကဲ့သို့ သာသနာတော် နှစ်ပေါင်းများစွာ အတွင်း၌ အလွန်တရာ တွေ့ရ မြင်ရ ကြုံကြိုက်ခဲလှစွာသော သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ထက်သန်လှသောဆန္ဒ ပြင်းပြလှစွာသော ဝီရိယတို့ဖြင့် ကြွရောက်တော်မူလာကြကုန်သော ဥက္ကဋ္ဌဆရာတော် အမှူးရှိသည့် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ပဲခူးတိုင်း ပြည် အခြေခံဒေသ ပေါင်းတည်မြို့ မြို့ကြီးကျောင်း ဆရာတော် ဦးပညာဇောတ တင်သွင်းသွားသော အဆိုပြုချက်ကို ပေါင်းတည်မြို့ ဘိုကုန်းကျောင်း ဘုရားတပည့်တော် သုန္ဒရက ဆွေးနွေးထောက်ခံချက် ပေးပါမည် ဘုရား။ လောက၌ ရတနာ ဟူသည် မြင်ရသူအပေါင်းတို့၏ ရိုသေလေးစား စိတ်နှလုံးပွားခြင်းကို ပြုတတ်သည့်—(၁) စိတ္တီကတဂုဏ်၊ (၂) ဤရွေ့ ဤမျှ ထိုက်တန်လှပေ၏ ဟု အဖိုးမဖြတ်နိုင်သော မဟဂ္ဃဂုဏ်၊ (၃) တပါးသော ပစ္စည်းဝတ္ထုအစုစုတို့ကို တုပလို့မနိုင်း ယှဉ်ပြိုင်လို့ မရနိုင်သော အတုလဂုဏ်၊ (၄) အလွန်အကျူး အထူးသဖြင့် တွေ့ရ မြင်ရခဲလှစွာသော ဒုလ္လဘ ဒဿနဂုဏ်၊ (၅) မြင့်မြတ်စိတ်ထား ရှိတုံငြားသည့် အထက်တန်းစား ပုဂ္ဂိုလ်များသာ သုံးဆောင်နိုင်သည့် အနောမ သတ္တပရိဘောဂဂုဏ်တို့နှင့် မယုတ်မလျော့ ပြည့်စုံရပါသည် ဘုရား။ ထိုရတနာသည်လည်း လောကီရတနာ လောကုတ္တရာ ရတနာအားဖြင့် နှစ်မျိုးနှစ်စားရှိလေရာ လောကီရတနာ တို့သည် ပင်လျှင် ဆိုခဲ့ပြီးသော ဂုဏ်တို့နှင့် ပြည့်စုံနေရကား လောကီရတနာတို့ထက် နှိုင်းယှဉ်နိုင်အောင် အလွန်တရာ မွန်မြတ်လှသည့် လောကုတ္တရာ ရတနာတို့သည်

ဤသည့် ဂုဏ်တော်တို့နှင့် မယှဉ်ကိုလို ပြည့်စုံလိုလောက်သည် ဖြစ်ပါသည် ဘုရား။ ထိုသို့ ဂုဏ်အင်တို့နှင့် ပြည့်စုံပြည့်ဝသည် ဖြစ်ပါသောကြောင့် လောကုတ္တရာ ရတနာတို့သည် လူ,နတ်,ဗြဟ္မာ သတ္တဝါပေါင်းတို့၏ ရှိခိုးသင့် ရှိခိုးထိုက် မြတ်နိုးသင့် မြတ်နိုးထိုက် ရိုသေသင့် ရိုသေထိုက် ပူဇော်သင့် ပူဇော်ထိုက် အတုမဲ့ရှောင်း ရတနာကောင်း ရတနာမြတ်များ ဖြစ်တော်မူကြပါသည် အရှင်ဘုရား။ ထိုသို့ သဘောရှိတော်မူသော ရတနာမြတ်များကို ရိုသေလေးစားသောအနေ ပူဇော်သောအနေဖြင့် ဆည်းကပ်ကိုးကွယ်ခြင်း မပြုမူ၍ မရိုမသေ မလေးမစား ကိုင်တွယ်သုံးသပ်မှုများ ပြုလုပ်နေကြပါလျှင် လောကကြီး၌ ဆင်ပြောင်ကြီး, အဆိပ်ရှိသော သတ္တဝါ, လောင်ကျွမ်းစေတတ်သောမီး, တိုင်းပြည်အစိုးရမင်းတို့ကို မရိုမသေ မလေးမစား ပြုလုပ်သူတို့သည် ဘေးအန္တရာယ်ရောက်တတ်သကဲ့သို့ ရတနာသုံးပါးအား မရိုမသေ မလေးမစား ကိုင်တွယ်သုံးသင်မှု ပြုသူများအတွက် အကုသိုလ်ပွားခြင်းတည်းဟူသော ဘေးအန္တရာယ်တို့နှင့် မုချမသွေ ရင်ဆိုင်ရမှာ ဖြစ်လေသောကြောင့် မြတ်စွာဘုရား၏ ဆင်းတုတော် ရုပ်ပွားတော်ပုံများကို ပြက္ခဒိန် စာအုပ် တိတ်ခွေ စသည်တို့၏ မျက်နှာဖုံးမှအစ ကြော်ငြာကပ်သည် အဆုံး အသုံးမပြုရန်နှင့် ပိဋကတ်တော်များနှင့်မလျော်သော ရတနာသုံးပါး ပုံတော်များကို ထုတ်ဝေခြင်းမှ တားမြစ်ပိတ်ပင်ရန် သက်ဆိုင်ရာ၌ မေတ္တာရပ်ခံသင့်ကြောင်းအဆိုကို ဘုန်းတော်ကြီးပည့်တော် ပဲခူးတိုင်း ပြည်အခြေခံဒေသပေါင်းတည်မြို့ ဘိုကုန်းကျောင်း သုန္ဒရက လေးလေးနက်နက် ထောက်ခံအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။မြတ်စွာဘုရား၏ ရုပ်ပွားတော် စေတီတော်တို့ကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် အသုံးပြုခြင်းနှင့် ပိဋကတ်တော်များနှင့် မညီမညွတ်သော ရတနာသုံးပါးနှင့် ပတ်သက်သော ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန် သက်ဆိုင်ရာများထံ မေတ္တာရပ်ခံသင့်ကြောင်း အဆိုကို အစည်းအဝေးကြီးက အတည်ပြုချက် ရယူရန် အတွက် ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးအား ပန်ကြားလျှောက်ထားပါသည် ဘုရား။

**ဥက္ကဋ္ဌဆရာတော်။** ။ခုနက အဆိုပြုသွားတဲ့ ဆရာတော်များနဲ့ စပ်လျဉ်းပြီးတော့ ပဌမ ပရိယတ္တိစာမေးပွဲဆိုတဲ့ မွေရတနာနဲ့ ပတ်သက်တဲ့ အချက်ပြီးဆုံးခဲ့ပါပြီ၊ ပြီးဆုံးခဲ့ပြီးတော့ ဆက်စပ်ပြီးတော့ ဗုဒ္ဓရတနာနဲ့ ပတ်သက်တဲ့ အချက်ကိုလဲပဲ ရုပ်ပွားတော်များကို လေးစားလောက်တဲ့ နေရာ၌သာ သုံးနှုန်းစေလိုတယ်ဆိုတဲ့ နှလုံးသွင်းကို သိရတဲ့အတွက် ဆရာတော် သံဃာတော်

အရှင်သူမြတ်တို့ ဘုရား။ ယခု တင်သွင်းသွားတဲ့ မြတ်ဘုရား ရုပ်ပွားတော် စေတီတော် ပုံများကို ပြက္ခဒိန် စသည်တို့၌ သော်လည်းကောင်း၊ နောက်ပြီး တော့ ပုံအမှတ်တံဆိပ်ဖြစ်တဲ့ စာအုပ် တိုတ်ခွေတို့တွင် အသုံးပြုခြင်းများကို လည်းကောင်း ပိဋကတ်တော်များနဲ့ မညီညွတ်တဲ့ ရတနာသုံးပါးပုံတော် များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန် သက်ဆိုင်ရာများ ထံ မေတ္တာရပ်ခံသင့်ကြောင်းအဆိုကို ဤအစည်းအဝေးကြီးက သဘောတူကြ ပါသလား ဘုရား၊ သဘောတူကြပါက ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါ တယ် ဘုရား။ သဘောတူကြပါလျှင် သာဓုအနုမောဒနာ သုံးကြိမ် ခေါ်ရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ် တော်မူကြသည်။

ရဟန်းတော်များနေထိုင်ရာ ကျောင်း/ကျောင်းတိုက်အတွင်းမှ
အမြဲနေလူပုဂ္ဂိုလ်များ ဖယ်ရှားပေးသင့်ကြောင်းအဆိုကို
တင်သွင်းဆွေးနွေး အတည်ပြုခြင်း

အခမ်းအနားမှူး ဆရာတော်။ ။ယခုအစီအစဉ်အရ ရဟန်းတော်များ နေထိုင်ရာ ကျောင်း/ကျောင်းတိုက်အတွင်းမှ အမြဲနေလူပုဂ္ဂိုလ်များဖယ်ရှား ပေးသင့်ကြောင်းအဆိုကို တင်သွင်းမည့်ဆရာတော် ကြွရောက်တော်မူပါ ဘုရား။

ဦးကုမာရဓဇာဘိဝံသ (တောင်သမန်တိုက်၊ မန္တလေးမြို့)။ ။သာသနာ တော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး အဝေးပွဲကြီး၌ တင်သွင်းအပ်သော ရဟန်းတော်များနေထိုင်ရာ ကျောင်း/ ကျောင်းတိုက်အတွင်းမှ အမြဲနေ လူပုဂ္ဂိုလ်များ ဖယ်ရှားပေးရန် ဆုံးဖြတ် ကြောင်း အဆိုပြုလွှာပါ ဘုရား။ ဘုရားကပဥ္စ်တော်တို့ ရဟန်းတော်များ အားလုံးတို့သည် ဘုရားရှင်၏ သာသနာတော်တွင်းသို့ ဝင်ရောက်လာခဲ့ကြ ခြင်းမှာ 'ယဿတ္ထာယ ကုလပုတ္တာ သမ္မဒေဝ အဂါရသ္မာ အနာဂါရိယံ ပဗ္ဗဇန္တိ' ဟူသည်နှင့်အညီ နိဗ္ဗာန်, မဂ်, ဖိုလ်ကို မျှော်ကိုးတော်တလျက် အိမ်ရာတည်ထောင် လူ့ကိုဘောင်တည်းဟူသော ဝဋ်ဂယက်မှ ဖဲထွက်ကာ လွတ်အောင်ရုန်း၍ သာသနာတော်တည်းဟူသော ကြည်းကုန်းသောင် အထက်သို့ တက်လှမ်းမှီခိုလာခဲ့ကြသည့် ပုဂ္ဂိုလ်ချည်းဖြစ်ကြပါသည် ဘုရား။

ထိုသို့ သာသနာတော်အတွင်းသို့ ချဉ်းကပ်ဝင်ရောက်လာကြသည့် အလျောက် အနာဂါရိယ ရှင်ရဟန်းတို့ ပြုဖွယ်ကိစ္စမှာ နှစ်ပြားသောဓုရမှ



နိုင်ငံတော်သံဃမဟာနာယကအဖွဲ့ ဇမ္ဗုဒီပကျောင်းဆောင်၌
ပထမအကြိမ်စည်းဝေးစဉ်

ဟိုရှေးယခင်က ဗုဒ္ဓဘာသာဝင် သူတော်စင်မိဘများ အဆုံးအမအရ ရဟန်းတော်များနေထိုင်ရာ ကျောင်း/ကျောင်းတိုက်အတွင်း၌ အသိဉာဏ်ရှိပြီး လူကြီးများကို မဆိုထားဘိ ကလေးသူငယ်များသည်ပင် အပေါ့အလေးသွားရန် မဝံ့၊ ကြောက်ရွံ့ရိုသေခဲ့ကြပါသည် ဘုရား။ သို့ပါသော်လည်း ယခုကဲ့သို့ ရဟန်းတော်များနှင့် ရောနှောနေထိုင်လာကြသည့်အခါတွင် အပေါ့အလေး စွန့်ခြင်းကိစ္စမှာ အသေးအဖွဲ့သဘောမျှသာဖြစ်၍ အိမ်ထောင်သားမွေးသည့်ကိစ္စများကို ပေါ့ပေါ့တန်တန် သဘောထားကာ လွယ်လွယ်ကူကူ ပြုမူနေထိုင်ကြသဖြင့် ယင်းပုဂ္ဂိုလ်များအဖို့ အပြစ်တွေသာ နေ့စဉ်တိုးပွားနေသည်ကို ဆရာတော်များအသိပင်ဖြစ်ပါသည် ဘုရား။

တပည့်တော်တို့၏ ခန္ဓာအိမ်ကြီးသည် ပိုးမျိုး (၈၀) တို့၏ နေထိုင်ရာ ကာမဂုဏ်မှိုဝဲရာ သွားဖွားရာ အသေကောင်စွန့်ပစ်ရာဌာနကြီး ဖြစ်နေသလို လူများလက်ခံထားရာ ကျောင်း/ကျောင်းတိုက်များမှာလည်း ထိုနည်းနှင်နှင် ဖြစ်နေပါပြီဟုသာ လျှောက်ထားရပါသည် ဘုရား။

ဤသို့ ဒကာ, ဒကာမများနှင့် ရောနှောနေထိုင်လာသည့်အခါက၍ သိက္ခာနုနယ်သူများ၊ ငယ်ရွယ်များသာမက မဟာထေရ်များသည်ပင်လျှင် သမာဓိပျက်ပြားကာ အမျိုးအပြား ပရိသုဒ္ဓိပြုလျက်လည်းကောင်း မပြုပဲလျက်လည်းကောင်း ဖြစ်နေ-ရှိနေသည်ကိုလည်း ဆရာတော်များ ဂိဟိ သုတ ပရိသင်္ကိဘ သဘောဖြစ်လျက် ရှိနေကြပါပြီ ဘုရား။

ကျောင်းပိုင် ကျောင်းထိုင် မထေရ်ကြီးများမှာလည်း 'ဂိဟိ ပဗ္ဗဇိတေဟိ အသံသဂ္ဂါ' ဟူသော အင်္ဂုတ္တရ စကားကို အလေးမမူနိုင်တော့ပဲ ဂိဟိသံသဂ္ဂကြောင့် စာပေကျမ်းဂန်ပို့ချမှုမပြုနိုင်တော့ပဲ ပရိယတ်, ပဋိပတ်လုပ်ငန်းများ လစ်ဟင်းလျက်ရှိနေသည်မှာ အထင်အရှားပင် ဖြစ်ပါသည် ဘုရား။

ယင်းသို့ ဂိဟိသံသဂ္ဂအမှုသည် သကပက္ခ, ပရပက္ခ နှစ်ဘက်စလုံး၌ အကျိုးမများ အပြစ်သာပွားနေမည်ကို သိမြင်တော်မူသော ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဂိဟိသံသဂ္ဂနှင့်စပ်လျဉ်း၍ အထူးသဖြင့် မာတုဂါမများနှင့်စပ်လျဉ်း၍ သိက္ခာပုဒ်တော်များ ပညတ်တော်မူခဲ့သည်ကိုလည်း ဆရာတော်များအသိပင်ဖြစ်ပါသည် ဘုရား။

ဤမျှသာမကသေး ပရိနိဗ္ဗာန် စံဝင်တော်မူကာနီး အရေးတကြီးအခါသမယ၌ အရှင်အာနန္ဒာမထေရ်မြတ်က မာတုဂါမများနှင့် စပ်လျဉ်း၍ မည်သို့ကျင့်သုံးနေထိုင်ရမည်ကို မေးလျှောက်သည့်အခါ—

'ကထံ မယံ ဘန္တေ မာတုဂါမေ ပဋိပဇ္ဇာမ ာတိ၊
အဒဿနံ အာနန္ဒာတိ၊ ဒဿနေ ဘဂဝါ သတိ ကထံ
ပဋိပဇ္ဇိတဗ္ဗန္တိ၊ အနာလာပေါ အာနန္ဒာတိ၊
အာလပန္တေန ပန ဘန္တေ ကထံ ပဋိပဇ္ဇိတဗ္ဗန္တိ၊
သတိ အာနန္ဒ ဉပဋ္ဌာပေတဗ္ဗာတိ'

**ဟူ၍** ဘုရားရှင် ဟောတော်မူခဲ့ပါသည် ဘုရား။

ဘုရားရှင်က 'မာတုဂါမများကို မမြင်အောင်နေပါ၊ မြင်လျှင် စကား မပြောပဲနေပါ၊ စကားပြောခွင့်ကြုံသော် သတိကြပ်ကြပ်ထားပါ' ဟု မိန့် ကြားတော်မူခဲ့သည့်အတိုင်း မာတုဂါမများနှင့် ကင်းရှင်းစွာနေစေလို ကြောင်းဆန္ဒတော်မှာ အလွန်ပင်ထင်ရှားလှပါသည် ဘုရား။

ထို့ကြောင့် ဘုရားရှင်၏ အလိုဆန္ဒတော်နှင့်လည်းကောင်း၊ မေ့ဝိနယ များနှင့်လည်းကောင်း၊ ဤအခြေခံစည်းမျဉ်းအပိုဒ် (၃) နှင့်လည်းကောင်း ဆန့်ကျင်နေသော သက်ကြီးရွယ်အို သားသမီး ကျောထောက်နောက်ခံမရှိ သော ခမည်းတော်၊ မယ်တော်မှတပါး မာတုဂါမများ အပါအဝင် ဒ်မြဲ နေထိုင်သူ လူပုဂ္ဂိုလ်များကို ရဟန်းတော်များ သီတင်းသုံးရာ ကျောင်း/ ကျောင်းတိုက်အတွင်းမှ ဖယ်ရှားပေးရန် ဤဂိုဏ်းပေါင်းစုံ သံဃာ့အစည်း အဝေးပွဲကြီးက ဆုံးဖြတ်ကြောင်း အဆိုကို မန္တလေးတိုင်း၊ မန္တလေး အနောက်တောင်မြို့နယ်၊ တောင်သမန်တိုက်၊ နန်းတော်ကျွန်းကျောင်း၊ တပည့်တော် ကုမာရဓဇာဘိဝံသက ရိုဒသလေးမြတ်စွာ တင်သွင်းပံ့ပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။တောင်သမန်တိုက်က အဆိုတင်သွင်း သွားတဲ့ ဆရာတော်၏အဆိုကို ထောက်ခံမည့် ဆရာတော် ကြွရောက်ထောက်ခံ တော်မူပါ ဘုရား။

**ဦးကေသရ (မန္တလေး အရှေ့မြောက်)။** ။သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက် တော်မူလာကြကုန်သော ဥက္ကဋ္ဌဆရာတော်မြတ်ဘုရားကြီးနှင့်တကွ သက်တော် ရှည်ဆရာတော် အရှင်မြတ်အပေါင်းတို့ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်မြတ် အပေါင်းတို့ဘုရား။ ယခုနက တောင်သမန်တိုက်ဆရာတော် တင် သွင်းသွားတဲ့အဆိုမှာ အားလုံးဆရာတော်များ ကြားသိတော်မူတဲ့အတိုင်း ပြည့်ပြည့်စုံစုံကြီး ဖြစ်နေပါသည် ဘုရား။ ဒါကြောင့်မို့လို့ တပည့်တော်

အထူး ဆွေးနွေးထောက်ခံရန် မလိုတော့ပဲ သာသနာတော်ကြီး အတွက် လွန်စွာလွန်စွာ အကျိုးရှိသော အဆိုတင်ဖြစ်ပါသဖြင့် မန္တလေးတိုင်း မန္တလေးမြို့ အရှေ့မြောက်မြို့နယ် သံဃာ့ကိုယ်စားလှယ် ကေသရ ထောက်ခံပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။ရဟန်းတော်များနေထိုင်ရာ ကျောင်း/ ကျောင်းတိုက်အတွင်းမှ အမြဲနေသူ လူပုဂ္ဂိုလ်များ ဖယ်ရှားပေးသင့်ကြောင်း အဆိုကို အစည်းအဝေးကြီး၏ အတည်ပြုချက် ရယူရန်အတွက် ဥက္ကဋ္ဌဆရာ တော်ဘုရားကြီးက ပန်ကြားပေးတော်မူပါရန် လျှောက်ထားပါသည် ဘုရား။

ဥက္ကဋ္ဌဆရာတော်။ ။ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ ယခု တင်သွင်း သွားတဲ့ ရဟန်းတော်များနေထိုင်ရာ ကျောင်း / ကျောင်း တိုက် အ တွင်း မှ အမြဲနေသူ လူပုဂ္ဂိုလ်များ ဖယ်ရှားပေးသင့်ကြောင်း အဆိုကို အစည်း အဝေးကြီးက သဘောတူကြပါသလား ဘုရား၊ သဘောတူကြပါက ဆိတ်ဆိတ်နေတော်မူကြရန် ဖြစ်ပါသည် ဘုရား။

သဘောတူကြပါလျှင် သာဓု အနုမောဒနာ သုံးကြိမ်ခေါ်ဆိုရန် ဖြစ်ပါ သည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ် တော်မူကြသည်။

**ရဟန်းတု ရဟန်းယောင်များ ဖယ်ရှားပေးရန် အဆိုကို တင်သွင်း ဆွေးနွေး အတည်ပြုခြင်း**

အခမ်းအနားမှူး ဆရာတော်။ ။ယခု အစီအစဉ်အရ ရဟန်းတု ရဟန်း ယောင်များ ဖယ်ရှားပေးရန် အဆိုကို တင်သွင်းမည့် ဆရာတော် ကြွတော် မူပါ ဘုရား။

ဦးစန္ဒိမာ (ပထမကျော် ဓမ္မာစရိယတိုက်သစ်၊ မိတ္ထီလာမြို့)။ ။ကြွရောက် တော်မူလာကြကုန်သော သြဝါဒါစရိယ ဆရာတော်ဘုရားကြီးများ အမှူး ထား၍ ဥက္ကဋ္ဌဆရာတော်ဘုရားကြီးနှင့်တကွ ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ကို ဘုရားဘပည့်တော် ရိုမှိုသေသေ လေးလေးစားစား လျှောက် ထားအပ်ပါသည် ဘုရား။ ဘုရားတပည့်တော် မန္တလေးတိုင်း မိတ္ထီလာ အခြေခံဒေသ မိတ္ထီလာမြို့ ပထမကျော် ဓမ္မာစရိယတိုက်သစ် စန္ဒိမာက ရဟန်းတု ရဟန်းယောင်များ ဖယ်ရှားပေးရန် ဆုံးဖြတ်ကြောင်း အဆိုကို ဤသံဃာ့အစည်းအဝေးကြီး၌ တင်သွင်းခွင့်ပြုတော်မူပါ ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြကုန်သော ဆရာတော်သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ တညီတညွတ်တည်း အတည်ပြုပြဋ္ဌာန်းလိုက်သည့်—

(က) သံဃာ့ အဖွဲ့အစည်း အခြေခံစည်းမျဉ်း၊

(ခ) ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊

(ဂ) သာသနာ၀င် မှတ်တမ်း—တို့သည် မြန်မာနိုင်ငံ သာသနာ့သမိုင်းတခေတ်မှာ မော်ကွန်းသစ် စိုက်ထူလိုက်ရာ ရောက်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ဘုရား။ ယင်း ၃ မျိုးကို ပြဋ္ဌာန်း အတည်ပြုလိုက်ရုံမျှဖြင့် သာသနာတော်ကြီး သန့်ရှင်း တည်တံ့ပြန့်ပွားလာတော့မည် ဟု ထင်မြင်မှတ်ယူပါက မှန်ကန်သော ယူဆမှု ဖြစ်မည်မဟုတ်ပါ ဘုရား။ ရဟန်းကောင်း ရဟန်းမြတ်တို့လည်း သာသနာ၀င်မှတ်တမ်းကို ကိုင်ဆောင်လျက် အဆင့်ဆင့် စနစ်တကျ အခြေခံစည်းမျဉ်းအရ အုပ်ချုပ်ပြီး မှုခင်းကိစ္စဖြစ်ပေါ်လာသည့်အခါ ဓမ္မဝိနယနဲ့ အညီ လုပ်ထုံးလုပ်နည်းများဖြင့် မှန်ကန်စွာ ဆုံးဖြတ်ခြင်း ဟူသော ၃ မျိုးဖြင့် လက်တွေ့လိုက်နာကျင့်သုံးပြီး အကောင်အထည် ဖော်မည် ဆိုပါက သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဟူသော ပန်းတိုင်ကို စတင် လှမ်းကိုင်နိုင်ပြီ ဟု ဆိုနိုင်ပါတော့သည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရားတပည့်တော်တို့၏ ယနေ့ ပစ္စက္ခသာသနာတော် အခြေအနေကို သုံးသပ်၍ ယခု လျှောက်ထားခဲ့သည်မှာ အနာဂတ် သာသနာတော် အတွက်သာ ဖြစ်ပါသည် ဘုရား။ အနာဂတ် သာသနာတော် ခရီးသို့ ချီတက်ဖို့ရာ ခြေလှမ်းပြင်သည့် အခါ သာသနာတော်ထမ်း ရဟန်း သာမဏေများ ညီညီညာညာ လှမ်းဖို့ လိုပါသည် ဘုရား။ ညီညီညာညာ ခြေလှမ်းနိုင်ဖို့ရာ ညီညွတ်သော ပရိသတ် လိုပါသည် ဘုရား။ ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား၊ ယနေ့ သာသနာတော်၏ ပစ္စက္ခ အခြေအနေမှာ ညီညွတ်သော ပရိသတ်ထဲမှာ ရောယောင် လိုက်ပါမည်—

(၁) သိက္ခာမတင် သိမ်မဝင်ပဲ ရဟန်း ဟု ဝန်ခံလေသော ရဟန်းတု ရဟန်းယောင်များ၊

(၂) သိက္ခာတင် သိမ်ဝင်သော်လည်း ပါရာဇိကမှု ပြုပြီးမှ မိမိကိုယ်ကို ရဟန်း ဟု ဝန်ခံနေသော ဒုဿီလ ရဟန်းတု ရဟန်းယောင်များ၊

မပါဝင်စေပဲ စင်ကြယ်သန့်ရှင်းမှု လိုအပ်ပါသည် ဘုရား။

'အာဒရာစယာမိ ဝေါ ဘိက္ခဝေ၊ ပဋိဝေဒယာမိ ဝေါ ဘိက္ခဝေ၊ ယထာ တေ ဒေဝ တဿဝရံ ဒုဿီလဿ ပါပဓမ္မဿ အသုစိ သင်္ကဿရ သမာစာရဿ ပဋိစ္ဆန္နကမ္မန္တဿ အဿမဏဿ သမဏ ပဋိညဿပြဟ္မစာရိ ပဋိညဿ အန္တောပုတိ တဿ အဝဿုတဿ ကသမ္ဗုဇာတဿ 'ဟု အင်္ဂုတ္တရ နိကာယ၊ ဒုတိယအုပ် အဂ္ဂိက္ခန္ဓောပမသုတ် ပါဠိတော် (၄၉၅) အရ ဘုရားရှင်ကိုယ်တော်မြတ်ကြီးသည် ဒုဿီလ ရဟန်းတု ရဟန်းယောင်များကို—

(၁) ဒုဿီလ = သီလမရှိသူ ဟူ၍လည်းကောင်း၊

(၂) ပါပဓမ္မ = ယုတ်မာသော သဘောရှိသူ ဟူ၍လည်းကောင်း၊

(၃) အသုစိ = မစင်ကြယ် ရွံ့စဖွယ် ဖြစ်သူ ဟူ၍လည်းကောင်း၊

(၄) သင်္ကဿရ သမာစာရ = သူတပါးတို့က ယုံမှားသံသယဖြင့် မှတ်ထင်စရာ အကျင့်ရှိသူ ဟူ၍လည်းကောင်း၊

(၅) ပဋိစ္ဆန္န ကမ္မန္တ = ဖုံးထားအပ်သော အမှုရှိသူ ဟူ၍လည်းကောင်း၊

(၆) အဿမဏဿ သမဏပဋိည = ရဟန်းစစ် မဟုတ်ပါပဲလျက် ရဟန်းဟု ဝန်ခံနေသူ ဟူ၍လည်းကောင်း၊

(၇) အဗြဟ္မစရိဿ ဗြဟ္မစာရိပဋိည = မြတ်သော အကျင့်ကို ကျင့်သူ မဟုတ်ပါပဲလျက် မြတ်သော အကျင့်ကို ကျင့်သူ ဟူ၍ ဝန်ခံနေသူ ဟူ၍လည်းကောင်း၊

(၈) အန္တောပုတိက = အတွင်းက ပုပ်နေသူ ဟူ၍လည်းကောင်း၊

(၉) အဝဿုတ = ရာဂမိုးရေစိုနေသူ ဟူ၍လည်းကောင်း၊

(၁၀) ကသမ္ဗုကဇာတ = အသုံးမကျ အမှိုက်ကဲ့သို့ ဖြစ်နေသူ ဟူ၍ လည်းကောင်း၊ ၁

ပြင်းပြင်းပြပြ ရှုတ်ချတော်မူပါသည် ဘုရား၊ ဘုရားရှင် ရှုတ်ချတော်မူသော မစင်မကြယ် အတွင်းပုပ် ရာဂမိုးစွတ်ပြီး အမှိုက်ပမာ ဖြစ်နေကြသူ ရဟန်းတု ရဟန်းယောင်များကို စောစောစီးစီး စနစ်တကျ သန့်ရှင်းထားဖို့ လိုမည် ဟု ဘုရားတပည့်တော် ရိုးသားစွာ ထင်မြင်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ သို့ဖြစ်ပါသောကြောင့် သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို တကယ်လိုလားတော်မူသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့သည် သာသနာတော်အတွင်းမှ မစင်မကြယ် မသန့်ရှင်းသော ရဟန်းတု ရဟန်းယောင်များကို တဆားနည်းတကျ ဖယ်ရှားပေးရန် ဆုံးဖြတ်ကြောင်းအဆိုကို မိတ္ထီလာအခြေခံဒေသ မိတ္ထီလာမြို့ ပထမကျော် ဓမ္မာစရိယတိုက်သစ် တပည့်တော် စန္ဒိမာဘိဝံသ ဗိအစည်းအဝေးကြီးသို့ အဆိုပြုလွှာ တင်သွင်းအပ်ပါသည် ဘုရား။

အခမ်းအနားမှူး ဆရာတော်။ ။ယခင် တင်သွင်းသွားသည့် အဆိုကို ထောက်ခံဆွေးနွေးမည့် ဆရာတော် ကြွရောက်ဆွေးနွေး ထောက်ခံတော်မူပါ ဘုရား။

ဦးဥတ္တရ (သဒ္ဓမ္မဝံသာရုံတိုက်၊ မိတ္ထီလာမြို့)။ ။သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော ဩဝါဒါစရိယဆရာတော်ကြီးများ၊ ဥက္ကဋ္ဌဆရာတော် အမှူးပြုသော သံဃာ့ဝန်ဆောင် ဆရာတော်များ နှင့် ပြည်နယ်တိုင်း အသီးသီးမှ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် အရှင်မြတ်တို့ ဘုရား။ သာသနာတော် မှတ်တမ်းကို ကိုင်ဆောင်ခြင်းဖြင့် နောင်အခါ ရဟန်းတု ရဟန်းယောင်များ သာသနာတော်မှာ စင်ကြယ်သွားတော့မည် အမှန်ပင် ဖြစ်သည် ဟု ဘုရားတပည့်တော် ယုံကြည်ပါသည် ဘုရား၊ သို့သော်လဲ ယခု ပစ္စုပ္ပန်အချိန်မှာ သိက္ခာမတင် သိမ်မဝင်ပဲ ရဟန်း ဟု ဝန်ခံနေကြသော ရဟန်းတု ရဟန်းယောင်များနှင့် သိက္ခာတင် သိမ်ဝင်ပြီးသော်လဲ ပါရာဇိက သိက္ခာပုဒ်များကို လွန်ကျူးကာ ရဟန်း ဟု ဝန်ခံနေကြသော ဒုဿီလရဟန်းဆိုးများ အချို့သော အရပ်ဒေသများမှာ ရှိနေကြသည်ဆိုဟာကို ဆရာတော်များ အသိပင် ဖြစ်တော်မူကြပါသည် ဘုရား။

ထိုကဲ့သို့ သာသနာရိပ်ခိုကာ အခွင့်ကောင်း ယူနေကြသော ရဟန်းတု ရဟန်းယောင်များကို သာသနာ၀င် မှတ်တမ်း ထုတ်မပေးမီဖို့ အလွန်ပင် အရေးကြီး လိုအပ်နေပါသောကြောင့် သာသနာ၀င် မှတ်တမ်း ထုတ်မပေးမီ ယခု အချိန်ကပင် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးကို

တကယ် လိုလားတော်မူကြသော သာသနာ့ရှေ့သွားခေါင်းဆောင်ဆရာတော် သံဃာတော် အရှင်သူမြတ်တို့သည် သာသနာတော် အတွင်းမှ မစင်မကြယ် မသန့်ရှင်းသော ရဟန်းတု ရဟန်းယောင်များကို တရားနည်းလမ်း တကျ ဖယ်ရှားပေးတော်မူကြပါရန် မိတ္ထီလာအခြေခံဒေသ မိတ္ထီလာမြို့ ပထမကျော် ဓမ္မာစရိယကျောင်းတိုက် ဆရာတော် ဦးစန္ဒိမာ တင်သွင်းသော အဆိုကို ဘုရားကပည့်တော် မိတ္ထီလာအခြေခံဒေသ၊ မိတ္ထီလာမြို့ သဒ္ဓမ္မဝံသာရုံ ပါဠိ တက္ကသိုလ် ဆရာတော် ဥတ္တရက လေးလေးနက်နက် ထောက်ခံပါကြောင်း လျှောက်ထားဝံ့ပါသည် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

**အခမ်းအနားမှူး ဆရာတော်။** ။ရဟန်းတု ရဟန်းယောင်များ ဖယ်ရှား ပေးရန် အဆိုကို အစည်းအဝေးကြီးသို့ အတည်ပြုချက် ရယူပေးပါရန် ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးအား ပန်ကြားပါသည် ဘုရား။

ဥက္ကဋ္ဌ ဆရာတော်။ ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ သာသနာ သန့်ရှင်းရေးနဲ့ စပ်လျဉ်းပြီး ယခု တင်သွင်းသွားတဲ့ ရဟန်းတု ရဟန်းယောင် များ ဖယ်ရှားပေးရန် အဆိုကို အစည်းအဝေးကြီးက သဘောတူကြပါသ လား ဘုရား၊ သဘောတူကြပါက ဆိတ်ဆိတ်နေတော်မူကြပါရန် ဖြစ်ပါ တယ် ဘုရား။

သဘောတူကြပါလျှင် သာဓုအနုမောဒနာ သုံးကြိမ် ခေါ်ဆိုရန် ဖြစ်ပါ တယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ် တော်မူကြသည်။

**အခမ်းအနားမှူး ဆရာတော်။** ။ဆရာတော်တို့ဘုရား သာသနာတော် ကြီး သန့်ရှင်း တည်တံ့ပြန့်ပွားရေးနဲ့ ပတ်သက်တဲ့ ဝိနည်းဓမ္မကံ စသော ထုံး တမ်းစဉ်လာ စသည်တို့နှင့် အညီဖြစ်တဲ့ အဆိုများ ရှိပါက နိုင်ငံတော်မဟာ သံဃနာယကအဖွဲ့သို့ တင်သွင်းလျှောက်ထားရန် တပည့်တော် လျှောက်ထား ရပါတယ် ဘုရား။

ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ အစီအစဉ်အရ တပည့်တော်တို့ နေ့လယ်ပိုင်း အစည်းအဝေးကို အဖျော်ယမကာ ဆက်ကပ်နိုင်ရန် အတွက် မိနစ် ၂၀ - ခန့် ရပ်နားမည် ဖြစ်ပါတယ် ဘုရား၊ အစည်းအဝေးကို မွန်းလွဲ တွင် ပြန်စပါမည် ဘုရား၊ အဖျော်ယမကာများကို လိုဏ်ဂူတော်ကြီးအတွင်း မှာပင် ဆက်ကပ် လှူဒါန်းရန် စီစဉ်ထားပါကြောင်း လျှောက်ထားပါသည် ဘုရား။

အစည်းအဝေးကို မိနစ် ၂၀ ရပ်နား၍ မွန်းလွဲပိုင်းတွင် ဆက်လက်ကျင်းပသည်။

**သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း (မူကြမ်း) နှင့် ပတ်သက်၍ ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ်များ၏ ထောက်ခံဆွေးနွေးချက်အပေါ်တွင် သံဃာ့ဝန်ဆောင်အဖွဲ့က ပြန်ကြားလျှောက်ထားခြင်း**

**အခမ်းအနားမှူး ဆရာတော်။** ။အစီအစဉ်အရ မွန်းလွဲပိုင်းအစည်းအဝေးကို ဆက်လက်ကျင်းပပါမည် ဘုရား။ ယခု ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်း (မူကြမ်း) နှင့် ပတ်သက်၍ ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ် ဆရာတော်များက ထောက်ခံဆွေးနွေးချက်များ အပေါ်တွင် သံဃာ့ဝန်ဆောင်အဖွဲ့က ပြန်ကြားရန် ဖြစ်ပါတယ် ဘုရား။ သံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ ကိုယ်စား ပြန်ကြားလျှောက်ထားမည့် မန္တလေးအခြေခံဒေသ၊ မိုးကောင်းတိုက်မှ ဦးဉာဏာဘိဝံသ ကြွရောက်တော်မူပါ ဘုရား။

**ဦးဉာဏာဘိဝံသ (သံဃာ့ဝန်ဆောင်)။** ။ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းနှင့် ပတ်သက်၍ အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား ပြန်ကြားလျှောက်ထားချက် ဖြစ်ပါသည် ဘုရား။

သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပပူဇော်ရာ ဤမဟာပါသာဏလိုဏ်ဂူတော်ကြီး အတွင်းသို့ ကြွရောက်တော်မူလာကြကုန်သော ဩဝါဒါစရိယ ဆရာတော်ကြီးများ၊ ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးများ၊ အကျိုးဆောင် ဆရာတော်ဘုရားကြီးများနှင့် သံဃသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဖြစ်တော်မူသော ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရားတပည့်တော်သည် မန္တလေးအခြေခံဒေသ မန္တလေး အနောက်တောင်မြို့နယ် မိုးကောင်းတိုက် ဩောင်ရမ်းပါဠိတက္ကသိုလ် ဝါးတန်းစာချကျောင်း ဉာဏာဘိဝံသက သာသနာဝင် မှတ်တမ်းဆွေးနွေးချက်များကို အစည်းအဝေး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား ပြန်လည်လျှောက်ထားပါမည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရား တပည့်တော် တင်သွင်းခဲ့သည့် သာသနာဝင် မှတ်တမ်းကို အစည်းအဝေးကြီး၏ နောက်ဆုံးနေ့၌ ဂဏဝိမုတ် ကူးတို့ဂိုဏ်း၊ ဝေဠုဝန်နိကာယဂိုဏ်း၊ ဓမ္မယုတ္တိနိကာယ

မဟာရင်ဂိုဏ်း၊ ကချင်ပြည်နယ်၊ ကရင်ပြည်နယ်၊ ချင်းပြည်နယ်၊ တနင်္သာရီတိုင်း၊ မကွေးတိုင်း၊ မန္တလေးတိုင်း၊ ရခိုင်ပြည်နယ်၊ ရန်ကုန်တိုင်းတို့မှ ဆရာတော်ပေါင်း (၁၁)ပါးတို့က ဝေဖန်သုံးသပ် ဆွေးနွေးခဲ့ကြပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ထိုသို့ ဆွေးနွေး သွားကြရာ၌ ဤသာသနာဝင် မှတ်တမ်းကို ရဟန်းကောင်း ရဟန်းမြတ်တို့ ကိုင်ဆောင်သင့်ကြောင်းကို အသီးသီး ထောက်ခံဆွေးနွေးကြပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်း အခန်း - ၁၄၊ အထွေထွေ အပိုဒ် ၈၀-တွင် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်အတွင်း မှီတင်း သီတင်းသုံး နေထိုင်ကြသော ရှင်သာမဏေများနှင့် ရဟန်းတော်များ အားလုံးသည် သတ်မှတ်ထားသော သာသနာဝင် မှတ်တမ်းကို ကိုင်ဆောင်ကြရမည်ဟု ဖော်ပြထားရာ ထိုအခန်း- ၁၄၊ အထွေထွေအပိုဒ် ၈၀-၌ ပါဝင်သော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံ စည်းမျဉ်းကို ဤ အစည်းအဝေးပွဲကြီး ဒုတိယနေ့၌ တညီတညွတ်တည်း အတည်ပြုပြီး ဖြစ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ဘုရားတပည့်တော်တို့သည် ထိုအချိန်မှစ၍ ကိုင်ဆောင်ကြတော့မည် ဟူသော ဆုံးဖြတ်ချက်ပင်ဖြစ်ပါသည် ဘုရား။ ဆရာတော် သံဃာတော် အရှင် သူမြတ်တို့ ဘုရား။ ယခု သာသနာဝင်မှတ်တမ်းမှာ ထိုအပိုဒ် ၈၀-မှ ပေါက်ပွားလာသော အကိုင်းအခက် အဖူး အပွင့်ပင် ဖြစ်ပါသည် ဘုရား။ ထိုသာသနာဝင် မှတ်တမ်းပါ သဘောသဘာဝ အနေအထား စသည်များကို ဆရာတော်များက အားတက်သရော လိုက်လိုက်လှဲလှဲ ထောက်ခံ ဆွေးနွေးကြပါသဖြင့် အစည်းအဝေး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့က များစွာ ကျေးဇူးတင်ရှိပါကြောင်းနှင့် မှတ်တမ်းတင်ထားပါကြောင်းကို ဘုရားတပည့်တော် ရှိသေလေးမြတ်စွာ လျှောက်ထားအပ်ပါသည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ နိဂုံးချုပ် အနေအားဖြင့် အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား ဘုရားတပည့်တော် ပထမနေ့က တင်သွင်းခဲ့သော သာသနာဝင်မှတ်တမ်းကို ဤအစည်းအဝေးကြီးမှ တညီတညွတ်တည်း အတည်ပြု ချမှတ် ပေးပါရန် မန္တလေး အနောက်တောင် မန္တလေးမြို့ အနောက်တောင် မြို့နယ် မိုးကောင်းတိုက် ညှောင်ရမ်း ပါဠိတက္ကသိုလ် ဝါးတန်း စာချကျောင်း တပည့်တော်

ဉာဏာဘိဝံသ က ထပ်မံ လျှောက်ထားပါသည် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

## သံဃာတော်များ၏ သာသနာဝင် မှတ်တမ်း (မှုကြမ်း)ကို အတည် ပြုခြင်း

**အခမ်းအနားမှူး ဆရာတော်။** ။အစီအစဉ် အရ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်း (မှုကြမ်း)နှင့် ပတ်သက်၍ ဤအစည်းအဝေးကြီးက အတည်ပြုရန် ဖြစ်ပါတယ် ဘုရား။ ဉက္ကဋ္ဌ ဆရာတော် ဘုရားကြီးအား အတည်ပြုချက် ရယူ ပေးတော်မူပါရန် တပည့်တော် လျှောက်ထားပါတယ် ဘုရား။

**ဉက္ကဋ္ဌ ဆရာတော်။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား သံဃာ့ဝန်ဆောင် အဖွဲ့ရဲ့ ကိုယ်စား မန္တလေး အခြေခံ ဒေသမှ ဦးဉာဏာဘိဝံသ က တင်သွင်း၍ ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ ကိုယ်စားလှယ် ဆရာတော်များက ထောက်ခံ ဆွေးနွေး သွားကြသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်း (မှုကြမ်း) ကို ဤ အစည်းအဝေးကြီးက အတည်ပြုရန် အတွက် သဘော တူကြပါသလားဘုရား။ သဘောတူကြပါလျှင် ဆိတ်ဆိတ် နေတော်မူကြရန် ဖြစ်ပါတယ် ဘုရား။ ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ သဘောတူကြပါက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်တော်မူကြရန် ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓုသုံးကြိမ် ခေါ်တော် မူကြသည်။

## နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင် အဖွဲ့၏ ဆောင်ရွက်ချက်များကို တင်ပြ အတည်ပြုခြင်း

**အခမ်းအနားမှူး ဆရာတော်။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ အစီအစဉ်အရ မွန်းလွဲပိုင်း အစည်းအဝေးကို ဆက်လက် ကျင်းပပါမည် ဘုရား။ မနေ့က ကျင်းပခဲ့တဲ့ ပထမ အကြိမ် နိုင်ငံတော် ဗဟို သံဃာ့ ဝန်ဆောင်အဖွဲ့ အစည်းအဝေးမှာ ဆောင်ရွက်ချက်တွေကို နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ ကိုယ်စား ဒန်လျှင် အခြေခံဒေသ ဦးဝဏ္ဏသိရီ အရှင်မြတ်က တင်ပြ လျှောက်ထားမည် ဖြစ်ပါတယ် ဘုရား။ ဆရာတော် ဦးဝဏ္ဏသိရီ ကြွရောက် တင်ပြတော်မူပါ ဘုရား။

ဦးဝဏ္ဏသိရီ (သံဃာ့ဝန်ဆောင်)။ ။ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ ဆောင်ရွက်ချက် များ လျှောက်ထားလှာပါ ဘုရား။ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကြွရောက်တော် မူလာကြသော ဩဝါဒါစရိယဆရာတော်ကြီးများ အမှူးရှိသည့် သံဃာသမ္မု တိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ ဆောင်ရွက်ချက်များကို နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ ကိုယ်စား တပည့်တော် ဝဏ္ဏသိရီက လျှောက် ထားပါမည် ဘုရား။

နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့သည် သာသနာနှစ် ၂၅၂၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက် (တနင်္ဂနွေ) နေ့တွင် ပထမအကြိမ် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ အစည်း အဝေးကို ကျင်းပခဲ့ပါသည် ဘုရား။ ထိုအစည်းအဝေးသို့ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ဝင်ဆရာတော် ၂၉၉-ပါးရှိရာ အဖွဲ့ဝင်ဆရာတော် အားလုံး တက်ရောက်သဖြင့် ရာနှုန်းပြည့် အစည်းအဝေး တက်ရောက်ခဲ့ပါ သည် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ ထိုနေ့နံနက်ပိုင်း အစည်းအဝေးတွင် (၁) အဘိဓဇမဟာရဋ္ဌဂုရုဆရာတော် ဦးပဏ္ဍိတသိရီ၊ (၂) အဂ္ဂမဟာပဏ္ဍိတဆရာတော် ဦးစန္ဒရံသီ၊ (၃) အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးနန္ဒိယ၊ (၄) အဂ္ဂမဟာပဏ္ဍိတဆရာတော် ဦးဉာဏိန္ဒ ၊(၅) အဂ္ဂမဟာပဏ္ဍိတဆရာတော် ဦးသုဇာတာလင်္ကာရ ဤဆရာတော်ကြီး (၅) ပါးတို့က ယာယီသဘာပတိအဖြစ် ဆောင်ရွက်တော်မူကြပြီး၊ ယာယီအခမ်း အနားမှူးအဖြစ် မန္တလေးမြို့ ဆင်တဲတိုက်ဆရာတော် ဦးဉာဏက ဆောင်ရွက်ခဲ့ ပါသည် ဘုရား။ ထိုအစည်းအဝေးကြီးက နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဥက္ကဋ္ဌဆရာတော် တပါး၊ ဒုတိယဥက္ကဋ္ဌဆရာတော် (၂) ပါး၊ အကျိုး တော်ဆောင်ဆရာတော်တပါး၊ တွဲဖက်အကျိုးတော်ဆောင်ဆရာတော် (၂) ပါးတို့ကို ရွေးချယ်တင်မြှောက်ခဲ့ပါသည် ဘုရား။ ထိုဆရာတော် (၆) ပါး တို့သည် နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၏ ဥက္ကဋ္ဌ၊ ဒုတိယဥက္ကဋ္ဌ၊ အကျိုး တော်ဆောင်နှင့် တွဲဖက် အကျိုးတော်ဆောင်များလည်း ဖြစ်ကြပါသည် ဘုရား။ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ဝင် (၃၃) ပါးအနက် ကျန် အဖွဲ့ဝင်ဆရာတော် (၂) ပါးတို့ကိုလည်း အတိအလင်းစနစ်ဖြင့် ရွေးချယ်ခြင်း၊ လျှို့ဝှက်စနစ်ဖြင့် ရွေးချယ်ခြင်း နှစ်သွယ်တို့တွင် အတိအလင်းစနစ်ဖြင့် အဆို

တင်သွင်းထောက်ခံ၍ တညီတညွတ်တည်း သဘောတူအတည်ပြု၍ နိုင်ငံတော်သံဃာ့မဟာနာယကအဖွဲ့ကို ဖွဲ့စည်း၍ ပေးနိုင်ခဲ့ပါသည် ဘုရား။ ထို့နောက် နံနက်ပိုင်းအစည်းအဝေးကို ရပ်နားခဲ့ကြပါသည် ဘုရား။

ထိုနေ့နံနက် ၁၁ - နာရီမိနစ် ၃၀ - အချိန်တွင် ဇမ္ဗူဒီပကျောင်းဆောင် အစည်းအဝေးခန်းမ၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ ပထမအကြိမ် အစည်းအဝေးကို ကျင်းပခဲ့ပါသည် ဘုရား။ ထိုအစည်းအဝေးသို့ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့ဝင်ဆရာတော် ( ၃၃ ) ပါး တက်ရောက်တော်မူကြ၍ နိုင်ငံတော် ဩဝါဒါစရိယအဖွဲ့ကို ဖွဲ့စည်းရန် သက်တော်ရှည်ဆရာတော်ကြီး ( ၁၁ ) ပါး၏အမည်စာရင်းကို ညှိနှိုင်းပြုစုခဲ့ကြပါသည် ဘုရား။

ထိုနေ့မွန်းလွဲ ၁ - နာရီအချိန်တွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် (၂၉၉) ပါးတို့ တက်ရောက်ကာ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ပထမအကြိမ် နေ့လယ်ပိုင်းအစည်းအဝေးကို ကျင်းပခဲ့ကြပါသည် ဘုရား။ ယင်းအစည်းအဝေးပွဲကြီး၌ နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့က တင်သွင်းသော နိုင်ငံတော် ဩဝါဒါစရိယဆရာတော်ကြီး ( ၁၁ ) ပါးတို့၏ စာရင်းကို ဖတ်ကြား၍ အတည်ပြုချက်ရယူခဲ့ပါသည် ဘုရား။

ထို့နောက် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့ အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ (မူကြမ်း) ကို ရှင်းလင်းဖတ်ကြား တင်သွင်းသည်ကို အစည်းအဝေးကြီးက တညီတညွတ်တည်း သဘောတူအတည်ပြုခဲ့ကြပါသည် ဘုရား။ ထို့ပြင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် ဗုဒ္ဓဘာသာသာသီလရှင်များ၏ သာသနာ့ရေးပင်မှတ်တမ်း(မူကြမ်း) ကို ဖတ်ကြားတင်သွင်း၍ အစည်းအဝေးကြီးက တညီတညွတ်တည်း သဘောတူ အတည်ပြုခဲ့ကြပါသည် ဘုရား။

ယခု နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က ရွေးချယ်တင်မြှောက်အပ်သော နိုင်ငံတော် ဩဝါဒါစရိယဆရာတော်(၁၁)ပါးစာရင်းနှင့်နိုင်ငံတော် သံဃာ့မဟာနာယကဆရာတော် (၃၃) ပါးစာရင်းကို ဆရာတော်များအား ဆက်ကပ်ထားပြီးဖြစ်ပါ၍ ဖတ်ကြားလျှောက်ထားခြင်းမပြုတော့ပါ ဘုရား။ အချိန်နီးကပ်မှ ရရှိလာသော အဆိုပြုလွှာ - အကြံပြုလွှာများစွာ လက်ခံရရှိပါသည် ဘုရား။ ယင်းအဆိုပြုလွှာ - အကြံပြုလွှာတို့ကို နိုင်ငံတော် သံဃာ့ မဟာနာယကအဖွဲ့က နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့သို့ တင်ပြပြီး သင့်လျော်သလိုသုံးသွားမည်ဖြစ်ပါကြောင်း နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့၏ကိုယ်စား ပြန်ကြားရပါသည် ဘုရား။ ဤကဲ့သို့ စိတ်ဝင်စားစွာဖြင့်

အလေးပေး အဆိုပြု - အကြံပြုကြသည့် အရှင်မြတ်တို့အား နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့က ကျေးဇူးအထူးတင်၍ မှတ်တမ်းတင်ခြင်း ပြုရပါကြောင်းကိုလည်း တဆက်တည်း ပြန်ကြားလျှောက်ထားရပါသည် ဘုရား။

**အခမ်းအနားမှူး ဆရာတော်** ။အစီအစဉ်အရ နိုင်ငံတော် ဗဟို သံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ ဆောင်ရွက်ချက်များကို ဤအစည်းအဝေးကြီးက အတည်ပြုရန်ဖြစ်ပါတယ် ဘုရား။ ဥက္ကဋ္ဌဆရာတော်ဘုရားကြီးအား အတည်ပြုချက် ရယူပေးတော်မူပါရန် တပည့်တော်လျှောက်ထားပါသည် ဘုရား။

ဥက္ကဋ္ဌဆရာတော်။ ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ရဲ့ဆောင်ရွက်ချက်များကို ဤအစည်းအဝေးကြီးက အတည်ပြုရန်အတွက် သဘောတူကြပါသလား ဘုရား။သဘောတူကြပါလျှင် ဆိတ်ဆိတ်နေတော်မူကြပါရန်ဖြစ်ပါတယ် ဘုရား။ ဆရာတော်အရှင်သူမြတ်တို့ ဘုရား၊ သဘောတူကြပါက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်ရန်ဖြစ်ပါတယ် ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

**ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးမှ အတည်ပြုချက်များ၊ ဆုံးဖြတ်ချက်များနှင့် မှတ်တမ်း တင်ချက်များကို ဖတ်ကြား လျှောက်ထားခြင်း**

**အခမ်းအနားမှူး ဆရာတော်**။ ။ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။ တပည့်တော်တို့ ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးမှ (က) အတည်ပြုချက်များ၊ (ခ) ဆုံးဖြတ်ချက်များ၊ (ဂ) မှတ်တမ်းတင်ချက်များတို့ကို သံဃာ့ဝန်ဆောင်အဖွဲ့ဝင် အရှင်ဦးဝဏ္ဏသိရိက ဖတ်ကြားလျှောက်ထားပါလိမ့်မည် ဘုရား။ ဆရာတော်ဦးဝဏ္ဏသိရိ ဖတ်ကြား လျှောက်ထားရန် တပည့်တော် လျှောက်ထားပါသည် ဘုရား။

**ဦးဝဏ္ဏသိရိ (သံဃာ့ဝန်ဆောင်)**။ ။သာသနာနှစ် ၂၅၂၄ - ခု၊ **ကောဇာသက္ကရာဇ်** ၁၃၄၂ - ခုနှစ်၊ နယုန်လဆန်း ၁၁ - ရက်နေ့မှ ၁၄ - **ရက်နေ့အထိ** ( ခရစ်သက္ကရာဇ် ၁၉၈၀ - ပြည့်နှစ်၊ မေလ ၂၄ - ရက်နေ့မှ ၂၇ - ရက်နေ့အထိ ) ရန်ကုန်မြို့တော်၊ ကမ္ဘာအေးကုန်းမြေ၊ မဟာပါသာဏလိုဏ်ဂူတော်ကြီးတွင် ကျင်းပသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေး ပထမအကြိမ်

ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးက ဖော်ပြပါဆုံးဖြတ်ချက်များကို ချမှတ်လိုက်သည်။

## အတည်ပြုချက်

**အတည်ပြုချက်အမှတ် ၁/၈၀။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်းကို အတည်ပြုခြင်း။**

သာသနာနှစ် ၂၅၂၄-ခု၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၂-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၅-ရက်) တနင်္ဂနွေနေ့တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း (မူကြမ်း)ကို သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ်(၁၂၁၈) ပါးတို့က တညီတညွတ်တည်း သာဓု အနုမောဒနာ သုံးကြိမ် ခေါ်ဆို၍ အတည်ပြုပြဋ္ဌာန်းသည်။

**အတည်ပြုချက်အမှတ် ၂/၈၀။ ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို အတည်ပြုခြင်း။**

သာသနာနှစ် ၂၅၂၄-ခု၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၇-ရက်) အင်္ဂါနေ့တွင် ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ (မူကြမ်း) ကို သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် (၁၂၁၈) ပါးတို့က တညီတညွတ်တည်း သာဓု အနုမောဒနာ သုံးကြိမ် ခေါ်ဆို၍ အတည်ပြု ပြဋ္ဌာန်းသည်။

**အတည်ပြုချက်အမှတ် ၃/၈၀။ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင် မှတ်တမ်းကို အတည်ပြုခြင်း။**

သာသနာနှစ် ၂၅၂၄-ခု၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၇-ရက်) အင်္ဂါနေ့တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သံဃာတော်များ၏ သာသနာဝင်မှတ်တမ်း (မူကြမ်း) ကို သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် (၁၂၁၈) ပါးတို့က တညီတညွတ်တည်း သာဓု အနုမောဒနာ သုံးကြိမ် ခေါ်ဆို၍ အတည်ပြု ပြဋ္ဌာန်းသည်။

## ရွေးချယ်တင်မြှောက်ခြင်း

**သံဃသမ္မုတိ ရွေးချယ်တင်မြှောက်ခြင်း ၄/၈၀။ သာသနာတော်သန့်ရှင်း တည်တံ့ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေး ကြီး၏ ဩဝါဒါစရိယဆရာတော်ကြီးများ သံဃသမ္မုတိရွေးချယ်တင် မြှောက်ခြင်း။**

သာသနာနှစ် ၂၅၂၄-ခု၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန် လဆန်း ၁၀-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၃-ရက်) သောကြာနေ့တွင် ဂိုဏ်းများနှင့် ပြည်နယ်/တိုင်းများမှ သံဃာ့ကိုယ်စား လှယ်များနှင့် ညှိနှိုင်းပြီးနောက် ပူးတွဲပါ စာရင်းတွင် ပါရှိသည့်အတိုင်း အစည်းအဝေးကြီးကို ကြီးကြပ်သွားနိုင်ရန် အတွက် ဩဝါဒါစရိယ ဆရာတော် ကြီးများကို သံဃသမ္မုတိ ရွေးချယ်တင်မြှောက်သည်။ ဆရာတော်ကြီးများ၏ စာရင်းကို ဆက်ကပ်ပြီး ဖြစ်၍ ဖတ်ကြားမှုမပြုတော့ပါဘူး ဘုရား။

**သံဃသမ္မုတိ ရွေးချယ်တင်မြှောက်ခြင်း ၅/၈၀။ ။နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင်အဖွဲ့ဝင် ဆရာတော်များကို ရွေးချယ်တင်မြှောက်ခြင်း။**

အခြေခံ စည်းမျဉ်းအပိုဒ် ၁၉-အရ၊ ပူးတွဲပါ စာရင်းတွင် ဖော်ပြထား သော နိုင်ငံတော်ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ဝင် ဆရာတော် (၂၉၉) ပါးတို့ ကို သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လ ဆန်း ၁၃-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၆-ရက်) တနင်္လာနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက သံဃသမ္မုတိ ရွေး ချယ်တင်မြှောက်သည်။ သံဃသမ္မုတိရ စာရင်းများလည်း ဆက်ကပ်ထား ပြီး ဖြစ်သည့်အတွက်ကြောင့် ဖတ်ကြားမှု မပြုတော့ပါဘူး ဘုရား။

**သံဃသမ္မုတိ ရွေးချယ်တင်မြှောက်ခြင်း ၆/၈၀။ ။နိုင်ငံတော် သံဃမဟာ နာယကအဖွဲ့ ရွေးချယ်တင်မြှောက်ခြင်း။**

အခြေခံ စည်းမျဉ်း အပိုဒ် ၂၀-အရ၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့ဝင်များက ပူးတွဲ စာရင်းပါအတိုင်း နိုင်ငံတော် သံဃာ့မဟာနာယက အဖွဲ့ဝင် ဆရာတော် (၃၃) ပါးတို့ကို သာသနာနှစ် ၂၅၂၄-ခု၊ ကော ဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၆-ရက်) တနင်္လာနေ့တွင် သံဃသမ္မုတိ ရွေးချယ်တင်မြှောက်သည်။ နိုင်ငံတော်သံဃာ့ မဟာနာယကအဖွဲ့ဝင် (၃၃)

ပါးတို့၏ စာရင်းကိုလည်း ဆက်ကပ်ထားပြီး ဖြစ်၍ ဖတ်ကြားခြင်း မပြုတော့ပါဘူး ဘုရား။

သံဃသမ္မုတိ ရွေးချယ်တင်မြှောက်ခြင်း ၇/၁၀။ ။နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များ ရွေးချယ်တင်မြှောက်ခြင်း။

အခြေခံစည်းမျဉ်း အပိုဒ် ၂၄-အရ၊ နိုင်ငံတော်သံဃာ့မဟာနာယက အဖွဲ့သည် ပူးတွဲပါ စာရင်းအတိုင်း နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီး (၈၁) ပါးတို့ကို သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၃-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၆-ရက်) တနင်္လာနေ့တွင် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် အဖွဲ့၏ အတည်ပြုချက်ကို ရယူကာ ရွေးချယ်တင်မြှောက်သည်။ နိုင်ငံတော် ဩဝါဒါစရိယဆရာတော်ကြီးများ၏ စာရင်းကိုလည်း ဆက်ကပ်ထားပြီး ဖြစ်၍ ဖတ်ကြားမှုမပြုတော့ပါဘူး ဘုရား။

## ဆုံးဖြတ်ချက်

ဆုံးဖြတ်ချက် ၈/၁၀။ ။ပရိယတ္တိစာမေးပွဲများ ပြုပြင်ကျင်းပသွားရန်။

သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂ ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၇ ရက်) အင်္ဂါနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက 'ရဟန်း သာမဏေများသည် အကျင့်သိက္ခာ, ပညာ, ဗဟုသုတ တိုးတက်မြင့်မားစေပြီး ပါဠိ-မြန်မာ နှစ်ဘာသာ ကတ်မြောက်ကျွမ်းကျင်စေမည့် နည်းလမ်းများဖြင့် ပရိယတ္တိစာပေကို သင်ယူနိုင်ရေးအတွက် ပရိယတ္တိစာမေးပွဲများကို ပြုပြင်ကျင်းပသွားနိုင်ရန်' ဆုံးဖြတ်သည်။

ဆုံးဖြတ်ချက် ၉/၁၀။ ။မြတ်စွာဘုရား၏ ရုပ်ပွားတော်ပုံ၊ စေတီတော်ပုံတို့ကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် မျက်နှာဖုံး အဖြစ် အသုံးပြုခြင်းနှင့် ပိဋကတ်တော်များနှင့် မညီညွတ်သော ရာဇဝင် သုံးပေါ်နှင့် စပ်လျဉ်းသည့် ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ်ပင်ပေးရန် သက်ဆိုင်ရာများထံ မေတ္တာရပ်ခံရန်။

သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၇-ရက်)

အင်္ဂါနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက 'မြတ်စွာဘုရား၏ရုပ်ပွား တော်ပုံ စေတီတော်ပုံတို့ကို ပြက္ခဒိန် စာအုပ် တိတ်ခွေများတွင် မျက်နှာဖုံး အဖြစ် အသုံးပြုခြင်းနှင့် ပိဋကတ်တော်များနှင့် မညီညွတ်သော ရတနာ သုံးပါးနှင့် စပ်လျဉ်းသည့် ပုံတော်များကို ထုတ်ဝေခြင်းတို့မှ တားမြစ်ပိတ် ပင်ပေးရန် သက်ဆိုင်ရာများထံ မေတ္တာရပ်ခံရန်' ဆုံးဖြတ်သည်။

ဆုံးဖြတ်ချက် ၁၀/၈၀။ ။ရဟန်းတော်များနေထိုင်ရာ ကျောင်း/ကျောင်း တိုက် အတွင်းမှ အမြဲနေ လူပုဂ္ဂိုလ်များ ဖယ်ရှားပေးသင့်ကြောင်း။

သာသနာနှစ် ၂၅၂၄၊ ကောဇာ သက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန် လဆန်း ၁၄ - ရက်၊ (ခရစ်သက္ကရာဇ် ၁၉၈၀ - ပြည့်နှစ်၊ မေလ ၂၇-ရက်) အင်္ဂါနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက 'ဘုရားရှင်၏ အလိုဆန္ဒ တော်နှင့်လည်းကောင်း၊ ဓမ္မဝိနယများနှင့် လည်းကောင်း၊ ဤအခြေခံ စည်းမျဉ်း အပိုဒ် (၃) နှင့် လည်းကောင်း ဆန့်ကျင် နေသော သက်ကြီး ရွယ်အို သားသမီး ကျောသောက်နောက်ခံ မရှိသော ခမည်းတော် မယ်တော် မှတပါး မာတုဂါမများ အပါအဝင် အမြဲ နေထိုင်သူ လူပုဂ္ဂိုလ်များကို ရဟန်းတော်များ သီတင်းသုံးရာ ကျောင်း/ကျောင်းတိုက်အတွင်းမှ ဖယ်ရှား ပေးရန် ဆုံးဖြတ်သည်။

ဆုံးဖြတ်ချက် ၁၁/၈၀။ ။ရဟန်းတု ရဟန်းယောင်များ ဖယ်ရှားပေးရန်။

သာသနာနှစ် ၂၅၂၄၊ ကောဇာ သက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန် လဆန်း ၁၄ - ရက်၊ (ခရစ်သက္ကရာဇ် ၁၉၈၀ - ပြည့်နှစ်၊ မေလ ၂၇-ရက်) အင်္ဂါနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက ' မစင်မကြယ် အတွင်းပုပ် ရာဂမိုး စွတ်ပြီး အမှိုက်ပမာ ဖြစ်နေကြသူ ရဟန်းတု ရဟန်းယောင်များကို စောဒစာစီးစီး စနှပ်ဘကျ သန့်ရှင်း ထားဖို့ လိုမည်ဖြစ်၍ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး အတွက် သာသနာတော်အတွင်းမှ မစင်ကြယ် မသန့်ရှင်းသော ရဟန်းတု ရဟန်းယောင်များကို တရားနည်းလမ်း တကျ ဖယ်ရှားပေးရန် ဆုံးဖြတ်သည်။

## မှတ်တမ်း တင်ခြင်း

မှတ်တမ်းတင်ခြင်း ၁၂/၈၀။ ။သံဃာ့ဝန်ဆောင်အဖွဲ့၏ ဆောင်ရွက်ချက် တို့ကို မှတ်တမ်းတင်ခြင်း။

သာသနာနှစ် ၂၅၂၄၊ ကောဇာ သက္ကရာဇ် ၁၃၄၂ - ခုနှစ်၊ နယုန်

လဆန်း ၁၁-ရက်၊ (ခရစ် သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၄-ရက်) စနေနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် အဖွဲ့၏ ဆောင်ရွက်ချက်များ အစီရင်ခံစာကို မှတ်တမ်းတင်သည်။

**မှတ်တမ်းတင်ခြင်း ၁၃/၈၀။ အဘိဓဇ မဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာတော် ဘဒ္ဒန္တတိက္ခ ပျံလွန်တော် မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများရန် မှတ်တမ်းတင်ခြင်း။**

သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၁-ရက်၊ (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၄-ရက်) စနေနေ့တွင် ကျင်းပသော အစည်းအဝေးကြီးက သံဃာ့ဝန်ဆောင် အဖွဲ့၏ ဩဝါဒါစရိယဆရာတော် အဘိဓဇ မဟာရဋ္ဌဂုရု ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာတော် ဘဒ္ဒန္တတိက္ခ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများရန် အဆိုကို မှတ်တမ်း တင်သည်။

**မှတ်တမ်းတင်ခြင်း ၁၄/၈၀။ ။စစ်ကိုင်းအခြေခံဒေသမှ တောတောင်ဘီလူးချောင်ဆရာတော် ဦးပုညာဘိနန္ဒ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများရန် မှတ်တမ်းတင်ခြင်း။**

သာသနာနှစ် ၂၅၂၄၊ ကောဇာသက္ကရာဇ် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၁-ရက်၊ (ခရစ်သက္ကရာဇ် ၁၉၈၀-ပြည့်နှစ်၊ မေလ ၂၄-ရက်) စနေနေ့တွင်ကျင်းပသော အစည်းအဝေးကြီးက သံဃာ့ဝန်ဆောင် အဖွဲ့ဝင် ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အဖွဲ့ငယ်ဥက္ကဋ္ဌ၊ စစ်ကိုင်းတိုင်း အခြေခံဒေသမှ တောတောင်ဘီလူးချောင်ဆရာတော် ဦးပုညာဘိနန္ဒ ပျံလွန်တော်မူသွားသည့်အတွက် သံဝေဂဉာဏ် ပွားများတော်မူကြရန် အဆိုကို မှတ်တမ်းတင်သည်။

**သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးက ချမှတ်ခဲ့သည့် ဆုံးဖြတ်ချက်များ၊ ပြဋ္ဌာန်းချက်များ နှင့် မှတ်တမ်းတင်ခဲ့ကြသည်များကို သာသနာ့သမိုင်းဝင် မှတ်တမ်းစာအုပ်ကြီးတွင် လက်မှတ် ရေးထိုးတော် မူကြခြင်း။**

**အခမ်းအနားမှူး ဆရာတော်။** ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။

တပည့်တော်များ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးက ချမှတ်ခဲ့တဲ့ဆုံးဖြတ်ချက်များနှင့် မှတ်တမ်းတင်ခဲ့ကြသည်များကို သာသနာ့သမိုင်းဝင် မှတ်တမ်းစာအုပ်ကြီးတွင် ဩဝါဒါစရိယဆရာတော်ကြီး (ငါးပါး) ဥက္ကဋ္ဌဆရာတော်နှင့် ဂိုဏ်းအသီးသီး ပြည်နယ်/တိုင်း အသီးသီးတို့မှ ကိုယ်စားလှယ်ဆရာတော် တပါးကျစီနှင့် တပည့်တော် အခမ်းအနားမှူး အပါအဝင် လက်မှတ် ရေးထိုးတော်မူကြရန် ဖြစ်ပါတယ် ဘုရား။ လက်မှတ်ရေးထိုးနိုင်ရန်အတွက် ဩဝါဒ ဆရာတော် ကြီးများနှင့် ဥက္ကဋ္ဌဆရာတော်များ သီတင်းသုံးရာနေရာများသို့ မှတ်တမ်း စာအုပ်ကြီးကို ဆက်လက် ဆက်ကပ်မည်ဖြစ်ပါတယ် ဘုရား။ ကျန်ဆရာတော် များ လက်မှတ်ရေးထိုးရန် ဤနေရာသို့ ကြွရောက်တော်မူပါရန် တပည့်တော် က အစီအစဉ်အတိုင်း ပင့်လျှောက်ပါမည်ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များ သာသနာ့ သမိုင်းဝင် မှတ်တမ်းစာအုပ်ကြီးတွင် လက်မှတ် ရေးထိုးတော်မူကြသည်။

အခမ်းအနားမှူး ဆရာတော်။ ။အစီအစဉ်အရ အစည်းအဝေးကြီး၏ ဩဝါဒါစရိယဆရာတော် အဘိဓဇ မဟာရဋ္ဌဂုရု စစ်ကိုင်း ရွှေဟင်္သာ ဆရာ တော်ဘုရားကြီးက နိဂုံးချုပ် ဩဝါဒကထာမြွက်ကြားတော်မူရန်ဖြစ်ပါတယ်။ စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီးအား နိဂုံးချုပ် ဩဝါဒကထာ မြွက်ကြားတော်မူရန် တပည့်တော် ရိုသေလေးမြတ်စွာ လျှောက်ထားပါတယ် ဘုရား။

ဦးပဏ္ဍိတသိရီ (အဘိဓဇမဟာရဋ္ဌဂုရု၊ ရွှေဟင်္သာတိုက်သစ်၊ စစ်ကိုင်း တောင်ရိုး။ ။ဤအစည်းအဝေးကြီးသို့ ထက်သန်လှစွာသော စိတ်ဆန္ဒဖြင့် ကြွရောက်တော်မူလာကြကုန်သော အရှင်မြတ်တို့ဘုရား။

အရှင်မြတ်တို့သည် ကိုးတောင့်ကိုးခဲ သာသနာပြုပွဲကြီးသို့ ပင်ပန်းနွမ်းနယ် သည်တို့ကို အရေးမထား လွှဲဖယ်ရှား၍ ကြွရောက် အားပေးချီးမြှောက် ဆောင်ရွက်တော်မူကြသော ဝန်ဆောင်ဆရာတော်များနှင့်တကွ သမ္မုတိရ နည်းပြခြွှသွား ဆရာတော်မြတ်တို့အား လိှုက်လှဲဝမ်းသာ ကျေးဇူးတင်လှ ပါသည် ဘုရား။

ဤကဲ့သို့ သာသနာရေးကို အလေးပေး၍ ဆောင်ရွက်တော်မူခဲ့ကြသည့် နည်းတူ အနာဂတ်ကာလအဖို့၌လည်း သာသနာတော် ကောင်းမွန်သန့်စင် ရေးကို ဆက်လက်၍ ဆောင်ရွက်တော်မူနိုင်ကြပါစေဟု မေတ္တာဘာဝနာ ပွားများ ပို့သကြောင်းကို ဝမ်းမြောက်စွာ လျှောက်ထားအပ်ပါသည်။

အရှင်မြတ်တို့သည် သာသနာတော် သစ်ရိပ်ကို ခိုလှုံတော်မူကြ လျက် မြတ်စွာဘုရား၏ သာသနာတော်တည်းဟူသော မဟာပဒေသာ သစ်ပင် ကြီး၏ အမြစ် ပင်စည် အကိုင်းအခက်တို့ကို ခိုင်မြဲကောင်းမွန်စေကာ အရှည် ရှည်ကြာ့စွာ တည်ရှိ၍ စည်ပင်သာယာစေခြင်းငှါ မိမိတို့နှင့် သက်ဆိုင်ရာ တာဝန်တို့ကို စိတ်အား ထက်ထက် သန်သန်နှင့် ကာယ, စိတ္တ နှစ်ဝသော သာမဂ္ဂီတို့ဖြင့် စည်းလုံးညီညွတ်စွာ ဆောင်ရွက်တော်မူကြခြင်း၊ နိုင်ငံတော် ကောင်စီ၏ ကိုယ်စား ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနဝန်ကြီးမှ အစပြု၍ ဝန်ကြီးဌာနများနှင့် ဦးစီးဌာနများမှ ပုဂ္ဂိုလ်အသီးသီးတို့ကလည်း နေ့ရော,ညပါ မိမိတို့၏ စိတ်ကို ဤသာသနာရေးကိစ္စ၌သာလျှင် ချထား၍ ဆောင်ရွက်ကြခြင်း။

ယင်းသို့လျှင် အတိုင်အဖောက် အပေးအယူညီစွာ အားသွန်ခွန်စိုက် ဆောင်ရွက်ခဲ့ကြသည် ဖြစ်သောကြောင့် ဤယနေ့ မတ္တကသန္နိပါတ အစည်း အဝေးကြီးသည် ချောမောပြေပြစ် အောင်မြင်ပြီးမြောက်ခြင်းသို့ ရောက် ပါပြီ။ ထို့ကြောင့် ယခုအချိန်၌ သုခလေးဖြာ သာမဂ္ဂီဒေသနာ ဖြစ်သော တရားဒေသနာတော် ဂါထာ ပါဠိ မြန်မာကို ရွတ်ဆိုကာ နိဂုံးချုပ်ပါ တော့မည်—

သုခေါ ဗုဒ္ဓါနဉပ္ပါဒေါ၊ သုခါ သဒ္ဓမ္မဒေသနာ။
သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ။

လောကေ = လောက၌။ ဗုဒ္ဓါနံ = မြတ်စွာဘုရားတို့၏။ ဉပ္ပါဒေါ = ပွင့်ထွန်းတော်မူခြင်းသည်။ သုခေါ = ချမ်းသာလှပေ၏။ သဒ္ဓမ္မဒေသနာ = သူတော်ကောင်းတရားကို ထင်ရှား ပွင့်လင်း ဟော ပြော ပြ သ ခြင်းသည်။ သုခါ = ချမ်းသာလှပေ၏။ သံဃဿ = ဂိုဏ်းပေါင်းစုံ ဆရာတော် သံဃာတော် အပေါင်း၏။ သာမဂ္ဂီ = ကာယစိတ္တ နှစ်ဝနှစ်လီ စည်းလုံးညီညွတ်ခြင်းသည်။ သုခါ = ချမ်းသာလှပေ၏။ သမဂ္ဂါနံ = ညီညွတ်တော်မူကြကုန်သော ဂိုဏ်း ပေါင်းစုံသံဃာတော်မြတ်တို့၏။ တပေါ = သာသနာတော် သန့်ရှင်းစင်ကြယ် ကည်တံ့စည်ပင် ပြန့်ပွားရေးတို့ကို လေးလေးနက်နက် အားထုတ်ဆောင် ရွက်တော်မူကြခြင်းသည်။ သုခေါ = နှလုံးစိတ်ဝမ်းပီတိလွှမ်း၍ အချမ်းသာ ကြီး ချမ်းသာလှပါပေသတည်း။

အခမ်းအနားမှူး ဆရာတော်။ ။သာဓု သုံးကြိမ် ခေါ်တော်မူကြပါ ဘုရား။

ဆရာတော်သံဃာတော်အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

## ဥက္ကဋ္ဌ ဆရာတော်ဘုရားကြီးက နိဂုံးချုပ် သမ္မောဒနီယ ဩဝါဒကထာ မြွက်ကြားခြင်း

အခမ်းအနားမှူး ဆရာတော်။ ။အစီအစဉ်အရ ဥက္ကဋ္ဌ ပဲခူးမြို့မ ဆရာတော်ဘုရားကြီးက နိဂုံးချုပ်မိန့်ခွန်းမြွက်ကြားရန် ဖြစ်ပါတယ် ဘုရား။

ပဲခူးမြို့မ ဆရာတော်ဘုရားကြီးအား နိဂုံးချုပ် မိန့်ခွန်းမြွက်ကြားပေးပါရန် တပည့်တော် ရိုသေစွာ လျှောက်ထားရပါသည် ဘုရား။

ဥက္ကဋ္ဌ ဆရာတော်။ ။ဒီကနေ့ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် သာသနာသန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး၏ ဒါဟာ နောက်ဆုံးနေ့ ဖြစ်ခဲ့တယ်၊ အဲဒီ နောက်ဆုံးနေ့ ဆိုသို့ရှိယင် ဒီဟာ တတိယသန္နိပါတ ဆိုတဲ့ အနေပဲ ထားပါတော့။ အဲဒီ နောက်ဆုံးပိတ်ဖြစ်တဲ့ နေရာမှာ မိမိဥက္ကဋ္ဌရဲ့ တာဝန်ဝတ္တရားအလျောက် သမ္မောဒနီယကထာ မဖတ်ကြားမီ အဲဒီနိဒါန်းပျိုးတဲ့အနေဖြင့် ဗမာပြည်ရဲ့ သာသနာဝင်ကိုလည်း အတိတ်ကဏ္ဍအနေအားဖြင့် ပြန်လည်ပြီးတော့ သတိမူဖို့ရာကို အနည်းငယ်ပြောကြားလိုပါတယ်၊ အဲဒီ ပုဂံပြည်ရဲ့ သာသနာဝင်ကို အတိတ်ကဏ္ဍအနေအားဖြင့် ပြန်ကြည့်မယ်ဆိုလို့ရှိယင် ဒီဗမာပြည်အတွင်းမှာ ရှိတဲ့ပုဂံပြည်ရဲ့ သာသနာဝင်ဟာ ရှေ့ပိုင်းမှာ အရည်းကြီးများနဲ့ရှုတ်မထွေးပွေလိန်ပြီးတော့ နောက်ပိုင်းမှာ ရှင်အရဟံ သထုံမှ ကြွလာမှပဲ သန့်ရှင်းကောင်းမွန်လာတယ်ဆိုတာ ရာဇဝင်က ထောက်ခံလျက် ရှိနေပါတယ်။ အဲဒီအခါမှာ ဒီသာသနာ အရှိန်တက်သလောက် ဒီသာသနာ၏ တည်ရာဖြစ်တဲ့ တိုင်းပြည်လည်းပဲ ဂုဏ်ရှိန်တက်တဲ့ပုံများကို ရာဇဝင်ကြောင်းလမ်း အရ ပြောရမယ်ဆိုလို့ရှိယင် အဲဒီ လွန်ခဲ့တဲ့ သက္ကရာဇ် ၄၁၆ ခုနှစ် အနော်ရထာ မင်းခေါ်လက်ထက်မှာ အရာရာယဉ်ကျေးမှုများ တိုးတက်ခဲ့ခြင်းဟာ အဲဒီ သာသနာပြုပုဂ္ဂိုလ်ကြီးများ ကြွရောက်လာခြင်းကြောင့်ဆိုတဲ့ အဖြစ်ကို သိရပါတယ်။ အဲဒီတော့ ဒီသာသနာနဲ့ တိုင်းပြည်ဆိုတာလည်းပဲ တိုင်းပြည်သည် သာသနာ၏ တည်ရာဖြစ်ခဲ့တယ်။ သာသနာ၏တည်ရာဖြစ်ခဲ့သလောက် သာသနာဂုဏ်ရှိန် တက်သလောက် တိုင်းပြည်ရဲ့ အဆင့်အတန်းဟာလည်းပဲ မြင့်လာရတယ်ဆိုတာ ရေမြင့်တော့ ကြာတင့်ဆိုတဲ့ စကားစဉ်လည်း ရှိခဲ့ပါတယ်။ ဒါရှိခဲ့တော့ အခု ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံဟာလည်းပဲ မိမိတို့ လွတ်လပ်တဲ့ တိုင်းပြည်တခု အနေအားဖြင့် တိုင်းပြည်ရဲ့

အဆင့်အတန်းမြင့်လာလို့ သာသနာတော်ရဲ့ အဆင့်အတန်းဟာလည်း မြင့်ခဲ့ရတယ်။ သာသနာအဆင့်အတန်း မြင့်ပုံကိုလည်းပဲ ဒီကနေ့ တတိယသန္နိပါတရဲ့ နောက်ဆုံးနေ့ အနေအားဖြင့် ဆိုလို့ရှိယင် ဒီရန်ကုန်မြို့တော်သူ မြို့တော်သားများနှင့်တကွ ပတ်ဝန်းကျင်ရှိတဲ့ မြို့ရွာအသီးသီးမှ ရောက်ရှိလာကြတဲ့ ဘာသာဝင်ပုဂ္ဂိုလ်များလည်းပဲ လှိုက်လှိုက်လှဲလှဲနှင့် အင်မတန်ပဲ ဝမ်းမြောက်ဝမ်းသာဖြစ်ရှိကြပါတယ်။ ဖြစ်ရှိကြတော့ ဒီဝမ်းမြောက်ဝမ်းသာ ဖြစ်ရှိရခြင်းဟာလည်းပဲ အရင်းစစ် အမြစ်မြေက ဆိုသလို အဲဒီတော့ အယင်စစ်စစ်ပြီးတော့ ကြည့်မယ်ဆိုယင်ဖြင့် နိုင်ငံတော်ကောင်စီဝင်ဖြစ်တဲ့ နိုင်ငံတော် သမ္မတကြီးနဲ့ ကောင်စီဝင်ဖြစ်တဲ့ ပြည်ထဲရေးနှင့် သာသနာရေးဌာန ဒုဒ်ဝန်ကြီး ဦးစိန်လွင်နှင့် အားလုံးအမှုထမ်းအရာထမ်းဖြစ်တဲ့ ပုဂ္ဂိုလ်တွေရဲ့ ဆောင်ရွက်ချက်ပဲဆိုတာလည်းပဲ ဒါမိမိတို့ အလုပ်ကိစ္စက ထောက်ခံလျက် ရှိနေပါတယ်။ အဲဒီအလုပ်ကိစ္စရဲ့ ထောက်ခံလျက် ရှိတယ်ဆိုယင်ဖြင့် ဒီသာသနာနဲ့ပတ်သက်ပြီးတော့ အင်မတန် ဒီနေ့ ဒီရက်ဟာဖြင့် ဒါဂုဏ်ယူဖွယ်ကောင်းတဲ့ ရက်ပဲဆိုဘာကတော့ဖြင့် ရန်ကုန်မြို့မှာရှိတဲ့ ပုဂ္ဂိုလ်များ အနေနှင့်ပဲ ဖြစ်စေ၊ ပတ်ဝန်းကျင်မြို့ရွာများမှ ရောက်ရှိလာတဲ့ ဒါယကာ, ဒါယိကာမများ အနေနှင့်ပဲဖြစ်စေ ကြည့်မယ်ဆိုလို့ရှိယင် ဒီနေ့ဟာ နိုင်ငံတော် အစိုးရက သာသနာရေး သာသနာကိစ္စနဲ့ ပတ်သက်ပြီးတော့ အဲဒီ သိန်းပေါင်းများစွာ အကုန်ခံပြီး သာသနာကို အားပေးချီးမြှင့်တဲ့ အတွက် လက်ရှိဒိဋ္ဌမေ့ အကျိုးအားဖြင့် ဒီပြန်ဘက်သဘောဖြင့် ဘယ်လိုပြန်ပြီးတော့ သာသနာရဲ့ အရောင်ဟာ ဒီဓိုင်းပြည် အစိုးရထက် မင်းနှင့်တကွ တိုင်းသူပြည်သား အပေါ်လည်းပဲ သာသနာ့ ဒါယကာ ဆိုတဲ့ အမည်ဟာလည်းပဲ ဒါမိမိတို့ တစုံတခု ဂုဏ်ထူးဝိသေသအားဖြင့် မချီးမြှင့်ပေမယ့်လည်းပဲ ဒါအလုပ်ကိစ္စက ဖြောင့်မှန်ပြီးတော့ ထောက်ခံနေတယ်ဆိုတဲ့ အချက်အလက်ကိုလည်းပဲ ဒီကနေ့ ရောက်ရှိလာကြတဲ့ ရန်ကုန်သူ ရန်ကုန်မြို့တော်သူ မြို့တော်သားများ အမှူးထားပြီးတော့ ပတ်ဝန်းကျင်ရှိတဲ့ မြို့နယ်အသီးသီးမှ ရောက်ရှိလာကြတဲ့ ပုဂ္ဂိုလ်များ သဘိမူရမယ့် အချက်ပါပဲ။ အဲဒီတော့ ဒီကိစ္စကို ဒီသာရဏီယကထာ လောက်ဖော်ကြားပြီးတော့ သွားမယ်ဆိုယင်ဖြင့် အဲဒီလောက် မိမိတို့ ပစ္စက္ခသဘောတရားအနကိုလည်းပဲ ပေါ်ပေါ်လွင်လွင်နှင့် ဒီလောက်ဖြစ် ရှိမယ်မဟုတ်ပါဘူး။ အဲဒါကြောင့်မို့လို့ မိမိတို့ ဆောင်ရွက်တဲ့ အလုပ်ကိစ္စဟာ သာသနာတော်နဲ့ ဆက်စပ်ပြီးတော့ ဖြောင့်မှန်တဲ့ အလုပ်ကိစ္စကောင်း မှန်တဲ့အတွက် ဒါဟာ မိမိတို့လုပ်တဲ့ အလုပ်ကိစ္စကပဲ ပြန်ပြီးတော့ ထောက်ခံပြီးတော့ ဒီသံဃာတော်များရဲ့ ဂုဏ်ကျေးဇူးကြောင့် တိုင်းပြည်အစိုးရတဲ့ မင်းများလည်းပဲ သာသနာ့ ဒါယကာဆိုတဲ့ ဘွဲ့မျိုးဟာလည်းပဲ အလိုအလျောက်

သာသနာ့ဘောင်ဂုဏ်ရှိန်တက်သလောက် ဒီသာသနာရဲ့ တည်ရာဖြစ်တဲ့ တိုင်းပြည်နဲ့ အစိုးရဟာလည်းပဲ ဂုဏ်တက်လာရတယ်ဆိုတဲ့ အနေနဲ့သာ မဟုတ်ပဲနဲ့ အဲဒီ သာသနာနဲ့ ဆက်စပ်ပြီးတော့ သာသနာ့ယဉ်ကျေးမှု အရပ်ရပ်ဆိုတာလည်းပဲ ဒါတစတစ တိုးပွားပြီးတော့ ကောင်းတဲ့ နိုင်ငံတော်သူ နိုင်ငံတော်သားများ ဖြစ်ရလိမ့်မယ်ဆိုတာကိုလည်း မချွတ်မချော အဲဒီယုံကြည်ချက် ပြုကြစေလိုပါတယ်။ အဲဒီ စကားကို အနည်းငယ် မိမိဝတ္တရားအတိုင်း ဒီစကားနိဒါန်းပျိုးပြီးတဲ့အခါကျတော့ ခုတင်က ဥက္ကဋ္ဌရဲ့ တာဝန်ဝတ္တရားအလျောက် ခုတင်က ဩဝါဒ နိုင်ငံတော်ဩဝါဒါစရိယဖြစ်တဲ့ စစ်ကိုင်းရွှေဘုံသာဆရာတော်ကြီးကလည်းပဲ ဩဝါဒကထာ တိုတိုကျဉ်းကျဉ်းနဲ့ လိုရင်းလောက်ကို မိန့်ကြားသွားပါတယ်။ မိန့်ကြားသွားတဲ့အခါမှာ ဆိုလိုရင်းဖြင့် မိန့်ကြားပြီးတော့ မိမိရဲ့တာဝန်ဝတ္တရားအလျောက် သမ္မောဒနီယကထာကို ပြောကြားဖို့ရာဆိုတဲ့ အစီအစဉ်ရှိခဲ့တယ်။ ရှိခဲ့တဲ့အလျောက် နိုင်ငံတော် ဩဝါဒါစရိယဆရာတော်ကြီးများ အမှူးထားပြီးတော့ ဤသာသနာ့ဘောင် သန့်ရှင်း တည်တံ့ပြန့်ပွားရေးဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးသို့ ကာယစိတ္တ သမဂ္ဂီအပြည့်အဝပေးပြီး အဲဒီ အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာကြသော သမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် သံဃာတော် အရှင်သူမြတ်တို့ ဘုရား။

တပည့်တော်တို့သည် သာသနာတော် အတွက် လွန်စွာ လိုအပ်လျက်ဖြစ်တဲ့ အဲဒီ သာသနာသန့်ရှင်း တည်တံ့ပြန့်ပွားရေးကို အောင်အောင်မြင်မြင် ဆောင်ရွက်နိုင်ရန် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကို အသီးသီး အသက အသက မိမိတို့ ကျရာတာဝန် အသီးသီးကို ထန်သည်းသော မေတ္တာ စေတနာ သဒ္ဓါတရားအပြည့်အဝဖြင့် (၄) ရက်ပတ်လုံး ကျင်းပ၍ ဒေယျဓမ္မလာပြည့်စုံစွာဖြင့် ဝမ်းသာရွှင်ပြုံး အပြီးအဆုံးသို့ရောက်ခဲ့ကြပါပြီ ဘုရား။

ဤအစည်းအဝေးကြီး၌ တပည့်တော်တို့ ဆရာ့ဒကာ လွန်စွာ လိုလားတောင့်တအပ်တဲ့ သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးတို့ကို အမှန်တကယ်ကျေးဇူးပြုနိုင်တဲ့—

(၁) မြန်မာနိုင်ငံတော် သံဃာ့အဖွဲ့အစည်း အခြေခံစည်းမျဉ်း၊

(၂) ဝိနည်း ဓမ္မ ကံ အဓိကရုဏ်းမှုခင်းများ ဆုံးဖြတ် ရေး ဆိုင် ရာ လုပ်ထုံးလုပ်နည်းများ၊

( ၃ ) မြန်မာနိုင်ငံတော် ရဟန်းသံဃာတော်များ၏ သာသနာဝင် မှတ်တမ်း—

များကိုလည်းပဲ အငြင်းမပွား ကိုယ့်စိတ်နှစ်ပါး ညီညွတ်စွာဖြင့် ကောင်းစွာ အတည်ပြု ပြဋ္ဌာန်းနိုင်ခဲ့ကြပါပြီ ဘုရား။

ယင်းအတည်ပြုပြဋ္ဌာန်းချက်များကို အကောင်အထည်ဖော်နိုင်ရန် အတွက်—

(က) နိုင်ငံတော် ဩဝါဒါစရိယအဖွဲ့၊
(ခ) နိုင်ငံတော် သံဃာ့မဟာနာယကအဖွဲ့၊
(ဂ) နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့—

ဟူသော သံဃာ့အဖွဲ့အစည်းကြီးသုံးခုကိုလည်းပဲ မနေ့က အောင်အောင် မြင်မြင်နဲ့ အောင်မြင်ညီညွတ်စွာ သဒ္ဓါဆန္ဒ တူညီမျှ၍ ဖွဲ့စည်းနိုင်ခဲ့ကြပါပြီ ဘုရား။

ယင်းသို့ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် အခြေခံ အုတ်မြစ်ပန္နက်သဖွယ်ဖြစ်တဲ့ ရွေးဖော်ပြပါ အတည်ပြုဆုံးဖြတ်ချက်သုံးရပ်နဲ့ တကွ သံဃာ့အဖွဲ့အစည်းကြီး သုံးရပ်တို့ကို ဖွဲ့စည်းနိုင်ခဲ့ကြသည်မှာလည်းပဲ ဤအစည်းအဝေးပွဲကြီးသို့ ကိုယ်တိုင် မကြွရောက်နိုင်သော်လည်းပဲ သမဂ္ဂ စိတ်ဓာတ်ဖြူဖွေးပြီးတော့က ဆန္ဒပေးတော်မူကြသည့် အဝေးနေ ဆရာ တော် သံဃာတော်အရှင်မြတ်တို့နဲ့တကွ ကိုယ်တိုင်ကိုယ်ကျ ကြွရောက်တော် မူလာကြ၍ ကျရောက်ရာတာဝန်ကို စိတ်ရှင်ကိုယ်လန်း စွမ်းစွမ်းတမံ ထမ်း ဆောင်ပြုလုပ်တော်မူကြသည့် သမဂ္ဂဖော်များ ဆရာတော်အရှင်မြတ်များ နာယကဂိုဏ်ခြောက်ပါးတို့ဖြင့် အားပါးတရ ဆောင်ရွက်တော်မူကြခြင်း ကြောင့်ပင် ဖြစ်ပါသည် ဘုရား။

ထို့ပြင် ဆရာတော် သံဃာတော်များနှင့်အတူ ဆန္ဒတူတိုင်ပင်၍ လိုအင် ဆန္ဒ စုံပြည့်ဝအောင် အစစပေးလှူ ကူညီ ဝိုင်း ဝန်း လုပ်ဆောင်ကြသော နိုင်ငံတော်အစိုးရနဲ့ ဒါယကာ, ဒါယိကာမများ၏ ကြီးမားသောအသိဉာဏ် ထက်သန်သောစေတနာ ကြည်လင်သောသဒ္ဓါတရားတို့ကြောင့်လည်း ယခု ကဲ့သို့ အစည်းအဝေးပွဲကြီး ပြီးစီးအောင်မြင်ထမြောက်သည့်ဖြစ်အင်ကိုလည်း မော်ကွန်းတင် မှတ်တမ်းသမိုင်းတင် ပြဋ္ဌာန်းလိမ့်မည်ဖြစ်ပါသည် ဘုရား။

ဆရာတော်အရှင်မြတ်တို့ဘုရား။ အတိတ်သာသနာပင်ကို ပြန်လည်သုံးသပ် ဆင်ခြင်ကြည့်မည်ဆိုပါလျှင် သုံးကြိမ်တိုင်တိုင် ဆရာ,ဒကာ ညီညွတ်စွာဖြင့်

သာသနာတော် သန့်ရှင်းပြန့်ပွားရေးကို ထက်မြက်အောင်မြင်စွာဆောင်ရွက်ခဲ့ကြသည်ကို တွေ့မြင်ရမည်ဖြစ်ပါသည် ဘုရား။ ၎င်းတို့မှာ—

(က) ပထမအကြိမ် အရှင်မဟာကဿပမထေရ်အမှူးပြုတဲ့ ရဟန်းသံဃာတော်များနှင့် အဇာတသတ်မင်းအမှူးပြုတဲ့ နိုင်ငံတော်သူ နိုင်ငံတော်သားများ၊

(ခ) ဒုတိယအကြိမ် အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ် အမှူးပြုတဲ့ ရဟန်းသံဃာတော်များနှင့် သီရိဓမ္မာသောကမင်းတရား ဦးဆောင်တဲ့ တိုင်းသူပြည်သားများ၊

(ဂ) တတိယအကြိမ်မှာ မြန်မာပြည်ဝယ် ရှင်အရဟံနှင့် အနုရုဒ္ဓရာဇာ အနော်ရထာမင်းတရားကြီးများ ကြီးမှူးတဲ့ နေပြည်တော်သူ နေပြည်တော်သားများ—

ဤသို့ ဆရာ, ဒကာ ညီညာပေါင်းစုံ၍ သဗ္ဗညုမြတ်စွာဘုရား သာသနာ့အန္တရာယ်အသွယ်သွယ်တို့ကို ဖြုတ်ပယ်ရှင်းလင်း၍ သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် သမိုင်းတင်လောက်အောင် ဆောင်ရွက်ခဲ့ကြသည်ကိုလည်း ဆရာတော် သံဃာတော် အရှင်မြတ်တို့အသိပင် ဖြစ်ပါသည် ဘုရား။

အဲဒီနေရာမှာလည်းပဲ အချိန်ကတော့ဖြင့် နည်းနည်းသွားပြီးတော့ နည်းသွားပေမယ့် အဲဒီဒုတိယအကြိမ်လောက်မှာ အဲဒီအာသောကမင်းတရားရဲ့ အဘ္ဘုပ္ပတ္တိဆိုတာကတော့ဖြင့် လူတိုင်းပဲ မဇ္ဈိမသာသနာဝင် ကြည့်ယင်ဖြင့် သုတေသနပြုပြီးသားလို့ ယူဆခဲ့ပါတယ်။ အဲဒီနေရာမှာ ဘုန်းကြီးအနေကတော့ဖြင့် ပြောချင်တာကတော့ဖြင့် ဒီတိုင်းပြည်ကအစိုးရနဲ့ သာသနာရေးဝန်ကြီးဌာနက သိန်းပေါင်းများစွာနှင့် တိုင်းပြည်ကလည်း ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှောက်တော့ အရှင်ဘုရားတို့ဘက်ကများ ဘာတွေများပြန်လည်ပြီးတော့ ချီးမြှောက်ခဲ့သလဲဆိုတော့ အဲဒီခုနကပြောခဲ့တဲ့အာသောကမင်းတရားနဲ့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿတို့ရဲ့ အဲဒီရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်တို့ရဲ့ အဲဒီသဘာသွားကိုဆောက်ထားပြီးတော့ တချို့ကလဲ မေးမြန်းကြပါတယ်၊ မေးမြန်းတဲ့နေရာမှာဆိုလို့ရှိယင်ဖြင့် အဲဒီ ရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ဆိုတာကတော့ အာသဝေါကုန်ခန်းတဲ့ ရဟန္တာ မထေရ်၊ အဲဒီတော့ အာသောကမင်းတရားရဲ့ ကုသိုလ်ကောင်းမှုတွေကို သာဓုခေါ်ပွဲပြုလုပ်တဲ့နေရာမှာ ဒီသောက ဝိဇရဏ္ဏဆိုတဲ့ဘန်ခိုးဖြင့် အထက်ဆိုယင်လည်းပဲ နတ်ပြည်ခြောက်ထပ်နဲ့ ပြဘုံမှာ နှစ်ဆယ်၊ အောက်ပိုင်းဆိုယင်လဲ ငရဲ, တိရစ္ဆာန်,

ပြိတ္တာ, အသူရကာယ် စတဲ့ အပါယ်လေးဘုံကို အားလုံးကြွရောက်လာခဲ့တဲ့ လူပုဂ္ဂိုလ်များလည်းပဲ အကုန်လုံးမြင်ရဖို့ဆိုတာကို တန်ခိုးဖန်တီးပြလိုက်တဲ့အတွက် သုံးဆယ့်တဘုံမှာ ကျင်လည်ပြေးသွားတဲ့ သံသရာခရီးသမားတွေကို အမျိုးမျိုး တွေ့ကြရတယ်၊ မြင်ကြရတယ်၊ အဲဒီတော့ အရှင်ဘုရားတို့ အနေနဲ့ဆိုလို့ရှိယင် ဘာတွေများ တပည့်တော်များ ပြန် လည် ပြီး တော့ ချီးမြှောက်ဖို့ရာ အဲဒီ မောဂ္ဂလိပုတ္တတိဿ မထေရ်ကဲ့သို့ ဒီလိုများ ကျေးဇူး ပြန်ပြုနိုင်တဲ့အချက်များ ရှိသလားဆိုယင်တော့ဖြင့် ပုထုဇဉ်ဘာဝဖြစ်နေပေမယ့်လဲ ဒီပုထုဇဉ်အသိုက်အလျောက် ရန်ကုန်မြို့တော်သူ မြို့တော်သားတွေဟာ ပုဗ္ဗ စ ကာဘပုညဘာ စက်ဆိုတာ ရှေးဘဝကပြုခဲ့သည့် ကောင်းမှုထူးကံအဟုန်ရှိတဲ့ ဘုန်းရှင်ကံရှင်တွေပဲဆိုတာကိုလဲ အဲဒီလို ဘုန်းရှင် ကံရှင်များလို့ ဘုန်းကြီးတွေအနေနဲ့ကတော့ ပြောချင်ပါတယ်။ ဘာဖြစ်လို့ ဘုန်းရှင်ကံရှင် များလို့ ပြောနိုင်သလဲဆိုယင်ဖြင့် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် တိုင်းနဲ့ပြည်နယ်အသီးသီးမှာရှိတဲ့ သံဃာတော်များကို ဒီ မဟာ ပါသာဏ လိုဏ်ဂူတော်ကြီးထဲမှာ တနေရာတည်း တွေ့နိုင်ခြင်းဟာလဲ ခုနက လောကကိုဖွင့်ပြတဲ့ လောကဝိဝရဏတန်ခိုးပင် မရှိပေမယ့် ယခုပစ္စက္ခ ဒိဋ္ဌဓမ္မ အားဖြင့် ဒီ သမဏာနုဥ္ဆ ဒဿနံ ဆိုတဲ့ မင်္ဂလာတရားဟာဖြင့် ဦးခေါင်း တရပ်မှာရှိတဲ့ မျက်စိနဲ့ ရင်းနှီးပြီးတော့ အဲဒီလောက် အသေးအဖွဲ့ဖြစ်တဲ့ ကုသိုလ်ကစပြီးတော့ ပွားများနိုင်တဲ့အချက်ကို ထောက်ထားပြီးတော့ အဲဒီ ဒုတိယ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်အမှူးပြုတဲ့ ရဟန်းသံဃာတော် များနှင့် သိရိဓမ္မာသောက မင်းတရားဦးဆောင်တဲ့ တိုင်းသူပြည်သား နောက်ပြီးတော့ တတိယအကြိမ် မြန်မာနိုင်ငံမှာ ရှင်အရဟံ အနုရုဒ္ဓါ ရာဇာ၊ အနော်ရထာမင်း ကြီးမှူးတဲ့ တိုင်းသူပြည်သား - နေပြည်တော်သူ နေပြည်တော်သားတို့သည် ဤကဲ့သို့ ဆရာ,ဒကာ ညီညွတ်စွာ ညီညာပေါင်းစုပြီးတော့ သဒ္ဓါ မြတ်စွာဘုရား သာသနာ၏ အန္တရာယ် အသွယ်သွယ်တို့ကို ဖြိုဖျက်ပယ်ရှင်းလင်း၍ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအတွက် သမိုင်းတင်လောက်အောင် ဆောင်ရွက်ခဲ့ကြသည်ကိုလဲပဲ ဆရာတော် သံဃာ တော်အရှင်မြတ်ဘို့အသိပင် ဖြစ်ပါတယ် ဘုရား။ အဲဒီတော့ ယခု ပြည် ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်၌ ရှေးနည်းအတူ ဆရာတော် အရှင်မြတ်တို့နှင့်တကွ နိုင်ငံတော်အစိုးရပါ ဒကာ,ဒကာမတို့ ပစ္စယဓမ္မဆိုတဲ့ အပြန်အလှန် အမှီပြုကြတဲ့အတွက် သာသနာ့အန္တရာယ်ကို ဖျောက်ပယ်ရှင်း လင်းသျှက် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအတွက် ရှေး ဖော်ပြပါ မဟာပုည သာသနောပကာရ ကုသလပန္နက် အဲဒီအုတ်မြစ်ကြီး များကို အောင်မြင်စွာ ချနိုင် - ပန္နက် ရိုက်နိုင်ကြသည်ကို အပရစေတနာ

ဝမ်းမြောက်စွာဖြင့် ထပ်ခါထပ်ခါ နှလုံးသွင်းနိုင်ကြပါရန် တပည့်တော်တို့ အကျိုးလိုလား မေတ္တာတရားဖြင့် လျှောက်ထား အသိပေးအပ်ပါသည် ဘုရား။ ယနေ့ အောင်မြင်စွာပြုစုကြတဲ့ သာသနာပြု ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးကို အသီးသီးတာဝန်ယူဆောင်ရွက်ကြရတဲ့အတွက် ဆရာ တော် သံဃာတော်များဘက်မှာလဲပဲ ဆရာတော် သံဃာ့တော်ဘက်မှ လည်း ကောင်း၊ နိုင်ငံတော်အစိုးရဘက်မှလည်းကောင်း၊ ဒကာ, ဒကာမတို့ဘက်မှ လည်းကောင်း အနုဿဝဖို့ပြိုးပြီးတော့ ပစ္စုပ္ပန်,သံသရာအကျိုးတို့မှာ ပွားတိုး ပြီးတော့ ဂုဏ်ထူးမရနိုင်လောက်အောင်ဖြစ်ကြောင်းကိုလဲပဲ လျှောက်ထား လိုပါသည် ဘုရား။

ဆရာတော်အရှင်မြတ်တို့ ဘုရား၊ 'ယထာ ဝါဒီ တထာ ကာရီ အဟု ဗုဒ္ဓဿ သာဝကော' ပရိဘာသာစကားအရဆိုယင် ပြောတိုင်းလုပ်၊ ပြုလုပ် သည့်အတိုင်းပြော၊ သူတော်ကောင်းသဘော ဆိုတဲ့ ဆောင်ပုဒ်အရဖြင့် တရားတော်နှင့်အညီ တပည့်တော်များမှာ ဒီဆုံးဖြတ်ထားကြသည့် သာသနာ တော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကိုလဲ မဖြစ်မနေ ဆောင်ရွက်ကြမည် ဟူ သော အမိဋ္ဌာန်ကို လေးစားသောအားဖြင့် လည်းကောင်း၊ တပည့်တော် တို့အား နိုင်ငံတော်အတိုင်းအတာဖြင့် စွမ်းအားရှိသမျှ ကူညီကြသည့် နိုင်ငံ တော်အစိုးရနှင့် ဒကာ, ဒကာမတို့၏ အစလသဒ္ဓါ စေတနာတရားတို့ကို ထောက်ထား ငဲ့ညှာသောအားဖြင့် လည်းကောင်း၊ ရှေးမထေရ်များနှင့် သာသနာပြုမင်းများတို့ရဲ့ ဂုဏ်ကျေးဇူးတို့ကို အောက်မေ့ဆင်ခြင် အသိ ဉာဏ်သမ္ပဇဉ် ဝင်သောအားဖြင့် လည်းကောင်း တပည့်တော်တို့ သာသနာ ဝန်ထမ်း ရဟန်းတော်များအားလုံးသည် မဖြစ်မနေ ငါတို့ဆုံးဖြတ်ခဲ့သည့် အတိုင်း သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို ရှေးမထေရ်တို့ နည်းတူ ဆောင်ရွက်ကြရမည် ဟူသော အဓိပတိဖွဲ့ လုံ့လ ဝီရိယတို့ဖြင့် ဆောင်ရွက်တော်မူကြပါမည့်အကြောင်းကို တပည့်တော် နိဂုံးချုပ်အနေ အားဖြင့် ရိုသေစွာ လျှောက်ထားအပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ ဘုရား။

ဆရာတော် သံဃာတော် အရှင်သူမြတ်များက သာဓု သုံးကြိမ် ခေါ် တော်မူကြသည်။

## သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေး (ပထမအကြိမ်) ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ရုပ်သိမ်းခြင်း

**အခမ်းအနားမှူး ဆရာတော်။** ။အစီအစဉ်အရ ဇယန္တော ဗောဓိယာ မူလေ ကစ၍ မဂ္ဂပ္ပတ္တော ပမောဒတိ တိုင်အောင်သော ဂါထာ ၂. ဂါထာကို သံဃာတော်အားလုံးက ရွတ်ဆိုတော်မူကြ၍ အစည်းအဝေးကြီး ကို ရုပ်သိမ်းရန်ဖြစ်ပါတယ် ဘုရား၊ ရွတ်ဆိုတော်မူကြရန်အတွက် တပည့်တော် လေးမြတ်စွာ လျှောက်ထားပါသည် ဘုရား။

ဇယန္တော ဗောဓိယာ မူလေ၊ သကျာနံ နန္ဒိဝဍ္ဎနော။
ဝေမေဝ ဇယော ဟောတု၊ ဇယဿု ဇယမင်္ဂလေ။
အပ္ပရာဇိတပလ္လင်္ကေ၊ သီသေ ပုထုဝိပုက္ခလေ။
အဘိသေကေ သဗ္ဗဗုဒ္ဓါနံ၊ အဂ္ဂပ္ပတ္တော ပမောဒတိ။

ဆရာတော် သံဃာတော်များက ဂါထာကို ရွတ်ဆိုတော်မူကြသည်။

**အခမ်းအနားမှူး ဆရာတော်။** ။ယခု ပဲခူးအခြေခံဒေသမှ ပဲခူး ရွှေတောင်ကျောင်းဆရာတော် ဦးစန္ဒောဘာသ က အောင်မြင်ကြောင်း မင်္ဂလာ အောင်ဂါထာကို အနက်သမ္ဗန်၍ ရွတ်ဖတ်ပူဇော်ပါလိမ့်မယ် ဘုရား။ ဦးစန္ဒောဘာသ ကြွပါ ဘုရား။ ဦးစန္ဒောဘာသ ရွတ်ဖတ်ပူဇော်ပြီးသော အခါ အစည်းအဝေးကြီးသို့ ကြွရောက်တော်မူလာသော ဆရာတော်အရှင် သူမြတ်များအားလုံးက သာဓု အနုမောဒနာ သုံးကြိမ် ခေါ်တော်မူကြရန် လျှောက်ထားပါသည် ဘုရား။

**ဦးစန္ဒောဘာသ (ပဲခူး ရွှေဘောင်ကျောင်း)။** ။သာသနာပြု ၁၀၀၀ ကျော် သံဃာတော်အရှင်မြတ်တို့ ဘုရား၊ ဘုရားတပည့်တော်အား သာသနာ့ ဇယန္တော ဗောဓိယာ မူလေ အောင်ဂါထာဖြင့် အနက်ပေး ရွတ်ဆိုပူဇော် ရန် သံဃာ့အဖွဲ့ကြီးက အမိန့်ချမှတ်သွားပါသည့် ဘုရား။ သို့ရာတွင် ဘုရား တပည့်တော်သည် ညှိမျှအုံးဖြိုဖွယ်ကောင်းလှသော သံဃာ့အစည်းအဝေး ကြီးနှင့် တွေ့ဆုံရပါသဖြင့် ဘုရားတပည့်တော်အား အနည်းငယ်မျှကလေး အပိုထည့်သွင်းလျှောက်ထားခွင့်ပြုရန် တောင်းပန်ပါသည် ဘုရား။ သာသနာ ပြု သံဃာတော် ၁၀၀၀-ကျော် အရှင်မြတ်တို့ ဘုရား။ တပည့်တော်များ တသက်နှင့်တကိုယ် ဘယ်လိုမှ မျှော်မှန်း၍ မရနိုင်သော တသက်ပတ်လုံး မမေ့ပျောက်မသွားနိုင်လောက်သော ပီတိလျှမ်းဖြာ ဝမ်းသာရေးအကြောင်း

ဆုံးတရပ်ဖြစ်သော ဗုဒ္ဓသာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် အကျက်စေလှ ထောင့်စေလှသော သာသနာပြု သံဃာ့အစည်းအဝေးကြီး နှင့် စီမံကိန်းကြီးကို မျက်မှောက်ထင်ထင် ကိုယ်တိုင်တွေ့မြင် နေကြရသော ကြောင့် ရဟန်း, သံဃာတော်များနှင့် နိုင်ငံတော်အစိုးရ တိုင်းသူပြည်သား အားလုံးတို့သည် ပီတိဖုံးလျှက် စိတ်လက်ကြည်လင် ထွက်ဝင်သွားလာနေကြ သည်ကို တွေ့မြင်နေကြရပါသည် ဘုရား။ မှန်ပါသည် ဘုရား၊ သာသနာ တော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး သို့ ကြွရောက်တော်မူလာကြသော ၁၀၇၀-ကျော် သံဃာတော်များမှာ ပြည်ထောင်စု မြန်မာနိုင်ငံတဝန်းလုံးရှိ တိုင်းနှင့်ပြည်နယ်အသီးသီး၌ သီတင်း သုံးနေတော်မူကြသော သံဃာတော် ၁၀၀၀၀၀ (တသိန်း)ကျော်တို့၏ သံဃာဆန္ဒဖြင့် ကြွရောက်လာခြင်းဖြစ်၍ သံဃာတော် ၁၀၀၀၀၀(တသိန်း) ကျော်တို့ ဤအစည်းအဝေးကြီးသို့ တက်ရောက်လာကြသည်ဟုပင် ဆိုနိုင်ပါ သည်ဘုရား။ လူဒကာများဘက်ကဆိုလျှင်လည်း ပြည်ထောင်စုမြန်မာနိုင်ငံ တဝန်းလုံးရှိ ပြည်သူလူထုအပေါင်းတို့တင်မြှောက်ထားသော ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်၏ စီမံဆောင်ရွက်ချက်ဖြစ်၍ ပြည်သူ လူထုတရပ်လုံး၏ လုပ်ဆောင်ချက်ဟူ၍လည်း ဆိုရမည်ဖြစ်ပါသည်ဘုရား။ ယခုခေတ်၌ သံအားဖြင့် အုတ်, ကျောက်, ကွန်ကရစ်တို့ဖြင့် အထပ်ပေါင်း များစွာပါသော တိုက်ကြီးများကို ကျွမ်းကျင်လိမ်မာသော အင်ဂျင်နီယာ ဆရာကြီးများတည်ဆောက်သလို ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန ဗိုလ်မှူးချုပ် စိန်လွင်၏ အမြင်ဉာဏ်၊ မြဲမြံခိုင်မာလှသော ဇွဲ, လုံ့လတို့ဖြင့် လည်းကောင်း ဗိမာန်တည်ဆောက်ရေးအင်ဂျင်နီယာကြီးများပမာထားအပ်သော ကျေးဇူး တော်ရှင် အဂ္ဂမဟာပဏ္ဍိတ ပဲခူးဆရာတော်ဘုရားကြီး ဥက္ကဋ္ဌအဖြစ်ဖြင့် ဦးဆောင်သော ပရိယတ္တိအရာ လိမ်မာကျွမ်းကျင်တော်မူလှသော သံဃာ့ ဝန်ဆောင်ဆရာတော် ၆၆-ပါး၊ ဝန်ဆောင်သံဃာအဖွဲ့ အကြံဉာဏ်ပေး တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီးများ၊ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီးများ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားကြီးများ၊ ဩဝါဒါစရိယ ဆရာတော်ကြီးများတို့၏ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးမှ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးစီမံကိန်းကြီးဟူသော သာသနာ့ဗိမာန်တော်ကြီး ခိုင်ခိုင်ခံ့ခံ့ ထယ်ထယ်ဝါဝါ သာယာလှပစွာတည်ဆောက်ပြီးပါပြီ ဘုရား။ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်း

အစည်းအဝေးကြီးက တည်ဆောက်အပ်သော သာသနာပြု စီမံကိန်းတည်း ဟူသော သာသနာ့ဗိမာန်တော်ကြီးသည် နှောင့်ယှက်ကင်းကွာ အောင်ပါစေကြောင်း ဂုဏ်ပြုမင်္ဂလာဂါထာကို အနက်ယောဇနာခြင်းဖြင့် ဂုဏ်ပြု ပူဇော်ပါမည် ဘုရား။

ဇယန္တော ဗောဓိယာ မူလေ၊ သကျာနံ နန္ဒိဝဍ္ဎနော။
ဧဝမေဝ ဇယော ဟောတု၊ ဇယဿု ဇယမင်္ဂလေ။
အပရာဇိတပလ္လင်္ကေ၊ သီသေ ပုထုဝိပုက္ခလေ။
အဘိသေကေ သဗ္ဗဗုဒ္ဓါနံ၊ အဂ္ဂပ္ပတ္တော ပမောဒတိ။

သကျာနံ = မဟာသမ္မတ သကျသာကီ သာကီဝင်မင်းအပေါင်းတို့၏။ နန္ဒိဝဍ္ဎနော = နှစ်သက်ခြင်း ပီတိတရားကို တိုးပွားစေနိုင်သော။ ဇိနော = ငါးမာရ်အောင်မြင် တပည့်တော်တို့ရဲ့ ဘုရားရှင်သည်။ ဗောဓိယာ = ဗောဓိ ညောင်ရွှေ ဗုဒ္ဓဟေပင်မင်း၏။ မူလေ = အနီးဝန်းကျင် အပရာဇိတပလ္လင် ထက်၌။ ဇယန္တောယထာ = ဒွာန်ငါးပါးကို ထွားထွားကုန်စင် အောင်မြင် ခဲ့မှုသကဲ့သို့၊ ဧဝမေဝ = ဤနည်းပုံယူ အလာတူသာလျှင်။ တုမှာကံ = သံဃ ဥသျှောင်ဝန်ဆောင်ရှေ့သွား သံဃာတော် ဆရာတော်များနှင့်တကွ နိုင်ငံ တော်အစိုးရအမှူးသားပြီး တိုင်းသားပြည်သူ များဗိုလ်လူအပေါင်းတို့အား။ ဇယော = ဘေးရန်ခပင်း အောင်မြင်ခြင်းသည်။ ဟောတု = ဧင်စစ်မသွေ ဖြစ်ကြပါစေသတည်း။ ဇယမင်္ဂလေ = အောင်မြင်နိုင်ကြောင်း မင်္ဂလာတရား ကောင်းကြောင့်။ ဇယဿု = လိုရာပြီးမြောက် ခရီးရောက်အောင် ငင်း မြောက်ကြည်သာ အောင်မြင်နိုင်ကြပါစေသတည်း။

အခမ်းအနားမှူး ဆရာတော်။ ။ဆရာတော် အရှင်သူမြတ်တို့ ဘုရား။ ယနေ့ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက်၊ အင်္ဂါနေ့ ညနေ ၄-နာရီ မိနစ် ၅၀-အချိန်တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး အောင်မြင်စွာ ပြီးဆုံးပါကြောင်း လျှောက်ထားပါသည် ဘုရား။ တဆက်တည်းမှာပင် ၁၃၄၂-ခုနှစ်၊ နယုန် လပြည့်နေ့ ဗုဒ္ဓဟူးနေ့ နေ့လယ် ၂-နာရီအချိန်တွင် ကျင်းပမည့် ယခုနှစ် နိုင်ငံတော် ကောင်စီက အဘိဓဇမဟာရဋ္ဌဂုရု နှင့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် တော်များ ဆက်ကပ်ခြင်း ခံရသည့် ဆရာတော်ကြီးများအား ပြည်ထဲရေး နှင့် သာသနာရေးဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်က ဘွဲ့တံဆိပ် တော်များ ဆက်ကပ်သည့် အခမ်းအနားနှင့် သာသနာတော် သန့်ရှင်း

တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်တော်မူလာကြသော သံဃသမ္မုတိရသံဃာ့ကိုယ်စားလှယ် ဆရာတော်များအား ပူဇော်ပွဲကို ဤမဟာပါသာဏလိုဏ်ဂူတော်ကြီးအတွင်းမှာပင် ကျင်းပမည်ဖြစ်ပါ၍ ဆရာတော်များအားလည်း သက်ဆိုင်ရာ ပင့်ဖိတ်ထားပြီးဖြစ်ပါတယ် ဘုရား။ ဆရာတော်များအားလုံး ကြွရောက်တော်မူကြပါရန် တပည့်တော်က ထပ်မံတိုက်တွန်း ပင့်ဖိတ်လျှောက်ထားလိုပါတယ် ဘုရား။ ယခု အစည်းအဝေးကြီးကို ဆရာတော် အရှင်သူမြတ်များနှင့် ပရိသတ်များ အပါအဝင် သာဓု အနုမောဒနာ သုံးကြိမ် ခေါ်ဆို၍ အောင်မြင်စွာ ရုပ်သိမ်းရန် ဖြစ်ပါတယ်။ အားလုံး သာဓု သုံးကြိမ် ခေါ်ဆိုတော်မူကြရန် ဖြစ်ပါတယ် ဘုရား။ ဆရာတော် သံဃာတော် အရှင်သူမြတ်များနှင့် ပရိသတ်များအားလုံးက သာဓု သုံးကြိမ် ခေါ်တော်မူကြသည်။

[အစည်းအဝေးကို ညနေ ၄-နာရီ မိနစ် ၅၀-အချိန်တွင် ရုပ်သိမ်းပါသည်။]

## တေရသမပိုင်း အပြီးသတ်ခြင်း

ဤသည်လျှင် ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက်နေ့တွင် ကျင်းပအပ်သော သာသနာ့သန့်ရှင်း တည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး၏ သမိုင်းကို မှတ်တမ်းတင်ရာ တေရသမပိုင်း အပြီးတည်း။

သုတေသီနံ ဟိတတ္ထာယ၊ သာစ္စုနံ ပသာဒါယဝေ။
ရစိတေ ဣမဂန္ထမှိ၊ နိဋ္ဌိတော တေရသမော ဟိ ခေါ။

# စုဒ္ဒသမပိုင်း

## ဆရာတော်ကြီး ၆-ပါး ဘွဲ့တံဆိပ်တော်ကပ်လှူပူဇော် သံဃာ့ကိုယ်စားလှယ် ၁၂၀၀-ကျော်တို့အား ပူဇော်ပွဲကျင်းပခြင်း

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် ကောင်စီက အမိန့်ကြော်ငြာစာ ၁/၈၀-ဖြင့် အဘိဓဇ မဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ကို ဆရာတော်ကြီး နှစ်ပါးတို့အားလည်းကောင်း၊ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို ဆရာတော်ကြီး ၆-ပါးတို့အား လည်းကောင်း ဆက်ကပ် လှူဒါန်းခဲ့လေသည်။ ထို ဆရာတော်ကြီးများအား ဘွဲ့တံဆိပ်တော် ဆက်ကပ် ပူဇော်ခြင်းနှင့် [၁] သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ ကြွရောက်ကော်မူလာကြသော သံဃာ သမ္မုတိ ရ သံဃာ့ကိုယ်စားလှယ် ၁၂၀၀-ကျော်တို့အား ပူဇော်ပွဲ အခမ်းအနားကို ၁၃၄၂-ခုနှစ်၊ နယုန် လပြည့် (၂၈-၅-၈၀) မဟာသမယနေ့ မွန်းလွဲ ၂-နာရီ အချိန် ရန်ကုန်မြို့၊ ကမ္ဘာအေး ကုန်းမြေ၊ မဟာပါသာဏလိုဏ်ဂူတော်ကြီး အတွင်း၌ ဆက်လက် ကျင်းပခဲ့လေသည်။ ထို နေ့ကား ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးအောင်မြင်ပြီးစီးသည့်နောက်တနေ့ ဖြစ်သည်။ ထိုပူဇော်ပွဲအခမ်းအနားသို့ သံဃာသမ္မုတိရ သံဃာ့ကိုယ်စားလှယ် ဆရာတော် ၁၂၁၂-ပါးတို့ ကြွရောက် အပူဇော် ခံယူတော် မူကြသည်။ ဂုဏ်ပြုပြင် နိုင်ငံတော်သမ္မတကြီး၏ ဇနီး ဒေါ်နီနီမြင့် နှင့် နိုင်ငံတော်ကောင်စီဝင်များနှင့် ဇနီးများ၊ ဗဟို အာဏာပိုင် အဖွဲ့အစည်းများမှ အဖွဲ့ဝင်များနှင့် ဇနီးများအပြင် အထူးဖိတ်ကြား ထားသည့် ဂုဏ်သရေရှိ ဧည့်သည်တော်များ တက်ရောက် ကြည်ညိုကြသည်။ [၁]

### ဆွမ်းဆန်စိမ်း လောင်းလှူ ပူဇော်ပွဲ ကျင်းပခြင်း

ဖော်ပြပါ ပူဇော်ပွဲ အခမ်းအနားကြီးတွင် သိန်း ၁၈-သိန်း (၂၀) တန် ပစ္စည်းဝတ္ထု ဆွမ်းဆန်စိမ်း လောင်းလှူ ပူဇော်ပွဲကြီးကိုလည်း ကျင်းပရာ မကြုံစဖူး အထူးစည်ကားလှသည်။ [၁]

---

၁။ အကျယ် မဟာထေရုပ္ပတ္တိ ပကာသနီ ကြည့်။

## သံဃာ့ အစည်းအဝေးကြီး အောင်မြင်သည်ကို ဂုဏ်ပြုခြင်း

၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၄-ရက် (၂၈-၅-၈၀) နေ့၊ နံနက် ၉-နာရီ အချိန်တွင် ရန်ကုန်မြို့၊ အလုံလမ်း၊ သမ္မတ အိမ်တော်ဝင်း အတွင်းရှိ အစည်းအဝေး ခန်းမ၌ ပါတီ ဗဟို အလုပ်အမှုဆောင် ကော်မတီ နိုင်ငံတော် ကောင်စီနှင့် ဗဟို အာဏာပိုင် အဖွဲ့အစည်းများ အစည်းအဝေး တရပ်ကို ကျင်းပရာ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ်ပါတီ ဗဟိုကော်မတီ ဥက္ကဋ္ဌ နိုင်ငံတော် သမ္မတကြီး ဦးနေဝင်းက သဘာပတိအဖြစ်ဆောင်ရွက်သည်။

ထိုအစည်းအဝေးသို့ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ အတွင်းရေးမှူးနှင့် နိုင်ငံတော်ကောင်စီ အတွင်းရေးမှူး ဦးစန်းယု၊ မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီ ဗဟိုအလုပ်အမှုဆောင် ကော်မတီဝင်များ၊ နိုင်ငံတော်ကောင်စီဝင်များ၊ ဗဟိုအာဏာပိုင် အဖွဲ့အစည်းဝင်များ၊ နိုင်ငံတော်ကောင်စီ ဥက္ကဋ္ဌ၏ စစ်ဘက် လက်ထောက်၊ ပါတီအတွင်းရေးမှူးများ၊ အမျိုးသား ထောက်လှမ်းရေးမှူးချုပ်၊ နိုင်ငံတော် သမ္မတရုံး၊ နိုင်ငံတော် ကောင်စီရုံးနှင့် ပြည်သူ့လွှတ်တော်ရုံးမှ တာဝန်ရှိ ပုဂ္ဂိုလ်များ၊ မြန်မာ့ ဆိုရှယ်လစ် လမ်းစဉ် ပါတီ ဗဟိုကော်မတီ ဌာနချုပ်မှ ဌာနမှူးများနှင့် ရေးရာ အတွင်းရေးမှူးများ စုံညီစွာ တက်ရောက်ကြသည်[၁]။

### နိုင်ငံဂုဏ်ရည်ဘွဲ့ တီထွင်ပြဋ္ဌာန်းသည့် အမိန့်

နိုင်ငံတော် သမ္မတကြီး ဦးနေဝင်းသည် မြန်မာ့သမိုင်း၌ ခေတ် အဆက်ဆက်တွင် နိုင်ငံတော် အကျိုးအတွက် ကိုယ်ကျိုး မငဲ့ဘဲ အနစ်နာခံ၍ ကြိုးပမ်းဆောင်ရွက်ခဲ့ကြသည့် ပုဂ္ဂိုလ်များ ရှိကြပါသည်၊ ထိုကဲ့သို့ နိုင်ငံတော်အတွက် စစ်မှန်သော စေတနာဖြင့် ဆောင်ရွက်ခဲ့သော ပုဂ္ဂိုလ်များအနက်မှ သက်ရှိ ထင်ရှား ရှိကြသေးသော ပုဂ္ဂိုလ်များကို ဂုဏ်ပြု ချီးမြှင့်ရန် လိုအပ်ပါသည်၊ ထိုပုဂ္ဂိုလ်များကို ဂုဏ်ပြုချီးမြှင့်ရန်အတွက် နိုင်ငံတော်ကောင်စီသည် အခြေခံဥပဒေ ပုဒ်မ ၇၃၊ ပုဒ်မခွဲ (စ) အရ နိုင်ငံဂုဏ်ရည်ဘွဲ့ကို တီထွင် ပြဋ္ဌာန်းလိုက်သည်။ '(ပုံ) နေဝင်း ဥက္ကဋ္ဌ၊ နိုင်ငံတော် ကောင်စီ' ဟူ၍ နိုင်ငံဂုဏ်ရည်ဘွဲ့ကို (၂၂-၅-၈၀) နေ့တွင် တီထွင် ပြဋ္ဌာန်းခဲ့လေသည်[၂]။

---

၁။ အကျယ်၊ ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးပွဲကြီး မှတ်တမ်း။ ၂၄၁-၂၅၁-ကြည့်။

၂။ ၂၈-၅-၈၀-နေ့ ပြည်သူ့ခိုင် သတင်းစာများ။

## လွှတ်ငြိမ်းချမ်းသာခွင့် အမိန့်

ဤပြင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ပြီးမြောက်အောင် မြင်သည်ကို ဂုဏ်ပြုသောအားဖြင့် အောက်ဖော်ပြပါအတိုင်း လွှတ်ငြိမ်းချမ်းသာခွင့် အမိန့်ကိုလည်း ထုတ်ပြန်ခဲ့လေသည်။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်
နိုင်ငံတော်ကောင်စီ
အမိန့်အမှတ် ၂/၈၀

ရန်ကုန်မြို့ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း ၁၅-ရက်
(၁၉၈၀-ပြည့်နှစ်၊ မေလ ၂၈-ရက်)

## လွှတ်ငြိမ်းချမ်းသာခွင့် အမိန့်

၁။ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီး ပြီးမြောက်အောင်မြင်သည့် ဒိန္နစ်မင်္ဂလာအားရစွာဂုဏ်ပြုသောအားဖြင့် ညီညွတ်ခြင်း နှင့် ငြိမ်းချမ်းခြင်း စိတ်ဓာတ်ကို ပွားများစိမ့်သောငှာ နိုင်ငံတော်ကောင်စီသည် ဤလွှတ်ငြိမ်းချမ်းသာခွင့် အမိန့်ကို ထုတ်ပြန်လိုက်သည်။

### နိုင်ငံရေးပြစ်မှု ကျူးလွန်သူများ

၂။ ဤလွှတ်ငြိမ်းချမ်းသာခွင့်အမိန့်ကို ထုတ်ပြန်သည့်နေ့ မတိုင်မီက နိုင်ငံရေးပြစ်မှုတရပ်ရပ်ကို ကျူးလွန်ခဲ့သူများအား လွှတ်ငြိမ်းချမ်းသာခွင့် ပေးလိုက်သည်။

### နိုင်ငံတော်ကို ဆန့်ကျင်သောင်းကျန်းနေသူများ

၃။ နိုင်ငံတော်ကို ဆန့်ကျင်သောင်းကျန်းနေသူများသည် ဤအမိန့် ထုတ်ပြန်သည့်နေ့မှစ၍ ရက်ပေါင်း ၉၀-အတွင်း မြန်မာ့ဆိုရှယ် လစ်လမ်းစဉ် ပါတီအဖွဲ့အစည်းများ၊ တပ်မတော်စခန်းများ၊ ပြည်သူ့ရဲစခန်းများ၊ ပြည်သူ့ကောင်စီများ၊ ဝန်ထမ်းအဖွဲ့အစည်းများ၊ ပါတီဝင်တဦးဦး၊ ပြည်သူ့ကိုယ်စားလှယ်တဦးဦး၊ ပြည်သူ့ဝန်ထမ်းတဦးဦးထံသို့ တဦးချင်းဖြစ်စေ၊ အစုလိုက် အဖွဲ့လိုက်ဖြစ်စေ၊ ဥပဒေဘောင်အတွင်းသို့ဝင်ရောက်ချင် ယင်းတို့ ကျူးလွန်ခဲ့သောအပြစ်များနှင့်ပတ်သက်၍ အရေးယူခြင်း မပြုရ။

၄။ ဤလွတ်ငြိမ်းချမ်းသာခွင့်သည် ကိုယ်တိုင်ထိခိုက်နစ်နာသူ တဦးဦးက တိုင်ကြားခြင်းပြုသည့် လူသတ်မှု၊ မုဒိန်းမှု၊ သူတဦးအား ထိခိုက်နစ်နာစေသည့် ပြစ်မှု၊ ပုဂ္ဂလိကပိုင်ပစ္စည်း ဆုံးရှုံးနစ်နာစေသည့် ပြစ်မှုတို့နှင့် ဆက်ဆိုင်ခြင်း မရှိစေရ။

၅။ အပိုဒ် (၄) တွင် ဖော်ပြထားသော ပြစ်မှုများနှင့် ပတ်သက်၍ ဤအမိန့်အရ လုံးဝလွတ်ငြိမ်းချမ်းသာခွင့် မရရှိသော်လည်း လူသတ်မှုဖြင့် ပြစ်မှုထင်ရှား စီရင်ခြင်းခံရလျှင် စီရင်ခြင်း ခံရသူသည် ထောင်ဒဏ် ၁၀ - နှစ် (ဆယ်နှစ်) ထက်ပို၍ ကျခံခြင်း မရှိစေရ၊ မုဒိန်းမှု၊ သူတဦးအား ထိခိုက်နစ်နာစေသည့် ပြစ်မှု၊ ပုဂ္ဂလိကပိုင် ပစ္စည်းဆုံးရှုံးနစ်နာစေသည့် ပြစ်မှုတရပ်ရပ်ဖြင့် ပြစ်မှုထင်ရှားစီရင်ခြင်း ခံရလျှင် စီရင်ခြင်း ခံရသူသည် ထောင်ဒဏ် ၃ - နှစ် (သုံးနှစ်) ထက်ပို၍ ကျခံခြင်း မရှိစေရ။

၆။ ဤလွတ်ငြိမ်းချမ်းသာခွင့် အမိန့်ထုတ်ပြန်သည့် နေ့မတိုင်မီက ကျူးလွန်ခဲ့သော အပိုဒ် (၅) တွင် ဖော်ပြထားသည့် ပြစ်မှုတရပ်ရပ်နှင့် ပတ်သက်၍ ကိုယ်တိုင် ထိခိုက်နစ်နာသူ တဦးဦးက တိုင်ကြားခြင်းပြုနိုင်သော နေ့ရက်သည် ၁၉၈၀ - ပြည့်နှစ်၊ ဩဂုတ်လ ၂၈ - ရက်နေ့အထိသာ ဖြစ်စေရမည်။

၇။ ကိုယ်တိုင်ထိခိုက်နစ်နာသူ ဆိုသော စကားရပ်တွင် နစ်နာသူ၏ တရားဝင် ဇနီးခင်ပွန်းနှင့် သားသမီးတို့သာ အကျုံးဝင်သည်။

## အခြားပြစ်မှုကျူးလွန်သူများ

၈။ နိုင်ငံသား တဦးဦးသည် ဤအမိန့်ထုတ်ပြန်သည့် နေ့မတိုင်မီ ကျူးလွန်ခဲ့သော ပြစ်မှုနှင့် ပတ်သက်၍ ဤအမိန့်အရ လုံးဝ လွတ်ငြိမ်းချမ်းသာခွင့်မရသော်လည်း လူသတ်မှုဖြင့် ပြစ်မှုထင်ရှားစီရင်ခြင်း ခံရလျှင် စီရင်ခြင်း ခံရသူသည် ထောင်ဒဏ် ၁၀ - နှစ် (ဆယ်နှစ်) ထက်ပို၍ ကျခံခြင်း မရှိစေရ။ လူသတ်မှုမှအပ အခြား ပြစ်မှု တရပ်ရပ်နှင့် ပတ်သက်၍ ပြစ်မှုထင်ရှား စီရင်ခြင်း ခံရလျှင် စီရင်ခြင်း ခံရသူသည် ကျူးလွန်သော ပြစ်မှု အတွက် သတ်မှတ်ထားသော ထောင်ဒဏ်၏ ထက်ဝက်ထက် ပို၍ ကျခံခြင်း မရှိစေရ။ မည်သို့ပင် ဖြစ်စေ ထောင်ဒဏ် ၃ - နှစ် (သုံးနှစ်) ထက် ပို၍ ကျခံခြင်း မရှိစေရ။

## ပြစ်ဒဏ် ကျခံနေရသည့် နိုင်ငံသားများ

၉။ နိုင်ငံသား တဦးဦးသည် ဤအမိန့် ထုတ်ပြန်သည့်နေ့ မတိုင်မီက

ကျူးလွန်ခဲ့သော ပြစ်မှုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ် ကျခံနေရပါက ကျခံရသော ပြစ်ဒဏ်ကို အောက်ပါအတိုင်း လျော့ပေါ့ ကျခံခွင့် ပြုလိုက်သည်။

(က) နှစ်အကန့်အသတ် မရှိ ထောင်ဒဏ် ကျခံနေရသူများသည် ထောင်ဒဏ် ၁၀-နှစ် (ဆယ်နှစ်) ကိုသာ ကျခံစေရမည်။

(ခ) သေဒဏ် ကျခံစေရန် စီရင်ခြင်းခံရသူများသည် ထောင်ဒဏ် ၁၀-နှစ် (ဆယ်နှစ်) ကိုသာ ကျခံစေရမည်။

(ဂ) ထောင်ဒဏ် ကျခံနေရသူများသည် သာမန်ရရှိသော လျော့ရက်နှင့် နုတ်ရက်များအပြင် ချမှတ်ထားသော ထောင်ဒဏ်၏ ထက်ဝက်ကို လျော့ရက်အဖြစ် ဆပ်မံရရှိစေရမည်။

၁၀။ ဤအမိန့်အရ ပေးအပ်သော ခံစားခွင့်များသည် ဤအမိန့်ထုတ်ပြန်သည့် နေ့ရက် နောက်ပိုင်းတွင် ကျူးလွန်သော ပြစ်မှုများနှင့် သက်ဆိုင်ခြင်း မရှိစေရ။

(ပုံ) နေဝင်း
ဥက္ကဋ္ဌ
နိုင်ငံတော်ကောင်စီ

**ပြည်သူ့လွှတ်တော် အထူး အစည်းအဝေး ကျင်းပရန် ခေါ်ယူ**

နိုင်ငံတော်ကောင်စီ ဥက္ကဋ္ဌ, နိုင်ငံတော် သမ္မတကြီး ဦးနေဝင်းသည် ကြေငြာချက် အမှတ် ၃/၈၀။ ၁၉၈၂-ခုနှစ်၊ နယုန်လဆန်း ၁၅-ရက် (၁၉၈၀-ပြည့်နှစ်၊ မေလ ၂၀-ရက်) နေ့စွဲဖြင့် သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေး ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးက ချမှတ်သည့် ဆုံးဖြတ်ချက်များအနက်မှ ပြည်သူ့လွှတ်တော်က ဥပဒေပြဋ္ဌာန်း ပေးရန်လိုအပ်သည်တို့ကို ပြဋ္ဌာန်းနိုင်ရန် နိုင်ငံတော်ကောင်စီသည် ပြည်သူ့လွှတ်တော် သဘာပတိအဖွဲ့နှင့် ညှိနှိုင်းပြီး ဒုတိယအကြိမ် ပြည်သူ့လွှတ်တော် ပထမအစည်းအဝေးကို ရန်ကုန်မြို့၌ ၁၉၄၂-ခု၊ ပထမ ဝါဆိုလဆန်း ၁၃-ရက်၊ ၁၉၈၀-ပြည့်နှစ်၊ ဇွန်လ ၂၅-ရက် ဗုဒ္ဓဟူးနေ့ နံနက် ၁၀-နာရီအချိန်တွင် စတင်ကျင်းပရန် ခေါ်ယူကြောင်း ကြေငြာအပ်ပါသည်' ဟူသော ကြေငြာချက်ဖြင့် ခေါ်ယူခဲ့လေသည်။[၁]

---

၁။ ၂၉၊ ၅၊ ၈၀ — ပြည်သူ့ပိုင်သတင်းစာများ။

## ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဥပဒေကြမ်း

### လွှတ်တော် အထူးအစည်းအဝေးသို့ တင်သွင်း

ဖော်ပြခဲ့သည့်အတိုင်း ခေါ်ယူချက်အရ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ၄၅၁-ဦး တက်ရောက်သော အထူး လွှတ်တော် အစည်းအဝေး ပထမနေ့ ဖြစ်သော ၁၃၄၂- ခုနှစ်၊ ပထမ ဝါဆို လဆန်း ၁၃- ရက်၊ ( ၂၅-၆-၈၀ ) နေ့တွင် ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး ဌာန၊ ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင် က ဝိနည်း ဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်းအဆိုကို အောက်ပါအတိုင်း တင်သွင်းခဲ့လေသည်။

သဘာပတိကြီး ခင်ဗျား—

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် အတွင်းရှိ ဂိုဏ်းပေါင်းစုံ သံဃာတော်များ အစည်းအဝေးကြီးမှ တညီတညွတ်တည်း ဆုံးဖြတ်ချက်ဖြင့် ပေါ်ပေါက်လာတဲ့ ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ ဥပဒေကြမ်းကို ပြည်သူ့ လွှတ်တော်မှ ပြင်ဆင်အတည်ပြု ပြဋ္ဌာန်းပေးနိုင်ရန် ဝန်ကြီးအဖွဲ့ ကိုယ်စား တင်သွင်းအပ်ပါသည်။

သဘာပတိကြီး ခင်ဗျား—

ဤဥပဒေကြမ်း ပေါ်ပေါက်လာရခြင်း၏ အကြောင်းရင်းကို အနည်းငယ် ရှင်းလင်း တင်ပြလိုပါတယ်၊ ၁၃၄၂-ခုနှစ်၊ နယုန်လဆန်း (၁၁)ရက်မှ (၁၄) ရက်နေ့အထိ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ နိုင်ငံတော် တဝန်းလုံးရှိ ဂိုဏ်းအသီးသီးမှ သံဃာတော်များ၏ကိုယ်စား သံဃသမ္မုတိရ သံဃာ့ ကိုယ်စားလှယ်တော်ပေါင်း ၁၂၁၈- ပါးတို့ဟာ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေး ကိစ္စများကို ဆွေးနွေးဆောင်ရွက်ခဲ့ကြပါတယ်၊ အဲဒီလို ဆွေးနွေးကြရာမှာ သာသနာတော် အတွင်း ဖြစ်ပေါ်နေတဲ့ ဝိနည်းဓမ္မကံ အဓိကရုဏ်းကိစ္စများနှင့် ပတ်သက်ပြီး သံဃာတော်အားလုံး၏ သဘောတူညီချက်ဖြင့် ဝိနည်းဓမ္မကံ အဓိကရုဏ်း မှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းကို အတည်ပြု ဆုံးဖြတ်ခဲ့ကြပါတယ်။

လုပ်ထုံးလုပ်နည်း။ ။ဒီလုပ်ထုံးလုပ်နည်းဟာ သံဃာတော်များအတွင်း ပြေငြိမ်းမှု မရသော ဝိနည်း ဓမ္မကံ အဓိကရုဏ်းများကို ဖြေရှင်းဆုံးဖြတ်

ရာမှာ စနစ်တကျ ဝိနည်းတော်များနှင့်အညီ ဆောင်ရွက်နိုင်ရန် စီရင်ထား ရှိတာကို လေ့လာ တွေ့ရှိရပါတယ်၊ ဒါ့အပြင် ဂိုဏ်းအသီးသီးရဲ့ ညီညွတ်မှုနဲ့ စည်းလုံးမှုကို အထောက်အကူ ပြုပြီး သံဃာတော်များ ဝိနည်းတော်နှင့် အညီ နေထိုင် သီတင်းသုံးနိုင်ရေးကိုလည်း အထောက်အပံ့ဖြစ်လို့ နိုင်ငံတော်ဘက်မှ ဒီလုပ်ထုံးလုပ်နည်းကို အရှည် တည်တံ့ ခိုင်မြဲစေရန်အတွက် ဝိနည်းတော်နဲ့ ညီညွတ်တဲ့ ဥပဒေအဖြစ် ပြဋ္ဌာန်းပေးရန် အချိန်ကာလ သင့်တော် လျောက် ပတ်သည်အားလျော်စွာ ဤပြည်သူ့လွှတ်တော်သို့ ဝိနည်း ဓမ္မကံ အဓိ ကရုဏ်းမှုခင်းများ ဖြေရှင်း ဆုံးဖြတ်ရေး ဆိုင်ရာ ဥပဒေကြမ်းကို တင်သွင်း ရခြင်းဖြစ်ပါတယ်။

**သဘာပတိကြီးခင်ဗျား—**

ဤ ဥပဒေကြမ်းကို တင်ပြထားပြီး ဖြစ်၍ အသေးစိတ် ဖတ်ကြား တင် သွင်းခြင်းမပြုတော့ပဲ ဥပဒေပါ အကြောင်းအချက်များကို အတိုချုပ် ဆက် လက်တင်ပြပါမယ်၊ ဒီ ဥပဒေကြမ်းမှာ နိဒါန်းနှင့်တကွ အခန်း (၅)ခန်း ပါရှိပါတယ်၊ နိဒါန်း ဖော်ပြခြင်းမှာ ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့ အစည်းအဝေးကြီးကို ဂုဏ်ပြုသောအားဖြင့် ပေါ်လွင် ထင်ရှားစေရန် ရေး သားထားခြင်း ဖြစ်ပါတယ်။

**အခန်းလိုက်။** ။အခန်း (၁) ကတော့ ဤ ဥပဒေပါ စကားရပ်၏ အဓိပ္ပါယ်နှင့် အဓိပ္ပါယ် ဖော်ပြထားခြင်း ဖြစ်ပါတယ်၊ အခန်း (၂)မှာ ဝိနည်း ဓမ္မကံ အဓိကရုဏ်းမှုခင်း စစ်ဆေးခြင်းဆိုင်ရာများကို ဖော်ပြ ထားပါတယ်၊ အခန်း (၃) မှာ ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်း စစ်ဆေးနေစဉ် ကာလ အတွင်း မှုခင်းနဲ့ သက်ဆိုင်တဲ့ ပစ္စည်းအရပ်ရပ်ကို ထိန်းသိမ်းစောင့်ရှောက်ရန် ဖော်ပြထားခြင်း ဖြစ်ပါတယ်၊ အခန်း (၄) မှာ သံဃဝိနိစ္ဆယ အဖွဲ့၏ ဆုံး ဖြတ်ချက်ကို လိုက်နာစေခြင်းနဲ့ ပတ်သက်၍ ဖော်ပြထားပြီး အခန်း (၅) ကတော့ အထွေထွေ လိုအပ်တဲ့ အချက်များ ဖော်ပြထားခြင်း ဖြစ်ပါတယ်၊ ဥပဒေကြမ်းရဲ့ နောက်ဆက်တွဲ (က) မှ (င) အထိမှာ သံဃဝိနိစ္ဆယ အဖွဲ့မှ စစ်ဆေး ဆုံးဖြတ်နိုင်သော အဓိကရုဏ်း အောင့်မြဲ အကြောင်း သဘော တရား ၇-ပါး၊ ဝိဝါဒါဓိကရုဏ်း အငြင်းပွားမှု ၁၈-မျိုး၊ အနုဝါဒါဓိ ကရုဏ်း စွပ်စွဲမှု ၄-မျိုး၊ အာပတ္တာဓိကရုဏ်း အာပတ် ၇ မျိုး၊ ကိစ္စာ ဓိကရုဏ်း သံဃာ့အမှုကိစ္စ ၄-မျိုးတို့ကို ဖော်ပြထားပါတယ်။

**သဘာပတိကြီးခင်ဗျား—**

နိုင်ငံတော် တဝန်းလုံးရှိ ဂိုဏ်းအသီးသီးမှ သံဃာတော်များ စုစည်း

ကြဖို့ဟာ မလွယ်ကူပါဘူး။ ဂိုဏ်းအသီးသီးမှ သံဃာတော်များ စုစည်းနိုင်ကြသည့်တိုင်အောင် တညီတညွတ်တည်း ဆုံးဖြတ်ချက် ချမှတ်ဖို့ ဆိုတာဟာလည်း ခဲယဉ်းလှပါတယ်။ ဒီလိုမလွယ်ကူ ခဲယဉ်းတဲ့ ကိစ္စကို သံဃာတော်များနှင့် ဒကာများရဲ့ ကြိုးစား အားထုတ် ဆောင်ရွက်မှုကြောင့် ညီညွတ်အောင်မြင် ပြီးမြောက် သွားတာဟာ ကျွန်တော်တို့အတွက် ကြုံတောင့်ကြုံခဲ ဖြစ်ရပ်တခု အဖြစ် မော်ကွန်းတင် ကျန်ရစ်ခဲ့မှာ ဖြစ်ပါတယ်။

ဒါကြောင့် နိုင်ငံတဝန်းလုံးရှိ သံဃာတော်များကို ကိုယ်စားပြုသော သံဃသမ္မုတိရသံဃာ့ကိုယ်စားလှယ်များ၏ ဆုံးဖြတ်ချက်အရ ဖြစ်ပေါ်လာသော ဝိနည်းဓမ္မကံအဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းကို ဝိနည်းတော်နှင့်အညီ ရေးဆွဲတင်ပြထားတဲ့ ဒီဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်မှ စိစစ်ဝေဖန် သုံးသပ်၍ အတည်ပြု ပြဋ္ဌာန်းပေးပါရန် မေလးစားစွာ တင်သွင်းအပ်ပါသည် ခင်ဗျား။

ဒီဥပဒေကြမ်းကို ဤလွှတ်တော်က အတည်ပြု ပြဋ္ဌာန်းသင့်ပါကြောင်း နိုင်ငံတော်ကောင်စီနှင့် ပြည်သူ့လွှတ်တော် ရေးရာကော်မတီများက ထောက်ခံထားပါတယ်ဆိုတာ နိဂုံးချုပ်အနေနဲ့ ဖော်ပြအပ်ပါတယ် ခင်ဗျား။

## ကိုယ်စားလှယ် လေးဦး အကြံပြုထောက်ခံဆွေးနွေး

ဖော်ပြပါ ပြည်ထဲရေးနှင့် သာသနာရေးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင် တင်သွင်းသော ဝိနည်းဓမ္မကံအဓိကရဏ်း မှုခင်း ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်းအပေါ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ၄ ဦးက အတည်ပြုထောက်ခံဆွေးနွေးခဲ့လေသည်။

ဦးအေးမြင့်။ ။မကွေးတိုင်း တောင်တွင်းကြီးမြို့နယ် အမှတ် (၂) မဲဆန္ဒနယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးအေးမြင့်က ဆွေးနွေးရာတွင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် အကျိုးပြုမည် ဖြစ်သဖြင့် ဝိနည်းဓမ္မကံအဓိကရဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ ဥပဒေကြမ်းကို အလေးအနက် ထောက်ခံပါကြောင်း။ ဝိနည်းကျင့်စဉ်သည် သာသနာတော်၏ အသက်ဖြစ်ကြောင်း သိက္ခာဂုဏ်တင် သိမ်မဝင်သော ရဟန်းတု ရဟန်းယောင်များ ရှိနေသော လက်ရှိအခြေအနေတွင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် ဆောင်ရွက်ခြင်းဖြစ်၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်ရပါကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

ဦးသာထွန်း၏ ဆွေးနွေးထောက်ခံချက်။ ။ရင်းနောက် မန္တလေးတိုင်း

ကြဖို့ဟာ မလွယ်ကူပါဘူး။ ဂိုဏ်းအသီးသီးမှ သံဃာတော်များ စုစည်းနိုင်ကြသည့်အပြင် တညီတညွတ်တည်း ဆုံးဖြတ်ချက် ချမှတ်ဖို့ ဆိုတာဟာလည်း ခဲယဉ်းလှပါတယ်၊ ဒီလို မလွယ်ကူ ခဲယဉ်းတဲ့ ကိစ္စကို သံဃာတော်များနှင့် ဒကာများရဲ့ ကြိုးစား အားထုတ် ဆောင်ရွက်မှုကြောင့် ညီညွတ်အောင်မြင် ပြီးမြောက် သွားတာဟာ ကျွန်တော်တို့ အတွက် ကြုံတောင့်ကြုံခဲ ဖြစ်ရပ်တခု အဖြစ် မော်ကွန်းတင် ကျန်ရစ်ခဲ့မှာ ဖြစ်ပါတယ်။

ဒါ့ကြောင့် နိုင်ငံတဝန်းလုံးရှိ သံဃာတော်များကို ကိုယ်စားပြုသော သံဃသမ္မုတိရသံဃာ့ကိုယ်စားလှယ်များ၏ ဆုံးဖြတ်ချက်အရ ဖြစ်ပေါ်လာသော ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ လုပ်ထုံးလုပ်နည်းကို ဝိနည်းတော်နှင့်အညီ ရေးဆွဲတင်ပြထားတဲ့ ဒီဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်မှ စိစစ်ဝေဖန် သုံးသပ်၍ အတည်ပြု ပြဋ္ဌာန်းပေးပါရန် လေးစားစွာ တင်သွင်းအပ်ပါသည် ခင်ဗျား။

ဒီဥပဒေကြမ်းကို ဤလွှတ်တော်က အတည်ပြု ပြဋ္ဌာန်းသင့်ပါကြောင်း နိုင်ငံတော်ကောင်စီနှင့် ပြည်သူ့လွှတ်တော် ရေးရာကော်မတီများက ထောက်ခံထားပါတယ်ဆိုတာ နိဂုံးချုပ်အနေနဲ့ ဖော်ပြအပ်ပါတယ် ခင်ဗျား။

## ကိုယ်စားလှယ် လေးဦး အကြံပြုထောက်ခံဆွေးနွေး

ဖော်ပြပါ ပြည်ထဲရေးနှင့် သာသနာရေးဌာန ဝန်ကြီး ဗိုလ်မှူးချုပ် ကိန်လှိုင် တင်သွင်းသော ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်း ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်းအပေါ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ၄ - ဦးက အတည်ပြုထောက်ခံဆွေးနွေးခဲ့လေသည်။

ဦးအေးမြင့်။ ။မကွေးတိုင်း တောင်တွင်းကြီးမြို့နယ် အမှတ် (၂) မဲဆန္ဒနယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးအေးမြင့်က ဆွေးနွေးခဲ့ရာတွင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် အကျိုးပြုမည် ဖြစ်သဖြင့် ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေး ဆိုင်ရာ ဥပဒေကြမ်းကို အလေးအနက် ထောက်ခံပါကြောင်း။ ဝိနည်းကျင့်ဝတ်သည် သာသနာတော်၏ အသက်ဖြစ်ကြောင်း သိက္ခာမတင် သိမ်မဝင်သော ရဟန်းတု ရဟန်းယောင်များ ရှိနေသော လက်ရှိအခြေအနေတွင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးအတွက် ဆောင်ရွက်ခြင်းဖြစ်၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်ရပါကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

ဦးသာထွန်း၏ ဆွေးနွေးထောက်ခံချက်။ ။ဧရာဝတီ မန္တလေးတိုင်း

သပိတ်ကျင်းမြို့နယ် မဲဆန္ဒနယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးသာထွန်းက ဆွေးနွေးရာတွင်—

ယခင် သာသနာ့အကျိုးပြု ဥပဒေများ မရှိခဲ့သဖြင့် နေရာတော်သံဃာတော်များမှာ သာသနာသန့်ရှင်းရေးအတွက် ဆောင်ရွက်လိုစိတ်ဆန္ဒ ရှိခဲ့သော်လည်း ထိရောက်စွာ မဆောင်ရွက်နိုင်ခဲ့ကြောင်း။ ယခုအခါ သာသနာ့အကျိုးပြု ဥပဒေ ဖြစ်ထွန်းပေါ်ပေါက်လာပြီ ဖြစ်၍ သာသနာတော် တည်တံ့ခိုင်မြဲရေးအတွက် ဆောင်ရွက်နိုင်တော့မည် ဖြစ်သဖြင့် နှစ်ထောင်းအားရစွာ ထောက်ခံပါကြောင်း။

တခါတုန်းက မိမိတို့နယ်တွင် သံဃာတပါးသည် ကိုယ့်ကိုယ်ကို ရဟန္တာဟု ဆိုပြီး အမျိုးသမီးများအား အထိအတွေ့ စမ်းကာ လက်ဖွဲ့ကြေးများဖြင့် သည်ဆိုကာ ရှုပ်ထွေးလျက် အမျိုးသမီး အချို့အဖျက်အဆီးခံခဲ့ရကြောင်း ထိုသို့ ဖျက်ဆီးနေသော ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားပေးရန် ဆရာတော်ကြီးများထံ လျှောက်ထားပန်ကြားသော်လည်း မဖယ်ရှားခဲ့နိုင်ကြောင်း ဥပဒေပြဋ္ဌာန်းချက် မရှိသေးသဖြင့် မဖယ်ရှားနိုင်ခြင်း ဖြစ်ကြောင်း။ ဝိနည်းဓမ္မကံအဓိကရုဏ်း မှုခင်းများ ဖြေရှင်းရေးဆိုင်ရာ ဥပဒေကြမ်းကို ပြဋ္ဌာန်းလိုက်လျှင် အနာဂတ်၌ သာသနာတော်သန့်ရှင်း တည်တံ့ပြန့်ပွားရေး အတွက် ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားနိုင်မည့် အပြင် သာသနာတော်ကို ကြည်ညိုသူများလည်း တိုးပွားလာမည် ဖြစ်ကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

**ဦးတင်စိုး၏ ဆွေးနွေးထောက်ခံချက်။** ။ဆက်လက်၍ ရန်ကုန်တိုင်း မြောက်ဥက္ကလာပမြို့နယ် မဲဆန္ဒနယ်အမှတ် (၁) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးတင်စိုးက ဆွေးနွေးရာတွင် ဝိနည်းဓမ္မကံအဓိကရုဏ်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်းသည် ဥပဒေသဘောအရ ရွေ့နှောက် ညီညွတ်ကြောင်း သံဃာတော်များအရေးကို သံဃာတော်များကိုယ်တိုင်ဖြေရှင်းနိုင်ရန် ဖြစ်ကြောင်း ယင်းသို့ ဖြေရှင်းမှုကို မကျေနပ်ပါက အယူခံနိုင်ခွင့်လည်း ရှိကြောင်း၊ အထူးသဖြင့် သံဃာတော်များ အရေးကို သံဃာတော်များ ကိုယ်တိုင်ဆောင်ရွက်ရာတွင် ထိရောက်မှု ရှိစေရန် ဝန်ထမ်းစက်ကို အာဏာစက်ဖြင့် ထောက်ကူပံ့ပိုးပေးခြင်းဖြစ်ကြောင်း၊ ယင်းအတွက် ယင်း ဥပဒေကြမ်းကို လွှတ်တော်က အတည်ပြုပေးပါရန် အလေးအနက်ထောက်ခံပါကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

**ဦးစိုင်းချိအော၏ ထောက်ခံဆွေးနွေးချက်။** ။နောက်ဆုံး ရှမ်းပြည်နယ်

သပိတ်ကျင်းမြို့နယ် မဲဆန္ဒနယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးသာ ထွန်းက ဆွေးနွေးရာတွင်—

ယခင် သာသနာ့အကျိုးပြု ဥပဒေများ မရှိခဲ့သဖြင့် ဆရာတော်သံဃာတော်များမှာ သာသနာသန့်ရှင်းရေးအတွက် ဆောင်ရွက်ရန် စိတ်ဆန္ဒ ရှိခဲ့သော်လည်း ထိရောက်စွာ မဆောင်ရွက်နိုင်ခဲ့ကြောင်း။ ယခုအခါ သာသနာ့အကျိုးပြု ဥပဒေ ဖြစ်ထွန်းပေါ်ပေါက်လာပြီ ဖြစ်၍ သာသနာတော် ကြည်တံ့ခိုင်မြဲရေးအတွက် ဆောင်ရွက်နိုင်တော့မည် ဖြစ်သဖြင့် နှစ်ထောင်း အားရစွာ ထောက်ခံပါကြောင်း။

၂။ တခါတုန်းက မိမိတို့နယ်တွင် သံဃာတပါးသည် ကိုယ့်ကိုယ်ကို ရဟန္တာဟု ဆိုပြီး အမျိုးသမီးများအား အထိအတွေ့ စမ်းသာ ပေါက်ရောက်စေမည်ဟုပြ သည်ဆိုကာ ရှုပ်ထွေးလျက် အမျိုးသမီး အချို့အဖျက်အဆီးခံခဲ့ရကြောင်း ထိုသို့ ဖျက်ဆီးနေသော ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားပေးရန် ဆရာတော်ကြီးများထံ လျှောက်ထားပန်ကြားသော်လည်း မဖယ်ရှားခဲ့နိုင် ကြောင်း ဥပဒေပြဋ္ဌာန်းချက် မရှိသေးသဖြင့် ဖယ်ရှားနိုင်ခြင်းမဖြစ်ကြောင်း။ ဝိနည်းမမှုကာ့အဓိကရုဏ်း မှုခင်းများ ဖြေရှင်းရေးဆိုင်ရာ ဥပဒေကြမ်းကို ပြဋ္ဌာန်းလိုက်လျှင် အနာဂတ်၌ သာသနာတော်သန့်ရှင်း တည်တံ့ပြန့်ပွားရေး အတွက် ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားနိုင်မည့် အပြင် သာသနာတော်ကို ကြည်ညိုသူများလည်း တိုးပွားလာမည် ဖြစ်ကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

ဦးတင်စိုး၏ ဆွေးနွေးထောက်ခံချက်။ ။ဆက်လက်၍ ရန်ကုန်တိုင်း မြောက်ဥက္ကလာပမြို့နယ် မဲဆန္ဒနယ်အမှတ် (၁) ပြည်သူ့လွှတ်တော် ကိုယ် စားလှယ် ဦးတင်စိုးက ဆွေးနွေးရာတွင် ဝိနည်းမမှုကာ့အဓိကရုဏ်းများ ဖြေ ရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်းသည် ဥပဒေတော်အရ ရှေ့နောက် ညီညွတ်ကြောင်း သံဃာတော်များအရေးကို သံဃာတော်များကိုယ်တိုင်ဖြေ ရှင်းနိုင်ရန် ဖြစ်ကြောင်း ယင်းသို့ ဖြေရှင်းမှုကို မကျေနပ်ပါက အယူခံ နိုင်ခွင့်လည်း ရှိကြောင်း၊ အထူးသဖြင့် သံဃာတော်များ အရေး ကို သံဃာ တော်များ ကိုယ်တိုင်ဆောင်ရွက်ရာတွင် ထိရောက်မှု ရှိစေရန် လောကကို အာဏာစက်ဖြင့် ထောက်ကူပံ့ပိုးပေးခြင်းဖြစ်ကြောင်း၊ ယင်းအတွက် ယင်း ဥပဒေကြမ်းကို လွှတ်တော်က အတည်ပြုပေးပါရန် အလေးအနက်ထောက်ခံ ပါကြောင်းဖြင့် ဆွေးနွေးခဲ့လေသည်။

ဦးစိုင်းချိုအေး၏ ထောက်ခံဆွေးနွေးချက်။ ။နောင်ချို ရှမ်းပြည်နယ်

မူဆယ်မြို့နယ် မဲဆန္ဒနယ် ဦးစိုင်းချိုအေးက ဆွေးနွေးရာတွင်—ဝိနည်းဓမ္မကံ အဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာဥပဒေကြမ်းသည် သံဃာတော်များအဖို့ ဗုဒ္ဓမြတ်စွာဘုရား၏ ဝိနည်းစည်းကမ်း ပညတ်ချက်များကို ကျင့်သုံးလိုက်နာတော်မူနိုင်ရန်ဖြစ်ကြောင်း၊ ယင်းအတွက် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို အထောက်အကူပြုမည်ဖြစ်၍ အလေးအနက် ထောက်ခံအပ်ပါကြောင်း စသည်ဖြင့် အကြံပြုဆွေးနွေးခဲ့လေသည်။

ဥပဒေပြဋ္ဌာန်း။ ။ပထမဝါဆိုလ ဆန်း၂၁၄-ရက် (၂၆-၆-၈၀) နေ့တွင် ဒုတိယနေ့ နောက်ဆုံးနေ့အဖြစ် ကျင်းပသော လွှတ်တော်အထူး အစည်းအဝေးကြီးတွင် ပြည်သူ့လွှတ်တော် သို့ ဝန်ကြီးအဖွဲ့က တင်ပြထားသော ဝိနည်းဓမ္မကံအဓိကရဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ ဥပဒေကြမ်း နှင့် ပတ်သက်၍ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ၏ ထောက်ခံဆွေးနွေးချက်အပေါ် ဤဝန်ကြီးအဖွဲ့ကိုယ်စား ပြည်ထဲရေးနှင့် သာသနာရေးဌာနဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်က ပြန်လည်ရှင်းလင်းတင်ပြရာတွင် ဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် လေးဦးတို့က ထောက်ခံဆွေးနွေးကြသည့်အတွက် ဝန်ကြီးအဖွဲ့၏ကိုယ်စား ကျေးဇူးတင်ရှိပါကြောင်း သံဃာတော်များ၏ဆန္ဒနှင့်အညီ သာသနာတော် သန့်ရှင်း တည်တံ့ပြန့်ပွားရေးအတွက် လိုအပ်သောဥပဒေကြမ်းကို ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များက ဆွေးနွေးခဲ့ရာတွင် ပြင်ဆင်မှုမရှိပဲ ထောက်ခံဆွေးနွေး သွားကြသည့်အတွက် ဤဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်က အတည်ပြု ပြဋ္ဌာန်းပေးပါရန် ထပ်မံတင်ပြပါကြောင်းဖြင့် တင်ပြခဲ့သည်။ ယင်းဥပဒေ ကြမ်းကို ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များက စက်ခလုတ်ဖြင့် မြောင် ဆန္ဒပေးကြရာ ကိုယ်စားလှယ်များ၏ ထောက်ခံဆန္ဒမဲ ၇၅.၇၁ ရာခိုင်နှုန်း ကျော်ရရှိသဖြင့် အတည်ပြု ပြဋ္ဌာန်းကြောင်း သဘာပတိက ကြေငြာ လေသည်။

## အထိမ်းအမှတ် စေတီတော်

ယင်းကဲ့သို့ ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး အောင်မြင်စွာကျင်းပခဲ့ခြင်းနှင့် ဂိုဏ်းပေါင်းစုံ သံဃာတော်များ ညီညွတ်မှု အထိမ်းအမှတ်အဖြစ်ဖြင့် ရဟန်း ရှင်လူ အများကြည်ညိုကိုးကွယ်ပူဇော်နိုင် ရန် နီပေါလ်ဘုရင်၏ ဓမ္မလက်ဆောင် ပဏ္ဏာတော်များ ဖြစ်သည့် နာဂစီဝရပဋ္ဋပဋိမာ ရုပ်ပွားဆင်းတုတော်၊ ပဥ္စဓာတုဝါယာန် တိဘက် စေတီ တော် နှင့် ဓာတ်တော်ကြုတ်များကိုထည့်သွင်း၍ မဟာဝိဇယစေတီတော်ကို

ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်တောင်ဘက် ဓမ္မရက္ခိတကုန်းပေါ်တွင် ၁၃၄၂-ခုနှစ်၊ ဒုတိယဝါဆိုလပြည့်(၂၈-၇-၈၀)နေ့ တနင်္ဂနွေနေ့ည မင်္ဂလာအခါတော် ကျရောက်သည့်အချိန်တွင် ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာနဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင် ပန္နက်ချ၍ ၁၃၄၂-ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၅-ရက်(၂၄-၁၀-၈၀)နေ့နံနက် မင်္ဂလာအချိန်တွင် အုတ်မြစ်ချတည်ထားခဲ့လေသည်။

## စုဒ္ဒသမပိုင်း အပြီးသတ်ခြင်း

ဤသည်လျှင် ဆရာတော်ကြီး ၆-ပါးအား ဘွဲ့တံဆိပ်တော်ကပ်လှူပူဇော်ခြင်းနှင့် သံဃာ့ကိုယ်စားလှယ် ၁၂၀၀-ကျော်တို့အား ပူဇော်ပွဲကျင်းပခြင်း၊ သံဃာ့အစည်းအဝေးကို ဂုဏ်ပြုခြင်း၊ ဝိနည်းဓမ္မကံအဓိကရုဏ်းမှုခင်းများဖြေရှင်းဆုံးဖြတ်ရေးဥပဒေကြမ်းကို လွှတ်တော်သို့ တင်သွင်းခြင်း၊ အတည်ပြုပြဋ္ဌာန်းခြင်း၊ အထိမ်းအမှတ်စေတီတည်ခြင်းတို့ကို ဖော်ပြရာဖြစ်သော စုဒ္ဒသမပိုင်း အပြီးတည်း။

သဒ္ဓေတသိနံ တိတတ္ထာယ၊ သာဓူနံ ပသာဒါယဝေ။
ရစိတေ ဂ္ဂန္ထ ဂန္ထမှိ၊ သမတ္တော စုဒ္ဒသမော ဟိ ခေါ။

